# سند مسلسلات الحديث واوائل الاربعين من كتب الحديث

## من الصحاح والسنن والمعاجم والمسانيد

## من العلامة المحقق صاحب الاسانيد العاليه

## شيخ الحديث الحاج ابو الثناء محمد يونس المظاهري اليندوي دامت بركاتهم

بسم الله الرحمن الرحيم

الحمد لله وسلام على عباده الذين اصطفى اما بعد - فان الاخ الصالح النبيه المولوى محمد يونس ينڈوى من مضافات مكتيلا من برما قد قرأ علىّ بعض اوائل الترمذى و استجازنى بروايته فاجيزه حبًّا وكرامةً برواية هذا الكتاب المستطاب وبكل ما يجوز لى الاجازة به من الصحاح الستة وكتب الحديث من غيرها وأوصيه بتقوى الله تعالى فى السر والعلانية وادعو له بالبركة والسعادة والزيادة فى العلم وارجو منه ان لا ينسانى فى دعواته الصالحة وبالله التوفيق -

محمد طيب مهتمم دار العلوم ديوبند

نزيل مانڈلے (برما) ٢٦ جمادى الثانى ١٣٨٦ھ

قال المفتقر الى رحمة ربه القوى محمد يونس المظاهرى اليندوى

الحمد لله وكفى وسلام على عباده الذين اصطفى اما بعد؛ هذا ما كتب لى بيده الشريفة

## حكيم الاسلام الشيخ مولانا القارى محمد طيب

## المدير العام لدار العلوم ديوبند يوفى الهند

فان الاخ الفى الدين الشيخ الناصل العام المولوى محمود جان بن الحاج محمد موسى بن الحاج محمد على المندىلوى

قد قرأ علىّ وسمع منى وما قرأ علىّ اوائل الاربعين من الصحاح الستة وكتب الحديث والمسلسلات وحجة الله البالغة واحياء العلوم للغزالى

الرسائل الثلاثة؛ الفضل المبين من حديث النبى الامين والدر الثمين فى مبشرات النبى الامين والنوادر من احاديث سيد الاوائل والاواخر ثلاثتها من مصنفات حجة الاسلام وقدوة الانام الشاه ولى الله المحدث الدهلوى وايضا الحديث المسلسل باجابة الدعاء عند الملتزم والحديث المسلسل بالضيافة بالاسودين التمر والماء؛ واوائل الاربعين من كتب الحديث من الصحاح والسنن والمعاجم والمسانيد؛ واستجازنى بروايتها فاجيزه حبًّا وكرامةً ان يرويها عنى كما اجازنى بها مشائخنا الكرام ومنهم شيخنا ومرشدنا حافظ القرآن والحديث صاحب الكوكب الدرى واللامع الدرارى ريحانة العصر المحدث محمد زكريا الكاندهلوى المهاجر المدنى نور الله مرقده شيخ الحديث مظاهر العلوم سهارنفور الهند؛ حكيم الاسلام العلامة القارى محمد طيب طيب الله ثراه المدير الاعلى لجامعة دار العلوم ديوبند الهند وشيخ التفسير والحديث الشيخ محمد ادريس الكاندهلوى شارح مشكوة المصابيح والشيخ مولانا مسعود الهى الميرتهى عن ابيه العلامة مولانا عاشق الهى الزبيرى الميرتهى كلهم عن الحبر شارح سنن ابى داود العلامة الاوحد مولانا خليل احمد المحدث السهارنفورى عن الشاه عبد الغنى المجددى المحدث الدهلوى ح وارويها ايضا عن الحبر العلامة محمد حبيب الله الشنقيطى الموريتانى المهاجر المدنى عن العلامة محمد بن جعفر الكتانى والسيد محمد كامل الهبراوى باسانيدهم الى رسول الله صلى الله عليه وسلم بشرائطها المعتبرة عند علماء هذا الشأن؛ واوصيه بتقوى الله تعالى فى السر والعلانية وادعو للاخ بالبركة والسعادة والزيادة فى العلم وفقنا الله واياه لما يحب ربنا ويرضى وصلى الله على سيدنا محمد وعلى آله واصحابه وحملة دينه وحماته اجمعين وبارك وسلم تسليمًا كثيرًا؛

محمد يونس المظاهرى

١٤٢٦ ٢٠٠٥

٢٦ رجب سنة ١٤٢٦ھ

١٥ اگست سنة ٢٠٠٥

شيخ الحديث الحاج ابو الثناء محمد يونس المظاهرى اليندوى

المقيم بمندلى، ميانما (بورما)

تحديثًا بدار الحديث بالجامعة العزيزية العربية بمكتيلا

မော်လာနာမုဟမ္မဒ်ယူနွစ် (မဇ္ဇာဟေရီ ယင်းတော်) မှ မော်လဝီပသီကျော်ဦးသို့ အဲဟ်ယာအွလ်အိုလူမ်ကျမ်း၊
ဟွဂျ်ဂျတွလ္လာဟီလ်ဘာလိဂါ၊ မုဆလ်ဆီလတ်နှင့် အဝါအီလ်ကျမ်းများ သင်ယူခဲ့သည့်အတွက် ချီးမြှင့်သောစနဒ်၊

# - မာတိကာ -


အဲဟ်ယာအွလ်အိုလူမ်သင်ယူခဲ့သည့်စနဒ် ........ ထ
မြန်မာပြန်သူ၏အမှာစကား ........ ၁
ဟဒီစ်ကျမ်းကိုး ဖေါ်ပြသည့်အတိုကောက်စနစ် ........ ၄


## ဟွဂ်ျဂျတွလ်အစ္စလာမ် အိမာမ်ဝဇာလီ


ဖခင်ကြီး၏ဆန္ဒမွန် ........ ၆
ပညာ့မြို့တော် နိုင်ရှာပူရ်သို့ ........ ၇
အိမာမွလ်ဟရမိုင် ........ ၈
နောက်ခံခေတ်အခြေအနေ ........ ၉
နန်းရင်းဝန်ကြီး နိဇာမွလ်မွလ်က် ........ ၁၀
အိမာမ်ဂဇာလီ၏နှစ်ဉ်ဘဝ ........ ၁၁
နိဇာမီယာကျောင်းတော်၏ကျောင်းအုပ်ကြီး ........ ၁၃
ငြိမ်းချမ်းရေးသံတမန်အိမာမ်ဂဇာလီ ........ ၁၄
အိမာမ်ဂဇာလီ၏သစ္စာတရားရှာပုံတော် ........ ၁၅
ခေတ်ပြိုင်တစ်ဦး၏ဝေဖန်ချက် ........ ၁၈
ဗိုင်အတ်ယူခဲ့ခြင်း ........ ၂၀
ရှိက်ခ်အဗူအလီဖာရ်မေဒီ ........ ၂၁
ဗိုင်တွလ်မုကဒ်ဒပ်စ်သို့ ........ ၂၁
ခလီလ်မြို့သင်္ချိုင်းတော်တွင် ပဋိညာဉ်ပြုခြင်း ........ ၂၂
နိဇာမီယာကျောင်းတော်သို့ ဒုတိယအကြိမ် ........ ၂၃
မွေးရပ်မြေသို့ ပြန်ခဲ့ပြီ ........ ၂၄
အိမာမ်ဂဇာလီနှင့် စပိန်နိုင်ငံ ........ ၂၆
နိဇာမီယာကျောင်းတော်အတွက် တစ်ကြိမ်ထပ်မံ ပင့်ဖိတ်ခြင်း ........ ၂၇
ပုခက်တွင်းမှ သင်္ချိုင်းတွင်းထိ ........ ၂၈
ကွယ်လွန်ခြင်း ........ ၂၉
အဆက်အနွယ် ........ ၂၉
ပညာအမွေခံများ ........ ၂၉
စာပေအမွေ ........ ၃၁

# - မာတိကာ -

အိမာမ်ဂဇာလီ ်သခင်၏ အချီးနိဒါန်း ........ ၃၃

## အိဗာဒတ်အပိုင်း၊ ပထမကဏ္ဍ-ပညာကဏ္ဍ

### -အခန်းတစ်-

### ပညာနှင့်ပညာသင်ပေးခြင်း၏ထွတ်မြတ်မှုနှင့် အာဂမယုတ္တိနှင့်သဘာဝယုတ္တိများ

ပညာ၏ ထွတ်မြတ်မှု ........ ၄၀
ခါဟာဗဟ်များနှင့်တာဘိအီန်သခင်များ၏ အဆိုအမိန့်သြဝါဒများ ........ ၄၇
ပညာသင်ယူခြင်း၏ ထွတ်မြတ်မှုများ ........ ၅၀
ဆွဟာဗဟ်သခင်များနှင့် တာဘိအီန်သခင် ်တို့၏ အဆိုအမိန့်သြဝါဒများ ........ ၅၂
ပညာသင်ပေးခြင်း၏ ထွတ်မြတ်မှုများ ........ ၅၂
ဆွဟာဗဟ်သခင်များနှင့် တာဘိအီန်သခင် ်တို့၏ အဆိုအမိန့်သြဝါဒများ ........ ၅၇
ပညာ၏ ထွတ်မြတ်မှုကို သဘာဝယုတ္တိအရ ရှင်းပြခြင်း ........ ၅၉

### -အခန်းနှစ်-

### ကောင်းမြတ်သောပညာနှင့်ဆိုးယုတ်သောပညာ ၎င်းပညာနှစ်ရပ်၏အမျိုးအစားများနှင့်အမိန့်ပညတ်များ

ဖရာဇ်အိုင်န်ဖြစ်သောပညာကို ရှင်းပြခြင်း ........ ၆၄
ဖရာဇ်ကိဖာရာဖြစ်သောပညာကို ရှင်းပြခြင်း ........ ၆၉
အိမာမ်ရှာဖအီ ်သခင် ........ ၈၈
အိမာမ်မာလိက် ်သခင် ........ ၉၄
အိမာမ်အဗူဟာနီဖဟ် ်သခင် ........ ၉၇

### -အခန်းသုံး-

### လူတို့က ကောင်းမြတ်သောပညာဟု သတ်မှတ်ထားသော်လည်း မဟုတ်သည့်အကြောင်း

ဆိုးယုတ်သောပညာ၏ ဆိုးယုတ်ရခြင်းအကြောင်း ........ ၁၀၀
ပထမအကြောင်း ........ ၁၀၀
ဒုတိယအကြောင်း ........ ၁၀၁
တတိယအကြောင်း ........ ၁၀၄
ပြောင်းလဲသွားသော ပညာ၏ အမည်စာလုံးများ ........ ၁၀၆
ပထမစာလုံး– 'ဖိကဟ်' ........ ၁၀၇
ဒုတိယစာလုံး– 'အိလ်မ်' ........ ၁၀၉
တတိယစာလုံး– 'တောင်ဟီဒ်' ........ ၁၁၀
စတုတ္ထစာလုံး– 'ဇိက်ရ်နှင့်တဇ်ကီရ်' ........ ၁၁၂

# - မာတိကာ -


ဥဒါန်းစကား ............ ၁၀၇
ဥပဒ်စကား ............ ၁၀၉
ပဥ္စမစာလုံး 'ဟီက်မတ်' ............ ၁၂၂
ကောင်းမြတ်သောပညာရပ်များ၏ ကောင်းမြတ်မှုအတိုင်းအတာ ............ ၁၂၄


-အခန်းလေး-

လူတို့က ဝိဝါဒကွဲမှုအသိကို အာရုံစိုက်လာကြသည့်အကြောင်းရင်း
မုနာဇရာနှင့်အငြင်းအခုံပြုခြင်းကြောင့် ဖြစ်ရသည့် ဆိုးကျိုးဒုက္ခများ၏အသေးစိတ်နှင့်
မုနာဇရာပြုလုပ်ခွင့်အတွက် စည်းကမ်းချက်များ


ဆင်တူရိုးမှားဖြစ်စေမှုအား ရှင်းပြခြင်း ............ ၁၃၄
မုနာဇရာ၏ ဘေးဒုက္ခများနှင့်မုနာဇရာမှ ပေါက်ဖွါးသည့် စာရိတ္တဆိုးများ ............ ၁၄၀


-အခန်းငါး-

သင်ယူသူနှင့်သင်ပေးသူတို့တွင် ရှိအပ်သည့် ဝတ္တရားများ


တပည့်၏ ပထမဝတ္တရား ............ ၁၄၉
တပည့်၏ ဒုတိယဝတ္တရား ............ ၁၅၂
တပည့်၏ တတိယဝတ္တရား ............ ၁၅၂
တပည့်၏ စတုတ္ထဝတ္တရား ............ ၁၅၅
တပည့်၏ ပဥ္စမဝတ္တရား ............ ၁၅၆
တပည့်၏ ဆဋ္ဌမဝတ္တရား ............ ၁၅၇
တပည့်၏ သတ္တမဝတ္တရား ............ ၁၅၈
တပည့်၏ အဋ္ဌမဝတ္တရား ............ ၁၅၉
တပည့်၏ နဝမဝတ္တရား ............ ၁၆၀
တပည့်၏ ဒသမဝတ္တရား ............ ၁၆၁
သင်ပြသူဆရာ၏ ဝတ္တရားများအကြောင်း ............ ၁၆၄
ဆရာ၏ ပထမဝတ္တရား ............ ၁၆၆
ဆရာ၏ ဒုတိယဝတ္တရား ............ ၁၆၇
ဆရာ၏ တတိယဝတ္တရား ............ ၁၆၉
ဆရာ၏ စတုတ္ထဝတ္တရား ............ ၁၇၀
ဆရာ၏ ပဥ္စမဝတ္တရား ............ ၁၇၀
ဆရာ၏ ဆဋ္ဌမဝတ္တရား ............ ၁၇၁
ဆရာ၏ သတ္တမဝတ္တရား ............ ၁၇၂
ဆရာ၏ အဋ္ဌမဝတ္တရား ............ ၁၇၃

# - မာတိကာ -

## -အခန်းခြောက်-

## ပညာတွင် ကြုံတွေ့ရသည့်ဒုက္ခများနှင့် အာခိရတ်ပညာရှင်နှင့် အိုလမာဆိုးတို့၏အချင်းလက္ခဏာများ


အာခိရတ်ပညာရှင်၏ ပထမအချင်းလက္ခဏာ ........ ၁၇၉

အာခိရတ်ပညာရှင်၏ ဒုတိယအချင်းလက္ခဏာ ........ ၁၈၆

အာခိရတ်ပညာရှင်၏ တတိယအချင်းလက္ခဏာ ........ ၁၉၁

အာခိရတ်ပညာရှင်၏ စတုတ္ထအချင်းလက္ခဏာ ........ ၁၉၅

အာခိရတ်ပညာရှင်၏ ပဉ္စမအချင်းလက္ခဏာ ........ ၁၉၉

အာခိရတ်ပညာရှင်၏ ဆဋ္ဌမအချင်းလက္ခဏာ ........ ၂၀၃

အာခိရတ်ပညာရှင်၏ သတ္တမအချင်းလက္ခဏာ ........ ၂၀၇

ယကီန်၏ ပထမအဓိပ္ပါယ် ........ ၂၁၀

ယကီန်၏ ဒုတိယအဓိပ္ပါယ် ........ ၂၁၂

အာခိရတ်ပညာရှင်၏ အဋ္ဌမအချင်းလက္ခဏာ ........ ၂၁၄

အာခိရတ်ပညာရှင်၏ နဝမအချင်းလက္ခဏာ ........ ၂၁၈

အာခိရတ်ပညာရှင်၏ ဒသမအချင်းလက္ခဏာ ........ ၂၂၄

အာခိရတ်ပညာရှင်၏ ဧကာဒသမအချင်းလက္ခဏာ ........ ၂၂၇

အာခိရတ်ပညာရှင်၏ ဒွါဒသမအချင်းလက္ခဏာ ........ ၂၃၀


## -အခန်းခုနစ်-

## အသိဉာဏ်အကြောင်း၊ အသိဉာဏ်၏မြတ်ထွတ်ခြင်း၊ ယင်း၏အရင်းမူလသဘောနှင့်အမျိုးအစား


အသိဉာဏ်၏ မြတ်ထွတ်ခြင်း ........ ၂၃၀

အသိဉာဏ်၏ အရင်းမူလသဘောနှင့်အမျိုးအစားများ ........ ၂၄၄

လူတို့တွင် အသိဉာဏ်အနည်းအများ ကွာခြားခြင်းအကြောင်း ........ ၂၅၀


## အိဗာဒတ်အပိုင်း၊ တတိယကဏ္ဍ

## အကီဒတ်အခြေခံ

## -ပထမအခန်း-

## ကလိမာရှဟာဒတ်နှင့်သက်ဆိုင်ရာ အဟ်လိစွန္နတ်၏အကီဒတ်ညွှန်း


ရှင်နေတော်မူခြင်းနှင့်စွမ်းတော်မူခြင်း ........ ၂၅၀

သိတော်မူခြင်း ........ ၂၅၉

ဆန္ဒပြုတော်မူခြင်း ........ ၂၅၉

ကြားတော်မူခြင်းနှင့်မြင်တော်မူခြင်း ........ ၂၆၀

စကားဆိုတော်မူခြင်း ........ ၂၆၀

လုပ်ဆောင်တော်မူခြင်း ........ ၂၆၁

ကလေမာတော်ဒုတိယပိုင်း၏ အဓိပ္ပါယ် ........ ၂၆၂

# - မာတိကာ -

## -ဒုတိယအခန်း-

**လမ်းညွှန်သင်ပြခြင်းအဆင့်ဆင့်နှင့် စွဲယူယုံကြည်မှုတွင် အဆင့်အတန်းများ ရှိခြင်းအကြောင်း**

## -တတိယအခန်း-


**အီမာန်၏** ပထမမဏ္ဍိုင်–အလ္လာဟ်အရှင်၏ပြကတေ့တော်နှင့် တစ်ပါးတည်း တည်ရှိတော်မူခြင်း ........ ၃၀၂

**အီမာန်၏** ဒုတိယမဏ္ဍိုင်–အလ္လာဟ်အရှင်၏ ဂုဏ်တော်များကို သိရှိယုံကြည်မှု၏ ပဓာနဖြစ်သော–
အခြေခံဆယ်ခု ........ ၃၀၂

အီမာန်၏ တတိယမဏ္ဍိုင်–အလ္လာဟ်အရှင်၏ အလုပ်တော်များကို သိရှိယုံကြည်မှု၏ ပဓာနဖြစ်သော–
အခြေခံဆယ်ခု ........ ၃၁၀

အီမာန်၏ စတုတ္ထမဏ္ဍိုင်–တမန်တော်မြတ်ﷺထံမှ ကြားနာသိရှိရသော အကြောင်းအရာများနှင့်–
ယင်းတို့၏ စစ်မှန်မှု ........ ၃၂၉


## -စတုတ္ထအခန်း-


ပထမမတ်စအလာ ........ ၃၃၄

ဒုတိယမတ်စအလာ ........ ၃၄၀

မိမိ၏အီမာန်ကို 'အင်ရှာအလ္လာဟ်'ခံ၍ ပြောဆိုခြင်း၏ မတ်စအလာ ........ ၃၅၂


## အိဗာဒတ်အပိုင်း၊ တတိယကဏ္ဍ
## သန့်ရှင်းခြင်း၏အတွင်းရေးများ


သန့်ပြန့်မှု၏ ပထမအမျိုးအစား–ညစ်ညမ်းမှုမှ သန့်ရှင်းခြင်း ........ ၃၇၀

ဖယ်ရှားရာတွင် အသုံးပြုသည့်ပစ္စည်း ........ ၃၇၂

ဖယ်ရှားပုံဖယ်ရှားနည်း ........ ၃၇၆

သန့်ပြန့်မှု၏ ဒုတိယအမျိုးအစား– မသန့်ဖြစ်မှုများမှ သန့်အောင်လုပ်ခြင်း ........ ၃၇၀

ကျင်ကြီးကျင်ငယ်စွန့်ခြင်း၏ အကျင့်ဓလေ့များ ........ ၃၇၉

ကိုယ်လက်သုပ်သင်နည်း ........ ၃၈၀

ဝုဇူပြုနည်း ........ ၃၈၂

တံပူစားနည်း ........ ၃၈၃

ဝုဇူ၏ ထွက်မြတ်ခြင်း ........ ၃၈၉

တယမ်မွမ်ပြုနည်း ........ ၃၉၃

ရေချိုးနည်း ........ ၃၉၀

သန့်ပြန့်မှု၏ တတိယအမျိုးအစား–ခန္ဓာကိုယ်၏ အပိုအလျှံများကို သန့်ပြန့်ခြင်း ........ ၃၉၄

ဒုတိယအမျိုးအစား–ခန္ဓာကိုယ်၏ အပိုအလျှံအစိတ်အပိုင်းများမှ သန့်ရှင်းခြင်း ........ ၄၀၂

မုတ်ဆိတ်နှင့်သက်ဆိုင်ရာ ကဏ္ဍငယ် ........ ၄၀၉

ခက်ဆစ်ဝေါဟာရများ ........ ၄၁၄

အက္ခရာဝလိ ........ ၄၂၆



## မြန်မာပြန်သူ၏အမှာစကား

အဲဟ်ယာအွလ်အိုလူမ်ကျမ်း၏အမည်ရင်းသည် အဲဟ်ယာအုအိုလူမိဒ်ဒီန်းဖြစ်သည်။ အဓိပ္ပါယ်မှာ သာသနာ့ပညာရပ်များကို ပြန်လည်ရှင်သန်စေခြင်းဟုဖြစ်သည်။ အစ္စလာမ့်စာပေသမိုင်းတွင် ကုရ်အာန်ဟဒီစ်နှင့်သက်ဆိုင်ရာစာပေများမဟုတ်သေးဘဲ၊ လူသားဘက်က ကြိုးပမ်းရှာဖွေဖန်တီးခဲ့ရသော စာပေများရှိလေသည်။ ထိုစာပေများတွင် အိမာမ်ဂဇာလီرحသခင်၏အဲဟ်ယာအွလ်အိုလူမ်ကျမ်းသည် ထိပ်ဆုံးက သရဖူဆောင်းသော စာပေလက်ရာတစ်ဆူဖြစ်သည်။ ဤကျမ်းကြီး၏အဆင့်မြင့်ကြီးကျယ်ပုံကို ပညာရှင်အသီးသီးတို့က ချီးမွမ်းစကားအမျိုးမျိုး ထုတ်ဖော်ပြောဆိုသွားခဲ့ပေပြီ။ ကျွန်တော်သည် ထိုပညာရှင်များထက် သာအောင် ချီးမွမ်းစကားဆိုရန် စွမ်းနိုင်သူမဟုတ်ပါ။ ထိုသို့ချီးမွမ်းစကားပြောဆိုမှုများတွင် အိမာမ်နဝဝီرحသခင်၏ပြောဆိုမှုသည် တိုတောင်းသော်လည်း အလွန်ပင် တာသွားလေသည်။ အိမာမ်နဝဝီرحက– كاد الإحياء أن يكون قرآنًا

'အဲဟ်ယာကျမ်းတော်သည် ကုရ်အာန်ကျမ်းမြတ် ဖြစ်လုနီးပါးပင်။'

အိမာမ်နဝဝီرحသခင်က ဆိုလိုသည်မှာ အဲဟ်ယာကျမ်းတော်သည် ကျမ်းမြတ်ကုရ်အာန်၏တရားဓမ္မလမ်းညွှန်ပြမှုများကို အနီးစပ်ဆုံးနှင့်အထိရောက်ဆုံး ဖော်ကျူးဖွင့်ဆိုထားသည်ဟု ဖြစ်သည်။ ဤသို့ဆိုလောက်အောင်လည်း အဲဟ်ယာကျမ်းတွင် ကျမ်းမြတ်ကုရ်အာန်၏အဓိကအာယတ်တော် အများစုကို ထည့်သွင်းဖော်ပြထားသည်။ ထို့ပြင် ထိုအာယတ်များ၏အနက်သဘောကို အခြားဖွင့်ဆိုမှုများနှင့်မတူဘဲ တစ်မျိုးတစ်ဘာသာ ထူးခြားစွာ ဖွင့်ဆိုရှင်းပြထားသည်။ သို့ဖြစ်ရာ အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို တဖ်စီရ်ကျမ်းတစ်စောင်ဟု တစ်နည်းတစ်ဖုံ ပြောဆိုနိုင်သည်။

တဖန် အဲဟ်ယာကျမ်းတွင် တမန်တော်မြတ်ﷺ၏မိန့်ဆိုမှုများကို ထောင်နှင့်ချီ၍ ကိုးကားထားသည်။ ထို့ပြင် ထိုမိန့်ဆိုမှုများ၏အလိုသဘောသွန်သင်မှုများကိုလည်း အကျယ်တဝင့် ရှင်းလင်းဖော်ပြသည်။ သို့ဖြစ်ရာ အဲဟ်ယာကျမ်းကို ဟဒီစ်ကျမ်းတစ်စောင်ဖြစ်သည်ဟုလည်း ဆိုနိုင်သည်။ ထို့ပြင် အဲဟ်ယာကျမ်းသည် မျက်စေ့လည် နားရှုပ်စေမည့် တစ်ဆောင်ဝှဖ်အသုံးအနှုန်းများဖြင့် မဟုတ်ဘဲ၊ ဆူဖီလမ်းစဉ်ကို အကောင်းဆုံးဖော်ပြထားသည့် တဆောင်ဝုဖ်ကျမ်းကြီးဖြစ်သည်။ တဖန် အဲဟ်ယာကျမ်းသည် အစ္စလာမ့်အဆုံးအမများထဲမှ ဒဿနသဘောတရားများ ထုတ်ပြထားသည့် ဒဿနကျမ်းကြီးလည်းဖြစ်သည်။ ထို့ပြင် အဲဟ်ယာကျမ်းသည် အစ္စလာမ်ပေါ်ထွန်းချိန်မှစ၍ ခေတ်တစ်လျှောက် သာသနာရေးဖြစ်ပေါ်ပြောင်းလဲမှုများကို ဖော်ပြပြီး သဒ်န်းစာထုတ်ပြထားသည့် သမိုင်းကျမ်းကြီးလည်းဖြစ်သည်။ ဤကဲ့သို့ ဝိသေသထူးများဖြင့် ပြည့်စုံနေသောကြောင့်ပင် ပညာရှင်ကြီးရှိုက်ခ်အဗူမုဟမ္မဒ်ကာဇ်ရူနီرحသခင်က–

لو محيت جميع العلوم لاستخرجت من الإحياء

'အကယ်၍ ပညာရပ်အားလုံး ပျောက်ကွယ်သွားသော်လည်း အဲဟ်ယာကျမ်းထဲမှ ထိုပညာရပ်များကို ပြန်လည်ထုတ်ယူနိုင်ပေသည်'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။

ဤမျှဝိသေသထူးသောအဲဟ်ယာအွလ်အိုလူမ်ကျမ်းကြီးကို မြန်မာပြန်ရန် ရည်ရွယ်သည့်အခါ အလ္လာဟ်အရှင်သည် အလွန်ထူးခြားစွာ ကူညီတော်မူခဲ့လေသည်။ ဤအကြောင်းကို အနည်းငယ် အကျယ်ချဲ့၍ ရှင်းပြပါအံ့။

ဦးစွာဖေါ်ပြရမည့်အချက်မှာ ကျွန်တော်သည် အိမာမ်ဂဇာလီသခင်၏စာပေများကို ငယ်ရွယ်စဉ်ဘာသာရေးစာပေများ စတင်လေ့လာလိုက်စားချိန်ကပင် အထူးတလည် နှစ်သက်စွဲလမ်းခဲ့ခြင်းဖြစ်သည်။ မည်မျှစွဲလမ်းခဲ့သည်ဆိုလျှင် အိမ်ထောင်ကျပြီး သားဦးလေးမွေးသောအခါ ထိုသားဦးကို မုဟမ္မဒ်ဂဇာလီဟု အမည်မှည့်ခဲ့သည်အထိဖြစ်၏။ အိမာမ်ဂဇာလီသခင်၏စာပေများကို နှစ်သက်စွဲလမ်းခဲ့သည်ဆိုရာတွင် အဓိကမှာ အဲဟ်ယာအွလ်အိုလူမ်ကျမ်းကြီးကို ဖြစ်သည်။ ထိုအကြောင်းကို မဂ္ဂဇင်းဆောင်းပါးတစ်ပုဒ်တွင် အောက်ပါအတိုင်းဖွဲ့နွဲ့ရေးသားခဲ့ဖူးလေသည်။

‘ဤစွဲလမ်းစိတ်သည် ကျွန်တော့်တွင် မည်သည့်အချိန်ကစပြီး ဝင်ခဲ့သည်ကိုတော့ သတိမရတတ်ပါ။ သို့သော် ဘာသာရေးစာပေများ စတင်ဖတ်ရှုတ်ချိန်ကပင် အိမာမ်ဂဇာလီဆိုလျှင် စွဲစွဲလမ်းလမ်းရှိခဲ့သည်ကို မှတ်မိနေပါသည်။ . . . . မည်သည့်အတွက် ဤသို့စွဲစွဲလမ်းလမ်းဖြစ်ခဲ့ရသည်ကို ယခုအချိန်အထိ စဉ်းစား မရသေးပါ။ အလ္လာဟ်အရှင်မြတ် ထည့်သွင်းပေးတော်မူထားသည့် စိတ်အာရုံတစ်ခုအဖြစ်သာ မှတ်ယူရပါသည်။ အထူးသဖြင့် အိမာမ်ဂဇာလီ၏အဲဟ်ယာအွလ်အိုလူမ်ကျမ်းအမည်ကို တွေ့လျှင် စိတ်အာရုံသည် နိုးနိုးကြားကြားဖြစ်လာလေ့ရှိပါသည်။’

ထိုသို့နှစ်သက်စွဲလမ်းခဲ့သည်ဆိုသော်လည်း ကျမ်းကြီးကို ကိုယ်တိုင်ဖတ်ခဲ့ရ၍ မဟုတ်ပါ။ ငယ်စဉ်က ဘာသာပြန်စာအုပ်များ၌ ကြိုးကြားကြိုးကြား တွေ့ရတတ်သောအဲဟ်ယာအွလ်အိုလူမ်ကျမ်းမှ ထုတ်နုတ်ချက်များကို ဖတ်ပြီး နှစ်သက်စွဲလမ်းနေခဲ့ခြင်းသာဖြစ်သည်။ ထိုစဉ်က ‘မည်သည့်အတွက် ထိုသို့စွဲစွဲလမ်းလမ်းဖြစ်ခဲ့ရသည်ကို စဉ်းစားမရခဲ့သည့်’ကိစ္စသည် နောင်သောအခါ အဖြေပေါ်လာခဲ့သည်။ ယင်းမှာ ပညာရှင်အများအပြားတို့က အဲဟ်ယာအွလ်အိုလူမ်ကျမ်း၏ထူးခြားချက်များကို ဖေါ်ထုတ်ရေးသားခဲ့ကြရာတွင်၊ ဤကျမ်းသည် ဖတ်ရှုသူ၏စိတ်နှလုံးကို ညှို့ငင်ဖမ်းစားနိုင်သည်ဆိုသောအချက်ကို ဖေါ်ပြခဲ့ကြခြင်းဖြစ်သည်။ ပညာရှင်ကြီးအလီအိဗ်နေ့အဗ္ဗာကရ်ဆကာဖ်က–

لو قلب أوراق الإحياء كافر لأسلم ، ففيه سر خفي يجذب القلوب شبه المغناطيس

‘အကယ်၍ အဲဟ်ယာကျမ်း၏စာမျက်နှာများကို ကာဖိရ်တစ်ဦးက လှန်လှောဖတ်ရှုခဲ့လျှင် ၎င်းသည် မုချ အစ္စလာမ်ကို လက်ခံလာပေလိမ့်မည်။ ထိုကျမ်းတွင် နှလုံးသားများကို ညှို့ငင်နိုင်သည့် သံလိုက်ဓါတ်ကဲ့သို့ လျှို့ဝှက်ချက် ပါရှိနေသည်။’

အချုပ်ဆိုသော် ထိုသို့စိတ်ဝင်စားခဲ့ရာမှ အနည်းငယ်အရွယ်ရပြီး အူရဒူဖတ်တတ်လာသောအခါ မော်လာနာမုဟမ္မဒ်ဟစ်ဆွစ်ဒီကီ၏အူရဒူဘာသာပြန် အဲဟ်ယာအွလ်အိုလူမ်ကို လေ့လာခွင့်ရခဲ့ပါသည်။ ထိုဘာသာပြန်သည် ခိုင်မာပြီး တရားဝင်သော ဘာသာပြန်ပင်ဖြစ်ပါသည်။ ထိုအူရဒူဘာသာပြန်ကို လေ့လာရင်း ဝါသနာအရ မြန်မာလိုပင် အနည်းငယ် စတင်ပြန်ဆိုနေခဲ့ပါသည်။ သို့သော် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကဲ့သို့ နက်နဲသိမ်မွေ့သောစာပေမျိုးကို အူရဒူဘာသာပြန်မှတဆင့် မြန်မာလိုပြန်ဆိုနေခြင်းသည် တိကျမှုမရှိနိုင်ကြောင်း၊ အရဗီစာပေမှ ပြန်ဆိုနိုင်မှသာ ကျမ်းရှင်၏အာဘော်ကို အနီးစပ်ဆုံးဖေါ်ဆောင်နိုင်မည်ဖြစ်ကြောင်း တွေးမိခဲ့ပါသည်။ ကျွန်တော် အရဗီစာပေသင်ယူဖြစ်ခဲ့ရာတွင် ဤအတွေး၏လှုံ့ဆော်မှုက အဓိကဖြစ်ခဲ့ပါသည်။

ကျွန်တော်သည် အရဗီကို အခြေခံမှစ၍ ရှိုင်ခွလ်ဟဒီစ်မော်လာနာမုဟမ္မဒ်ယူနွစ်(မဇ္ဇာဟေရီ-ယင်းတော်)ထံတွင် သင်ယူခဲ့ပါသည်။ ဆရာသခင့်ထံတွင် ကူဒူရီအထိ ဖတ်ပြီးနောက် မုဟမ္မဒီယာအရဗီသိပ္ပံနှင့် မစ်ဖ်တာဟွလ်အိုလူမ်အရဗီသိပ္ပံကျောင်းများတွင် မော်လဝီသင်တန်းပြီးဆုံးသည်အထိ သင်ယူခဲ့ပါသည်။ ထိုသို့မော်လဝီပြီးသည့်နောက်မှာလည်း ဆရာရင်း ရှိုက်ခွလ်ဟဒီစ်မော်လာနာမုဟမ္မဒ်ယူနွစ်ထံ ချဉ်းကပ်ပြီး အဆင့်မြင့်စာပေများကို ဆက်လက်သင်ယူခဲ့ပါသည်။ ထိုသို့သင်ယူခဲ့ရာတွင် ကျွန်တော့်ရင်ထဲ၌ အမြဲတန်းစွဲမြဲစွာ ရှိနေခဲ့သောရည်ရွယ်ချက်သည် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို မြန်မာပြန်ဆိုရန်ပင်ဖြစ်ပါသည်။

အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုရန် ရည်ရွယ်ချက်ဖြင့် ပညာသင်ယူခဲ့သောကျွန်တော်သည် နှစ်အတန်ကြာခါမှ မိမိ၏ဆရာသခင် ဇမော်လာနာယူနွစ်သည် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကြီးကို ဆရာဖြင့် စနစ်တကျ သင်ယူခဲ့သူဖြစ်ကြောင်း သိခဲ့ရပါသည်။ ဆရာဖြင့် သင်ယူခဲ့သည်ဆိုရာမှာ သာမန်ကာလျှံကာ မဟုတ်ဘဲ မဒီနာမြို့တော်ရှိ နဗဝီဗလီတော်ကဲ့သို့ အလွန်မြင့်မြတ်သောနေရာမှ သင်ယူခဲ့ရခြင်းဖြစ်သည်။ မော်လာနာယူနွစ်သည် (၁၉၅၂-၅၃)နှစ်များတွင် နဗဝီဗလီတော်၌ သာသနာ့ပညာ သင်ကြားပို့ချရန် ဆော်ဒီဘုရင်ကိုယ်တိုင်က ခန့်အပ်ထားသော ပညာရှင်ကြီးရှိုက်ခ်ဟဘီဘ်အဟ်မဒ်ရန်ကီတ္တိ<sup>ॱ</sup>ထံမှ အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို သင်ယူခဲ့ခြင်းဖြစ်သည်။

မြန်မာနိုင်ငံတွင် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို ဆရာဖြင့် **သင်ယူထားသူဟူ၍** မော်လာနာယူနွစ်(ယင်းတော်) **တစ်ပါး**သာ တွေ့ဖူးပါသည်။ အဲဟ်ယာကျမ်းကို မြန်မာပြန်ဆိုရန် ရည်ရွယ်ခဲ့သော ကျွန်တော်သည် ထိုဆရာ့ထံတွင် ပညာသင်ခွင့်ရခဲ့ပါသည်။ ဆရာသခင်သည် ပညာဉာဏ်အရင့်ကျက်ဆုံးဆိုရမည့် အသက်ရှစ်ဆယ်**ကျော်အရွယ်တွင်** ကျွန်တော့်အား အဲဟ်ယာအွလ်**အိုလူမ်ကျမ်း**ကို သင်ပြပို့ချခဲ့ပါ**သည်။ ထို့နောက် ကျွန်တော်မမျှော်လင့်ခဲ့ဖူးသောအဖြစ်** နှင့် ထိုအတွက် စနဒ်ပင် **ချီးမြှင့်ခဲ့**ပါသည်။ အဲဟ်ယာကျမ်းကို **မြန်မာပြန်ဆိုရန်** သဲသဲမဲမဲစိတ်ထက်သန်ခဲ့သော **ကျွန်** တော့်အား ဆရာသခင် **ရှိုက်ခွလ်ဟဒီစ်မော်လာနာမုဟမ္မဒ်ယူနွစ်နှင့် ဆုံဆည်းစေခြင်း**သည် အလ္လာဟ်အရှင်၏အထူး **စီစဉ်ပေးမှုဖြစ်သည်ဟု ယုံကြည်လျက်ရှိပါသည်။ ထို့ပြင် ဤဖြစ်ရပ်သည် အဲဟ်ယာအွလ်အိုလူမ်ကျမ်း**ကို အလ္လာဟ် အရှင် လက်ခံတော်မူခဲ့သောဖြစ်ရပ်**များတွင် တစ်ခုအပါအဝင်ဖြစ်သည်ဟုလည်း ယုံကြည်လျက်ရှိ**ပါသည်။

တတ်ကျွမ်းသောဆရာနှင့် သင်ယူခြင်း**မဟုတ်လျှင် အဲဟ်ယာအွလ်အိုလူမ်ကျမ်းသည် အပြည့်အဝ**နားလည်ရန် ခက်ခဲသောကျမ်းတစ်စောင်ဖြစ်ပါ**သည်။** သို့ဖြစ်ရာ နားလည်**ရန်ပင် ခက်ခဲလှ**သော ဤကျမ်းကို ဘာသာ**ပြန်ရာတွင်** မည်မျှခက်ခဲမည်ဖြစ်ကြောင်း မှန်းဆကြည့်နိုင်ပါသည်။ ထိုကဲ့သို့ **ခက်ခဲနက်နဲ**သောစာပေတစ်ခုကို မြန်မာစာသာမန် အဆင့်ဖတ်တတ်သူ နားလည်အောင် ရေးရသည်မှာ အခက်ဆုံးဟု ဆိုချင်ပါသည်။ ကျွန်တော်သည် အဲဟ်ယာအွလ် အိုလူမ်ကျမ်းကို မြန်မာပြန်ဆိုရာတွင် မွတ်စလင်မ်မဟုတ်သူပင် ဖတ်နိုင်စေရန် ရည်ရွယ်ပြီး အရဗီအသုံးအနှုန်းများကို မြန်မာလို **တီထွင်သုံးနှုန်း**ခဲ့ပါသည်။ လိုအပ်မည်ထင်သော အရဗီမြန်မာအသုံးအနှုန်းများအတွက် နောက်ပိုင်းတွင် ခက် ဆစ်ကဏ္ဍတစ်ခု ထည့်**သွင်းထား**ပါသည်။

အဲဟ်ယာအွလ်အိုလူ**မ်ကျမ်း**ကို ဘာသာပြန်ရာတွင် ကျမ်းရှင် အိမာမ်ဂဇာလီ<sup>ॱ</sup>သခင်၏အာဘော်အတိုင်း ဖြစ် စေရန် အထူးအားထုတ်ထား**ပါ**သည်။ ဘာသာပြန်ရာတွင် မူရင်းကျမ်း၏ဝါကျတစ်ကြောင်း မဖြုတ်ပယ်မိရန်ငင်း၊ မိမိဘက်က ဝါကျတစ်ကြောင်း အပိုမထည့်သွင်းမိရန်ငင်း အတတ်နိုင်ဆုံးကြိုးစားထားပါသည်။ ထိုသို့ရှိသည့်ကြား က ချွတ်ချော်ချို့ယွင်းမှုပါရှိခဲ့လျှင် ကျွန်တော်၏ပေါ့ဆည့်ဖျင်းမှုသာဖြစ်ပါသည်။

**မူရင်းကျမ်းလေးတွဲရှိသည့်အတိုင်း** မြန်မာလို တစ်တွဲချင်း ထုတ်မည်ဆိုလျှင် စာအုပ်အလွန်ထူသွားမည်ဖြစ် သည်။ သို့ဖြစ်ရာ မြန်မာလို **ဆယ်တွဲ** ခွဲ၍ ပြန်ဆိုထုတ်ဝေရန် ရည်ရွယ်ပါသည်။

အဲဟ်ယာအွလ်**အိုလူမ်ကျမ်းကို** မြန်မာလို စလည်ဆုံးပြန်ဆိုထုတ်ဝေနိုင်ရန်အတွက် သင်ပြပေးသူ ဆရာသခင် မော်လာနာမုဟမ္မဒ်ယူနွစ်(ယင်းတော်)နှင့်မြန်မာပြန်သူကျွန်တော်တို့၏သက်တမ်းနှင့်ကျန်းမာရေးကို အလ္လာဟ်အရှင် ဇရ်ကတ်ချီးမြှင့်တော်မူရန် စာဖတ်ပရိသတ်မှ ဒိုအာပြုပေးစေလိုပါသည်။

(မော်လဝီပသီကျော်ဦး)

## ဟဒီစ်ကျမ်းကိုး ဖော်ပြသည့် အတိုကောက်စနစ်

ရှေးဦးပိုင်း ကျမ်းပြုပုဂ္ဂိုလ်များ၏ ထုံးစံရှိခဲ့သည့်အတိုင်း အိမာမ်ဂဇာလီ ﷺ သခင်သည် အဲဟ်ယာအွလ်အိုလူမ် ကျမ်းတွင် ဟဒီစ်တော်များကို ကိုးကားဖော်ပြရာမှာ ကျမ်းကိုးများကို ဖော်ပြခြင်းမပြုခဲ့ပါ။ အိမာမ်ဂဇာလီ ﷺ ကွယ်လွန် ပြီး နှစ်ပေါင်းနှစ်ရာကျော်ကြာမှ အီဂျစ်နိုင်ငံသား ဟဒီစ်ပညာရှင်အကျော်အမော် ဟဒီစ်၏ ဟာဖိဇ် အလ္လာမာ ရှိင်ခ်ုဒ္ဒီန် အဗူဖဇ္ဇလ်အဗ်ဒုရ်ရဟီမ်အီဗ်နေ့ဟုစိုင်န်အီရာကီ ﷺ (ဟီဂျရီ-၈၀၆ဖွါး၊ ၈၀၆လွန်)သခင်က အဲဟ်ယာကျမ်းတွင် ဖော်ပြခဲ့ သည့် ဟဒီစ်များအတွက် ကျမ်းကိုးများကို ရှာဖွေထည့်သွင်းပြီး ထိုဟဒီစ်များ၏ စနဒ်များ ခိုင်မာမှုမခိုင်မာမှုကိုလည်း သုံးသပ်ခဲ့ပါသည်။

ယခုမြန်မာပြန်တွင် အိမာမ်အီရာကီ ﷺ သခင် ရှာဖွေခဲ့သည့် ဟဒီစ်ကျမ်းကိုးများကို ဟဒီစ်စာသား၏ ဘေးတွင် လက်သည်းကွင်းဖြင့်၎င်း၊ အီရာကီ ﷺ သခင်၏ ဟဒီစ်သုံးသပ်ချက်များကို အောက်ခြေမှတ်စုအဖြစ်၎င်း ဖော်ပြထားပါ သည်။ ဟဒီစ်ကျမ်းကိုးများကို ဖော်ပြရာ၌ ကျမ်းအမည်များကို အောက်ပါအတိုင်း အတိုကောက်စနစ်ပြု၍ ဖော်ပြပါ သည်။ ဤစနစ်သည် ယခုမှတီထွင်သည့်စနစ်မဟုတ်ပါ။ လွန်ခဲ့သော နှစ်ပေါင်း(၈၀၀)ကျော်က ဟဒီစ်ပညာရှင်ကြီး မုဟမ္မဒ်အီဗ်နေ့ဂျဖ်ရီရှာဖအီ ﷺ သခင် ဟီစ်စနေ့ဟစီန်းကျမ်းကို ပြုစုစဉ်အသုံးပြုခဲ့သည့်စနစ်ဖြစ်ပါသည်။

ဟဒီစ်ကျမ်းအမည်များနှင့် ယင်းတို့၏ အတိုကောက်စာလုံးများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) خ = ဆွဟီဗုခါရီ ﷺ ကျမ်း
(၂) م = ဆွဟီမွတ်စလင်မ် ﷺ ကျမ်း
(၃) د = စုနန်အဗူဒါဝုဒ် ﷺ ကျမ်း
(၄) ت = တီရ်မဇီ ﷺ ကျမ်း
(၅) س = နစအီ ﷺ ကျမ်း
(၆) ق = ကဇ်ဝီနီ ﷺ ၏ အီဗ်နေ့မာဂျာကျမ်း
(၇) عه = ဤ(၃-၄-၅-၆)လေးကျမ်းအတွက်။
(၈) ع = ဤ(၁မှ၆)-ခြောက်ကျမ်းအတွက်။
(၉) مس = ဟာကင်မ် ﷺ ၏ ဆွဟီမွစ်တဒ်ရပ်က်ကျမ်း။
(၁၀) حب = ဆွဟီအီဗ်နေ့ဟဗ်ဗာန် ﷺ ကျမ်း
(၁၁) عو = အဗီအဝါနာ ﷺ ကျမ်း
(၁၂) مه = အီဗ်နေ့ခုဇိုင်မာ ﷺ ကျမ်း
(၁၃) ط = မုအတ်တွာကျမ်း
(၁၄) قط = စုနန်ဒါရွက်ကွတ်နီကျမ်း
(၁၅) مص = မုစန်နစ်ဖ်အီဗ်နေ့အဗီရှိုင်ဗာ ﷺ ကျမ်း
(၁၆) ا = မွစ်နဒ်အိမာမ်အဟ်မဒ် ﷺ ကျမ်း
(၁၇) ر = မွစ်နဒ်ဘဇာရ် ﷺ ကျမ်း
(၁၈) ص = အဗူယအ်လာမော်ဆွေလီ ﷺ ကျမ်း
(၁၉) مى = ဒါရိမီ ﷺ ကျမ်း
(၂၀) ط = မုအ်ဂျမ်တွစ်ဘရာနီကဘီရ်ကျမ်း
(၂၁) طس = မုအ်ဂျမ်တွစ်ဘရာနီအောက်စပ်တ်ကျမ်း
(၂၂) صط = မုအ်ဂျမ်တွစ်ဘရာနီဆွဂီရ်ကျမ်း
(၂၃) طب = တွစ်ဘရာနီ၏ ဒိုအာကျမ်း
(၂၄) مر = အီဗ်နေ့မရ်ဒုယာ ﷺ
(၂၅) سنى = ဘိုင်ဟကီသခင် ﷺ ၏ စုနန်ကဘီရ်ကျမ်း
(၂၆) شعب = ဘိုင်ဟကီ ﷺ ၏ ရှုအဘွလ်အီမာန်ကျမ်း
(၂၇) ى = အမလီယောင်မ်ဝလ်လိုင်လာကျမ်း။
(၂၈) تش = ရှမာအိလိတီရ်မဇီ ﷺ ကျမ်း
(၂၉) بر = အီဗ်နေ့အဗ်ဒွလ်ဘရ် ﷺ ၏ ဟဒီစ်ကျမ်း
(၃၀) نع = အီဗ်နေ့နုအိုင်မ် ﷺ ၏ ဟဒီစ်ကျမ်း

အချို့တစ်ကြိမ်တစ်လေ ကိုးကားသောကျမ်းကိုးနှင့် ရိဝါယတ်ဆင့်ပြန်မှုများကို အတိုကောက်စနစ်မထားဘဲ လက်သည်းကွင်းဖြင့် တိုက်ရိုက်ဖော်ပြပါသည်။



# ဟွဂ်ျဂျတွလ်အစ္စလာမ်
# အိမာမ်ဂဇာလီ

## အနှတ္ထသညာ ခေါ်စရာ

အိမာမ်ဂဇာလီ သခင်သည် ခိုရာစာန်ပြည် ခရိုင်မြို့တစ်ခု၌ ဟီဂျ်ရီ ၄၅၀တွင် ဖွါးမြင်ခဲ့သည်။ ခိုရာစာန်ပြည်သည် ယခုခေတ်အီရန်နိုင်ငံနယ်နိမိတ်ထဲတွင် ထိုခေတ်က ရှိခဲ့သောနိုင်ငံဖြစ်သည်။ တူစ်မြို့နယ်တွင် တွာဘိရာန်နှင့် တူကာန်ဟူ၍ မြို့နှစ်မြို့ရှိခဲ့ရာ အိမာမ်ဂဇာလီ သခင်သည် တွာဘိရာန်မြို့သားဖြစ်သည်။ အမည်ရင်းမှာ မုဟမ္မဒ်အီဗ်နေ့ မုဟမ္မဒ်အီဗ်နေ့မုဟမ္မဒ်အီဗ်နေ့အဟ်မဒ်ဖြစ်သည်။ အမည်ကိုထောက်ရှု၍ သခင်အပါအဝင် သခင်၏အဖေနှင့်အဖိုးတို့၏အမည်များအားလုံးသည် မုဟမ္မဒ်ချည်းဖြစ်ကြောင်းသိရသည်။ သခင်၏ဘေးကြီးသည်ပင် တမန်တော်မြတ်ﷺ၏အခြားအမည် 'အဟ်မဒ်'ဖြစ်ကြောင်းသိရသည်။ ဂဇာလီဟု ခေါ်တွင်ရခြင်းမှာ မိသားစုလုပ်ကိုင်နေသည့်သိုးမွေးချည်ငင်သည့်လုပ်ငန်းကို အစွဲပြု၍ဖြစ်သည်။ 'ဂဇ်လ်-غزل'၏အဓိပ္ပါယ်သည် ချည်ငင်ခြင်း၊ မိုင်းငင်ခြင်းဖြစ်သည်။

အလ္လာမာဆင်မ်အာနီကမူ 'သခင်နေထိုင်ခဲ့သော ဂဇာလာရွာကို အစွဲပြု၍ အိမာမ်ဂဇာလီဟု ခေါ်တွင်ခဲ့ခြင်းဖြစ်သည်'ဟု ရေးသားခဲ့သည်။ သို့သော် ပညာရှင်အများအပြားက ထိုအဆိုကို လက်မခံခဲ့ကြချေ။ အိမာမ်ဂဇာလီ၏ဇာတိမြေတူစ်တွင် ဂဇာလာအမည်ဖြင့် ရွာမရှိပါဟု ဆိုကြသည်။ လုပ်ငန်းအမည်ကို အစွဲပြု၍ အိမာမ်ဂဇာလီဟု ကျော်ကြားရခြင်းအပေါ် အိမာမ်ဂဇာလီသခင်၏အတ္ထုပ္ပတ္တိရှင် မော်လာနာရှီဗ်လီနုအ်မာနီက သက်ဆိုင်ရာခေတ်များတွင် အလားတူထုံးစံရှိခဲ့ပုံကို အောက်ပါအတိုင်းရှင်းပြခဲ့သည်။

'အိမာမ်ဂဇာလီသခင့်အား မိသားစုလုပ်ငန်းကို အစွဲပြု၍ အမည်ခေါ်ခြင်းသည် မလေးမစားလုပ်ခြင်း မဟုတ်ပါ။ အိမာမ်ဂဇာလီ၏ခေတ်တွင်၎င်း၊ အိမာမ်ဂဇာလီမတိုင်မီခေတ်ကင်း ပညာကို အဆင့်မြင့်သင်ယူဆည်းပူးခြင်းသည် မွတ်စလင်မ်တို့အတွင်း အထုံအလေ့တစ်ခုဖြစ်နေခဲ့သည်။ အဆင့်နိမ့်သောအလုပ်အကိုင်ဖြင့် အသက်မွေးဝမ်းကျောင်းပြုနေသူကလည်း သာသနာ့ပညာကို သင်ယူတတ်မြောက်လျက်ရှိခဲ့သည်။ ထိုသို့လုပ်ငန်းကိုင်ငန်း လုပ်ကိုင်သူများထဲမှ အလွန်ကြီးကျယ်သောပညာရှင်ကြီးများ ထွန်းကားပေါ်ထွက်ခဲ့ပြီး ယနေ့ကျွန်ုပ်တို့သည် ထိုပုဂ္ဂိုလ်များကို အိမာမ်၊ အလ္လာမာ စသည့် ဂုဏ်ပုဒ်များဖြင့် ခေါ်တွင်နေကြရသည်။ ဥပမာ အိမာမ်အဗူဟနီဖဟ်သခင်သည် အထည်ကုန်သည်တစ်ဦးဖြစ်သည်။ ရှမ်စွလ်အအင်မ်မာ အဗ်ဒွလ်အဇီဇ်အီဗ်နေ့အဟ်မဒ်ဗုခါရီသခင်သည် အချိုမုန့်လုပ်ရောင်းသူဖြစ်သည်။ အိမာမ်အဗူဂျအ်ဖရ်သခင်သည် ကဖန်စယက်သူဖြစ်သည်။ အလ္လာမာကပ္ဖလ်မရ်ဝဇီသခင်သည် သော့ခလောက်လုပ်သူဖြစ်

သည်။ ထိုပုဂ္ဂိုလ်ကြီးတို့သည် ပညာကို တဖက်ကမ်းခတ် တတ်မြောက်သော ကဝိကြီးများဖြစ်သော်လည်း မိမိတို့၏ အလုပ်အကိုင်များကြောင့် သိမ်ငယ်အောက်ကျခြင်း မဖြစ်ခဲ့ကြပေ။ တစ်ဘက်တွင် အလွန်ကြီးကျယ်သောပညာရှင်ကြီးများဖြစ်ခဲ့ကြသော်လည်းထိုပုဂ္ဂိုလ်တို့သည် မိမိတို့၏ အလုပ်အကိုင်များကို မြတ်နိုးဂုဏ်ယူစွာရွေးချယ်လုပ်ကိုင်ခဲ့ကြသည်။ သို့ဖြင့် ထိုအလုပ်အကိုင်များကို အစွဲပြု၍ ထိုသခင်တို့ကို အမည်မှည့်ခေါ်တွင်ခဲ့ကြသည်။'

အိမာမ်ဂဇာလီ (ရ) သခင့်အား အစ္စလာမ်တစ်လောကလုံးက တစ်ညီတစ်ညွတ်တည်း ပေးအပ်ခဲ့သောဘွဲ့တော်မှာ 'ဟွဂ်ျဂျတွလ်အစ္စလာမ်'ဖြစ်သည်။ ထိုဘွဲ့၏ အဓိပ္ပါယ်မှာ 'အစ္စလာမ့်မှတ်ကျောက်'ဖြစ်သည်။ ဆိုလိုသည်မှာ အိမာမ်ဂဇာလီ (ရ) သခင်သည် အစ္စလာမ်သာသနာအတွက် အစစ်အမှန်နှင့်အတုအယောင်ကို ခွဲခြားပေးသည့်ပုဂ္ဂိုလ်ဖြစ်သည်။ သခင်၏ အခြားဘွဲ့တော်တစ်ခုမှာ 'ဇိုင်နွဒ္ဒီန်'(သာသနာတော်၏ တင့်တယ်မှု)ဖြစ်သည်။ သာသနာ့ပညာရှင်အများစုက အိမာမ်ဂဇာလီ (ရ) သခင်၏ တစ်သက်တာဆောင်ရွက်ချက်များကို ထောက်ရှုပြီး သခင်သည် ဟီဂျ်ရီငါးရာစု၏ မုဂျဒ္ဒိဒ်(ရာစုတစ်ခုအတွက် သာသနာကို သွေးသစ်လောင်းပေးသူ)ဖြစ်သည်ဟု သတ်မှတ်ခဲ့ကြသည်။

## ဖခင်ကြီး၏ဆန္ဒမွန်

အိမာမ်ဂဇာလီ (ရ) ၏ ဖခင်သည် ပုဂ္ဂိုလ်မွန်တစ်ဦးဖြစ်သည်။ မိမိကိုယ်တိုင် လုပ်အားမှ ရရှိသည့်အစားအစာမှလွဲ၍ အခြားအရာ မစားသူဖြစ်သည်။ ပညာရှင်တို့၏ ထိုင်ဝိုင်းများတွင် ပျော်မွေ့သူဖြစ်သည်။ မိမိ၏ ချွေးနဲ့စာဖြင့် ပညာရှင်များကို လုပ်ကျွေးသမှုပြုသူဖြစ်သည်။ ဖိကဟ်ပညာရှင်များထံမှ ပညာရပ်စကားများကို ကြားရသည့်အခါ ၎င်းသည် ငိုကြွေးပြီး အလ္လာဟ်အရှင့်ထံ မိမိ၏ သားကို ဖိကဟ်ပညာရှင်ဖြစ်လာစေရန် ဒုအာပြုလေသည်။ တဖန် တရားဟောဆရာများထံမှ တရားဓမ္မစကားများ ကြားရသည့်အခါ ၎င်းသည် ငိုကြွေးပြီး အလ္လာဟ်အရှင့်ထံ မိမိ၏ သားကို တရားဟောဆရာဖြစ်စေရန် ဒုအာပြုလေသည်။

အိမာမ်ဂဇာလီ (ရ) ၏ ဖခင်သည် ကွယ်လွန်ခါနီးတွင် အိမာမ်ဂဇာလီ (ရ) နှင့်ညီငယ် အဟ်မဒ်ဂဇာလီ (ရ) တို့အား မိမိ၏ မိတ်ဆွေတစ်ဦးထံ အပ်နှံ၍ ပညာသင်ကြားပေးရန် မှာကြားခဲ့သည်။ ၎င်းက ထိုမိတ်ဆွေအား–

'ကျွန်ုပ်သည် အရေးအဖတ်မတတ်ခဲ့သဖြင့် အလွန်စိတ်မကောင်းဖြစ်ခဲ့ရသည်။ ထို့ကြောင့်ပင် ကျွန်ုပ်သည် ဤကလေးနှစ်ယောက်ကို ပညာသင်ပေးရန်ဆန္ဒရှိခဲ့သည်။ ဤနည်းဖြင့် ကျွန်ုပ်၏ ပညာမဲ့မှုအတွက် အစားထိုးဖြည့်ဆည်းမှုဖြစ်စေရန်ဖြစ်သည်'ဟု ပြောဆိုခဲ့သည်။

ဖခင်ကြီးကွယ်လွန်သွားသောအခါ ထိုပုဂ္ဂိုလ်က အိမာမ်ဂဇာလီညီနောင်နှစ်ဦးကို ပညာသင်ကြားပေးခဲ့သည်။ အခြေခံပညာရပ်များကို အတော်အတန်သင်ပြီးသောအခါ ပညာသင်ကြားရန်အတွက် ဖခင်ထားခဲ့သည့်စားစရိတ်များ ကုန်သွားခဲ့သည်။ ထိုပုဂ္ဂိုလ်က–

'အသင်တို့ဖခင်ကြီးထားခဲ့သည့် စားရိတ်ရိက္ခာများ ကုန်သွားခဲ့ပြီ။ ငါ့ထံတွင်လည်း ပစ္စည်းဥစ္စာဘာမှ ရှိသည်မဟုတ်ပါ။ သို့ဖြစ်ရာ အသင်တို့ညီနောင်နှစ်ဦး ကျောင်းတစ်ကျောင်းမှာ သွားတက်ကြပါ'

ဟု ပြောဆိုခဲ့လေသည်။ ကျောင်းတက်ကြပါဟုဆိုသော်လည်း ထိုခေတ်က စနစ်တကျထူထောင်ထားသည့်ကျောင်းဟူ၍ အရေအတွက်အနည်းငယ်သာရှိလေသည်။ ထိုခေတ်က အများဆုံးရှိနေသည်မှာ အိမ်တွင်းစာသင်ဝိုင်းများသာဖြစ်သည်။ ထိုခေတ်က ပညာရှင်ကြီးများ၏ အလေ့အထသည် မိမိတို့အိမ်များတွင်ဖြစ်စေ၊ ဗလီများတွင်ဖြစ်စေ ပညာရပ်များကို သင်ပြပို့ချခဲ့ကြသည်။

ထိုစာသင်ဝိုင်းများတွင် တက်ရောက်သင်ကြားနေသော စာသင်သားများ၏စရိတ်စကအဝဝကို မြို့ပေါ်ရှိ မြို့မိမြို့ဖများက တာဝန်ယူအကုန်အကျခံလေ့ရှိခဲ့ကြသည်။ ဤနည်းဖြင့် စာသင်သားတစ်ဦးသည် မည်မျှပင် ငွေကြေးချို့တဲ့သော်လည်း အဆင့်မြင့်ပညာရပ်များကို စိတ်အေးချမ်းမြေ့စွာ သင်ယူနိုင်ခဲ့ကြသည်။ အိမာမ်ဂဇာလီ ့သခင်သည်လည်း ဤစနစ်အရပင် ဖိကဟ်ပညာ၏အခြေခံကျမ်းစာများကို ရှိက်ခ်အဟ်မဒ်အီဗ်နေ့မုဟမ္မဒ်ရာဇ်ကာနီ ့သခင့်ထံတွင် ဖတ်အံသင်ယူခဲ့သည်။ ထိုသခင်သည် အိမာမ်ဂဇာလီ ့၏မြို့မှာပင် နေထိုင်ပြီး ပညာပို့ချနေခဲ့သူဖြစ်သည်။ ထိုသို့သင်ယူပြီးနောက် အိမာမ်ဂဇာလီသခင် ့သည် ဂျွရ်ဂျာန်သို့ ခရီးထွက်လာခဲ့သည်။ ဂျွရ်ဂျာန်သည် ယခုခေတ်ကျော်ဂျီယာနယ်ဖြစ်သည်။ ဂျွရ်ဂျာန်တွင် အိမာမ်ဂဇာလီ ့သခင်သည် ပညာရှင်ကြီးအိမာမ်အဗူနဆွရ်အီစ္စမာအီလ် ့သခင့်ထံမှာ ခစားဆည်းပူးခဲ့သည်။

အိမာမ်ဂဇာလီ ့သခင်၏ခေတ်တွင် ကျောင်းများဖွင့်လှစ်၍ သင်ကြားသည့်စနစ် ကျယ်ကျယ်ပြန့်ပြန့် မထွန်းကားခဲ့သေးသလို၊ ပုံနှိပ်စက်မပေါ်သေးသဖြင့် ကျမ်းစာအုပ်များလည်း ပေါပေါများများ မရှိခဲ့သေးပေ။ သို့ဖြစ်ရာ ထိုခေတ်က ပညာသင်ယူသူတို့သည် ဆရာသင်ပြပို့ချသမျှကို ပြည့်ပြည့်စုံစုံလိုက်လံမှတ်သားလေ့ရှိခဲ့ကြသည်။ တပည့်အတွက် ထိုမှတ်စုမှတ်တမ်းများသည် တစ်သက်တာမှတ်ရှုလေ့လာရမည့် ကျမ်းစာအုပ်များပင်ဖြစ်ခဲ့သည်။ ထိုသို့ရေးမှတ်ခြင်းကို 'ဒ့ုလီးဒ'လုပ်သည်ဟု သီးသန့်အသုံးအနှုန်းဖြင့် ခေါ်ဝေါ်ခဲ့ကြသည်။

ဂျွရ်ဂျာန်တွင် သုံးနှစ်တာ ပညာသင်ယူပြီးနောက် အိမာမ်ဂဇာလီ ့သခင်သည် ထုထဲများပြားလှသော မှတ်စုမှတ်တမ်းများကို စုဆောင်းမိခဲ့သည်။ ထိုအခါ မိမိ၏ဇာတိမြို့သို့ ပြန်လာခဲ့သည်။ တိုက်တိုက်ဆိုင်ဆိုင်ပင် အိမာမ်ဂဇာလီ ့နှင့်ခရီးသွားအဖွဲ့သည် လမ်းတွင် ဓါးပြများတွင် တွေ့ခဲ့သည်။ ဓါးပြများက အိမာမ်ဂဇာလီ ့တွင် ပါလာသော ပစ္စည်းများနှင့်အတူ မှတ်စုစာအုပ်များကိုလည်း ယူသွားကြသည်။ အိမာမ်ဂဇာလီ ့သည် အလွန်စိတ်ထိခိုက်သွားကာ ဓါးပြခေါင်းဆောင်ကို သွားတွေ့ခဲ့သည်။ သခင်က ဓါးပြခေါင်းဆောင်အား–

'ကျွန်တော့ရဲ့ပစ္စည်းများထဲက ကျွန်တော့မှတ်စုစာအုပ်များကို ပြန်ပေးပါ။ ကျွန်တော်ဟာ ဒီမှတ်စုမှတ်တမ်းများအတွက် ယခုလိုခရီးထွက်ခဲ့ရခြင်းဖြစ်ပါတယ်'ဟု အကျိုးအကြောင်းရှင်းပြခဲ့သည်။ ထိုအခါ ဓါးပြဗိုလ်က ရယ်သွမ်းသွေးပြီး–

'အသင် ပညာဆည်းပူးလာတယ်ဆိုတာ တကယ်တော့ ဘာမှမဟုတ်ပါလား။ အသင့်မှာ စာရွက်ကလေးတစ်ရွက် မရှိတာနဲ့ အသင်ဟာ ပညာမျက်ကန်းဖြစ်တော့တာဘဲလား'ဟု ပြောဆိုခဲ့သည်။ ထိုသို့ပြောဆိုပြီး ဓါးပြဗိုလ်က မှတ်စုစာအုပ်များကို အိမာမ်ဂဇာလီ ့သခင်အား ပြန်ပေးလိုက်သည်။ ဓါးပြဗိုလ်၏စကားသည် အိမာမ်ဂဇာလီ ့သခင်၏ရင်ထဲတွင် စူးဝင်သွားခဲ့သည်။ သခင်သည် ထိုစကားများကို အလ္လာဟ်အရှင့်ဘက်တော်မှ သတိပေးစကားများအဖြစ်မှတ်ယူခဲ့သည်။ ဇာတိမြို့သို့ ပြန်ရောက်သည်နှင့် သခင်သည် မိမိ၏မှတ်စုများကို နှုတ်လွတ်ကျက်မှတ်လေတော့သည်။ ဤနည်းဖြင့် ဂျွရ်ဂျာန်တွင် သုံးနှစ်သုံးမိုး ရေးချွတ်မှတ်သားခဲ့သော မှတ်စုများကို အလွတ်ရခဲ့လေသည်။

## ပညာ့မြို့တော် နိုင်ရှာပူရ်သို့

အိမာမ်ဂဇာလီ ့၏ခေတ်တွင် နိုင်ရှာပူရ်နှင့်ဘဂ္ဂဒက်မြို့နှစ်မြို့သည် ပညာ့မြို့တော်များအဖြစ် ကျော်ကြားခဲ့လေသည်။ ထိုအချိန်က ခိုရာစာန်၊ ပါရှန်၊ အီရတ်နိုင်ငံများမှ လူခပ်သိမ်းတို့၏မီခိုအားထားရာ ဥပဇ္ဈာယ်ဆရာကြီးများဟုအများက လက်ခံထားသော ပညာရှင်ကြီးနှစ်ပါးသည် ထိုမြို့နှစ်မြို့တွင် နေထိုင်လျက်ရှိသည်။ ထိုပညာရှင်နှစ်ပါးမှာ အိမာမွလ်ဟရမိုင် ့နှင့်အလ္လာမာအဗူအီစ်ဟာက် ့သခင်နှစ်ပါးဖြစ်သည်။ ထိုပညာရှင်ကြီးနှစ်ပါးသည် ထိုမြို့နှစ်မြို့တွင် ပညာရပ်များ ပို့ချလျက်ရှိခဲ့သည်။ ခိုရာစာန်တွင် နေထိုင်သော အိမာမ်ဂဇာလီ ့အဖို့ အီရတ်နိုင်ငံရှိ ဘဂ္ဂဒက်မြို့

နှင့် နှိုင်းယှဉ်လျှင် နိုင်ရှာပူရ်က ပို၍နီးကပ်မှုရှိသည်။ သို့ဖြစ်ရာ သခင်သည် နိုင်ရှာပူရ်သို့သွား၍ အိမာမွလ်ဟရမိုင်ꩻ သခင်ထံ ခစားခဲ့သည်။

ပညာနှင့်ပတ်သက်လျှင် နိုင်ရှာပူရ်မြို့သည် အစ္စလာမ့်သမိုင်းတွင် ပထမဆုံးဟုဆိုရမည့် ကျောင်းတော်ကြီးကို တည်ထောင်ဖွင့်လှစ်ခဲ့သည့်မြို့ကြီးဖြစ်သည်။ ထိုကျောင်း၏အမည်မှာ ဗိုင်ဟကီယာကျောင်းတော်ဖြစ်သည်။ အိမာမ် ဂဇာလီꩻ၏ဆရာ အိမာမွလ်ဟရမိုင်ꩻသည် ထိုကျောင်းတော်တွင် ပညာရှင်နို့သောက်စို့ခဲ့သူဖြစ်သည်။ ဘဂ္ဂဒက်မြို့ရှိ နိဇာမီယာကျောင်းတော်သည် အစ္စလာမ့်ကမ္ဘာတွင် ပထမဦးဆုံးကျောင်းတော်ဖြစ်သည်ဟု ကျော်ကြားလျက်ရှိသည်။ သို့နှင့်တိုင် သမိုင်းပညာရှင်အိဗ်နေ့ခလ်ကာန်ꩻက–

'နိဇာမီယာကျောင်းဟူ၍ မရှိခင်ကတည်းက နိုင်ရှာပူရ်တွင် ကျောင်းကြီးကျောင်းကောင်းများ ထူထောင်ပြီးရှိနေသည်။ ထိုအထဲတွင် အကြီးကျယ်ဆုံးကျောင်းတော်သည် ဗိုင်ဟကီယာကျောင်းတော်ကြီးဖြစ်သည်'ဟု ရေးသားခဲ့သည်။

## အိမာမွလ်ဟရမိုင်ꩻ

အိမာမွလ်ဟရမိုင်ꩻသခင်၏အမည်ရင်းသည် အဗ်ဒွလ်မလစ်ကဲဖြစ်သည်။ ဘွဲ့မည်ရည်သည် ဓေယာအွဒ္ဒီန်ဖြစ်သည်။ ငယ်စဉ်က မိမိ၏ဖခင်ထံတွင် ပညာဆည်းပူးခဲ့သည်။ ဖခင်ကွယ်လွန်ပြီးနောက် ဗိုင်ဟကီယာကျောင်းတော်၏ကျောင်းအုပ်ကြီး အဗွလ်ကာစင်မ်အပ်စကာဖီꩻသခင့်ထံတွင် တပည့်ခံခဲ့သည်။ ဗိုင်ဟကီယာကျောင်းတော်မှ ပညာဆည်းပူးပြီးနောက် ဘဂ္ဂဒက်သို့ သွားရောက်၍ ထို၌ရှိနေသောပညာရှင်ကြီးများထံတွင် ပညာရပ်များကို ဆည်းကပ်သင်ယူခဲ့သည်။ ဘဂ္ဂဒက်တွင် ပညာကို အားရကျေနပ်အောင် သင်ယူခဲ့ပြီးနောက် နိုင်ရှာပူရ်သို့ပြန်လာပြီး ပညာပို့ချခဲ့သည်။ သို့သော် ထိုအချိန်၌ နိုင်ရှာပူရ်၏နန်းရင်ဝန်က ဗလီများတွင် အိမာမ်အဗွလ်ဟစ်အရှ်အရီꩻသခင့်အပေါ် လအ်နတ်ကျိန်ဆိုကြရန် အမိန့်ထုတ်ခဲ့သည်။ အိမာမွလ်ဟရမိုင်ꩻသခင်သည် အိမာမ်အဗွလ်ဟစ်အရှ်အရီꩻသခင်၏ အရှ်အရီအကီဒဟ်ကို လက်ခံထားသူဖြစ်ရာ အလွန်ပင် မကျေမချမ်းဖြစ်ခဲ့သည်။ နိုင်ရှာပူရ်မှ မက္ကာနှင့်မဒီနာမြို့တော်နှစ်ခုသို့ ထွက်ခွါခဲ့သည်။ မြို့တော်နှစ်ခုတွင် သခင့်ကို လူတို့က အထူးလေးစား တန်ဘိုးထားခဲ့ကြသည်။ သခင်၏စာသင်ဝိုင်းသည် တရားဓမ္မနှင့်ပတ်သက်၍ လူထု၏ကွန်းခိုရာဖြစ်ခဲ့သည်။ မက္ကာမြို့တော်နှင့်မဒီနာမြို့တော်နှစ်ရပ်မှ ဖတ္တဝါမေးခွန်းများကို သခင်ပင် ဖြေခဲ့ရသည်။ ဤသို့ဖြင့် သခင်သည် အိမာမွလ်ဟရမိုင်ဟု ကျော်ကြားလာခဲ့တော့သည်။ 'ဟရမိုင်'ဆိုသည်မှာ မက္ကာနှင့်မဒီနာမြို့တော်နှစ်ခုကို အထွတ်အမြတ်ပြု၍ ခေါ်သောစကားလုံးဖြစ်သည်။

နောက်ပိုင်းတွင် နိုင်ရှာပူရ်၌ ဘုရင်က နန်းရင်းဝန်တစ်ဦးကို အသစ်ခန့်အပ်ခဲ့သည်။ ထိုနန်းရင်းဝန်အသစ်သည် ယခင်နန်းရင်းဝန်ကဲ့သို့ အစွန်းရောက်သူ ဖွတ်တရွတ်သမားမဟုတ်ဘဲ တရားနည်းလမ်းကျသူ၊ သဘောထားမျှတသူဖြစ်ကြောင်း၊ လူထုကို စာနာထောက်ထားသူဖြစ်ကြောင်း ကောင်းသတင်းများ အလျှင်အမြန်ပျံ့နှံ့လာခဲ့သည်။ ထိုသတင်းစကားများကို ကြားရသောအခါ အိမာမွလ်ဟရမိုင်ꩻသည် ဇာတိမြေသို့ ပြန်လာခဲ့သည်။

အသစ်တက်လာသော နန်းရင်းဝန်ကြီး နိဇာမွလ်မွလ်က်က အိမာမွလ်ဟရမိုင်ꩻသခင်အတွက် နိုင်ရှာပူရ်တွင် အလွန်ကြီးကျယ်သော ကျောင်းတော်ကြီးတစ်ဆောင် တည်ပေးခဲ့သည်။ ထိုကျောင်းတော်ကြီး၏အမည်သည်လည်း နိဇာမီယာကျောင်းတော်ဟု အမည်တွင်ခဲ့သည်။ အိမာမွလ်ဟရမိုင်ꩻသခင်အား စာပေသင်ပြပို့ချရသည့်တာဝန်အပြင် သာသနာရေးနှင့်သက်ဆိုင်ရာ တာဝန်များအားလုံးကို လွှဲအပ်ခဲ့သည်။ တရားဟောခြင်း၊ ရှေ့ဆောင်ရှေ့ရွက်ပြုခြင်း၊ ခွတ္တဘာမိန့်ခွန်းခြင်းနှင့် အစ္စလာမ့်နိုင်ငံတော်၏ဝကဖ်များကို စီမံခန့်ခွဲရသည့်အရေးတာဝန်များသည် အိမာမွလ်ဟရ

မိုင်၏ပုခုံးထက်သို့ ရောက်လာခဲ့သည်။ အိမာမွလ်ဟရမိုင်သခင်ကို ထိုခေတ်ရှိ ဘုရင်များက လေးစားရိုသေခဲ့ကြသည်။ တစ်ကြိမ်တွင် အိမာမွလ်ဟရမိုင်က စလ်ဂျူကီဘုရင်၏အမိန့်တစ်ခုကို ဆန့်ကျင်လျက် ကြေညာချက်ထုတ်ခဲ့သည်။ ကြေညာပုံမှာ–

'မလစ်က်ရှာဟ်းစလ်ဂျူကီ၏အမိန့်သည် မှားယွင်းလျက်ရှိသည်။ ထိုဘုရင်သည် ဤကဲ့သို့သောအမိန့်မျိုးကို **ထုတ်ပြန်ပိုင်ခွင့်**မရှိ'ဟု ဖြစ်သည်။ မလစ်က်ရှားဟ်သည် အိမာမွလ်ဟရမိုင်၏ကြေညာချက်ကို ကြားသိရသည့်အခါ ရန်သတ္တရု မပြုသည့်အပြင် အိမာမွလ်ဟရမိုင်၏ကြေညာချက်ကို ထောက်ခံပြီး မိမိဘက်က ကြေညာချက်တစ်ခု **ထုတ်ပြန်**ခဲ့သည်။ ထိုကြေညာချက်မှာ–

> 'ကျွန်ုပ်၏အမိန့်သည် အခြေအမြစ်မှစ၍ မှားယွင်းလျက်ရှိသည်။ အိမာမွလ်ဟရမိုင်၏အမိန့်ကသာ **အမှန်ဖြစ်**သည်။'

**ထိုကဲ့သို့သောပညာရှင်အိမာမွလ်ဟရမိုင်**သခင်ထံတွင် **အိမာမ်ဂဇာလီ**သည် ပညာကို အလွန်ကြိုးကုတ်စွာ သင်ယူခဲ့သည်။ **အချိန်အနည်းငယ်အတွင်း**မှာ ပညာကို ဆုံးခန်းတိုင်**အောင်** သင်ယူနိုင်ခဲ့သည်။ ထို့ပြင် စာသင်ဘက်အားလုံးတွင် **အထူးချွန်ဆုံးကျောင်းသားတစ်ဦး**ဖြစ်ခဲ့သည်။ ထိုခေတ်က ပညာရှင်တို့၏ထုံးစံတစ်ခုမှာ မိမိ၏တပည့်များထဲမှ **အထူးချွန်ဆုံးကျောင်းသားကို ကျန်ကျောင်းသားများအား သင်ခန်းစာများ**ကို ဒုတိယအကြိမ်သင်ပြပို့ချပေး**စေခြင်းဖြစ်သည်။ ထိုကဲ့သို့ သင်ပြပို့ချရသူကို 'မအိဒ်-**[illegible]**'ဟု ခေါ်သည်။ အိမာမ်ဂဇာလီ**သည် အိမာမွလ်ဟရမိုင်**၏လက်ထောက် မအိဒ်ဖြစ်ခဲ့သည်။**

**ဟီဂျရီ ၄၇၈ တွင် အိမာမွလ်ဟရမိုင်သခင် ကွယ်လွန်ခဲ့သည်။ သခင်ကွယ်လွန်သောအခါ နိုင်ရှာပူရ်၏ဈေးများအားလုံး ပိတ်ပစ်ခဲ့ကြသည်။ လူတို့သည် ဗဟိုဗလီကြီး၏မင်န်ဘာရ်ကို ချိုးဖဲ့ပစ်ခဲ့ကြသည်။ အရေအတွက် လေးရာနီးပါးရှိသောတပည့်များ**သည် မိမိတို့၏မင်အိုးများနှင့်ကလောင်တန်များကို ရိုက်ချိုးဖျက်စီးပစ်ခဲ့ကြသည်။

အိမာမ်ဂဇာလီ**သခင်**သည် အိမာမွလ်ဟရမိုင် သက်တော်ထင်ရှားရှိစဉ်ကပင် ကျမ်းစာများ ပြုစုခဲ့ပြီး ကျော်ကြားမှုလည်း ရရှိခဲ့ပြီးဖြစ်သည်။ အိမာမွလ်ဟရမိုင်သည် မိမိ၏တပည့်ကျော်အတွက် အလွန်ပင် ဂုဏ်ယူမဆုံးဖြစ်ခဲ့သည်။ အသက်ရှိသ၍ တပည့်ကို မိမိအနီးမှ မခွဲမခွါထားခဲ့သည်။ အိမာမွလ်ဟရမိုင်ကွယ်လွန်သောအခါ အိမာမ်ဂဇာလီ၏ဂုဏ်သတင်းသည် အစ္စလာမ့်နိုင်ငံတော်အဝှမ်းတွင် ပြိုင်ဘက်မရှိကျော်ကြားသွားခဲ့သည်။ ထိုအချိန်တွင် အိမာမ်ဂဇာလီသည် အသက် ၂၈ နှစ်သာရှိသေးသည်။

## နောက်ခံခေတ်အခြေအနေ

ရှေ့တွင်ဖေါ်ပြမည့် အိမာမ်ဂဇာလီ၏အတ္ထုပ္ပတ္တိဖြစ်ရပ်များသည် အုပ်ချုပ်ရေးကဏ္ဍနှင့် အတော်ပင်ဆက်စပ်လျက်ရှိသည်။ သို့ဖြစ်ရာ အိမာမ်ဂဇာလီခေတ် နိုင်ငံ့နောက်ခံအခြေအနေကို ဖေါ်ပြရန် လိုအပ်ပေသည်။

အိမာမ်ဂဇာလီ၏ခေတ်တွင် အဗ္ဗာစီယာခလီဖဟ်မင်းဆက်သည် အတော်ပင် အင်အားချိနဲ့လျက်ရှိနေသည်။ ခေလာဖတ်နိုင်ငံတော်သည် အဘက်ဘက်တွင် လျော့လျော့ရဲရဲရှိနေပြီး လူတစ်လူငါတစ်မင်းဖြစ်လျက်ရှိသည်။ ထိုအထဲတွင် တူရကီမျိုးနွယ်တို့၏ကိုယ်ပိုင်အာဏာစက်ထူထောင်မှုသည် အများဆုံးဖြစ်သည်။ တူရကီတို့သည် တဖြည်းဖြည်းချင်း အစ္စလာမ့်ကမ္ဘာ၏ကြီးမားသောအစိတ်အပိုင်းကို စိုးမိုးနိုင်ခဲ့ကြသည်။ အီဂျစ်တွင် တူရကီမျိုးနွယ် ခဒ်ယူကမင်းပြုနေသည်။ အီရန်တွင်လည်း တူရကီမျိုးနွယ် ကဂျ်ကလာပင် မင်းလုပ်အုပ်ချုပ်လျက်ရှိသည်။ အိမာမ်ဂဇာလီ၏ခိုရာစာန်ပြည်ကို ထီးနန်းစိုးစံလျက်ရှိသည့် စလ်ဂျူကီမင်းဆက်သည်လည်း တူရကီမျိုးနွယ်များပင်ဖြစ်သည်။ ထို

F.3.A

မင်းဆက်တွင် ဖွဲ့ဆော်ဦးနန်းတက်သူသည် တွဂ်ရလ်ဘဂ်ဖြစ်သည်။ ၎င်းသည် ဟီဂျ်ရီ ၄၂၉တွင် တူစ်နယ်ကို ပထမဆုံး သိမ်းပိုက်ခဲ့သည်။ ထို့နောက် တစ်ဆင့်ပြီးတစ်ဆင့် နယ်ချဲ့ရင်း ဟီဂျ်ရီ ၄၄၇တွင် အီရတ်ကို အောင်နိုင်ခဲ့သည်။ တွဂ်ရလ်ဘဂ်သည် ဟီဂျ်ရီ ၄၅၅ (အိမာမ်ဂဇာလီ ၅နှစ်သားအရွယ်)တွင် ကွယ်လွန်ခဲ့သည်။ ထိုအခါ ၎င်း၏သား အလ်ပ်အရ်ဆလာန် နန်းတက်သည်။ အလ်ပ်အရ်ဆလာန်၏နောက်တွင် ၎င်း၏သား မလစ်က်ရှားဟ် နန်းတက်ခဲ့သည်။ မလစ်က်ရှားဟ်လက်ထက်တွင် ဆလ်ဂျူကီမင်းဆက်၏ဩဇာအာဏာသည် အထွတ်အထိပ်သို့ ရောက်ရှိခဲ့သည်။ ဤအကြောင်းကို သမိုင်းပညာရှင် အီဗ်နေ့ခလ်ကာန်က အောက်ပါအတိုင်းဖော်ပြခဲ့သည်။

'မည်သည့်ဘုရင်တစ်ပါး၏အာဏာစက်မှ မလစ်က်ရှားဟ်၏အာဏာစက်လောက် ကျယ်ပြန့်ခြင်းမရှိခဲ့ဘူးပါ။ ၎င်း၏အာဏာစက်သည် အလျားလိုက်ဆိုရသော် ကရှ်ဂရ်မှ တာကစ္စတန်၏တဖက်အစွန်းရှိ မြို့အထိဖြစ်သည်။ ထိုနယ်စပ်ဒေသသည် တရုတ်နိုင်ငံနှင့် ထိလျက်ရှိသည်။ ထို့နောက် အနံလိုက်ဆိုရသော် ကွန်စတန်တိန်မှ ခရာဇ်ပင်လယ်အထိ ဖြန့်ကျက်တည်ရှိသည်။ ထိုဘုရင်သည် မိမိ၏နိုင်ငံတစ်ခုလုံးတွင် လမ်းခရီးစခန်းချရာ ဧည့်ရိပ်သာများနှင့် တံတားများကို တည်ဆောက်ပေးခဲ့သည်။ အခွန်ဘဏ္ဍာအမျိုးစုံကိုလည်း ကောက်ခံခြင်းမပြုဘဲ သက်ညှာရပ်ဆိုင်းထားသည်။

ထိုခေတ်အခါ၏အေးချမ်းသာယာမှုရှိပုံကို သာဓကဆောင်ရသော် ကုန်သည်အဖွဲ့များသည် တာကစ္စတန်မှ ဆီးရီးယားပြည်အထိ လုံခြုံရေးအစောင့်အရှောက်များမပါဘဲ ခရီးထွက်ခွါလေ့ရှိကြသည်။ ထိုခေတ်တွင် လူတစ်ယောက်သည် မိုင်ထောင်နှင့်ချီ၍ မိမိသွားလိုရာအရပ်သို့ သွားနိုင်ခဲ့သည်။ ဤကဲ့သို့ အုပ်ချုပ်ရေးခိုင်မာတောင့်တင်းရခြင်းသည် နန်းရင်းဝန်ကြီး နိဇာမွလ်မွလ်က်၏ကြိုးပမ်းမှုရလဒ်ဖြစ်သည်။'

အဆိုပါ နန်းရင်းဝန်ကြီးနိဇာမွလ်မွလ်က်သည် အိမာမ်ဂဇာလီ၏ဘဝအတ္ထုပ္ပတ္တိနှင့် အထူးသဖြင့် ဆက်စပ်လျက်ရှိခဲ့သည်။ သို့ဖြစ်ရာ ထိုနန်းရင်းဝန်ကြီး၏အကြောင်းကို အတန်ငယ်သိထားသင့်ပေသည်။

## နန်းရင်းဝန်ကြီး နိဇာမွလ်မွလ်က်

နိဇာမွလ်မွလ်က်၏အမည်ရင်းသည် ဟစံအီဗ်နေ့အလီဖြစ်သည်။ ၎င်းသည် အိမာမ်ဂဇာလီ၏ဇာတိမြေတူစ်နယ်ရှိ ရာဇ်ကာန်အမည်ရှိ ရွာတွင် မွေးဖွါးခဲ့သည်။ ၎င်းမှာ ဟဒီစ်ပညာနှင့်ဖိကဟ်ပညာကို သင်ယူထားသူဖြစ်သည်။ ထိုသို့ပညာကို သင်ယူခဲ့ပြီးနောက် လောကီရေးဘက်တွင် ဆောင်ရွက်ခဲ့သည်။ ဤနည်းဖြင့် ၎င်းသည် ဘလ်ခ်နယ်အုပ်ချုပ်ရေးမှူး၏စာရေးတော်ကြီးဖြစ်လာခဲ့သည်။ ကြိုးစားမှုအလျောက် တဖြေးဖြေး တိုးတက်မြှောက်စားခြင်းခံခဲ့ရသည်။ နောက်ဆုံးတွင် အလ်ပ်အရ်ဆလာန်ဘုရင်၏နန်းရင်းဝန်ကြီးဖြစ်လာခဲ့သည်။

ဟီဂျ်ရီ ၄၆၅တွင် အလ်ပ်အရ်ဆလာန် ကွယ်လွန်သွားရာ ၎င်း၏သားများသည် ထီးနန်းဆက်ခံရေးအတွက် တိုက်ခိုက်မှုများ ပြုလုပ်ရန်အထိ ပြင်ဆင်ကြလေသည်။ သို့သော် နိဇာမွလ်မွလ်က်၏အစီအမံကောင်းမွန်မှုကြောင့် အလ်ပ်အရ်ဆလာန်၏သားများအနက် ရာဇပလ္လင်နှင့်အထိုက်တန်ဆုံးဖြစ်သူ မလစ်က်ရှားဟ် နန်းတက်ခွင့်ရခဲ့သည်။ ဘုရင့်အရိုက်အရာကို ခံယူပြီးသည်နှင့် မလစ်က်ရှားဟ်သည် အုပ်ချုပ်ရေးကိစ္စအဝဝကို နိဇာမွလ်မွလ်က်၏လက်သို့ ဝကွက်၍ အပ်ခဲ့သည်။ မလစ်က်ရှားဟ်သည် မိမိကွယ်လွန်ချိန် ဟီဂျ်ရီ ၄၈၅ခုအထိ တိုင်းပြည်အုပ်ချုပ်ရေးကို နိဇာမွလ်မွလ်က်အား လွှဲအပ်ထားခဲ့သည်။

နိုင်ငံကို အနှစ်နှစ်ဆယ်ကြာ အုပ်ချုပ်ခဲ့ရသဖြင့် နိဇာမွလ်မွလ်က်၏အာဏာစက်သည် အလွန်ကြီးမားကျယ်ပြန့်ခဲ့လေသည်။ ခလီဖဟ်သမ္မတကြီးများ၏နောက် မည်သူမျှ မရခဲ့ဘူးသေးသော အာဏာစက်ကျယ်ပြန့်မှုပင်ဖြစ်

သည်။ နိဇာမွလ်မွလ်က်၏ထူးခြားသော ဆောင်ရွက်မှုတစ်ခုသည် အစ္စလာမ့်နိုင်ငံတော်တွင် ပညာရေးကို တိုးတက်အောင် ဆောင်ရွက်ခဲ့ခြင်းဖြစ်သည်။ ရောင်ဇွတီန်း*ဗီလ်အခ်ဘာရီလ်ဒေါင်လတီန်*ကျမ်း၌ နိဇာမွလ်မွလ်က်လက်ထက် ပညာရေးတိုးတက်မှုကို ဖော်ပြထားသည်မှာ–

'စာသင်ကျောင်းတစ်ကျောင်း တည်ဆောက်ထားခြင်းမရှိသောမြို့ဟူ၍ မတွေ့ရပါ။ အီဗ်နေ့အိုမရ်ကျွန်းဆွယ်ကဲ့သို့ အလွန်ချောင်ကျသောအရပ်ဒေသမျိုး၌ပင် ကြီးမားသောစာသင်ကျောင်းများကို မမြင်ချင်အဆုံးတွေ့နေရသည်။'

ထို့ပြင် အလ္လာမာကစ်ဇီနီက *အာစာရွလ်ဘီလဒ်*ကျမ်းတွင်–

'ထိုခေတ်က ကျောင်းများအတွက် နှစ်စဉ်အသုံးစရိတ်သည် အရှ်ရဖီရွှေဒင်္ဂါး ခြောက်သိန်းဖြစ်သည်။ ထို့ပြင် နိဇာမွလ်မွလ်က်သည် မိမိအပိုင်စားရရှိသည့် အခွန်ဝင်ငွေများ၏ဆယ်ပုံတစ်ပုံကိုလည်း ပညာရေးအတွက် လှူဒါန်းခဲ့သေးသည်'ဟု ဖော်ပြထား၏။

အိမာမ်ဂဇာလီအတ္ထုပ္ပတ္တိရေးသူ မော်လာနာရှစ်ဗ်လီနအ်မာနီက ထိုခေတ်က ရွှေဒင်္ဂါးခြောက်သိန်းကို ခေတ်ကာလ၏တန်ဘိုးဖြင့် တွက်ပြခဲ့သည်။

'ဆလ်ဂျူကီမင်းဆက်ခေတ်သုံး ရွှေဒင်္ဂါးကို ကျွန်ုပ်မြင်ဘူးသည်။ ထိုဒင်္ဂါးများကို တန်ဘိုးတွက်ကြည့်လျှင် နိဇာမွလ်မွလ်က်၏သီးသန့်လှူဒါန်းမှုများ မပါသေးဘဲ ရူပီးငွေသိန်းတစ်ရာငါးဆယ်ရှိသည်။ ထိုတန်ဘိုးနှင့်ညီမျှသော ငွေကြေးများကို ဘုရင့်ဘဏ္ဍာတော်မှ ပညာရေးအတွက် ထောက်ပံ့ခဲ့ခြင်းဖြစ်သည်။ ထိုခေတ်ကာလအနေအထားအရ ဤငွေကြေးသည် အလွန်များပြားသောပမာဏပင်ဖြစ်သည်။ အခြားအမျိုးသားများ၏ သမိုင်းတွင် ပညာရေးအတွက် ဤမျှများပြားသော ငွေကြေးပမာဏ သုံးစွဲသည်ကို တွေ့ရလိမ့်မည်မဟုတ်ပေ'ဟု ရေးသားဖော်ပြခဲ့သည်။*

နိဇာမွလ်မွလ်က်သည် ကိုယ်တိုင်က ပညာရှင်တစ်ပါးဖြစ်သည်။ ၎င်းသည် မိမိ၏ခေတ်တွင် ကျော်ကြားသော ပညာရှင်ကြီး အဗူအလီဖါရ်မေဒီသခင် မိမိ၏နန်းဆောင်သို့ ကြွရောက်လာသည့်အခါ မိမိထိုင်နေသောထိုင်ဖုံမှီအုံးမှ အမြဲတစေ ထပေးလေ့ရှိသည်။ ထို့ပြင် နိဇာမွလ်မွလ်က်သည် မိမိခေတ်၏အကြီးကျယ်ဆုံးပညာရှင်ကြီးနှစ်ပါးဖြစ်သည့် အိမာမွလ်ဟရမိုင်နှင့်အဗူအီစ်ဟာက်ရှီရာဇီသခင်တို့ကိုလည်း အလွန်ရိုသေလေးစားခဲ့သည်။ ထိုသို့တန်ဘိုးထားလေးစားတတ်မှုများကြောင့် နိဇာမွလ်မွလ်က်၏နန်းဆောင်ခန်းမသည် ပညာရှင်တို့၏စုရပ်ဌာနဖြစ်နေခဲ့သည်။ ရာထောင်ချီသောပညာရှင်များသည် ၎င်း၏နန်းဆောင်တွင် တစ်စုတစ်ဝေးတည်း ရှိနေတတ်သည်။ နိဇာမွလ်မွလ်က်သည် ထိုပညာရှင်များ၏မုနာဇရာအခန်းအနားများတွင် ကိုယ်တိုင် တက်ရောက်လေ့ရှိသည်။ ထိုမုနာဇရာအခန်းအနားများမှ အကျိုးရလဒ်လည်း ရယူခံစားခဲ့သည်။

## အိမာဂဇာလီ၏နှစ်ဥဘာဝ

အသက်အရွယ် ငယ်နုစဉ်က အိမာမ်ဂဇာလီသခင်သည် ကြီးကျယ်ကျော်ကြားမှုကို လိုလားသူဖြစ်ခဲ့သည်။

---

* **မော်လာနာရှစ်ဗလီနအ်မာနီ**သည် အိမာမ်ဂဇာလီအတ္ထုပ္ပတ္တိကို ၁၉၀၁ခု ဒီဇင်ဘာလတွင် ရေးသားပြီးစီးခဲ့သည်။ ထိုကာလတန်ဘိုးဖော်ပြမှုသည် ယခုနှစ်တစ်ရာကျော်ခဲ့ပေပြီ။ ၁၉၀၂ခုတွင် ရှိုက်ခွလ်ဟဒီစ်မော်လာနာယူနွစ်(ယင်းတော်)၏အဖိုး အမြောက်ဝန်စာရေးဟာဂျီဦးသော့သည် မိမိ၏ဟဂ်ျခရီးစဉ်ကို မှတ်တမ်းအကျဉ်းရေးခဲ့သည်။ ထိုမှတ်တမ်းတွင် ရန်ကုန်မှပီနန် သင်္ဘောခ တစ်ဆယ်၊ ပီနန်မှဂျစ်ဒါ အသွားအပြန်သင်္ဘောခ ၁၃ဝ ငွေ ဟုရေးထားသည်။ ထိုစဉ်က ရူပီးနှင့်ကျပ်ငွေသည် တန်ဘိုးတူဖြစ်သည်။ ၁၉၀၁ခုက ရူပီးငွေ၏တန်ဘိုးကို ဟာဂျီသော့၏မှတ်တမ်းဖြင့် ခန့်မှန်းနိုင်ပါသည်။

အိမာမ်မွလ်ဟရမိုင်”၏အပါးတွင် ရှိနေခဲ့စဉ် ပညာရှင်များအပေါ် လေးလေးစားစား တန်ဘိုးထားမှုများ၊ တရိုတသေ ဦးထိပ်ပန်ဆင်ရှိမှုများကို မြင်တွေ့ရသောအခါ ၎င်း၏စိတ်သဏ္ဍာန်တွင် ရှိနေသော ကြီးကျယ်ကျော်ကြားလိုမှုသည် ပို၍တိုးပွါး ရင့်မာလာခဲ့သည်။ အိမာမ်ဂဇာလီ”သည် ခေတ်သမယ၏အကျော်ဇေယျပညာရှင်ကြီး အဗူအိစ်ဟာက်ရှီရာဇီ”သခင် ဘဂ္ဂဒက်မြို့တော်မှ နိုင်ရှာပူရ်သို့ ကြွရောက်လာသည်ကိုလည်း ကိုယ်တွေ့ကြုံခဲ့ရသူဖြစ်သည်။ အဗူအိစ်ဟာက်ရှီရာဇီ”သခင်ကို အဗ္ဗာစီယာအုပ်ချုပ်ရေးမှူးများက သံတမန်အဖြစ် ခန့်အပ်စေလွှတ်ခဲ့ခြင်းဖြစ်သည်။ အဗူအိစ်ဟာက်”သခင်၏ဘဂ္ဂဒက်မှ နိုင်ရှာပူရ်သို့ သွားရောက်ရာ လမ်းတစ်လျှောက်တွင် လူထုသည် မကြုံစဘူး ထူးကဲစွာ သောင်းသောင်းဖြဖြ ကြိုဆိုခဲ့ကြသည်။

ဆိုင်ရှင်များသည် မိမိတို့ရောင်းဝယ်ဖေါက်ကားနေသည့် ကုန်ပစ္စည်းများကို သခင်၏ခြေရင်းတွင် စုပုံထားကြသည်။ ငွေကြေးလဲလှယ်သူများသည် ရွှေဒင်္ဂါးငွေဒင်္ဂါးများကို သခင်သွားလာမည့်လမ်းတစ်လျှောက် ကျဲပက်ဖြန့်ခင်းခဲ့ကြသည်။ နိုင်ရှာပူရ်သို့ ရောက်သောအခါတွင်လည်း အိမာမွလ်ဟရမိုင်”ကိုယ်တိုင် အဗူအိစ်ဟာက်”သခင် စီးနင်းသည့် ဝေါယာဉ်ကို ထမ်းရွက်၍ ဂုဏ်ပြုခဲ့သည်။

အိမာမ်ဂဇာလီ”သခင်သည် ဤမြင်ကွင်းများကို မြင်တွေ့ခဲ့ပြီးနောက် ဂုဏ်သိက္ခာနှင့် ရာထူးဌာနန္တရ ရရှိရန် မျှော်လင့်ချက်ဖြင့် နိဇာမွလ်မွလ်က်၏အပါးတော်သို့ ချဉ်းကပ်ခဲ့သည်။ ထိုအချိန်တွင် အိမာမ်ဂဇာလီ”၏ပညာဉာဏ် ထက်မြက်မှုသည် ဝေးလံသောအရပ်ဒေသများအထိ ကျော်ကြားနေခဲ့ပြီဖြစ်သည်။ သို့ဖြစ်ရာ နိဇာမွလ်မွလ်က်သည် အိမာမ်ဂဇာလီ”သခင့်ကို တလေးတစား ဆီးကြိုခဲ့လေသည်။

ထိုခေတ်က ပညာရှင်တစ်ပါး၏ဉာဏ်ပညာမြင့်မားထူးချွန်မှုကို ထုတ်ဖေါ်သည့်နည်းလမ်းသည် မုနာဇရာ၏အခန်းအနားများ ကျင်းပခြင်းဖြစ်သည်။ မုနာဇရာပြုလုပ်ပုံမှာ အုပ်ချုပ်ရေးအကြီးအကဲများထံတွင် ပညာရှင်များစုရုံးကြပြီး ပညာရပ်အကြောင်းအရာများကို အခြေအတင်ပြောဆို စကားစစ်ထိုးကြခြင်းဖြစ်သည်။ ထိုစကားစစ်ထိုးပွဲတွင် တစ်ဘက်ပုဂ္ဂိုလ်ကို နှုတ်ပိတ်အောင် ပြောဆိုနိုင်သူသည် အတော်ဆုံးအတတ်ဆုံးအထူးချွန်ဆုံးပညာရှင်ဖြစ်သည်ဟု သတ်မှတ်ခြင်းခံရသည်။

ဤနည်းလမ်းအလေ့အထသည် အိမာမ်ဂဇာလီ”၏ခေတ်တွင် အလွန်ခေတ်စားလျက်ရှိခဲ့သည်။ မြို့ကြီးပြကြီးများတွင် မုနာဇရာအခန်းအနားများကို မြို့အလိုက်ကျင်းပလျက်ရှိခဲ့သည်။ လူတို့သည် ထိုမုနာဇရာပြိုင်ပွဲများသို့ ဝါသနာအဖြစ် စိတ်အားထက်သန်စွာ တက်ရောက်ခဲ့ကြသည်။ တဖြည်းဖြည်းနှင့် မုနာဇရာပြုလုပ်ခြင်းသည် အတတ်ပညာတစ်ခုဖြစ်လာခဲ့သည်။ ထိုခေတ်တွင် မုနာဇရာနှင့်ပတ်သက်၍ စာအုပ်စာပေအမြောက်အမြားထွက်ပေါ်ခဲ့သည်။ (အိမာမ်ဂဇာလီ”သခင်သည် အဲဟ်ယာအွလ်အိုလူမ်ကျမ်းတွင် ထိုမုနာဇရာ၏ကောင်းကျိုးဆိုးပြစ်များအား အတော်ပင် နှိုက်နှိုက်ချွတ်ချွတ် ရေးသားထားသည်ကို တွေ့ရလိမ့်မည်။)

အိမာမ်ဂဇာလီ” ရောက်သွားသောအချိန်တွင် နိဇာမွလ်မွလ်က်၏ထံပါးတွင် ပညာရှင်အမြောက်အမြား စုရုံးလျက်ရှိနေသည်။ နိဇာမွလ်မွလ်က်က မုနာဇရာပွဲများကို စီစဉ်ပေးလျက်ရှိသည်။ ထိုတွင် အုပ်စုအလိုက် ပညာရှင်တို့၏ထိုင်ဝိုင်းများဖြစ်နေသည်။ အကြောင်းအရာအမျိုးမျိုးအပေါ်မှာ ဆွေးနွေးပြောဆိုလျက်ရှိကြသည်။ နိဇာမွလ်မွလ်က်သည် အိမာမ်ဂဇာလီ”၏ပညာကို စမ်းသပ်သည့်အနေဖြင့် မုနာဇရာအစီအစဉ်များတွင် ပါဝင်ယှဉ်ပြိုင်စေသည်။ ထိုပြိုင်ပွဲများအားလုံးတွင် အိမာမ်ဂဇာလီ”ချည်း အနိုင်ရခဲ့သည်။ ထိုအောင်မြင်မှုများကြောင့် နကိုက ငွေကြယ်ပွင့်ပမာ လင်းလက်နေခဲ့ပြီးဖြစ်သော အိမာမ်ဂဇာလီ”၏အမည်သည် လပြည့်ဝန်းပမာ ထိန်ထိန်လင်းလာတော့သည်။ အရပ်ဒေသအသီးသီးရှိ လူတို့၏ပါးစပ်ဖျားတွင် အိမာမ်ဂဇာလီ”၏ဉာဏ်ပညာကြီးမားထက်မြက်မှုအကြောင်းကို ပြောဆိုလျက်ရှိကြတော့သည်။

## နိဇာမီယာကျောင်းတော်၏ကျောင်းအုပ်ကြီး

နိဇာမီယာကျောင်းတော်ကြီး၏ ကြီးကျယ်ပုံကို အနောက်တိုင်းသားသမိုင်းပညာရှင် အက်ဒ်ဝပ်ဂစ်ဘွန်ကပင် အသိအမှတ်ပြုဖော်ပြခဲ့ရသည်။ အက်ဒ်ဝပ်ဂစ်ဘွန်က မိမိ၏ကမ္ဘာကျော် 'Decline and Fall of Roman Empire' သမိုင်းကျမ်းတွင်– 'နိဇာမီယာကျောင်းတော်ကို ဆောက်လုပ်ရန် အရပ်ရပ်ကုန်ကျငွေ ဒီနာရ်ရွှေဒင်္ဂါး ၂သိန်း သုံးစွဲခဲ့ရသည်။ ထို့ပြင် နှစ်စဉ်အသုံးစရိတ် ဒီနာရ်ရွှေဒင်္ဂါး တစ်သောင်းခွဲရှိသည်'ဟု ရေးသားခဲ့သည်။ နိဇာမီယာကျောင်းတော်သည် အစ္စလာမ့်ကမ္ဘာ၏ပညာရေးဗဟိုအချက်အချာဖြစ်ခဲ့သဖြင့် ထိုခေတ်က ပညာရှင်အကျော်အမော်တို့သည် ကျောင်းတော်တွင် ဆရာတစ်ပါးအဖြစ် စာပေသင်ပြပို့ချခွင့်ရရန် တစ်သက်တာပန်းတိုင်ထား၍ကြိုးပမ်းခဲ့ကြသည်။

နိဇာမွလ်မွလ်က်သည် နိဇာမီယာကျောင်းတော်၏ ကျောင်းအုပ်ကြီးအဖြစ် အိမာမ်ဂဇာလီ ်သခင့်ကို ရွေးချယ်လိုက်သည်။ ထိုအချိန်တွင် အိမာမ်ဂဇာလီ ်၏အသက်သည် ၃၄နှစ်သာရှိသေးသည်။ ဤအသက်အရွယ်တွင် နိဇာမီယာကျောင်းတော်၏ အကြီးအမှူးဖြစ်လာသူဟူ၍ အိမာမ်ဂဇာလီ ်တစ်ဦးသာရှိခဲ့ဘူးသည်။

ဤသို့ဖြင့် အိမာမ်ဂဇာလီ ်သခင်သည် နိဇာမီယာကျောင်းတော်ကြီးကို ကြည့်ကြပ်အုပ်ချုပ်ရန် ဟီဂျ်ရီ ၄၈၄ ခုတွင် ဘဂ္ဂဒက်မြို့တော်သို့ ရောက်ရှိခဲ့သည်။ ကျောင်းတော်၏အဓိပတိအဖြစ် တာဝန်ထမ်းဆောင်၍ ရက်အနည်းငယ်အကြာတွင် အိမာမ်ဂဇာလီ ်သခင်၏ပညာဉာဏ်ကြီးကျယ်မြင့်မြတ်မှုက သခင့်အား အုပ်ချုပ်ရေးအာဏာပိုင်များနှင့် တန်းတူရည်တူဖြစ်သွားစေခဲ့သည်။ ဆွဗ်ကီ ်သခင်က 'တွဗကာတေ့ရှာဖအီယာ'ကျမ်းတွင် ရေးသားဖော်ပြသည်မှာ–

> 'အိမာမ်ဂဇာလီ ်သခင်၏ဂုဏ်ရှိန်ဂုဏ်ဝါသည် ဝန်ကြီးမှူးကြီးများအပေါ်ပင် အရိပ်ထိုးဖုံးလွှမ်းသွားခဲ့သည်။ အဘယ်မျှဆိုသော် မင်းစိုးရာဇာအသိုင်းအဝိုင်းတွင် အိမာမ်ဂဇာလီ ်သခင်နှင့်ပေါင်းသင်းဆက်ဆံမှုမပြုလျှင် လူရာမဝင် ဂုဏ်မရှိသလိုပင်ဖြစ်ခဲ့ရသည်။'

## ငြိမ်းချမ်းရေးသံတမန် အိမာမ်ဂဇာလီ ်

ထိုခေတ်က အစ္စလာမ့်အုပ်ချုပ်ရေးအသိုင်းအဝိုင်းတွင် ဆွေမျိုးအုပ်စုနှစ်ခုရှိခဲ့သည်။ စလ်ဂျူကီမင်းစိုးရာဇာများနှင့် အဗ္ဗာစီယာခလီဖဟ်မျိုးနွယ်များဟူ၍ဖြစ်သည်။ ထိုမျိုးနွယ်အုပ်စုကြီးနှစ်ခုစလုံးသည် အိမာမ်ဂဇာလီ ်သခင့်ကို အလွန်ဂုဏ်ပေးလေးစားခဲ့ကြသည်။ တစ်ချိန်တွင် အိမာမ်ဂဇာလီ ်သည် ထိုမျိုးနွယ်အုပ်စုနှစ်ခုအကြား သံတမန်အဖြစ်ပင် ကြားဝင်စေ့စပ်ဆောင်ရွက်ပေးခဲ့ရဘူးသည်။

ဟီဂျ်ရီ ၄၈၅တွင် မလစ်က်ရှားဟ်စလ်ဂျူကီဘုရင် ကွယ်လွန်သွားသည်။ ရှားဟ်မဟလ်တုရ်ကာန်ခါတွန်သည် မှူးကြီးမတ်ရာများကို ခေါ်ယူ၍ မိမိ၏သားဖြစ်သူ အသက်လေးဆယ်အရွယ်ရှိ မဟ်မူဒ်ကို ထီးနန်းတက်စေခဲ့သည်။ တစ်ချိန်တည်းမှာပင် ထိုအချိန်တွင် ဘဂ္ဂဒက်၌ ခလီဖဟ်အဖြစ်ဆောင်ရွက်နေသော မွက်ကွတဒရ်ဘိလ္လာဟ်အား ဂျုမ္မအာနေ့ခွတ္တဘာတွင် ဘုရင်အသစ် မဟ်မူဒ်၏အမည်ကို ထည့်သွင်းရွတ်ဖတ်ရန် တောင်းဆိုခဲ့သည်။ ထိုအချိန်တွင် ခလီဖဟ်မွက်ကွတဒရ်ဘိလ္လာဟ်၏ဩဇာအာဏာသည် အလွန်ချိနဲ့နေပြီဖြစ်သည်။ သို့ဖြစ်ရာ အုပ်ချုပ်ရေးကိစ္စအဝဝကို တုရ်ကာန်ခါတွန်၏လက်အောက်တွင် ထားရှိရန် သဘောတူလက်ခံခဲ့ရသည်။ သို့သော် နှစ်ပေါင်းများစွာ တည်မြဲခဲ့သော အဗ္ဗာစီယာခလီဖဟ်မင်းဆက်အမည်ပါ ခွတ္တဘာကို မိမိတို့အသိုင်းအဝိုင်းတွင် ဆက်လက်ရွတ်ဖတ်နေခဲ့သည်။ တစ်ဘက်တွင် တုရ်ကာန်ခါတွန်အဖို့ ခွတ္တဘာနှင့် ဘုရင့်တံဆိပ်အမှတ်အသားသည် မဖြစ်မနေအရေးကြီးလျက်ရှိသည်။ ၎င်းသည် ခလီဖဟ်မွက်ကွတဒရ်က မိမိ၏အမိန့်ကို ဖီဆန်နေသည့်အပေါ်မှာ မည်သို့မျှ မကျေနပ်နိုင်အောင်ရှိနေသည်။

ဤပြဿနာသည် မပြေမလည်လိပ်ခဲတည်းလည်းဖြစ်နေခဲ့သည်။

ဤတွင် ခလီဖဟ်မွက္ကတဒရ်သည် အိမာမ်ဂဇာလီ အား သံတမန်အဖြစ်ခန့်အပ်၍ တုရ်ကာန်ခါတွန်ထံ စေလွှတ်ခဲ့သည်။ အိမာမ်ဂဇာလီ၏အရှိန်အဝါကြီးမားမှုနှင့် ကောင်းမွန်သောစေ့စပ်ပြောဆိုမှုကြောင့် တုရ်ကာန်ခါတွန်သည် ကျေနပ်သွားခဲ့သည်။ ဤနည်းဖြင့် အိမာမ်ဂဇာလီသည် ပြဿနာကြီးတစ်ခုကို ငြိမ်းချမ်းစွာဖြေရှင်းပေးနိုင်ခဲ့သည်။

ဟီဂျ်ရီ ၄၈၇ တွင် ခလီဖဟ်မွက္ကတဒရ်ဘိလ္လာဟ် ကွယ်လွန်သွားခဲ့၏။ ထိုအခါ ခလီဖဟ်မွစ္စတဇ္ဇှိရ်ဘိလ္လာဟ်သည် အရိုက်အရာဆက်ခံခဲ့သည်။ ခလီဖဟ်မွစ္စတဇ္ဇှိရ်အား ဗိုင်အတ်ပြုသစ္စာခံခဲ့ကြရာတွင် မူးကြီးမတ်ကြီးများနှင့်အတူ အိမာမ်ဂဇာလီလည်း ပါဝင်ခဲ့သည်။ ခလီဖဟ်မွစ္စတဇ္ဇှိရ်သည် ပညာကို ချစ်မြတ်နိုးသူ၊ ပညာ၏တန်ဘိုးကို သိသူဖြစ်သည်။ ပညာကို ချစ်မြတ်နိုးတန်ဘိုးထားသူ ခလီဖဟ်မွစ္စတဇ္ဇှိရ်နှင့် ပညာရှင်ပီသသူ အိမာမ်ဂဇာလီတို့သည် သူတော်ချင်းချင်း သတင်းလွှေလွှေ ပေါင်းဖက်တွေ့ခဲ့ကြသည်။

ဘာတွေနီယာဂိုဏ်း အလွန်ထကြွလာသောအခါ ခလီဖဟ်မွစ္စတဇ္ဇှိရ်သည် အိမာမ်ဂဇာလီအား ထိုဂိုဏ်း၏အယူအဆများကို ချေပသည့် ကျမ်းစာတစ်အုပ် ရေးသားရန် တိုက်တွန်းခဲ့သည်။ ထိုတိုက်တွန်းချက်အရ အိမာမ်ဂဇာလီသခင်သည် ဘာတွေနီယာအယူအဆများအပေါ် အထိရောက်ဆုံးချေပထားသည့် ကျမ်းတစ်စောင်ကို ရေးသားခဲ့သည်။ ကျမ်း၏အမည်ကိုလည်း တိုက်တွန်းတောင်းဆိုသူ၏အမည်ကို ယူ၍ 'မွစ္စတဇ္ဇှိရ်'ဟု ပေးခဲ့သည်။

ဤအထိမှာ အိမာမ်ဂဇာလီသခင်၏အုပ်ချုပ်ရေးအာဏာပိုင်နှင့် ဆက်ဆံရေးအခြေအနေဖြစ်သည်။ အိမာမ်ဂဇာလီသခင်၏အဓိကတာဝန်သည် နိဇာမီယာကျောင်းတော်ကို ကြီးကြပ်အုပ်ချုပ်ရန်ဖြစ်သည်။ ထိုစဉ်က သခင်၏စာသင်ခန်းတွင် တပည့်များ မပါသေးဘဲ စာချဆရာသုံးရာနှင့် ခေါင်းဆောင်အကြီးအကဲတစ်ရာ တက်ရောက်၍ သင်ခန်းစာနာယူခဲ့ကြသည်ဟု အဆိုရှိလေသည်။ ဤအချက်က သခင်၏ပညာရေးဘက် စွမ်းဆောင်အောင်မြင်မှုကို ဖော်ပြလျက်ရှိသည်။ စာပေသင်ကြားပို့ချသည့်အပြင် သခင်သည် တရားဓမ္မကိုလည်း ကိုယ်တိုင်ဟောကြားခဲ့သည်။ တရားဟောရာတွင် အသိပညာနှင့်သက်ဆိုင်ရာအကြောင်းအရာများကို အမြဲတစေ ဟောကြားလေ့ရှိသည်။ တကယ်တွင် ထိုဟောပြောချက်များသည် စာပေပို့ချမှုများပင်ဖြစ်သည်။ ထိုဟောပြောချက်များကို တပည့်ဖြစ်သူရှိုက်ခ်ဆွာမီဒ်အိဗ်နေ့ဖ၊ရစ်က မှတ်တမ်းတင်ခဲ့သည်။ တရားပွဲအစုစု ၁၈၀ ရှိသည်။ ကြီးမားထုထဲသောစာအုပ်တွဲကြီး နှစ်အုပ်စာဖြစ်သည်။ ထိုတရားပွဲမှတ်တမ်းတင်ချက်များကို အိမာမ်ဂဇာလီသခင်ကိုယ်တိုင် ပြန်လည်ဖတ်ရှုတည်းဖြတ်ပေးခဲ့သည်။ ထိုတရားပွဲမှတ်တမ်းများသည် 'မဂျာလိစွလ်ဂဇာလီယာ'ဟူသောအမည်ဖြင့် ထင်ရှားသည်။

## အိမာမ်ဂဇာလီ၏သစ္စာတရားရှာပုံတော်

ကမ္ဘာ့သမိုင်းတစ်လျှောက် ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မွန်တို့သည် မိမိတို့နည်း မိမိတို့ဟန်ဖြင့် အမှန်တရားကို ရှာဖွေခဲ့ကြသည်။ ထိုသို့ရှာဖွေရာ၌ ပုဂ္ဂိုလ်အသီးသီးတို့သည် သားမယားကိုငင်း၊ ရာထူးဌာနန္တရကိုငင်း၊ စည်းစိမ်ဥစ္စာကိုငင်း၊ မိတ်ဆွေအသိုင်းအဝိုင်းကိုငင်း စွန့်ခွါအဆက်ဖြတ်ခဲ့ကြသည်။ လူ့သမိုင်းတွင် သစ္စာတရားရှာပုံတော်နှင့်သက်ဆိုင်ရာဖြစ်ရပ်အတ္ထုပ္ပတ္တိများစွာ ရှိနေခဲ့သည်။ ထိုဖြစ်ရပ်အတ္ထုပ္ပတ္တိတစ်ခုစီသည် ပုဂ္ဂိုလ်အသီးသီးတို့က မဆုတ်မနစ်သောဇွဲလုံ့လဖြင့် အမှန်တရားကို ရှာဖွေခဲ့သည့် ခရီးစဉ်မှတ်တမ်းများဖြစ်ပြီး စိတ်ဝင်စားဖွယ်အတိဖြစ်ပါသည်။

အိမာမ်ဂဇာလီသခင်သည်လည်း အမှန်တရား ရှာဖွေသည့်ခရီးရှည်တစ်ခု ထွက်ခွါခဲ့ဘူးလေသည်။ အိမာမ်ဂဇာလီ၏သစ္စာတရားရှာပုံတော်သည် အဆိုပါဖြစ်ရပ်အတ္ထုပ္ပတ္တိများ၏မျိုးတူစုမာတိကာတွင် တစ်နေရာဝင်ယူထား

ပေသည်။ သို့သာမက အိမာမ်ဂဇာလီ၏ သစ္စာတရားရှာပုံတော်သည် အခြားသူများ၏ အတွေ့အကြုံများနှင့်မတူဘဲ၊ တမူထူးခြားသည်ဟုပင် ဆိုရန်ရှိလေသည်။ အိမာမ်ဂဇာလီသခင်သည် မိမိ၏ ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိတစ်ပိုင်းဖြစ်သည့် 'အလ်မွန်ကစ်ဒ်မိနပ်ဇ္ဇလာလ်' ကျမ်းတွင် မိမိ၏ နာမ်ဝိဉာဉ်ရေးနှင့်အတွေးအခေါ် အယူအဆ ဖြစ်ပေါ်ပြောင်းလဲမှုများကို အနုစိတ်ချယ်မှုန်းဖော်ပြခဲ့သည်။

အိမာမ်ဂဇာလီသခင် သင်ယူတတ်မြောက်ခဲ့သောပညာသည် အစ္စလာမ့်တရားတော်နှင့် သက်ဆိုင်ရာနည်းလမ်းကျင့်စဉ်ကို သိကျွမ်းသည့်ပညာသာဖြစ်သည်။ ထို့ပြင် အိမာမ်ဂဇာလီ သင်ယူခဲ့ရသည့်ပညာရေးစနစ်တွင် မိမိယုံကြည်လက်ခံထားသော တရားလမ်းစဉ်မှလွဲ၍ အခြားအရာကို အာရုံပြုခြင်းမရှိပေ။ အိမာမ်ဂဇာလီ၏ ခေတ်ပြိုင်ပုဂ္ဂိုလ်များအားလုံးသည် ဤပညာရေးအရ သင်ပေးသည့်အသိပညာများကိုသာ သိကျွမ်းတတ်မြောက်ခဲ့ကြရသည်။ သို့သော် အိမာမ်ဂဇာလီသခင်သည် ပင်ကိုယ်ဗီဇအားဖြင့် ထူးခြားခဲ့သူဖြစ်ခဲ့သည်။ အိမာမ်ဂဇာလီသည် တွေ့ကြုံလာသမျှ တရားလမ်းစဉ်ဂိုဏ်းဂဏအယူအဆများကို စိတ်ဝင်တစားလေ့လာသူဖြစ်ခဲ့သည်။ နိုင်ရှာပူရ်တွင် ရှိခဲ့စဉ်က မူ စလ်ဂျူကီမင်းဆက်၏ အာဏာစက်အောက်တွင် အခြားအယူအဆလမ်းစဉ်များသည် မိမိတို့၏ အယူအဆများကို လွတ်လွတ်လပ်လပ်ထုတ်ဖော်ခွင့်မရှိကြပေ။ သို့ဖြစ်ရာ အိမာမ်ဂဇာလီအဖို့ အခြားတရားလမ်းစဉ်များကို စိတ်ရှိသလောက် လေ့လာခွင့်မရခဲ့ပေ။

ဘဂ္ဂဒက်မြို့တော်သို့ရောက်သောအခါ နိုင်ရှာပူရ်နှင့် မတူသောအခြေအနေကို တွေ့လိုက်ရသည်။ ဘဂ္ဂဒက်တွင် ကမ္ဘာတစ်ဝှမ်းလုံးက အတွေးအခေါ် အယူအဆများ ရှိနေခြင်းဖြစ်သည်။ ဘဂ္ဂဒက်မြေတွင် ခြေချမိသူ လူသားတိုင်းသည် အပြည့်အဝလွတ်လပ်ခွင့် ရှိနေခဲ့သည်။ မိမိတို့အလိုရှိရာ ထုတ်ဖော်ပြောဆိုခွင့်ရှိနေခဲ့သည်။ စွန္နီ၊ ရှီအာ၊ မုအ်တဇီလာ၊ ဘုရားမဲ့၊ ဘာသာမဲ့၊ အယူတိမ်းသူ၊ မီးကိုးကွယ်သူမဂျူစီ၊ အီစာအီတို့သည် ဘဂ္ဂဒက်မြေကို နင်းကာ အယူအဆရေးရာစီးချင်းထိုးပွဲများကို ဆင်နွှဲလျက်ရှိခဲ့ကြသည်။ ဤသို့အယူအဆရေးရာတွင် လွတ်လပ်ခွင့်ရှိနေသည်ကို မည်သူကမျှ စောဒကတက်နိုင်ခဲ့ခြင်းမရှိချေ။ ဤလွတ်လပ်ခွင့်ကို အခြေခံ၍ အမျိုးမျိုးသောခံယူချက်အယူအဆများ ပြန့်နှံ့လျက်ရှိခဲ့သည်။

ဘဂ္ဂဒက်မြို့တော်သို့ ရောက်လာသော အိမာမ်ဂဇာလီသခင်သည် ဂိုဏ်းဂဏအမျိုးမျိုးနှင့် တရားလမ်းစဉ်အဖုံဖုံကို တွေ့ကြုံခဲ့ရသည်။ ၎င်းတို့၏ အတွေးအခေါ်များကို ကြားနာခဲ့ရသည်။ အိမာမ်ဂဇာလီသခင်က ကိုယ်တိုင်–

'ကျွန်ုပ်သည် ဘာတွေနီဝါဒီများ၊ ဇွာဟေရီဝါဒီများ၊ ဒဿနပညာရှင်များ၊ ကလာမ်ပညာရှင်များ၊ ဘာသာမဲ့များအနက်မှ ပုဂ္ဂိုလ်တစ်ဦးစီနှင့် တွေ့ဆုံခဲ့သည်။ ၎င်းတို့၏ အယူအဆများကို လေ့လာစုံစမ်းခဲ့သည်'–ဟု

ရေးသားဖော်ပြခဲ့၏။ ထိုသို့ ဂိုဏ်းဂဏအုပ်စုအမျိုးမျိုးနှင့် ရောနှောပေါင်းဖက်ခဲ့ရာမှ အိမာမ်ဂဇာလီသခင်၏ ဘဝလမ်းကြောင်းသည် လုံးဝပြောင်းလဲသွားခဲ့သည်။ ထိုကဲ့သို့ မိမိ၏ ဘဝလမ်းကြောင်း တစ်ဆစ်ချိုး ပြောင်းလဲခဲ့ရပုံကို အိမာမ်ဂဇာလီသခင်ကိုယ်တိုင် အောက်ပါအတိုင်း ရေးသားဖော်ပြခဲ့သည်။

'ကျွန်ုပ်သည် ငယ်ရွယ်စဉ်ကပင် ဗီဇသဘာဝအရ စူးစမ်းလေ့လာမှုနှင့် ဗဟုသုတများဘက်တွင် စိတ်ဝင်စားခဲ့သည်။ ကျွန်ုပ်သည် ဂိုဏ်းဂဏအုပ်စုအားလုံးနှင့် တွေ့ဆုံခဲ့သည်။ ၎င်းတို့၏ ခံယူချက်နှင့်အယူအဆများကို သိထားခဲ့သည်။ ထိုအသိကြောင့် တဖြေးဖြေးနှင့် ကျွန်ုပ်သည် အယူအဆနှင့်ကျင့်သုံးမှုတွင် သူတစ်ထူးကို ဆရာတင်ပြီး နောက်လိုက်လုပ်ခြင်းမပြုတော့ပေ။ ထို့ပြင် ကလေးဘဝက အကြားဖြင့် စိတ်ထဲတွင် စွဲထင်ကိန်းအောင်းနေခဲ့သော ခံယူချက်များသည် လွင့်ပါးပြိုလဲကုန်ပေသည်။ ကျွန်ုပ်စဉ်းစားမိသည်မှာ ရဟူဒီနှင့်အီစာအီကလေးငယ်များသည် ထိုကဲ့သို့သောမိရိုးဖလာ သူများနောက်လိုက်နည်းလမ်းဖြင့်သာ ယုံကြည်သက်ဝင်နေခြင်းဖြစ်သည်။ စစ်မှန်သော အသိပညာဆိုသည်မှာ မည်သို့မျှဒွိဟသံသယမဖြစ်ပေါ်

နိုင်သော အသိပညာမျိုးဖြစ်ရမည်။

ဥပမာ တစ်ဆယ်က သုံးထက် အရေအတွက် ပို၍များခြင်းသည် ကေန်သဘောဖြစ်သည်။ အကယ်၍ တစ်စုံတစ်ဦးက 'သုံးသည် တစ်ဆယ်ထက် ပိုများသည်'ဟု ပြောဆိုမည်။ ထို့ပြင် ၎င်းက 'ကျွန်ုပ်၏ပြော ဆိုမှု မှန်ကန်ကြောင်း သက်သေထူသည့်အနေဖြင့် တုတ်ကို မြွေဖြစ်အောင်လုပ်ပြမည်'ဟု ပြောဆိုခဲ့သည်။ ထို့နောက် တကယ်လည်း လုပ်ပြခဲ့သည်။ ကျွန်ုပ်အဖို့ ထိုသို့တုတ်ချောင်းတစ်ချောင်းကို မြွေတစ်ကောင်ဖြစ် လာအောင်လုပ်ပြနိုင်ခြင်းသည် အလွန်အံ့ဩစရာပင်ဖြစ်သည်။ သို့နှင့်တိုင် ထိုသို့လုပ်ပြခဲ့ခြင်းကြောင့် တစ် ဆယ်သည် သုံးထက် ပို၍များသည်ဆိုသည့် ကျွန်ုပ်၏ယုံကြည်ချက်တွင် အပြောင်းအလဲဖြစ်လာလိမ့်မည် ကား မဟုတ်ချေ။

ကျွန်ုပ်က ဆက်လက်စဉ်းစားကြည့်သောအခါ ထိုကဲ့သို့သော မုချယုံကြည်ရသည့် အသိပညာအမျိုး အစားသည် အာရုံငါးပါးဖြင့် ထိတွေ့သိရှိရသောအသိနှင့် သက်သေသာကေမလိုလောက်အောင် ထင်းလင်း ထင်ရှားသောအသိများသာဖြစ်ကြောင်း သိလာရသည်။ ထိုသို့ထင်းလင်းထင်ရှားပါသည်ဆိုသော အသိများ သည်ပင် ခွဲခြမ်းစိတ်ဖြာလိုက်သောအခါ မရေရာမသေချာဒွိဟပွါးစရာများ ရှိနေပြီး မည်သည့်အသိကိုမှ မုချ ကေန်ယုံကြည်ရန် မဖြစ်ကြောင်း သိလာရပေသည်။ ကျွန်ုပ်သည် ဤအတွေးများတွင် နှစ်လနီးပါး ချာချာ လည်နေခဲ့ရသည်။ ထို့နောက် အလ္လာဟ်အရှင်၏အသနားတော်ဖြင့် ဤအခြေအနေမှ လွှန်မြောက်ခဲ့သည်။ သို့သော် တရားလမ်းစဉ်အသီးသီးနှင့်ပတ်သက်သော ဒွိဟယနများကမူ ကျွန်ုပ်တွင် ကျန်ရှိနေဆဲဖြစ်သည်။

ထိုအချိန်တွင် ရှိနေသောအုပ်စုများကို လေ့လာမည်ဆိုလျှင် အချုပ်အားဖြင့် လေးခုသာရှိသည်။ ယင်း တို့မှာ ကလာမ်ပညာရှင်များ၊ ဘာတွေနီဝါဒီများ၊ ဒဿနပညာရှင်များနှင့် ဆူဖီများဖြစ်သည်။ ကျွန်ုပ်သည် ထိုအုပ်စုတစ်ခုစီ၏အသိပညာနှင့်ခံယူချက်များကို စမ်းစစ်လေ့လာခဲ့သည်။ ကလာမ်ပညာနှင့်ပတ်သက်၍ ရှေးဦးပုဂ္ဂိုလ်တို့ ရေးသားပြုစုထားသောကျမ်းစာများအားလုံးကို ဖတ်ရှုခဲ့သည်။ သို့နှင့်တိုင် ထိုပညာရပ်က ကျွန်ုပ်အား ကျေနပ်မှု မပေးစွမ်းနိုင်ခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် ထိုပညာရပ်တွင် ပြိုင်ဘက်ပုဂ္ဂိုလ်အား ရင်ဆိုင်ရန်အတွက် ပင်မအခြေခံသည် အစွဲအစဉ်အရ ရှိနေသောအရာဖြစ်ချင်ဖြစ်၊ သို့မဟုတ် အီဂျ်မအ်ဖြစ် မည်။ သို့မဟုတ် ကုရ်အာန်နှင့်ဟဒီစ်မှ ဖော်ပြချက်များဖြစ်မည်။ ဤအရာများသည် လက်ဆုပ်လက်ကိုင် ထင်းလင်းသိသာသောအရာမှအပ အခြားအရာကို လက်မခံပါဟု ဆိုသူမျိုးကို ရင်ဆိုင်ရာတွင် အထောက် အထားအဖြစ် ဖော်ပြရန်မဖြစ်နိုင်ချေ။

ဘာတွေနီဂိုဏ်းနှင့်ပတ်သက်၍ကား ကျွန်ုပ်သည် မွစ္စတဇ္ဇ်ဟိရ်ကျမ်းကို ပြုစုစဉ်က ၎င်းတို့၏လမ်းစဉ် ကို ကောင်းစွာ လေ့လာခွင့်ရခဲ့သည်။ ဘာတွေနီဂိုဏ်းသားတို့၏ခံယူချက်အားလုံးသည် ၎င်းတို့၏လက်ရှိ ခေါင်းဆောင်၏သင်ကြားမှုအပေါ် မူတည်လျက်ရှိသည်။ သို့နှင့်တိုင် လက်ရှိခေါင်းဆောင်၏တည်ရှိနေမှု နှင့် ယုံကြည်စိတ်ချရမှုကိုယ်တိုင်က အထောက်အထားသာကေ ခိုင်မာဖို့ လိုပေသေးသည်။ ဤနှစ်ခုစလုံး တွင် အလွန်ပင် ဒွိဟမကင်းဖြစ်စရာရှိနေသည်။

နောက်ဆုံးတွင် တဆောင်ဝုဖ်သာ လေ့လာစရာ ကျန်တော့သည်။ ကျွန်ုပ်သည် ထိုဆူဖီတို့၏လမ်းစဉ် ကို စိတ်ရောကိုယ်ပါ စူးစိုက်လေ့လာခဲ့သည်။ ဆူဖီလမ်းစဉ်သည် စာတွေ့နှင့်လက်တွေ့ဟူ၍ နှစ်ပိုင်းရှိနေရာ ကျွန်ုပ်အဖို့ စာတွေ့ပိုင်းကို လေ့လာရသည်မှာ လွယ်ကူလှသည်။ ကျွန်ုပ်သည် အဗူတွာလစ်ဘ်မက္ကီ¯သခင် ၏ 'ကူတွလ်ကိုလူဘ်'ကျမ်း၊ ဟာရစ်မုဟာစိဘီ¯သခင်၏အရေးအသားများ၊ ဂျုနိုက်ဒ်¯သခင်၊ ရှစ်ဘလီ¯ သခင်နှင့်ဘာယဇီဒ်ဘွစ္စတာမီ¯သခင် အစရှိသူတို့၏ဩဝါဒကထာများကို ဖတ်ရှုခဲ့သည်။ စာတွေ့ပိုင်းတွင်

လေ့လာစရာရှိသည်တို့ကို ကျွန်ုပ်သည် ကုန်စင်အောင် လေ့လာခဲ့သည်။ သို့နှင့်တိုင် အရင်းခံအားဖြင့် ဤတဆောင်ဝုဖ်ပညာသည် လက်တွေ့ကျင့်ကြံအားထုတ်ရသည့်ပညာရပ်ဖြစ်သည်။ သို့နှင့်အမျှ ဤပညာရပ်၏အစစ်အမှန်သဘောကို စာတွေ့သက်သက်ဖြင့် သိနိုင်ခြင်း မရှိကြောင်း၊ လက်တွေ့ ကျင့်ကြံအားထုတ်မှုများ လိုအပ်ကြောင်း ကျွန်ုပ်သိလာရသည်။

ကျွန်ုပ်၏လက်ရှိဆောင်ရွက်မှုများကို ကြည့်လိုက်သောအခါ စိတ်စေတနာဖြူစင်မှုကို အခြေခံခြင်းမရှိကြောင်းတွေ့ခဲ့ရသည်။ စာပေသင်ကြားပို့ချမှုကို စိတ်ပါဝင်စားရခြင်းသည် ဤအလုပ်က ပုဂ္ဂိုလ်ရေး ပေါ်လွင်ထင်ရှားလူသိများစေသောကြောင့်ဖြစ်သည်။ ဤသို့တွေးမိသောအခါ ကျွန်ုပ်သည် အရာရာကို ကျောခိုင်းခဲ့ပြီး ဘဂ္ဂဒက်မြို့မှ ထွက်ခွါသွားရန် စိတ်ကူးမိခဲ့သည်။ ဤစိတ်ကူးသည် ဟီဂျရီ ၄၈၈ ခု ရဂျဗ်လထဲတွင် စတင်ပေါ်လာခြင်းဖြစ်သည်။ သို့ရာတွင် ခြောက်လတိုင်တိုင် တစ်စုံတစ်ရာမဆုံးဖြတ်နိုင်ဘဲ စိတ်ဇဝေဇဝါဖြင့် အချိန်ကုန်ခဲ့သည်။ နဖ်စ်စိတ်သည် မိမိရရှိထားသည့် ကြီးကျယ်သောကျော်စောကိတ္တိရှိမှုအား စွန့်လွှတ်ရမည်ကို လက်မခံနိုင်အောင် ဖြစ်နေခဲ့သည်။ ကျွန်ုပ်၏တွေးတောနှစ်ခွ ကြံဒွိဟဖြင့် မပြတ်မသားဖြစ်နေမှုက ကျွန်ုပ်၏နှုတ်လျှာကို စွံ့သွားစေခဲ့သည်။ စာပေသင်ကြားပို့ချမှုကိုပင် ရပ်ပစ်လိုက်ရသည်။

တဖြည်းဖြည်းချင်း စိတ်ထောင်းတော့ ကိုယ်ကြေဆိုသလို ကျွန်ုပ်၏ပါစကဝမ်းမီးမှာလည်း ချုပ်ငြိမ်းသွားခဲ့သည်။ အစာရေစာ မဝင်သည့်အဆင့်သို့ ရောက်သွားခဲ့သည်။ နောက်ဆုံး ဆေးဆရာများက ကျွန်ုပ်အား 'ဤအခြေအနေတွင် ဆေးဝါးကုသခြင်းဖြင့် ဘာမှ အကျိုးမရှိနိုင်ပါ'ဟု ပြောလာကြသည်။ ဤတွင် ကျွန်ုပ်သည် ခရီးထွက်ခွါရန် သံမိဋ္ဌာန်ချလိုက်ပါတော့သည်။

ပညာရှင်များနှင့်အုပ်ချုပ်ရေးပိုင်းက ဤသတင်းကို ကြားကြသောအခါ မသွားရန် အတန်တန် တားကြသည်။ ၎င်းတို့က 'သခင် သွားမည်ဆိုလျှင် ဤသည်မှာ အစ္စလာမ်သာသနာအတွက် အကြီးအကျယ်အကြောင်းမလှဖြစ်ရခြင်းပင်ဖြစ်သည်။ ဤမျှအကျိုးဖြစ်ထွန်းလျက်ရှိသော နေရာဌာနမှ သခင်စွန့်ခွါထွက်သွားမည်ဆိုခြင်းသည် တရားတော်အရ မည်သို့ပိုင်ပါသနည်း'ဟု ဝမ်းနည်းပက်လက် ပြောဆိုကြပါသည်။ ပညာရှင်အားလုံးက ဤအတိုင်း တစ်သံတည်းပြောဆိုခဲ့ကြခြင်းဖြစ်သည်။ သို့နှင့်တိုင် ကျွန်ုပ်သည် ပကတိဖြစ်တည်နေမှုများကို သိနားလည်ခဲ့ပြီဖြစ်ရာ အားလုံးကို ကျောခိုင်းပြီး ဆီရီးယားသို့ ထွက်ခွါခဲ့ပါတော့သည်။' (အလ်မွန်ကစ်ဒ်မိနတ်ဇွလာလ်မှ)

ဆီရီးယားသို့ သွားရာလမ်းခရီးတွင် အိမာမ်ဂဇာလီ ﷺ သည် သာမန်ချည်စောင်တစ်ထည်ကို ကိုယ်ပေါ်တွင် ရုံထားခဲ့သည်။ စားသောက်သည့် ဟင်းလျာမှာလည်း ဟင်းသီးဟင်းရွက်များသာဖြစ်ခဲ့သည်။ ဘဂ္ဂဒက်မြို့တွင် ရှိခဲ့စဉ် မင်းစိုးရာဇာများနှင့် ပေါင်းသင်း၍ အထက်တန်းကျကျ ဝတ်စားဆင်ယင်ခဲ့သော အိမာမ်ဂဇာလီ ﷺ ကို ယခုလို သာမန်အညတရအသွင်ဖြင့် တွေ့ရသောအခါ လူတို့သည် အလွန်ပင် အံ့အားသင့်သွားခဲ့ကြသည်။

အချို့ပေါ်ပြချက်များတွင် အိမာမ်ဂဇာလီ ﷺ သခင်သည် လောကီစွန့်ပယ်ရန် ကာလအတန်ကြာကပင် ရည်ရွယ်ခဲ့သည်။ သို့သော် လူမှုဆက်ဆံရေးနှောင်ကြိုးများကို ဖြတ်တောက်ခြင်းမပြုနိုင်ခဲ့ချေ။ တစ်နေ့တွင် အိမာမ်ဂဇာလီ ﷺ တရားဟောနေစဉ် မိမိ၏ညီငယ် အိမာမ်အဟ်မဒ်ဂဇာလီ ﷺ ရောက်လာခဲ့သည်။ အိမာမ်အဟ်မဒ်ဂဇာလီ ﷺ သခင်သည် ထိုအချိန်တွင် အသိပွင့်သောဆူဖီကြီးတစ်ဦးဖြစ်လျက်ရှိသည်။ ၎င်းက အောက်ပါကဗျာနှစ်ပိုဒ်ကို ရွတ်ဆိုခဲ့သည်။

و اصبحت تهدی و لا تهتدی    وتسمع وعظا و لا تسمع

*သင်သည် အခြားသူများကို တရားလမ်း ညွှန်ပြလျက်ရှိသည်။*

*သို့သော် သင်ကိုယ်တိုင်က တရားလမ်းပေါ်မှာ မရှိပါတကား။*

*သင်သည် သူတစ်ပါးကို တရားဓမ္မ ဟောကြားလျက်ရှိသည်။*

*သို့သော် သင်ကိုယ်တိုင်မှု တရားဓမ္မ နာယူခြင်းမရှိပါတကား။*

فيا حجر الشجر حتى متى تسن الحديد ولا تقطع

*အို ဓါးသွေးကျောက်ငဲ့။ သင်က သံကိုတော့ ထက်စေခဲ့သည်။*

*သို့သော် သင်ကိုယ်တိုင်မှုကား ဘယ်အချိန်အထိ တုံးနေမှာလဲ။*

ယခုကဲ့သို့ ညီငယ်က သံဝေဂလင်္ကာစပ်ဆို၍ တရားပြမှုကြောင့် အီမာမ်ဂဇာလီ ﷺသည် ဘဂ္ဂဒက်မြို့မှ ထွက်ခွါရန် မြန်မြန်ဆန်ဆန်စီစဉ်ခဲ့ခြင်းဖြစ်သည်ဟု အချို့က ဆိုသည်။

**ဆီရီးယားနိုင်ငံ** ဒမတ်စကပ်မြို့သို့ ရောက်သောအခါ အီမာမ်ဂဇာလီ ﷺသခင်သည် တရားအားထုတ်ကျင့်ကြံမှုတွင် **အချိန်ကုန်စေခဲ့သည်**။ သခင်သည် နေ့စဉ် ဒမတ်စကပ်မြို့ အိုမဝီဗဟိုဗလီ၏အနောက်ဘက် မေနာရာပေါ်သို့ တက်၍ တံခါးများပိတ်ပြီး တစ်နေ့လုံး နေခဲ့သည်။ မုရာကာဘာနှင့်ဇီကိရ်တွင် နစ်မြှုတ်နေခဲ့သည်။ အီမာမ်ဂဇာလီ ﷺသည် အချိန်အများစုတွင် မိမိ၏နဖ်စ်အတွက် ထိုသို့အားထုတ်နေခဲ့သော်လည်း ပညာရှင်တစ်ပါးအနေနှင့် မိမိတွင်ရှိနေသည့်တာဝန်ကို ကျောခိုင်းခဲ့ခြင်းကားမရှိပေ။ မိမိတို့မြို့တွင် အီမာမ်ဂဇာလီ ﷺသခင်ကဲ့သို့ အဓိပတိပညာရှင်တစ်ပါး ရောက်ရှိနေကြောင်း သိကြသောအခါ သခင့်ထံသို့ ပညာရှင့်နို့ သောက်စို့လိုသူများ တဖွဲဖွဲရောက်လာကြသည်။ အီမာမ်ဂဇာလီ ﷺသခင်သည် အိုမဝီဗဟိုဗလီကြီး၏အနောက်ဘက် စောင်းတန်းတွင် ထိုင်၍ သင်ခန်းစာများ ပို့ချခဲ့သည်။ ဒမတ်စကပ်မြို့ရှိ အဆိုပါအိုမဝီဗဟိုဗလီကြီးသည် တက္ကသိုလ်တစ်ခုသဖွယ်ဖြစ်ခဲ့ရသည်။

## ခေတ်ပြိုင်တစ်ဦး၏ဝေဖန်ချက်

အဗ္ဗုလ်ဝလီဒ်တွရ်တူရှီသည် အီမာမ်ဂဇာလီ ﷺ၏ခေတ်တွင် ပေါ်ထွက်ခဲ့သောပညာရှင်တစ်ဦးဖြစ်သည်။ ၎င်းသည် အီမာမ်ဂဇာလီ ﷺကို ဝေဖန်ခဲ့သူတစ်ဦးလည်းဖြစ်သည်။ ၎င်းက အီမာမ်ဂဇာလီ ﷺ၏ရည်ရွယ်ချက်ကို သဘောပေါက်နားလည်ခြင်းမရှိသည့်အပေါ်မှာ အီမာမ်ဂဇာလီ ﷺယခုကဲ့သို့ ဘဂ္ဂဒက်မှ စွန့်ခွါထွက်သွားခဲ့သောကိစ္စကိုလည်း ထည့်သွင်းဝေဖန်ခဲ့သည်။ ၎င်းက အီမာမ်ဂဇာလီ ﷺနှင့်ပတ်သက်၍–

'ကျွန်ုပ် အီမာမ်ဂဇာလီနှင့် တွေ့ဆုံ စကားပြောဘူးသည်။ ကျွန်ုပ်သည် ၎င်းကို ပညာရှင်တစ်ဦးအဖြစ် လက်ခံပါသည်။ ၎င်းသည် ပညာကို အထူးကျွမ်းကျင်တတ်မြောက်သူဖြစ်ပါသည်။ အသိဉာဏ်၊ ထိုးထွင်းဉာဏ်နှင့် ပညာရပ်အတွေ့အကြုံများကို ပေါင်းရုံးပိုင်ဆိုင်ထားသူဖြစ်ပါသည်။ သူသည် အချိန်ကာလတစ်ခုကြာအောင် စာပေသင်ကြားပို့ချခဲ့သည်။ နောက်ပိုင်းတွင် သူသည် ပညာရှင်များ၏လမ်းမှ ခွဲခွါသွားခဲ့သည်။ အမလ်သမားများနှင့်ပေါင်းပြီး ဆူဖီလမ်းစဉ်သို့ ဝင်ရောက်ခဲ့သည်။ နောက်ဆုံး ပညာရပ်များကို ကျောခိုင်းပစ်ခဲ့ပြီး မျက်ရမ်းမှန်းဆအသိများ၊ အတွင်းလမ်းသမားများနှင့် ရှိင်တွာန်၏ဝစ္စဝစ္စာနောက်သို့ လိုက်သွားခဲ့သည်။ ထို့ပြင် ဒဿနအယူအဆများနှင့် မန်ဆူရ်ဟလ်လက်ဂျ်၏ပဟေဠိဆံဆံတရားတွင် ထင်ယောင်ထင်မှား ဟုတ်ယောင်ဟုတ်ငြား ဖြစ်လျက်ရှိနေခဲ့သည်။ ဖိကဟ်ပညာရှင်နှင့်ကလာမ်ပညာရှင်များကို မကောင်းပြောဆိုလာခဲ့သည်။ သာသနာ၏စည်းဝိုင်းအပြင်သို့ ရောက်လုနီးပါးဖြစ်ခဲ့သည်။ တဆောင်ဝုဖ်ကို ပိုင်နိုင်ကျွမ်းကျင်မှုမရှိဘဲ အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို ရေးခဲ့သည်။ သို့ဖြစ်ရာ ဌါန်းထိုးမှောက်ခုန်ဖြစ်ခဲ့သည်။ ထိုစာအုပ် အစမှအဆုံးသည် လုပ်ကြံဖန်တီးထားသော ဟဒီစ်အတုများဖြင့် ပြည့်နှက်လျက်ရှိသည်။'

F.4.B

ဤသည်မှာ အိမာမ်ဂဇာလီသခင်အား ခေတ်ပြိုင်ပညာရှင်တစ်ဦးက ဝေဖန်ခဲ့ပုံကို နမူနာသဘောဖော်ပြခြင်း ဖြစ်သည်။ တွရ်တူရှီ၏ဝေဖန်ချက်များသည် တစ်ခုမှ မှန်ကန်ခြင်းမရှိပေ။ အိမာမ်ဂဇာလီ ဘဂ္ဂဒက်ကို ကျောခိုင်း၍ ခရီးထွက်ခွါခဲ့ခြင်း၏ရည်ရွယ်ချက်ကို အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သည်။ ထို့ပြင် အိမာမ်ဂဇာလီသည် စာပေသင်ပြပို့ချမှုကို လုံးဝစွန့်လွှတ်ခဲ့ခြင်းမရှိကြောင်း ယခုပင်ဖော်ပြခဲ့ပြီးပြီ။ အိမာမ်ဂဇာလီသည် ဆူဖီများနှင့် တွေ့သွားခဲ့သည်ဆိုသောကိစ္စကို ရှေ့တွင် ဖော်ပြမည်။ တွရ်တူရှီက အိမာမ်ဂဇာလီသည် ဒဿနအယူအဆများနှင့် မန်ဆူရ်ဟာလ်လဂျ်၏ပယောဂဳဆံသောတရားထဲတွင် ထွေးရောယှက်တင်ရှိခဲ့သည်ဆိုသောရေးသားချက်ကို အနည်းငယ် ရှင်းပြရန် လိုသည်။

အိမာမ်ဂဇာလီ၏ခေတ်တွင် လူတို့သည် ပညာရပ်မျိုးစုံကို ရေကုန်ရေခမ်းဆိုသလို လိုက်စားခဲ့ကြသည်။ ထိုအထဲတွင် အထူးသဖြင့် စိတ်ဝင်စားခဲ့သောပညာရပ်တစ်ခုသည် ဒဿနပညာဖြစ်သည်။ ပညာရှင်အသီးသီးသည် ဂရိရောမတို့၏ဒဿနစာပေများအားလုံးလိုလိုကို အရဗီသို့ ပြန်ဆိုခဲ့ကြသည်။ လူတို့အပေါ် ဩဇာအလွှမ်းမိုးဆုံးမှာ ဆိုကရေးတီး၏ဒဿနများဖြစ်သည်။ ထိုသို့ဒဿနပညာကို လိုက်စားခဲ့သည့်အတွက် ကောင်းကျိုးများရှိသလို ဆိုးကျိုးများလည်း ရှိခဲ့သည်။ ဆိုးကျိုးတစ်ခုမှာ မိမိတို့လက်ခံထားသည့် ဒဿနရှုဒေါင့်မှ အစ္စလာမ်ကို ရှုမြင်သုံးသပ်လာကြခြင်းဖြစ်သည်။ ယင်းသည် အိမာမ်ဂဇာလီခေတ်တွင် ပြဿနာကြီးတစ်ခုဖြစ်လျက်ရှိပြီး အစ္စလာမ်သာသနာ၏မူရင်းမပျက်တည်ရှိမှုကို ခြိမ်းခြောက်လာခဲ့သည်။

ဤပြဿနာကို မြန်မာစာဖတ်ပရိသတ် နားလည်ရန်အတွက် ယနေ့မြန်မာနိုင်ငံရှိ တက္ကသိုလ်ဘွဲ့ရအချို့၏အရေးအသား အပြောအဆိုများကို သာဓကအဖြစ် ဖော်ပြနိုင်သည်။ ၎င်းတို့သည် အစ္စလာမ်ကို ခြေခြေမြစ်မြစ်လေ့လာထားသူများ မဟုတ်ကြပေ။ ထို့ပြင် အများစုသည် အင်္ဂလိပ်စာလောက်သာ တတ်ထားသူများဖြစ်သည်။ သူတို့သည် မိမိတို့ကိုယ်တိုင် မသိကြသောအဖြစ်နှင့် အနောက်တိုင်းအတွေးအခေါ်အယူအဆများ၏ဩဇာလွှမ်းမိုးခြင်းခံနေရသူများဖြစ်သည်။ ၎င်းတို့ကို အိမာမ်ဂဇာလီခေတ်က ဂရိရောမဒဿန လွှမ်းမိုးခြင်းခံရသောပုဂ္ဂိုလ်များနှင့်ကား အဆင့်အတွာချင်း မတူသဖြင့် နှိုင်းယှဉ်၍ မရပေ။ သို့သော် မိမိတို့လက်ခံထားသည့် ဒဿနရှုဒေါင့်မှ အစ္စလာမ်ကို ရှုမြင်သုံးသပ်သည့်လုပ်ရပ်များတွင် တူဆင်နေလေသည်။ ဤနည်းဖြင့် မြန်မာနိုင်ငံရှိ တက္ကသိုလ်ဘွဲ့ရအချို့၏ရှေးရိုးစွဲမှုဆန့်ကျင်ရေး၊ အစ္စလာမ်ခေတ်မီအောင်ပြုပြင်ရေး ရည်ရွယ်ချက်များဖြင့် ရေးသားပြောဆိုလာမှုများသည် မြန်မာနိုင်ငံတွင် အစ္စလာမ်၏စစ်မှန်သောတရားလမ်းစဉ် အဓွန့်ရှည်တည်တံ့မှုကို စိန်ခေါ်လျက်ရှိသည်။ ဤနည်းနှင်နှင် အိမာမ်ဂဇာလီခေတ်တွင်လည်း အနောက်တိုင်းအတွေးအခေါ်၏ဩဇာလွှမ်းမိုးမှုအောက်တွင် အစ္စလာမ်သည် စိန်ခေါ်ခြင်းခံခဲ့ရသည်။

အိမာမ်ဂဇာလီသခင်သည် မိမိ၏ခေတ်တွင် ပေါ်ပေါက်နေသော သာသနာ့ရန်စူးရန်ဖြောင့်အမျိုးမျိုးကို ရှင်းလင်းသုတ်သင်ခဲ့ရသည်။ ဤအထဲမှ သခင်၏အကြီးကျယ်ဆုံး ဆောင်ရွက်ချက်သည် အစ္စလာမ်ကို လောင်းရိပ်ထိုးလျက်ရှိသောအနောက်တိုင်းဒဿနကို ရာစုနှစ်နှင့်ချီ၍ နာလန်မထူနိုင်အောင် ချေဖျက်နိုင်ခဲ့ခြင်းဖြစ်သည်။ သခင့်ကို **ဟီဂျ်ရီ ၅ရာစု**၏မုဂျဒ်ဒိဒ်ဖြစ်သည်ဟု သတ်မှတ်ခဲ့ရာတွင် ဤစွမ်းဆောင်မှုသည် အဓိကချက်တစ်ချက်အဖြစ် ပါဝင်လျက်ရှိသည်။

**မန်ဆူရ်**ဟာလ်လဂျ်မှာ ဟီဂျ်ရီသုံးရာစုတွင် ပေါ်ထွက်ခဲ့သောသူတော်စင်တစ်ပါးဖြစ်သည်။ ဝလီမှူးကြီးဖြစ်သူ **ဂျူနိုက်ဒ်ဘဂ္ဂဒါဒီ**သခင်၏တပည့်တစ်ဦးဖြစ်သည်။ တရားကျင့်ကြံသူအချို့သည် အလ္လာဟ်အရှင်နှင့် အလွန်နီးကပ်**သည့်အဆင့်တွင်** အလ္လာဟ်အရှင်နှင့် တစ်ပေါင်းတည်းတစ်သားတည်းဖြစ်သွားပြီဟု ခံစားရလေ့ရှိသည်။ ဤအဆင့်**ကို တဆောင်ဝှဖ်လမ်းစဉ်၌** ပေါင်းစည်းမှုအဆင့် (مقام الجمع)ဟု ခေါ်သည်။ ဤအဆင့်သို့ ရောက်ခဲ့သောသူတော်စင်

အချို့သည် သတိလက်လွတ်အခြေအနေများကြုံခဲ့ရကြသည်။ ထိုအခြေအနေမျိုးတွင် နှုတ်မှ တရားလက်လွတ်စကားများပြောဆိုတတ်ကြသည်။ မန်ဆူရ်ဟလ်လက်ျ ؒ သည်လည်း ထိုအဆင့်သို့ ရောက်ရှိပြီး ပဟေဠိဆံဆံစကားများ ပြောဆိုမိခဲ့သည်။ သခင်သည် မိမိကိုယ်ကို 'أنا الحق'(ငါသည် အလ်ဟပ်က်အရှင်ဖြစ်သည်)ဟုပင် ပြောဆိုခဲ့သည်။ ဤစကားသည် တစ်နည်းအားဖြင့် မိမိကိုယ်ကို အလ္လာဟ်အရှင်ဖြစ်သည်ဟု(نعوذ بالله من ذلك)ပြောဆိုခဲ့ခြင်းဖြစ်သည်။ တဆောင်ဝုဖ်လမ်းစဉ်တွင် ပေါင်းစည်းမှုအဆင့်(مقام الجمع)၏နောက် ပေါင်းစည်းပြီးနောက်ခွဲခွါခြင်း(فرق بعد الجمع) အဆင့်များ ရှိသေးသည်။ သို့သော် မန်ဆူရ်ဟလ်လက်ျ ؒ သခင်သည် တစ်သားတည်းပေါင်းစည်းမှု(جمع الجمع)အဆင့်မှ မခွဲနိုင်ဘဲ ရပ်တန့်နေခဲ့သည်။

အိမာမ်ဂဇာလီ ؒ သခင်သည် ဘဂ္ဂဒက်မှ ထွက်ခွါလာခဲ့ပြီး အချိန်ကာလတစ်ခု သတိလက်လွတ်အခြေအနေတွင် ရှိခဲ့ဖူးသော်လည်း သခင်၏နှုတ်မှ ထိုသို့သောပဟေဠိဆံဆံစကားများ ထွက်ပေါ်မလာခဲ့ချေ။ ဤသို့ရှိရသည်မှာ တစ်ဆောင်ဝုဖ်လမ်းကို ပညာသတိပညာအသိဖြင့်ယှဉ်၍ လျှောက်ခဲ့သောကြောင့်ဖြစ်သည်ဟု ဆိုနိုင်သည်။ ဤနည်းဖြင့် သခင်သည် ပေါင်းစည်းမှု၏အဆင့်ကို လွန်မြောက်ခဲ့ရသည်။ (မန်ဆူရ်ဟလ်လက်ျ ؒ အစရှိသူတို့၏ပဟေဠိဆံဆံ 'စကားကို တရားလုပ်နေခြင်း'အပေါ် အိမာမ်ဂဇာလီ ؒ သခင်၏ဝေဖန်ချက်ကို အဲဟ်ယာအွလ်အိုလူမ်ကျမ်းတစ်နေရာတွင် တွေ့ရလိမ့်မည်။)

အထက်ပါရှင်းပြချက်ဖြင့် တွရ်တူရှီ၏ဝေဖန်ချက်တွင် ပါရှိသော အိမာမ်ဂဇာလီ ؒ သခင်သည် 'ဒဿနအယူအဆများနှင့်မန်ဆူရ်ဟလ်လက်ျ ؒ ၏ပဟေဠိဆံဆံတရားတွင် ထွေးရောယှက်တင်ရှိနေခဲ့သည်'ဆိုခြင်းသည် မှန်ကန်မှုမရှိကြောင်း သိနိုင်ပါသည်။

## ဗိုင်အတ်ယူခဲ့ခြင်း

တွရ်တူရှီ၏ဝေဖန်ချက်တစ်ခုမှာ အိမာမ်ဂဇာလီ ؒ သည် ဆူဖီများနှင့်တွေ့သွားခဲ့သည်ဟု ဖြစ်သည်။ ဆူဖီများနှင့်ပေါင်းသင်းမိသဖြင့် အိမာမ်ဂဇာလီ ؒ သည် ယခုလို လူ့ဘောင်ရှောင်ခွါသည့် အကျင့်ဆန်းများ ကျင့်လာခြင်းဖြစ်ဟု တွရ်တူရှီက ဆိုချင်ပုံရသည်။ ၎င်းသည် အထက်တွင် ဒဿနနှင့်ပတ်သက်သည့် အိမာမ်ဂဇာလီ ؒ ၏ဆောင်ရွက်ချက်ကို နားမလည်ဘဲ ဝေဖန်ခဲ့သည့်နည်းတူ ယခုလည်း တဆောင်ဝုဖ်လမ်းစဉ်အပေါ် အိမာမ်ဂဇာလီ ؒ ၏ခံယူချက်ကို နားမလည်ဘဲ ဝေဖန်နေခြင်းသာဖြစ်သည်။ ထို့ပြင် တွရ်တူရှီသည် မိမိ၏ခေတ်တွင် တဆောင်ဝုဖ်အမည်ခံပြီး ရှရီအတ်တရားတော်အား အလွဲလွဲအချော်ချော်ကျင့်သုံးနေမှုများကို တွေ့မြင်ပြီး ဆူဖီမှန်လျှင် 'ဒီပုတ်ထဲက ဒီပဲချည်း' ဟု သတ်မှတ်ထားပုံရသည်။

တွရ်တူရှီရေးခဲ့သလို အိမာမ်ဂဇာလီ ؒ သခင်သည် ဘဂ္ဂဒက်မှ ထွက်ခွါခဲ့ပြီးနောက် ဆူဖီများနှင့် တွေ့ဆုံခဲ့သည်မှာ အမှန်ပင်ဖြစ်သည်။ သို့သာမက မိမိရှာဖွေနေသော လောကသစ္စာတရားသည် တဆောင်ဝုဖ်ကျင့်စဉ်ထဲတွင် ရှိနေကြောင်း တွေ့ရှိခဲ့ရသည်။ သို့နှင့်တိုင် အိမာမ်ဂဇာလီ ؒ သခင်သည် ဘဂ္ဂဒက်မြို့မှ ထွက်ခွါခဲ့ပြီးနောက်မှ တဆောင်ဝုဖ်လိုက်ခဲ့ခြင်းကားမဟုတ်ချေ။ သခင်သည် ငယ်ရွယ်စဉ် စာသင်သားဘဝကပင် ဗိုင်အတ်ယူပြီး တွရီကာလမ်းစဉ်အတွင်းခြေချဝင်ရောက်ခဲ့သူဖြစ်သည်။ အိမာမ်ဂဇာလီ ؒ က မိမိဗိုင်အတ်ယူရပုံကို ရှင်းပြသည်မှာ–

'တစ်ကိုယ်တည်းနေပြီး ကျင့်ကြံရသည့်နည်းလမ်းကို ကျွန်ုပ်သည် တဆောင်ဝုဖ်စာအုပ်များမှ ဆည်းပူးခဲ့ပြီးဖြစ်သည်။ သို့သော် ဤပညာသည် စာအုပ်များထဲမှ သင်ယူရရှိနိုင်သောပညာမဟုတ်ပေ။ သို့ဖြစ်ရာ ဆရာတစ်ပါးပါး၏လက်ပေါ်တွင် မလွဲမသွေ ဗိုင်အတ်ပြုရမည်ဖြစ်သည်။'

## ရှိက်ခ်အဗူအလီဖာရ်မေဒီ(ရ)

အိမာမ်ဂဇာလီ(ရ)သည် ရှိက်ခ်အဗူအလီဖာရ်မေဒီ(ရ)သခင့်ထံတွင် မိုင်အတ်ပြုခဲ့ခြင်းဖြစ်သည်။ ထိုသခင်သည် အဆင့်အတန်းမြင့်မားသော ဆူဖီတစ်ပါးဖြစ်သည်။ နိဇာမွလ်မွလ်က်(ရ)သည် ထိုသခင်ကြီးကို အလွန်လေးစားရိုသေခဲ့သည်။ သခင်ကြီး မိမိထံ ကြွလာပြီဆိုလျှင် မိမိထိုင်နေသော ထိုင်ဖုံမှ ထပေးပြီး ထိုထိုင်ဖုံတွင် ထိုင်စေသည်။ ၎င်းကိုယ်တိုင်က သခင်ကြီး၏ရှေ့တွင် ကျိုးနွံစွာ ထိုင်လေ့ရှိသည်။ နိဇာမွလ်မွလ်က်(ရ)သည် အိမာမွလ်ဟာရမိုင်(ရ)နှင့်အဗူကာဆင်မ်ကွရှိုင်ရီ(ရ)သခင်တို့ကဲ့သို့ ကြီးကျယ်သည့်ပညာရှင်ကြီးများကိုပင် ဤမျှလောက် အရိုအသေမပေးခဲ့ချေ။ ထိုသခင်များ ရောက်လာလျှင် ကြိုဆိုသည့်အနေဖြင့် ထရပ်ရုံလောက်သာ ရပ်ခဲ့သည်။ လူတို့က ထိုသို့ အရိုအသေပေးမှု ကွာခြားရသည့်အကြောင်းကို မေးမြန်းကြသောအခါ နိဇာမွလ်မွလ်က်(ရ)က–

'အိမာမွလ်ဟာရမိုင် အစရှိသူတို့ လာရောက်ကြသောအခါ ကျွန်ုပ်ရှေ့၌ ကျွန်ုပ်ကို ချီးကျူးသောစကားများ ပြောဆိုကြ၏။ ထိုစကားများ ကြားရသောအခါ ကျွန်ုပ်၏နဖ်စ်စိတ်သည် အောက်ခြေလွတ်ဘဝင်မြင့်သွားရ၏။ ရှိက်ခ်အဗူအလီဖါရ်မေဒီကမူ ဤသို့မဟုတ်ပေ။ သခင်သည် ကျွန်ုပ်၏အပြစ်အနာအဆာများကို ကျွန်ုပ်အား ထောက်ပြလေ့ရှိသည်။ ထို့ပြင် ကျွန်ုပ်ကြောင့် လူထု ဘယ်နည်းဘယ်ပုံ ဒုက္ခရောက်ရသည်ကိုလည်း အသိပေးလေ့ရှိသည်။'

ရှိက်ခ်အဗူအလီဖာရ်မေဒီ(ရ)သခင်သည် တူစ်မြို့တွင် ဟီဂျ်ရီ ၄ရရ ခုနှ် ကွယ်လွန်ခဲ့သည်။ သို့ဖြစ်ရာ အိမာမ်ဂဇာလီ(ရ)သခင်သည် စာသင်သားဘဝကပင် တွရီကာလမ်းစဉ်သို့ ဝင်ရောက်ခဲ့ခြင်းဖြစ်ကြောင်းသိရသည်။

## ဗိုင်တွလ်မုကာဒ်ဒပ်စ်သို့

ဒမတ်စကပ်မြို့တွင် နှစ်နှစ်ကြာ နေထိုင်ပြီးနောက် အိမာမ်ဂဇာလီ(ရ)သည် ဗိုင်တွလ်မုကာဒ်ဒပ်စ် (ဂျေရုစလင်မြို့)သို့ ထွက်ခွါခဲ့သည်။ ယင်းကဲ့သို့ ဒမတ်စကပ်မြို့မှ ထွက်ခွါရသည့်အကြောင်း ဖြစ်ရပ်တစ်ခုကို အလ္လာမာဖဟ်ဘီ(ရ)က ဖေါ်ပြခဲ့သည်။

'ဒမတ်စကပ်၌ ရှိနေစဉ် အိမာမ်ဂဇာလီသည် အမီနီယာအမည်ရှိကျောင်းတစ်ကျောင်းသို့ ရောက်သွားခဲ့သည်။ ထိုကျောင်းမှ ကျောင်းဆရာသည် အိမာမ်ဂဇာလီကို မသိချေ။ ၎င်းက စာပြရာမှာ 'အိမာမ်ဂဇာလီက ဤသို့ရေးသားခဲ့သည်'ဟု ကိုးကားပြောဆိုနေခဲ့သည်။ အိမာမ်ဂဇာလီသည် ဤစကားကို ကြားရသောအခါ မိမိကိုယ်ကို အထင်ကြီးမှု စိတ်ကြီးဝင်မှုများ ဖြစ်လာမည်ကို စိုးရိမ်သွားခဲ့သည်။ ထိုမှာပင် ဒမတ်စကပ်မြို့မှ ထွက်ခွါခဲ့ခြင်းဖြစ်သည်။'

ကျော်ကျော်ကြားကြားဖြစ်ရမည်ကို မလိုလား၍ ဒမတ်စကပ်မြို့ကို စွန့်ခွါခဲ့သော အိမာမ်ဂဇာလီ(ရ)၏ဆုံးဖြတ်ချက်သည် မမှားချေ။ အဘယ်ကြောင့်ဆိုသော် ဒမတ်စကပ်မြို့သားတို့သည် နောင်တစ်ချိန်တွင် အိမာမ်ဂဇာလီ(ရ)နေထိုင်သွားခဲ့သော အိုမဝီဗလီကြီးကို 'ဂဇာလီဗဟိုဗလီ'ဟု ခေါ်တွင်ခဲ့ကြသောကြောင့်ဖြစ်သည်။

ဗိုင်တွလ်မုကာဒ်ဒပ်စ်မြို့သို့ ရောက်သောအခါမှာလည်း အိမာမ်ဂဇာလီ(ရ)သခင်သည် ဗိုင်တွလ်မုကပ်ဒပ်စ်ဗလီတော်ရှိ ကျောက်ဖျာကြီးရှိရာ အခန်းသို့ဝင်ပြီး တံခါးများကို ပိတ်လျက် တရားကျင့်နေခဲ့သည်။ ဗိုင်တွလ်မုကပ်ဒပ်စ်တွင် အတန်ကြာနေပြီးနောက် ခလီလ်မြို့သို့ ဆက်သွားခဲ့သည်။ ထိုမြို့တွင် တမန်တော်ကြီးအိဗ်ရာဟီမ်သခင်ﷺ၏ သင်္ချိုင်းတော်ရှိနေသည်။ ထို့နောက် ဟဂ်ျပြုရန် ရည်ရွယ်ချက်ဖြင့် မက္ကာနှင့်မဒီနာမြို့တော်များသို့ ထွက်ခွါခဲ့သည်။ ဟဂ်ျပြုပြီးသောအခါ မိုရိုကိုနိုင်ငံသို့ ဦးတည်ထွက်ခွါပြန်သည်။

အချုပ်ဆိုရသော် အိမာမ်ဂဇာလီ ၏ သခင်သည် ဆယ်နှစ်တိုင်တိုင် မြင့်မြတ်သောနေရာဌာနများတွင် ခရီးလှည့်လည်နေခဲ့သည်။ ထိုသို့လှည့်လည်စဉ် လူသူလေးပါးကင်းရှင်းသောနေရာများတွင် အများအားဖြင့် နေထိုင်ခဲ့သည်။ သို့ဖြစ်ရာ တစ်နေရာမှတစ်နေရာ လှည့်လည်သွားလာနေစဉ်အတွင်း အိမာမ်ဂဇာလီ ၏ သခင်၏ဖြစ်ရပ်အတ္ထုပ္ပတ္တိကို အနည်းငယ်သာ သိရသည်။

ဖြစ်ရပ်တစ်ခုတွင် ပုဂ္ဂိုလ်တစ်ဦးသည် အိမာမ်ဂဇာလီ ၏ သခင်ကို တောအုပ်တစ်ခုတွင် တွေ့ခဲ့ရသည်။ သခင်၏ကိုယ်ပေါ်တွင် အဝတ်ပိုင်းတစ်ခု ရှိနေသည်။ လက်ထဲတွင် ရေထည့်ထားသောမြေအိုးတစ်လုံးကို ကိုင်ထားသည်။ ထိုပုဂ္ဂိုလ်သည် အိမာမ်ဂဇာလီ ၏ သခင့်ကို တပည့်လေးရာရှိသော စာသင်ဝိုင်းတွင် တွေ့မြင်ဖူးခဲ့သူဖြစ်သည်။ သို့ဖြစ်ရာ အံ့သြလျက်–

'ဘယ်လိုပါလဲ။ သင်ခန်းစာပို့ချခြင်းထက် ဤအတိုင်း နေထိုင်ခြင်းက ပိုကောင်းလို့ပါလား' ဟု မေးခဲ့သည်။ သခင်က ထိုပုဂ္ဂိုလ်ကို အထင်သေးသည့်အကြည့်ဖြင့် တစ်ချက်ကြည့်ပြီး အောက်ပါကဗျာကို ရွတ်ဖတ်ခဲ့သည်။

ترکت هوی لیلی وسعدی بمنزل    وعدت الی مصحوب اوّل منزل

*ကျွန်ုပ်သည် စည်းစိမ်ချမ်းသာ အလိုရမ္မက်များကို သူ့နေရာ၌ စွန့်ထားခဲ့ပြီးပြီ။*
*ယခုကျွန်ုပ်သည် အဖော်စစ်အဖော်မွန်နှင့် တွေ့ဆုံနိုင်ရန် ပြင်ဆင်လျက်ရှိသည်။*

فنادت بی الاشواق مهلا فهذه    منازل من تهوی رویدك فانزل

*အလိုရမ္မက်များက ကျွန်ုပ်ကို ဖိတ်ခေါ်ခဲ့သည်။ ဒါတွေသည် ဆန္ဒစိတ်၏စခန်းများဖြစ်သည်။ နေခဲ့တော့ဟု ထားခဲ့ရမည့်ရပ်တန့်က ရပ်ရမည့်အရာများပင်။*

## ခလီလ်မြို့သင်္ချိုင်းတော်တွင် ပဋိညာဉ်ပြုခြင်း

ဟီဂျ်ရီ ၄၈၉ခုတွင် အိမာမ်ဂဇာလီ ၏ သခင်သည် ခလီလ်မြို့သို့ တစ်ကြိမ်ရောက်ရှိခဲ့သည်။ ထိုမြို့ရှိ တမန်တော်အီဗ်ရာဟီမ် ﷺ သခင်၏သင်္ချိုင်းတော်သို့ ရောက်သောအခါ အိမာမ်ဂဇာလီ ၏ သခင် သုံးခုသောအမှုကို ရာသက်ပန်မပြုတော့ပါဟု ပဋိညာဉ်ပြုခဲ့သည်။ ထိုသုံးခုမှာ–

(၁) မည်သည့်ဘုရင်ထံသို့မှ မသွားတော့ပါ။
(၂) မည်သည့်ဘုရင်၏ပေးကမ်းမှုကိုမှ မယူတော့ပါ။
(၃) မည်သူနှင့်မှ မုနာဇရာငြင်းခုန်ခြင်းမပြုတော့ပါ–ဟူ၍ဖြစ်သည်။ အိမာမ်ဂဇာလီ ၏ သခင်သည် မိမိ၏ပဋိညာဉ်ကို ကွယ်လွန်ချိန်အထိ စောင့်ထိန်းသွားခဲ့သည်။

## အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို ပြုစုခြင်း

သစ္စာတရားရှာပုံတော်ခရီးစဉ်အတွင်းမှာ အိမာမ်ဂဇာလီ ၏ သခင်သည် မိမိ၏အကြီးကျယ်ဆုံးစာပေလက်ရာဖြစ်သည့် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကြီးကို ရေးသားပြုစုခဲ့သည်။ ဤအကြောင်းကို သမိုင်းပညာရှင် အီဗ်နေ့အစီရ်က ဖော်ပြသည်မှာ–

'အိမာမ်သခင်သည် အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို ထိုခရီးစဉ်အတွင်းမှာ ရေးသားခဲ့ခြင်းဖြစ်သည်။

ဒမတ်စကပ်မြို့တွင် ထောင်နှင့်ချီသော လိုလားမက်မောသူများသည် ထိုကျမ်းကို အိမာမ်သခင့်ထံမှ သင်ယူခဲ့ကြသည်။'

နာမည်ကြီးသမိုင်းဆရာအချို့က 'ယခုလို အရပ်ဒေသတစ်ခုတွင် အတည်တကျမနေဘဲ လှည့်လည်သွားလာနေစဉ် ဤကဲ့သို့သောကျမ်းကြီးကျမ်းခိုင်ကို ရေးသားရန် မဖြစ်နိုင်ပါ'ဟု ငြင်းပယ်ခဲ့ကြသည်။ အိမာမ်ဂဇာလီ သခင်သည် ဇောကပ်လျက် သတိလက်လွတ်နေသောအဖြစ်နှင့် ခရီးထွက်ခွါခဲ့ခြင်းဖြစ်သည်။ ဤအချက်ကို ထောက်ရှုပြောဆိုရလျှင် ကျမ်းစာရေးသားပြုစုရန်ဆိုသည်မှာ အမှန်ပင် ဖြစ်နိုင်ခြင်းမရှိပါ။ သို့သော် တိုးချဲ့၍ သုံးသပ်ဆန်းစစ်မည်ဆိုလျှင် ဆယ်နှစ်ကြာ ခရီးသွားလာနေစဉ် အိမာမ်သခင်၏အခြေအနေသည် မပြောင်းမလဲ တစ်သမတ်တည်း ရှိနေခဲ့သည်မဟုတ်ပါ။ အချိန်အတန်ကြာ စိတ်ဇောထခြင်း စိတ်နောက်ကိုယ်ပါဖြစ်ခြင်းများ ရှိခဲ့သလို၊ နှစ်ကာလနှင့်ချီ၍ တည်တည်ငြိမ်ငြိမ်ရှိခဲ့သည်များလည်း ရှိပါသည်။ ထိုနှစ်ကာလများတွင် သခင်သည် အသိပညာဆိုင်ရာဆောင်ရွက်ချက်အမျိုးမျိုးကို လုပ်ဆောင်ခဲ့ပါသည်။ အိမာမ်ဂဇာလီ သခင်သည် ထိုခရီးစဉ်အတွင်း ဂျေရုဆလင်မြို့သားများ၏ မေတ္တာရပ်ခံချက်အရ '*ကဝါအိဒွလ်အကာအီဒ်*'အမည်ရှိ အကီဒဟ်ကျမ်းကို ရေးသားခဲ့ခြင်းဖြစ်သည်။

အိမာမ်ဂဇာလီ၏ တပည့် အဗူဟာစ်အီဗ်နေ့မွတ်စလင်မ်သည် ထိုခရီးစဉ်အတွင်း ဒမတ်စကပ်မြို့၌ရှိစဉ် သခင့်ထံမှ ပညာသင်ယူခဲ့ခြင်းဖြစ်သည်။ သခင်၏အဆင့်မြင့်သည့်တပည့်ကြီးများတွင် တစ်ဦးအပါအဝင်ဖြစ်သူ အဗူဟာစ်အီဗ်နေ့မွတ်စလင်မ်ကို သူ၏အမျိုးသားများက 'ဂျမာလွလ်အစ္စလာမ်'(အစ္စလာမ်သာသနာ၏အလှတစ်ပါး)ဟူသော ဘွဲ့မည်ဖြင့် ဂုဏ်ပြုခေါ်ဝေါ်ခဲ့ကြသည်။

## နိဇာမီယာကျောင်းတော်သို့ ဒုတိယအကြိမ်

အိမာမ်ဂဇာလီ သခင်သည် သစ္စာတရားကို ရှာဖွေပြီး အစစ်အမှန်သဘောကို သိမြင်နိုင်ရန် ရည်ရွယ်ချက်ဖြင့် လှုံ့ဆော်ဖိကျဉ် မြင်ရပ်နှင်ခဲ့သည့်အကြောင်း အထက်တွင် စာရှုသူ ဖတ်ခဲ့ရပေပြီ။ ဖွဲ့ခတ်ကြိုးပမ်းမှုများနှင့် ကျင့်ကြံအားထုတ်မှုများကြောင့် အချိန်ကာလတစ်ခုအကြာတွင် အိမာမ်ဂဇာလီ၏ နှလုံးသား၌ ရှိနေသည့် အကာအဆီးများအားလုံး ကွာကျသွားခဲ့သည်။ ထိုအခါ နှလုံးသားသည် အလွန်ပင်ကြည်လင်စင်ကြယ်လာခဲ့သည်။ ထုနှင့်ထည်နှင့် ရှိနေခဲ့သောဒွိဟသံသယများသည် လွင့်ပါးပျောက်ကွယ်သွားခဲ့သည်။ ဒဿနထုတ် တွေးခေါ်ခြင်းနှင့်ဉာဏ်ဖြင့် စဉ်းစားခြင်း၏စခန်းမှ လွန်မြောက်ခဲ့ပြီး သာသနာ့ခံယူချက်များကို မမိုတ်မသုန် ခံယူစွဲမြဲသည့်စခန်းသို့ ရောက်ခဲ့ရသည်။ ဤအချက်ကို အိမာမ်ဂဇာလီ သတိထားမိသောအခါ အရာရာကို ဥပက္ခာပြုထားမှု၏စည်းဝိုင်းအတွင်းမှ ပြန်လည်ထွက်ခွါရန် ဆန္ဒဖြစ်လာခဲ့သည်။

ထိုအချိန်မှာပင် ကြုံကြိုက်စွာ ဘုရင်က အိမာမ်ဂဇာလီထံ 'ပညာသင်ပြပို့ချရန် တာဝန်ပေးမှုကို လက်ခံရန်' **အမိန့်**ပေးလာသည်။ ဤအမိန့်ကို အလေးအနက် ထုတ်ပြန်လိုက်ခြင်းဖြစ်ရာ၊ အကယ်၍ အိမာမ်ဂဇာလီ သခင်က **ငြင်းဆန်**ခဲ့မည်ဆိုလျှင် ဘုရင်၏အမျက်ရှခံရဖို့ပင်အကြောင်းရှိလေသည်။ ထိုတွင် အိမာမ်ဂဇာလီ သခင်သည် ဆူဖီ**မိတ်ဆွေများနှင့်** တိုင်ပင်ခဲ့သည်။ ထိုဆူဖီမိတ်ဆွေအားလုံးက ဥပက္ခာပြုထားမှုကို စွန့်လွှတ်ရန် အကြံပေးခဲ့ကြသည်။ **တကျွလ်မွှန်အများ**အပြားတို့၏အိပ်မက်တွင် 'အလ္လာဟ်အရှင်နှစ်သက်မှုသည် ထိုသို့ ဥပက္ခာပြုမှုကို စွန့်လွှတ်ရန်သာ **ဖြစ်ကြောင်း**' မက်မြင်ခဲ့ကြသည်။

**အိမာမ်ဂဇာလီ**၏ အတ္ထုပ္ပတ္တိရေးသူ မော်လာနာရှစ်ဗလီနုအ်မာနီက ထိုစဉ်က အချိန်အခါသင့်မြတ်ကိုက်**ညီလျက်ရှိသည့်** **အိမာမ်ဂဇာလီ** သခင်၏ မုဂျဒ်ဒီဒ်တစ်ပါးဖြစ်ကြောင်း နိမိတ်လက္ခဏာရပ်ကို ဤသို့ဖော်ပြခဲ့သည်။

'အားလုံးထက် စဉ်းစားမိသောအချက်မှာ ဟဒီစ်တော်တွင် 'အလ္လာဟ်အရှင်သည် ရာစုနှစ် တစ်ခုတိုင်း၏ အစတွင် မုဂျဒ်ဒီဒ်တစ်ပါးကို ပေါ်ထွက်စေတော်မူမည်'ဟု ဆိုထားရာ၊ တိုက်ဆိုင်လှစွာ ယခုအချိန်သည် ဟီဂျ်ရီ ငါးရာစုသို့ ရောက်ရန် တစ်လသာ လိုတော့သည့် အချိန်သမယဖြစ်သည်။ အချုပ်ဆိုသော် ဟီဂျ်ရီ ၄၉၉ခု ဇုလ်ကအ်ဒါလတွင် အီမာမ်ဂဇာလီ^ သခင်သည် နိုင်ရှာပူရ်ရှိ နိဇာမီယာကျောင်းတော်၏ စာသင်ခန်းသို့ ကြွမြန်းရောက်ရှိလာပြီး စာပေသင်ကြားပို့ချခဲ့ပေသည်။'

ထိုအချိန်တွင် တိုင်းပြည်အုပ်ချုပ်နေသူသည် ဖခ်ရှလ်မလစ်က်ဘုရင်ဖြစ်သည်။ ၎င်းမှာ နိဇာမွလ်မလစ်က်၏ သြရသသားကြီးဖြစ်သည်။ ထိုအချိန်တွင် နန်းရင်းဝန်အဖြစ် ဆောင်ရွက်နေသူမှာ မလစ်က်ရှားဟ်၏ သားတစ်ဦးဖြစ်သူ ဆန်ဂျ်ရ်ဆလ်ဂျူကီဖြစ်သည်။ ၎င်းသည် ပညာကို အလွန်ချစ်မြတ်နိုးပြီး အသိအလိမ္မာရှိသူဖြစ်သည်။ ၎င်းသည် အီမာမ်ဂဇာလီ^ သခင်၏ အရှိန်အဆော်ကျော်ဇောသတင်းများကို ကြားရသောအခါ သခင့်ထံ ကိုယ်တိုင်သွားရောက်တွေ့ဆုံပြီး နိဇာမီယာကျောင်းတော်တွင် စာပေသင်ကြားပို့ချပေးပါရန် အနူးအညွတ်မေတ္တာရပ်ခံခဲ့သူဖြစ်သည်။ အီမာမ်ဂဇာလီ^ သခင် နိဇာမီယာကျောင်းတော်တွင် တစ်ကျော့ပြန် စာပေပို့ချရန် လက်ခံခဲ့ရာတွင် ဆန်ဂျ်ရ်ဆလ်ဂျူကီ၏ စိတ်စေတနာသဒ္ဓါထက်သန်သောဖိတ်ကြားမှုကလည်း အကြောင်းခံတစ်ခုအဖြစ်ပါဝင်ခဲ့သည်။

## မွေးရပ်မြေသို့ ပြန်ခဲ့ပြီ

ဟီဂျ်ရီ ၅၀၀ခု မုဟ်ရာမ်လတွင် ဖခ်ရှလ်မလစ်က်ဘုရင်သည် ဘာတွေနီဂိုဏ်းသားတို့၏ လက်ချက်ဖြင့် ရှဟီဒ်ဖြစ်ခဲ့သည်။ ဤဖြစ်ရပ်၏ နောက် ရက်အနည်းငယ်အကြာတွင် အီမာမ်ဂဇာလီ^ သခင်သည် စာပေပို့ချမှုတာဝန်ကို ကျောခိုင်းခဲ့ကာ မွေးရပ်မြေတူစ်သို့ ပြန်လာခဲ့သည်။ တူစ်မြို့ရှိ မိမိ၏ အိမ်ဘေးတွင် ကျောင်းတစ်ကျောင်းနှင့်ခါန်ကာ တစ်ဆောင်ကို ဆောက်လုပ်ခဲ့သည်။ ထို၌ပင် ကွယ်လွန်သည်အထိ ဗဟိဒ္ဓပညာနှင့်အဇ္ဈတ္တပညာများကို ပို့ချသွားခဲ့လေသည်။

ထိုအချိန်တွင် အီမာမ်ဂဇာလီ^ သခင်အား လူထုက နှစ်သက်လက်ခံမှုများ တိုးပွါးလာသည်နှင့်အမျှ မနာလိုမရှုစိမ့်သူတို့၏ အာဃာတမစ္ဆရိယများကလည်း ကြီးမားသည်ထက် ကြီးမားလာလျက်ရှိသည်။ အထူးသဖြင့် သခင်က အဲဟ်ယာအွလ်အိုလူမ်ကျမ်းတွင် အိုလမာပညာရှင်ဆိုသူတို့၏ လူမြင်ကောင်းရုံ လူကြားကောင်းရုံ ပြစားလုပ်ကိုင်နေသည့်လုပ်ရပ်များကို ချေးခါးအူမ မကျန် ဖေါ်ထုတ်လိုက်သောအခါ ထိုပညာရှင်တို့က သခင့်ကို ရန်သူသတ်မှတ်ခဲ့ကြသည်။ ထိုပညာရှင်တို့အထဲမှ အုပ်စုတစ်စုသည် သခင့်ကို အလဲထိုး အနိုင်ပိုင်းရန် ထိုးကွက်တိုက်ကွက်ရှာနေခဲ့ကြသည်။

ထိုအချိန်၌ ခိုရာစာန်ပြည်ကို အုပ်ချုပ်လျက်ရှိသော ဆန်ဂျ်ရ်ဆလ်ဂျူကီဘုရင် အပါအဝင် နန်းတော်အသိုင်းအဝိုင်းတစ်ခုလုံးသည် အီမာမ်အဗူဟနီဖဟ်^ သခင်အား အထူးကြည်ညိုလေးစားခဲ့ကြသည်။ အီမာမ်အဗူဟနီဖဟ်^ သခင်၏ သင်္ချိုင်းပေါ်တွင် ဂူဗိမာန်နှင့်ဥယာဉ်ကို ၎င်းတို့ကပင် ပထမဦးဆုံးတည်ဆောက်ခဲ့ကြခြင်းဖြစ်သည်။

အီမာမ်ဂဇာလီ^ သခင်သည် ငယ်ရွယ်စဉ်က မန်ခူလ်အမည်ရှိ ဖိကဟ်ဥပဒေကျမ်းတစ်စောင် ရေးခဲ့ဘူးသည်။ ထိုကျမ်းတစ်နေရာတွင် အီမာမ်ဂဇာလီ^ သည် အီမာမ်အဗူဟနီဖဟ်^ အပေါ် ပြင်းထန်သောအသုံးအနှုန်းများဖြင့် ပစ်တင်ဝေဖန်ခဲ့ဘူးသည်။ အီမာမ်ဂဇာလီ^ ၏ အတိုက်အခံအုပ်စုအတွက် ထိုရေးသားချက်များသည် အလွန်ကောင်းမွန်သော တိုက်ကွက်ဖြစ်ခဲ့သည်။ ၎င်းတို့သည် အဆိုပါစာအုပ်တစ်အုပ်ကို ယူ၍ ဆန်ဂျ်ရ်ဘုရင်၏ နန်းတော်သို့ သွားရောက်ခဲ့ကြသည်။ ထို့နောက် ဆန်ဂျ်ရ်ဘုရင်အား စာအုပ်ပါအချက်အလက်များကို တစ်ဆိတ်တစ်အိတ်လုပ်၍ တင်ပြတိုင်

ဘန်ခဲ့ကြသည်။ ထို့ပြင် အိမာမ်ဂဇာလီ ﷺ သခင် ရေးသားခဲ့သော အခြားကျမ်းစာများထဲမှ အရေးအသားများကိုလည်း ဘာလွဲအဓိပ္ပါယ်ကောက်၍ ဖေါ်ထုတ်ခြေထိုးခဲ့ကြသည်။ ထို့နောက် ၎င်းတို့က ဆန်ဂျိရ်ဘုရင်အား အိမာမ်ဂဇာလီ ﷺ သည် အကီဒဟ်ဖေါက်ပြန်ပြီး လမ်းမှားတိမ်းချော်နေသူဖြစ်သည်ဟု စွပ်စွဲတင်ပြခဲ့ကြသည်။

ဆန်ဂျိရ်ဘုရင်သည် ၎င်းတို့၏ချောက်တွန်းတိုင်တန်းမှုများအပေါ် အမှားအမှန် ပိုင်းခြားဆုံးဖြတ်နိုင်လောက်အောင် အသိပညာရှိသူမဟုတ်ပေ။ သူသည် အကီ်ဂျရှည်ဝတ် ဖေါင်းထုပ်ပေါင်းထားသူတို့၏ပြောဆိုလာသမျှကို ယုံကြည်လက်ခံကာ အိမာမ်ဂဇာလီ ﷺ ကို နန်းတော်သို့ လာရောက်ရန် အမိန့်ထုတ်ဆင့်လိုက်သည်။

အိမမ်ဂဇာလီ ﷺ သခင်သည် တစ်ဘက်တွင် မည်သည့်ဘုရင်၏ထံပါးသို့မှ မသွားတော့ပါဟု ပဋိညာဉ်ပြုထားခဲ့ပြီးဖြစ်သည်။ ယခုမူ ဘုရင့်အမိန့်ကို နာခံရန် အကြောင်းဖန်လာသည်။ သို့ဖြစ်ရာ ဘုရင့်အမိန့်ကို နာခံကြောင်း ပြသရန် နန်းတော်နှင့် မလှမ်းမကမ်း တစ်နေရာအထိ သွားရောက်ခဲ့သည်။ ထိုနေရာမှ ဘုရင့်ထံ ဖါရစီဘာသာဖြင့် စာတစ်စောင် ရေးသားဆက်သွင်းခဲ့သည်။ ထိုစာတွင် အိမာမ်ဂဇာလီ ﷺ သခင်က 'မိမိသည် မလစ်က်ရှားဟ်ဘုရင်လက်ထက် သာသနာရေးများ ဆောင်ရွက်ခဲ့ပုံ၊ ထို့နောက် မိုင်တွလ်မုကဒ်ဒပ်စ်သို့ ခရီးထွက်ခဲ့ပုံ၊ ထို့နောက် တမန်တော် အိဗ်ရာဟီမ် ﷺ ၏သင်္ချိုင်းတော်တွင် အချက်သုံးချက်ကို ပဋိညာဉ်ပြုခဲ့ပုံများကို ရေးသားဖေါ်ပြခဲ့သည်။

ထိုစာကို ဖတ်ပြီးနောက် ဘုရင်သည် အိမာမ်ဂဇာလီ ﷺ သခင့်ကို တွေ့ဆုံရန် ဆန္ဒပြင်းပြခဲ့သည်။ မိမိ၏ထံပါးတွင်ရှိနေသူများအား 'ငါသည် အိမာမ်ဂဇာလီနှင့် မျက်နှာချင်းဆိုင် စကားပြောဆိုပြီး သူ၏အကီဒဟ်အယူအဆများကို သိရှိလိုသည်'ဟု မိန့်ဆိုခဲ့သည်။ အတိုက်အခံပြုသူများက ဘုရင်၏မိန့်ဆိုမှုကို သိရသောအခါ 'အိမာမ်ဂဇာလီ ﷺ သည် ဘုရင့်ကို ပရောဂကြဲစည်တော့မှာဘဲ'ဟု စိုးရိမ်တကြီးပြောဆိုခဲ့ကြသည်။ ထို့နောက် ၎င်းတို့က အိမာမ်ဂဇာလီ ﷺ နှင့် မုနာဇရာပြုလုပ်ရန် အကြံထုတ်ခဲ့ကြသည်။ ဤသတင်းကို တူစ်မြို့တွင် ရှိနေသည့် ပညာရှင်များ ကြားသွားခဲ့ပြီးနောက်မှ လိုက်လာကြသည်။ ထိုပညာရှင်များက အတိုက်အခံပြုသူတို့အား–

'ကျွန်ုပ်တို့သည် အိမာမ်ဂဇာလီ ﷺ သခင်၏တပည့်များဖြစ်သည်။ ဆွေးနွေးမည့်အကြောင်းအရာများကို ကျွန်ုပ်တို့ရှေ့မှာ ချလိုက်ပါ။ ကျွန်ုပ်တို့ တာဝန်ယူဖြေရှင်းနိုင်သည့်ကိစ္စကို အိမာမ်ဂဇာလီ ﷺ သခင်အား ဒုက္ခမပေးကြပါနှင့်။ အသင်တို့သည် အိမာမ်သခင်နှင့် ဖက်ပြိုင်ပြောဆိုရန် အဆင့်အတန်း ရှိသူများမဟုတ်ကြပါ'ဟု ပြောဆိုခဲ့ကြသည်။

ယခုလို ငြင်းခုံစရာဖြစ်လာသောအခါ ဆန်ဂျိရ်ဘုရင်သည် အိမာမ်ဂဇာလီ ﷺ သခင့်ကို ရှေ့မှောက်သို့ ခေါ်ယူ၍ အဆုံးအဖြတ်ပြုခြင်းသာ သင့်တော်သည်ဟု စဉ်းစားပြီး မိမိ၏နန်းရင်းဝန်ကြီး မအီနွလ်မွလ်က်ကို အိမာမ်သခင်အား ပင့်ခေါ်ရန် အမိန့်ပေးခဲ့သည်။ မအီနွလ်မွလ်က်သည် အိမာမ်ဂဇာလီ ﷺ သခင့်ကို အထူးလေးစားရှိသေစွာဖြင့် ဆန်ဂျိရ်ဘုရင်၏ရှေ့မှောက်သို့ ခေါ်ယူခဲ့သည်။ ဆန်ဂျိရ်ဘုရင်သည် သခင့်ကို ထရပ်ဆီးကြိုပြီး ရင်ချင်းအပ်ပွေ့ဖက်ခဲ့သည်။ ထို့နောက် သခင့်အား ဘုရင့်သလွန်ပေါ်တွင် ထိုင်စေခဲ့သည်။ သခင်သည် နန်းတွင်းအဆောင်အယောင်အခန်းအနားများကို တွေ့ကြုံခဲ့ဘူးသော်လည်း ယခုလို ဆန်ဂျိရ်ဘုရင်က ကြီးကျယ်စွာဂုဏ်ပြုသောအခါ သခင်၏ခန္ဓာကိုယ်သည် အနည်းငယ်တုန်လျက်ရှိခဲ့သည်။ အတူရှိနေသော ကာရီတစ်ဦးကို သခင်က–

'ကျမ်းမြတ်ကုရ်အာန်ရဲ့အာယတ်တစ်ခုခုကို ဖတ်ပါ'ဟု ပြောဆိုရာ၊ ထိုကာရီက အောက်ပါအာယတ်–

﴿أَلَيْسَ اللّٰهُ بِكَافٍ عَبْدَهُ﴾

**'အလ္လာဟ်အရှင်ကျေးကျွန်သည် အလ္လာဟ်အရှင်ဖြင့် လုံလောက်ခြင်း မရှိသလော။'**

ကို ဖတ်ခဲ့သည်။ ထိုအာယတ်၏အာနိသင်စူးရောက်မှုဖြင့် သခင်သည် နှလုံးသားသည် အင်အားပြည့်ဝလာခဲ့သည်။ ဆန်ဂျိရ်ဘုရင်သို့ ဦးတည်၍ ရှည်လျားသောမိန့်ခွန်းတစ်ခုကို ပြောဆိုခဲ့သည်။ မိန့်ခွန်း၏အဆုံးတွင် သခင်က–

'**ကျွန်ုပ်သည် ကိစ္စရပ်နှစ်ခုကို** တင်ပြလိုသည်။ တူစ်မြို့ရှိ လူတို့သည် **အစကတည်းက** အစီအမံညံ့ဖျင်းမှုနှင့် **မတရားပြုမှုများကြောင့်** ဒုက္ခတွေ့နေခဲ့ကြရသည်။ ယခု အအေးလွန်ကဲမှုနှင့်မိုးခေါင်မှုကြောင့် လုံးဝအတိဒုက္ခရောက်**ကြရတော့မည်။** ၎င်းတို့အား သနားညှာတာပါ။ အလ္လာဟ်အရှင် အသင်တို့အား သနားညှာတာတော်မူပါလိမ့်မည်။ **ဝမ်းနည်းစရာမှာ** မွတ်စလင်မ်တို့ ဒုက္ခပင်လယ်ဝေနေချိန်မှာ အသင်တို့၏မြင်းများသည် အဖိုးတန်လည်ဆွဲတန်ဆာ**များဖြင့်** ကိုင်းညွတ်လျက်ရှိနေသည်။'

'ဒုတိယတင်ပြလိုသည်မှာ ကျွန်ုပ်သည် ဆယ့်နှစ်နှစ်တိုင်တိုင် တစ်ကိုယ်တည်းနေထိုင်ခဲ့သည်။ ယခု ဖစ်ရှလ်မွလ်က်က ဤနေရာသို့ လာရောက်ရန် အတင်းအကြပ်ဆင့်ခေါ်ခဲ့သည်။ **ကျွန်ုပ်က** 'ယခုအချိန်အခါသည် လူတစ်ဦးတစ်ယောက်က မှန်သောစကားကို ပြောဆိုရန်ရည်ရွယ်လျှင်ပင် တစ်သက်လုံးရန်သူဖြစ်ရသောအချိန်အခါဖြစ်သည်' ဟု ပြောဆိုခဲ့သည်။ ဖစ်ရှလ်မွလ်က်က လက်မခံခဲ့ပါ။ ၎င်းက 'လက်ရှိအုပ်ချုပ်နေသောဘုရင်သည် တရားမျှတသူဖြစ်သည်။ ပြောသည့်စကားနှင့်ဆန့်ကျင်လျှင် ထိုအတွက် ကျွန်ုပ်တာဝန်ယူမည်'ဟု ပြောဆိုခဲ့သည်။'

'ကျွန်ုပ်နှင့်ပတ်သက်၍ ကျွန်ုပ်သည် အိမာမ်အဗူဟနီဖဟ်ကို ပြစ်တင်ဝေဖန်သည်ဟု ကျော်ကြားနေသောကိစ္စသည် အမှားသက်သက်မျှဖြစ်ပါသည်။ အဲဟ်ယာအွလ်အိုလူမ်ကျမ်းတွင် အိမာမ်အဗူဟနီဖဟ်နှင့်ပတ်သက်၍ ကျွန်ုပ်ရေးသားဖေါ်ပြထားသည်တို့မှာ ကျွန်ုပ်၏ခံယူချက်ပင်ဖြစ်သည်။ ကျွန်ုပ်သည် ထိုသခင့်ကို ဖိကဟ်ပညာတွင် စံတင်ထိုက်သူဟု သတ်မှတ်ပါသည်။'

အိမာမ်ဂဇာလီ᳚သခင်၏မိန့်မြွက်မှုကို ကြားရသောအခါ ဆန်ဂျိရ်ဘုရင်က–

'ယခုသာ အီရတ်နှင့်ခိုရာစာန်ရှိ ပညာရှင်များ ဤနေရာတွင် စုဝေးရောက်ရှိနေခဲ့ပါလျှင် ၎င်းတို့အားလုံးသည် သခင်၏စကားမှ အကျိုးခံစားကြရပေမည်။ ဤအဖြစ်ကို တစ်နိုင်ငံလုံးသို့ အသိပေးဖြန့်ချိရန် သခင်ကိုယ်တိုင် မှတ်တမ်းတင်ပါ'ဟု ပြောဆိုခဲ့သည်။ ထို့ပြင် ဆန်ဂျိရ်ဘုရင်က နိုင်ငံအဝှမ်းရှိ ပညာရှင်အားလုံးအား 'မိမိတို့၏အခက်အခဲများကို ဖြေရှင်းပေးရန် အိမာမ်ဂဇလီ᳚သခင့်ထံ တစ်နှစ်လျှင် တစ်ကြိမ်သွားရောက်တွေ့ဆုံရမည်'ဟုလည်း အမိန့်ထုတ်ပြန်ခဲ့သည်။

ဤပြဿနာကို ဖြေရှင်းပြီး တူစ်မြို့သို့ ပြန်လာသောအခါ အိမာမ်ဂဇာလီ᳚သခင့်အား မြို့သူမြို့သားအားလုံးက မြို့ပြင်ထွက်၍ ကြိုဆိုခဲ့ကြသည်။ အတိုက်အခံပြုသူတို့သည် ဘုရင်ကိုယ်တိုင်က အိမာမ်ဂဇာလီ᳚သခင့်ဘက်ရပ်တည်ခဲ့သဖြင့် ခေတ္တငြိမ်သက်ခဲ့ကြသည်။ ၎င်းတို့သည် သခင့်အား ဆန့်ကျင်သည့်လုပ်ရပ်များကို လုံးဝရပ်တန့်ခြင်း**မှုမပြု**ကြပေ။ နောက်ပိုင်းတွင် အခွင့်အရေးရလျှင် ရသလို သခင့်အား ဝေဖန်ထိုးနှက်ခဲ့ကြသည်။

## အိမာမ်ဂဇာလီ᳚နှင့် စပိန်နိုင်ငံ

အိမာမ်ဂဇာလီ᳚သခင်၏ခေတ်တွင် သခင့်အား ဆန့်ကျင်ဝေဖန်သည့်လုပ်ရပ်များသည် ခိုရာစာန်မှာသာမက **စပိန်နိုင်ငံ**ကဲ့သို့ဝေးလံသောအရပ်မှာပင် ရှိခဲ့သည်။ ဟီဂျ်ရီ ၅၀၁တွင် စပိန်နိုင်ငံသို့ အဲဟ်ယာအွလ်အိုလူမ်ကျမ်း ပြန့်**နှံ့ရောက်ရှိသွား**သောအခါ ဘုရင်ဖြစ်သူ အလီအိဗ်နေ့ယူစွဖ်အိဗ်နေ့တရှ်ကီန်က အဲဟ်ယာကျမ်းစာမူများကို မီးရှို့ဖျက်**ဆီးပစ်ရန်** အမိန့်ထုတ်ခဲ့သည်။ လူတို့သည် ထိုအမိန့်ကို လိုက်နာအကောင်အထည်ဖေါ်ခဲ့ကြသည်။ ဤသတင်းကို **အိမာမ်ဂဇာလီ᳚သခင်** ကြားသောအခါ အလွန်ပင်စိတ်ထိခိုက်ခဲ့ရသည်။ ထိုအချိန်မှာပင် သခင့်ထံသို့ စပိန်နိုင်ငံသား **တစ်ဦး** ပညာသင်ရန် ရောက်လာသည်။ သူ၏အမည်သည် မုဟမ္မဒ်အိဗ်နေ့အဗ်ဒွလ္လာဟ်တွမ်ရတ်ဖြစ်သည်။

မုဟမ္မဒ်အိဗ်နေ့အဗ်ဒွလ္လာဟ်တွမ်ရတ်သည် ဂုဏ်သရေရှိသောမျိုးရိုးမှ မွေးဖွါးခဲ့သူဖြစ်သည်။ ၎င်း၏မိဘဘိုး

သားတို့သည် လွတ်လပ်မှုကို မြတ်နိုးသူများ၊ သူရသတ္တိရှိသူများဖြစ်ကြသည်။ ၎င်းသည် အီမာမ်ဂဇာလီ ‌‌‌‌‌‌‌‌‌‌သခင့်ထံ နေထိုင်ခဲ့ရာ ပညာရပ်အားလုံးတွင် ဘက်စုံထူးချွန်သူဖြစ်လာခဲ့သည်။ မိမိတွင် ရှိနေသောဗီဇပါ ရဲစွမ်းသတ္တိနှင့်အီမာမ်ဂဇာလီ သခင့်ထံ ဆည်းကပ်ပေါင်းဖက်သည့်အတွက် ရရှိလာသော နာမ်ပိုင်းဆိုင်ရာအာနိသင်ထူးကြောင့် မုဟမ္မဒ်အီဗ်နေ့တွမ်ရတ်တွင် ရည်ရွယ်ချက်ဆန္ဒတစ်ခုဖြစ်ပေါ်လာခဲ့သည်။ ယင်းမှာ စပိန်နိုင်ငံမှ အလီအီဗ်နေ့ယူစွဗ်၏အုပ်ချုပ်ရေးကို ဖြုတ်ချဖျက်သိမ်းပြီး အုပ်ချုပ်ရေးအသစ်တစ်ခု ထူထောင်ရန်ဖြစ်သည်။

ထိုရည်ရွယ်ချက်ကို အီမာမ်ဂဇာလီ သခင်အား တင်ပြသောအခါ တရားမျှတသောအုပ်ချုပ်ရေးတစ်ရပ် ပေါ်ပေါက်ရန် လိုလားနေသော သခင်က မုဟမ္မဒ်အီဗ်နေ့အဗ်ဒွလ္လာဟ်၏ရည်ရွယ်ချက်ကို ကြိုက်နှစ်သက်ခဲ့သည်။ သို့သော် ပထမဦးစွာ သခင်က 'အရေးတော် ပြီးမြောက်ရန် လိုအပ်သည့်အခြေခံအထောက်အကူများ ပြည့်စုံမှုရှိမရှိ' မေးမြန်းခဲ့သည်။ မုဟမ္မဒ်အီဗ်နေ့တွမ်ရတ်က မိမိဘက်မှ စီမံထားမှုများကို ဆရာသခင် စိတ်ကျေနပ်လောက်အောင် တင်ပြပြောဆိုခဲ့သည်။ ထိုအစီအမံများကို ကြားရသောအခါ အီမာမ်ဂဇာလီ သခင်သည် အလွန်ဝမ်းသာအားရဖြစ်သွားခဲ့သည်။ အစီအမံများအတိုင်း ဆက်လက်ဆောင်ရွက်ရန်လည်း ခွင့်ပြုလိုက်သည်။

အချုပ်ဆိုရသော် မုဟမ္မဒ်အီဗ်နေ့တွမ်ရတ်သည် စပန်နိုင်ငံသို့ ပြန်၍ မကောင်းမှုတားမြစ် ကောင်းမှုညွှန်ကြားသည့်နည်းလမ်းဖြင့် အုပ်ချုပ်ရေးအသစ်တစ်ခုကို စတင်ထူထောင်ခဲ့သည်။ ထိုအုပ်ချုပ်ရေးသည် ကာလကြာရှည်စွာ တည်မြဲခဲ့သည်။ ထိုအုပ်ချုပ်ရေးကို 'မုဝပ်ဟိဒီန်' ဟူသောဘွဲ့ထူးဖြင့် ခေါ်ဆိုခဲ့ကြသည်။ မုဟမ္မဒ်အီဗ်နေ့တွမ်ရတ်သည် အုပ်ချုပ်ရေးကို ကိုယ်တိုင်ခေါင်းဆောင်ခြင်းမပြုဘဲ အဗ်ဒွလ်မုအ်မင်န်အမည်ရှိ ထိုက်တန်သောပုဂ္ဂိုလ်တစ်ဦးကို လွှဲအပ်ခဲ့သည်။

အဗ်ဒွလ်မုအ်မင်န်နှင့်၎င်း၏အုပ်ချုပ်ရေးအသိုင်းအဝိုင်းသည် အီမာမ်ဂဇာလီ သခင် လိုလားတောင့်တသော အုပ်ချုပ်ရေးအခြေခံစည်းမျဉ်းနှင့်အညီ တိုင်းပြည်ကို အုပ်ချုပ်ခဲ့ကြသည်။ ၎င်းတို့၏အုပ်ချုပ်ပုံနည်းလမ်းကို ကမ္ဘာကျော်သမိုင်းပညာရှင်ကြီး အီဗ်နေ့ခလ်ဒွန် က မိမိ၏သမိုင်းကျမ်းတွင် အောက်ပါအတိုင်း ဖော်ပြခဲ့သည်။

'၎င်းတို့၏အုပ်ချုပ်ရေးတွင် ပညာရှင်များကို အလေးအမြတ်ပြုခဲ့သည်။ အရေးကိစ္စအဝဝတွင် ပညာရှင်များနှင့် တိုင်ပင်နှီးနှောဆောင်ရွက်ခဲ့သည်။ လိုအင်ဆန္ဒ တင်ပြမှုကို နားထောင်သည်။ ဝန်ထမ်းများက တိုင်းသူပြည်သားများကို ဒုက္ခပေးလျှင် အရေးယူသည်။ ဘုရင်နှင့်သက်ဆိုင်ရာ အဆောက်အဦများတွင် ဗလီများတွဲလျက် တည်ဆောက်သည်။ ဥရောပနှင့် နယ်မြေချင်းစပ်လျက်ရှိသောနယ်စပ်ဒေသများကို စစ်တပ်များ အခိုင်အမာချထားသည်။ နေ့စဉ်နှင့်အမျှ တိုးတက်အောင်မြင်မှုများ ရခဲ့သည်။'

## နိဇာမိယာကျောင်းတော်အတွက် တစ်ကြိမ်ထပ်မံ ပင့်ဖိတ်ခြင်း

နိဇာမိယာကျောင်းတော်သည် အဗ္ဗာစီယာမင်းဆက်၏ဂုဏ်ဟိတ်ဖြစ်သည်။ ထို့ပြင် ကျောင်းတော်ကြီးသည် ဘဂ္ဂဒက်မြို့တော်၏သိုက်မြိုက်မှုလည်းဖြစ်သည်။ အီမာမ်ဂဇာလီ သခင် ကျောင်းတော်၏အဓိပတိတာဝန်မှထွက်ခွါသွားသည့်အခါ နိဇာမိယာကျောင်းတော်သည် အသဲနှလုံးမရှိသော ခန္ဓာကိုယ်သဖွယ်ဖြစ်ကျန်ခဲ့လေသည်။ ကျောင်းတော်နှင့်သက်ဆိုင်သူအားလုံးတို့သည် ဤလျော့နည်းလစ်ဟင်းမှုကို သိရှိခံစားကြရသည်။

ဟီဂျရီ ၅၀၀ တွင် မလစ်က်ရှားဟ်၏သား မုဟမ္မဒ်ဘုရင်က နိဇာမွလ်မွလ်က်၏အကြီးဆုံးသား အဟ်မဒ်အား နန်းရင်းဝန်ကြီး ခန့်အပ်ခဲ့လေသည်။ နန်းရင်းဝန်ကြီးဖြစ်လာပြီးနောက် အဟ်မဒ်၏ပထမဆုံး ဆောင်ရွက်ချက်သည် အီမာမ်ဂဇာလီ သခင့်ကို နိဇာမိယာကျောင်းတော်သို့ တစ်ကြိမ်ထပ်မံပင့်ခေါ်ရန် စီစဉ်ခြင်းဖြစ်သည်။ ၎င်းကိုယ်တိုင်

အိမာမ်ဂဇာလီ ႏသခင့်ထံ စာတစ်စောင်ရေးခဲ့သည်။ ထိုစာတွင် နိဇာမီယာကျောင်းတော်၏အရေးပါပုံနှင့်အဓိကကျပုံများကို ဖော်ပြခဲ့သည်။ ထို့နောက် အိမာမ်ဂဇာလီ ႏသခင်ရှိနေသည့် နေရာဌာနသည် လူအများ၏ပညာသင်ဌာနဖြစ်လာမည်ကို သိနားလည်ကြောင်း၊ သို့သော် အိမာမ်ဂဇာလီ ႏသခင်ကဲ့သို့ ပညာဝိစိရ်ဟု ဆိုအပ်သောပုဂ္ဂိုလ်မျိုးသည် အရပ်ဒေသအသီးသီးမှ လူအများ အလွယ်တကူရောက်ရှိနိုင်သော အစ္စလာမ့်အချက်အချာမြို့ကြီးတစ်မြို့တွင်သာ ရှိနေသင့်ကြောင်း၊ ထိုမြို့မှာ အခြားမဖြစ်သင့်ဘဲ ဘဂ္ဂဒက်မြို့တော်သာဖြစ်သင့်ကြောင်း အကျိုးအကြောင်း ရှင်းပြဖိတ်ခေါ်ခဲ့သည်။

နန်းရင်းဝန်ကြီးအဟ်မဒ်ကိုယ်တိုင် ရေးသားခဲ့သော ထိုပေးစာကို ခလီဖဟ်ဘုရင်၏ဝန်ကြီးမှူးကြီးများနှင့် ထိပ်တန်းအရာရှိကြီးများအားလုံး လက်မှတ်ရေးထိုးခဲ့ကြသည်။ ဤနည်းဖြင့် အိမာမ်ဂဇာလီ ႏသခင် ကြွရောက်လာမည်ကို နန်းတော်အသိုင်းအဝိုင်းတစ်ခုလုံးက မျှော်လင့်စောင့်စားလျက်ရှိကြောင်း ဆန္ဒပြုထုတ်ဖော်ခဲ့ကြသည်။ ဤမျှခန့်အရေးတယူပြု၍ ပင့်ဖိတ်လာသည့်အပေါ်မှာ အိမာမ်ဂဇာလီ ႏသခင်က ရှည်လျားသောစာတစ်စောင် ပြန်ရေးခဲ့သည်။ ထိုစာတွင် ဘဂ္ဂဒက်မြို့တော်သို့ မိမိလာရောက်ခြင်းမပြုနိုင်သည့်အကြောင်းများကို ရှင်းပြခဲ့သည်။ ထိုစာတွင် အိမာမ်ဂဇာလီ ႏသခင်က ခလီလ်မြို့ရှိ အီဗ်ရာဟီမ် ﷺ သခင်၏သင်္ချိုင်းတော်တွင် မိမိပြုလုပ်ခဲ့သောပဋိညာဉ်ကို အဓိကထား၍အကြောင်းပြရေးသားခဲ့သည်။ မိမိ ဘဂ္ဂဒက်မြို့သို့ လာရောက်မည်ဆိုလျှင် မုနာဇိရာနှင့်ကင်းရှင်းအောင် နေ၍မရနိုင်ပါ။ မိမိသည် ဘယ်သောအခါမှ မုနာဇိရာမပြုလုပ်တော့ပါဟု ပဋိညာဉ်ပြုခဲ့ပြီးဖြစ်သည်။ ထို့ပြင် ဘဂ္ဂဒက်မြို့တွင် မိမိရှိနေလျှင် နန်းတော်သို့ ဝင်ထွက်သွားလာခြင်းမပြုဘဲ နေရန်မဖြစ်နိုင်ပါ။ မိမိသည် မည်သည့်ဘုရင့်ထံမှ မသွားတော့ပါဟု ပဋိညာဉ်ပြုခဲ့ပြီးဖြစ်သည်။ ထို့ပြင် ဘုရင်က ပေးကမ်းချီးမြှင့်သည့် ဆုလာဘ်ရိက္ခာများကိုလည်း မိမိသည် လက်ခံမည်မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် မိမိသည် မည်သည့်ဘုရင်၏ပေးကမ်းချီးမြှင့်မှုမှ လက်ခံယူခြင်းမပြုတော့ပါဟု ပဋိညာဉ်ပြုထားပြီးဖြစ်သည်ဟု စာထဲတွင် ကျေနပ်လောက်အောင် ရှင်းလင်းရေးသားခဲ့သည်။

## ပုခက်တွင်းမှ သင်္ချိုင်းတွင်းထိ

အိမာမ်ဂဇာလီ ႏသခင်သည် ဘဝ၏နောက်ဆုံးအချိန်တွင် ဗုခါရီကျမ်းတော်ကို ဆရာတစ်ပါးထံ ဖတ်အံသင်ယူသွားခဲ့သည်။ ဤနည်းဖြင့် အိမာမ်ဂဇာလီ ႏသခင်သည် တမန်တော်မြတ် ﷺ ၏ - 'ပုခက်တွင်းမှ သင်္ချိုင်းတွင်းအထိ ပညာကို သင်ယူကြရန်' မိန့်ဆိုမှုကို လက်တွေ့ကျင့်သုံးသွားခဲ့သည်။ အသက်ငါးဆယ်ကျော်သောအခါ အိမာမ်ဂဇာလီ ႏသခင်သည် မိမိတွင် ဟဒီစ်ပညာ မပြည့်စုံသေးဟု တွေးတောမိလျက်ရှိခဲ့သည်။ ထိုသို့တွေးတောနေစဉ်မှာ တိုက်ဆိုင်စွာ အိုမရ်အီဗ်နေ့အဗ်ဒွလ္လာဟ်ရဝါစီ ႏအမည်ရှိ ဟဒီစ်ပညာရှင်ကြီးသည် တူစ်သို့ ရောက်ရှိလာသည်။ အိမာမ်ဂဇာလီ ႏသည် ထိုသခင်ကြီးကို မိမိ၏အိမ်တွင် တည်းခိုစေသည်။ ထို့နောက် ထိုပညာရှင်ကြီးထံမှ ဆွဟီဗုခါရီကျမ်းနှင့်ဆွဟီမွတ်စလင်မ်ကျမ်းတော်နှစ်စောင်ကို ဖတ်ရှု၍ ရိဝါယတ်ပြုခွင့်စနဒ်ကို ရယူခဲ့သည်။ အဆိုတစ်ခုအရ အိမာမ်ဂဇာလီ ႏသခင်သည် မိမိ၏ဆရာရင်း အဗူအီစ်မာအီလ်ဟာဖ်စီ ႏထံတွင် ဗုခါရီကျမ်းတော်ကို သင်ယူခဲ့ပြီးဖြစ်သည်ဟု ဆိုသည်။

အိမာမ်ဂဇာလီ ႏသခင်သည် မိမိ၏နောက်ဆုံးသက်တမ်းနေ့ရက်များကို တရားအားထုတ်ခြင်းတွင် အများဆုံး အသုံးချခဲ့သည်။ နေ့ရောညပါ တရားတော်ကျင့်ကြံမှုတွင် ကုန်လွန်ခဲ့သည်။ သို့နှင့်တိုင် သခင်သည် စာပေရေးသားပြုစုမှုကို လုံးဝစွန့်လွှတ်ခြင်းကား မပြုခဲ့ပေ။ ဖိကဟ်ဥပဒေကျမ်း-မွစ္စတဖ်စွ်ဖဟ်ကို ထိုအချိန်တွင် ရေးသားခဲ့ခြင်းဖြစ်သည်။ ထိုကျမ်းသည် ရှာဖအီမဗ်ဟဗ်၏အဓိကကျသောဖိကဟ်ဥပဒေကျမ်းသုံးစောင်တွင် တစ်စောင်အပါအဝင်ဖြစ်ခဲ့သည်။ ထိုကျမ်းကို ဟီဂျ်ရီ ၅ဝ၄တွင် ရေးခဲ့သည်။ နောက်နှစ်တွင် အိမာမ်သခင် ကွယ်လွန်ခဲ့သည်။

## ကွယ်လွန်ခြင်း

ဟီဂျ်ရီ ၅၀၅ခု ဂျမာဒီလ်ဆာနီ ၁၄ရက်နေ့တွင် အိမာမ်ဂဇာလီ သခင်သည် တွာဘိရာန်ရှိ နေအိမ်တွင် အမြဲမတည် ယာယီမျှသာဖြစ်သော ဒွန်နယာလောကကို စွန့်ခွါ၍ ထာဝရနေထိုင်ရမည့် အာခိရတ်လောကသို့ ခရီးထွက်ခွါသွားခဲ့သည်။ သခင့်ကို နေအိမ်ခြံဝင်း၌ပင် မြှတ်နှံသင်္ဂြိုလ်ခဲ့သည်။ မုဒိတာပွါးအားကျဖွယ် အိမာမ်ဂဇာလီ သခင်၏ ကွယ်လွန်သေဆုံးပုံကို သခင်၏ညီဖြစ်သူ အဟ်မဒ်ဂဇာလီ သခင်က ပြန်ပြောပြခဲ့သည်။

တနင်္လာနေ့တွင် အိမာမ်ဂဇာလီ သခင်သည် အိပ်ယာမှ ထပြီး ဝိုဇူပြုခဲ့သည်။ ထို့နောက် နမာဇ်ဖတ်ခဲ့သည်။ ထို့နောက် မိမိအတွက် အသင့်ထားသောကဖန်စကို တောင်းယူပြီး မျက်လုံးအစုံနှင့် ဖိကပ်ခဲ့သည်။ ထို့နောက် နှုတ်မှ 'အရှင်မြတ်၏အမိန့်တော်ကို ဦးထိပ်ပန်ဆင်လျက်ပါ'ဟု ပြောဆိုခဲ့သည်။ ထို့နောက် သခင်သည် ခြေထောက်များကို ဆန့်တန်းလိုက်သည်။ လူတို့က ကြည့်ရှုသောအခါ သခင်သည် အသက်ဝိညာဉ်ဖဲ့ခွာသွားခဲ့လေပြီ။

- إنا لله و إنا إليه راجعون -

အိမာမ်ဂဇာလီ သခင် ကွယ်လွန်သည့်သတင်းကို ကြားသိကြသောအခါ အစ္စလာမ့်ကမ္ဘာတစ်ခုလုံးက ဝမ်းနည်းကြေကွဲခဲ့ကြသည်။ ကဗျာဆရာ စာဆိုများက လွမ်းချင်းကဗျာများ ဖွဲ့သီခဲ့ကြသည်။ လွမ်းချင်းကဗျာနမူနာမှာ–

بكى على حجة الاسلام حين ثوى     من كل حىّ عظيم القدر اشر فه

*အစ္စလာမ့်မှတ်ကျောက်သခင်အတွက် အားလုံးက ဝမ်းနည်းငိုကြွေးကြသည်။*
*နေရာတိုင်းတွင် သခင့်ကို အထွတ်အမြတ်ပြု အထူးတန်ဘိုးထားခဲ့ကြသည်။*

အခြားလွမ်းချင်းကဗျာနမူနာများမှာ–

تلك الرزية تستوهى قوى جلدى     و الطرف تستهره و الدمع تنزفه

مفى فاعظم مفقود فجعت به     و لا نظير له فى الناس يخلفه

## အဆက်အနွယ်

အိမာမ်ဂဇာလီတွင် သားယောကျ်ားလေး မထွန်းကားခဲ့ချေ။ သမီးများသာ ရှိခဲ့သည်။ သမီးတစ်ဦး၏အမည်သည် စစ်တွလ်မိုနာ 'ست المنى'ဖြစ်သည်။ ထိုသမီးမှ မွေးဖွါးသော သားမြေးအဆက်အနွယ်သည် သမတိုရှည်စွာရှိခဲ့သည်။ ဟီဂျ်ရီ ၈ ရာစုအစောပိုင်းတွင် ပေါ်ထွန်းခဲ့သောပညာရှင်ကြီး ရှိုက်ခ်မဂ်ဒွဒ်ဒီန်သည် အိမာမ်ဂဇာလီ၏ သမီး စစ်တွလ်မိုနာမှ မွေးဖွါးသော(၆)ဆက်မြောက် အဆက်အနွယ်ဖြစ်သည်။ မြန်မာဆွေမျိုးစပ်ဝေါဟာရဖြင့် ပြောရလျှင် ရှိုက်ခ်မဂ်ဒွဒ်ဒီန်သည် အိမာမ်ဂဇာလီ၏ 'ကျွတ်ဆက်'၊ သမီးစစ်တွလ်မိုနာ၏ 'ကျွတ်'ဖြစ်သည်။

### ပညာအမွေခံများ

အိမာမ်ဂဇာလီတွင် တပည့်အမြောက်အမြားရှိခဲ့သည်။ ပေးစာတစ်စောင်တွင် အိမာမ်ဂဇာလီ သခင်ကိုယ်တိုင် 'ကျွန်ုပ်တွင် တပည့်ပေါင်း တစ်ထောင်ရှိသည်'ဟု ရေးသားခဲ့ဖူးသည်။ ထိုအထဲမှ ထင်ရှားသောတပည့်အချို့ကို

အောက်တွင် ဖော်ပြလိုက်ပါသည်။

အိမာမ်ဂဇာလီ ၏ တပည့်ရင်း မုဟမ္မဒ်အိဗ်နေ့တွမ်ရတ် သည် စပိန်နိုင်ငံတွင် တာရှုကိန်းမင်းဆက်ကို ဖြုတ်ချ၍ အလွန်အဆင့်မြင့်ကြီးကျယ်သော အုပ်ချုပ်ရေးတစ်ရပ်ကို ထူထောင်နိုင်ခဲ့သူဖြစ်သည်။ ထို့နောက် အလ္လာမာအဗူဗကရ်အရဗီ သခင်သည် အင်ဒါလူးရှားနိုင်ငံ၏ ပညာရှင်များတွင် လူသိအများဆုံးပညာရှင်တစ်ပါးဖြစ်ခဲ့သည်။ ထို့ပြင် အောက်ပါတို့မှာ အိမာမ်ဂဇာလီ သခင်၏ ထူးချွန်ထွန်းပေါက်သော တပည့်များဖြစ်ကြသည်။

၁။ **ကာဇီအဗူနဆွရ်အဟ်မဒ်အိဗ်နေ့အဗ်ဒွလ္လာဟ်**(ဟီဂျရီ ၄၄၄ဖွါး– ၅၄၄လွန်)– တူစ်တွင် အိမာမ်ဂဇာလီ ထံမှ ဖိကဟ်ပညာကို သင်ယူခဲ့သည်။

၂။ **အဗူဖတဟ်အဟ်မဒ်အိဗ်နေ့အလီ**(ဟီဂျရီ ၅၁၈လွန်)– နိဇာမိယာကျောင်းတော်တွင် စာချဆရာတစ်ပါး ဖြစ်ခဲ့သည်။

၃။ **အဗူမန်ဆွရ်မုဟမ္မဒ်အိဗ်နေ့အိစ်မာအိလ်**– ကျော်ကြားသောတရားဟောဆရာဖြစ်သည်။ ဟဒီစ်ပညာကို ဆင်မ်အာနီ သခင်နှင့်ဘဂ္ဂဝီ သခင်တို့ထံမှ သင်ယူခဲ့သည်။

၄။ **အဗူဟာမိဒ်မုဟမ္မဒ်အိဗ်နေ့အဗ်ဒွလ်မလစ်က်**– ဖိကဟ်ကို အိမာမ်ဂဇာလီ သခင့်ထံမှ သင်ယူခဲ့သည်။ ဟဒီစ်ပညာကို ဟာဖိဇ်ဟုမိုင်ဒီ ထံမှ သင်ယူခဲ့သည်။

၅။ **အဗူစအိဒ်မုဟမ္မဒ်အိဗ်နေ့အလီကုရ်ဒီ**– အိမာမ်ဂဇာလီ သခင်၏ အလ်ဂျာမွလ်အဝါမ်ကျမ်းကို ဆင့်ပြန်ခဲ့သူဖြစ်သည်။ အရဗီစာပေပညာတွင် မကာမတ်ဟရီရီကျမ်းရှင်၏ တပည့်ဖြစ်သည်။

၆။ **အိမာမ်အဗူစအိဒ်မုဟမ္မဒ်အိဗ်နေ့ယဟ်ယာနိုင်ရှာပူရီ**– ကျော်ကြားသော ပညာရှင်တစ်ပါးဖြစ်သည်။ အိမာမ်ဂဇာလီ သခင်၏ ဖိကဟ်ကျမ်း 'ဘစီတ်' ကို ပထမဆုံးအကျယ်ဖွင့်ကျမ်း ရေးခဲ့သူဖြစ်သည်။

၇။ **အဗူတွာဟိရ်အိမာမ်အိဗ်ရာဟီမ်**– အိမာမ်ဂဇာလီ သခင်က ပေးစာတစ်စောင်တွင် 'ကျွန်ုပ်၏ တပည့်များ အားလုံးတွင် အထူးချွန်ဆုံးဖြစ်သည်' ဟု ရေးသားခြင်းခံရသူဖြစ်သည်။ ဆီရီးယား အစရှိသည့် ခရီးစဉ်များတွင် အတူလိုက်ပါခဲ့သူဖြစ်သည်။ အိမာမ်အိဗ်ရာဟီမ်သည် အိမာမွလ်ဟရမိုင် ထံမှလည်း သင်ယူခဲ့သည်။

၈။ **အဗွလ်ဖတဟ်နဆွရ်အိဗ်နေ့မုဟမ္မဒ်အဇာဘိုင်ဂျာန်နီ**– တဆောင်ဝုဖ်ပညာကို အိမာမ်ဂဇာလီ သခင့်ထံမှ သင်ယူခဲ့သည်။ အာရှအလယ်ပိုင်း အဇာဘိုင်ဂျာန်နယ်သားဖြစ်သည်။

၉။ **အဗွလ်ဟစ်စအဒွလ်ခိုင်ရ်အိဗ်နေ့မုဟမ္မဒ်အလ်ဗလန်ဆီ**– ကျော်ကြားသော ဟဒီစ်ပညာရှင်ဖြစ်သည်။ သက်တမ်းတစ်လျှောက် အရပ်ဒေသမျိုးစုံသို့ လှည့်လည်သွားလာသူဖြစ်သည်။ ကြီးကျယ်သောပညာရှင်များ ဆင်မ်အာနီ နှင့်အိဗ်နေ့ဂျောင်ဇီ တို့သည် ဟဒီစ်ပညာတွင် သခင်၏ တပည့်များဖြစ်ကြသည်။

၁၀။ **အဗူတွာလိဘ်အဗ်ဒွလ်ကရိမ်ရာဇီ**– အဲဟ်ယာအွလ်အိုလူမ်ကျမ်းကို နှုတ်လွတ်ကျက်မှတ်ခဲ့သူဖြစ်သည်။ ဟီဂျရီ ၅၂၈တွင် ကွယ်လွန်ခဲ့သည်။

၁၁။ **အဗူမန်ဆွရ်စအိဒ်အိဗ်နေ့မုဟမ္မဒ်**– နိဇာမိယာကျောင်းတော်တွင် ဆရာတစ်ပါးဖြစ်ခဲ့သည်။

၁၂။ **အဗွလ်ဟစ်အလီအိဗ်နေ့မုဟမ္မဒ်ဂျူဝိုင်နီဆူဖီ**– တူစ်တွင် အိမာမ်ဂဇာလီ ထံမှ ဖိကဟ်သင်ယူခဲ့သည်။

၁၃။ **အဗွလ်ဟစ်အလီအိဗ်နေ့မဗ်ဟရ်ဒီန်ဝရီ**– အိမာမ်ဂဇာလီ ၏ ကျော်ကြားသောတပည့်များတွင် တစ်ဦးအပါအဝင်ဖြစ်သည်။ ကျော်ကြားသောဟဒီစ်ပညာရှင် ဟာဖိဇ်အိဗ်နေ့အစာကီရ် သည် သခင်၏ တပည့်ဖြစ်သည်။

အိမာမ်ဂဇာလီ သခင့်တွင် ဖော်ပြပါအဓိပတိပညာရှင်များအပြင် ပညာအမွေခံတပည့်များစွာ ရှိသေးသည်။ သို့သော် ထိုပညာရှင်များအားလုံး၏ အမည်ကို ဖော်ပြနေရန် မလိုအပ်ပေ။

## စာပေအမွေ

အိမာမ်ဂဇာလီ ၏သခင်သည် အံ့ဩစရာကောင်းလောက်အောင် စာရေးအားကောင်းသူဖြစ်သည်။ သခင်သည် **ဒုနိယာ**လောကတွင် ၅၅ နှစ်သာ နေထိုင်သွားခဲ့သည်။ အသက် ၂၀ အရွယ်မှစ၍ စာပေများကို ရေးသားပြုစုခဲ့သည်။ **သက်တမ်း**အတွင်း ဆယ်နှစ်ကျော် ဆယ်တစ်နှစ်ကြာ ကန္တာရခရီးသည်အဖြစ် လှည့်လည်သွားလာခဲ့သည်။ ထို့ပြင် **သခင်**သည် ပညာသင်ကြားပို့ချမှုကို သက်တမ်းတစ်လျှောက် စွဲစွဲမြဲမြဲပြုသွားခဲ့သည်။ သခင့်ထံ ပညာသင်နေသော **တပည့်များ**၏အရေအတွက်သည် တရာ့ငါးဆယ်ထက် လျော့သည်ဟူ၍ မရှိခဲ့ပေ။ တစ်ဘက်တွင် ရပ်ဝေးဒေသများ**မှ မေးမြန်း**လာသော ဖတ္တဝါမေးခွန်းများကို ဖြေကြားခဲ့သည်။ ဤသည်တို့အပြင် မိမိ၏နဖ်စ်အတွက် တွရီကာကျင့်**စဉ်များ**ကို မပျက်ကွက်မလစ်ဟင်းအောင် ကျင့်ဆောင်ရသေးသည်။ ဤမျှ တာဝန်ဝတ္တရားများပြားလှသည့်အကြားမှ **သခင်**သည် ကျမ်းစာအမြောက်အမြားကို ရေးသားသွားခဲ့လေသည်။ ထိုကျမ်းစာများတွင် အရွယ်ထူထဲသောကျမ်းစာ**များ**ပါဝင်လေသည်။ သခင်၏ 'ယာကူတွလ်တအ်ဝီလ်'အမည်ရှိ တဖ်စီရ်ကျမ်းကြီးကပင် အတွဲ ၄၀ ရှိလေသည်။ သို့**သော်** ဝမ်းနည်းစရာမှာ ထိုကျမ်းကြီးသည် ယခုအခါ အစရှာမတွေ့အောင် ပျောက်ကွယ်လျက်ရှိသည်။

၁၉၆၁ ခုတွင် အီဂျစ်အမျိုးသားသုတေသီတစ်ဦးက အိမာမ်ဂဇာလီ ၏ရေးသားပြုစုခဲ့သည့် စာပေများကို စာစာ**ရင်းတစ်ခု** ပြုစုခဲ့သည်။ ထိုစာရင်းအရ အိမာမ်ဂဇာလီ ၏သခင်သည် သက်တော် ၅၅ နှစ်ဆိုသည့် ကြာရှည်ခြင်းမရှိလှ**သော** သက်တမ်းအတွင်း ကျမ်းစာအုပ်ကြီးငယ် ၄၅၇ အုပ် ရေးသားခဲ့သည်ဟု သိရသည်။ သခင်ရေးသားပြုစုခဲ့သော **စာစုစာ**ရင်းကို အဲဟ်ယာအွလ်အိုလူမ်ကျမ်းမြန်မာပြန် ဒုတိယတွဲတွင် ဖေါ်ပြပါမည်။ (إنشاء الله تعالى)

ယခုအခါ အင်တာနက်တွင် 'အလ်ဂဇာလီ'အမည်ဖြင့် ဝက်ဘ်ဆိုက်ကြီးတစ်ခု ရှိနေပြီဖြစ်သည်။ ထိုဝက်ဘ်**ဆိုက်**ပေါ်တွင် အိမာမ်ဂဇာလီပြုစုခဲ့သော အဓိကကျမ်းစာများ၊ အိမာမ်ဂဇာလီ ၏သခင်၏ဘဝနှင့်စာပေဆိုင်ရာ စာအုပ်**စာတမ်း**များ ပြည့်ပြည့်စုံစုံတင်ထားကြောင်း တွေ့ရသည်။ လေ့လာလိုသူများအဖို့ အရဗီ၊ အင်္ဂလိပ်၊ အူရဒူ၊ ပြင်သစ်၊ **ဂျာမန်** အစရှိသဖြင့် ဘာသာစကားမျိုးစုံဖြင့် ရှိနေရာ၊ ထိုဝက်ဘ်ဆိုက်ကို အိမာမ်ဂဇာလီ၏စာပေအမွေ ရတနာသိုက်**ကြီး**ဟုပင် ဆိုနိုင်သည်။

(ဤအိမာမ်ဂဇာလီ ၏သခင်၏အတ္ထုပ္ပတ္တိကို ရေးသားရာတွင်
မော်လာနာရှစ်ဗလီနုအ်မာနီ ၏ 'အလ်ဂဇ္ဇာလီ'ကို အဓိကမှီငြမ်းကိုးကားပါသည်။)

မော်လဝီပသီကျော်ဦး
ခေတ္တပြင်ဦးလွင်
(၅/၄/၂၀၀၆)



# အိမာမ်ဂဇာလီ သခင်
## ၏
# အချီးနိဒါန်း

ပထမဦးစွာ ကျွန်ုပ်သည် အလ္လာဟ်အရှင်အား ချီးမွမ်းထောပနာပြုပါသည်။ ချီးမွမ်းသူတို့၏ ချီးမွမ်းခြင်းများသည် ထိုအရှင်၏ ဂုဏ်တန်ခိုးကြီးကျယ်မှု ရှေ့တွင် သိမ်သိမ်ဖျင်းဖျင်းမျှသာ ဖြစ်သော်လည်း ကျွန်ုပ်သည် အလ္လာဟ်အရှင်အား မပြတ်မစဲ များမြောင်စွာ ချီးမွမ်းထောပနာပြုပါသည်။

ဒုတိယအားဖြင့် လူသားမျိုးနွယ်၏ ခေါင်းဆောင်ကြီးဖြစ်တော်မူသော တမန်တော်မြတ်ﷺနှင့်တကွ အလ္လာဟ်အရှင်၏ တမန်တော်အပေါင်းတို့ထံ ကောင်းချီးမေတ္တာအဖြာဖြာ ပို့သပါသည်။

တတိယအားဖြင့် သာသနာ့ပညာရပ်များ ပြန်လည်ရှင်သန်စေမည့် ကျမ်းတစ်စောင် ရေးသားပြုစုရန် ဟူသော ကျွန်ုပ်၏ ရည်ရွယ်ချက်အထမြောက်ရန် အလ္လာဟ်အရှင်မြတ်ထံ ကောင်းရာမွန်ရာကို လိုလားတောင်းခံပါသည်။

စတုတ္ထမှာကား – အို အပြစ်တင်ရာတွင် အလွန်အကျွံအပြစ်တင်သူ၊ အမေ့ဆိုက်ငြင်းဆန်သူများ၏ အုပ်စုတွင် အငြင်းအသန်ဆုံးသူ၊ ကျွန်ုပ်သည် အသင်၏ ဘဝင်စိတ်ကို ကင်းကွာအောင်ပြုရန်လည်း ဆန္ဒထားပါသည်။

ယခုအခါ အလ္လာဟ်အရှင်သည် ကျွန်ုပ်၏ နှုတ်လျှာမှ ဆွံ့အမှုအထုံးကို ဖြေလျှော့ပြီး စကားပြောဆိုရန် အစွမ်းပေးတော်မူခဲ့ပြီဖြစ်သည်။ ပြောဆိုရမည့်အကြောင်းအရာမှာ သင်သည် ထင်းလင်းသောအမှန်တရားကို ကျောခိုင်းပြီး လမ်းမှားကို ကူညီကာ အသိပညာမဲ့မှုကို ချီးကျူးပြောဆိုလျက်ရှိနေသည်။ ဒွန္နယာသားတို့၏ ဓလေ့ထုံးစံများမှ ထွက်၍ ကျင့်သုံးမှုဘက်သို့ အနည်းငယ် ယိမ်းယိုင်လာသူအပေါ် အသင်က ဆူဆူညံညံလုပ်သည်။ အမှန်မှာ ထိုသူသည် အလ္လာဟ်အရှင်က အိဗာဒတ်အဖြစ် သတ်မှတ်ထားသော နဖ်စ်စေတသိတ် သန့်စင်ခြင်းနှင့် နှလုံးသား ပြုပြင်ခြင်းကို မျှော်လင့်ချက်ဖြင့် လုပ်နေသူဖြစ်သည်။ ထို့ပြင် ထိုသူသည် ရှရီအတ်ရှင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည့်–

اشد الناس عذابا يوم القيامة لم ينفعه الله سبحانه بعلمه . (طب.سنى)

'လူတို့အနက် ကိယာမတ်နေ့တွင် အပြင်းထန်ဆုံးပြစ်ဒဏ်ခံရမည့်သူသည် အလ္လာဟ်အရှင်က သူ၏ ပညာဖြင့် သူ့ကိုယ်သူ အကျိုးမဖြစ်စေသူဖြစ်သည်။'

ဆိုသည့်အုပ်စုမှ ဖယ်ထွက်လာပြီး မိမိ၏ သက်တမ်း အခိပ္ပါယ်မဲ့စွာ ကုန်ဆုံးခဲ့သည့်အပေါ် မျှော်လင့်ချက်ကင်းကာ၊ မိမိ၏ အချို့သောပြစ်မှုဒုစရိုက်များကို ပြုပြင်နေသူဖြစ်သည်။

ထိုသို့ အသင်က အကြောက်အကန်ငြင်းဆန်နေရခြင်း၏ အကြောင်းခံတစ်ခုသည် လူထုအတွင်း ပြန့်နှံ့လျက်ရှိသော ရောဂါကြောင့်ဖြစ်သည်ဟု ကျွန်ုပ်မှချယုံကြည်သည်။ ယင်းရောဂါမှာ အာခိရတ်ကို အလေးအနက်မထားကြ

တော့ခြင်းဖြစ်သည်။ ကြုံရမည့်အရေးကိစ္စသည် ကြောက်ခမန်းလိလိဖြစ်သည်။ အကြောင်းခံစိုးရိမ်ဖွယ်သည် ဒိဋ္ဌဖြစ်သည်။ အာခိရတ်သည် မျက်မှောက်တွင် ရှိနေသည်။ ဒွန္နယာသည် ကျောခိုင်းထွက်ခွါလျက်ရှိသည်။ သေခြင်းသည် နီးကပ်လျက်ရှိသည်။ ခရီးသည် ဝေးကွာလှလည်း၊ ရိက္ခာမှာလည်း အနည်းငယ်သာ ပါရှိသည်။ လမ်းတစ်လျှောက် ကြီးမားသောအန္တရာယ် အတားအဆီးများ ဖြတ်သန်းရမည်။ ထိုအာခိရတ်၏လမ်းကို လမ်းပြမပါဘဲ လျှောက်လှမ်းသူသည် အခက်ကြုံရမည်ဖြစ်သည်။ ထိုလမ်း၏လမ်းပြများမှာ အိုလမာပညာရှင်များဖြစ်ကြသည်။ ထိုပညာရှင်များသည် နဗီတမန်တော်များ၏အမွေစားအမွေခံများဖြစ်ကြသည်။ ထိုကဲ့သို့သောအိုလမာပညာရှင်များသည် ယခုခေတ်တွင် ဆိတ်သုဉ်းသွားခဲ့ပေပြီ။ ထိုပညာရှင်များအစား ယခုအခါ ဝေလ့ထုံးစံအရဖြစ်သော ပညာရှင်များသာ ကျန်ရှိနေတော့သည်။ ထိုပညာရှင်များထဲမှ အများစုကို ရှိုင်တွာန်က အနိုင်ယူလွှမ်းမိုးထားသည်။ ၎င်းတို့သည် နဖ်စ်၏ထောင်လွှားမှုကြောင့် လမ်းမှားတွင် ကျရောက်လျက်ရှိသည်။ ထိုပညာရှင်အားလုံးတို့သည် လောကီရေးအကျိုးရှိမှု ရှာဖွေရာတွင် နစ်မြုပ်လျက်ရှိနေကြသည်။ ထိုသို့ နစ်မြုပ်နေရာမှ ၎င်းတို့သည် ကောင်းမှုကို မကောင်းမှုဖြစ်သည်ဟု၎င်း၊ မကောင်းမှုကို ကောင်းမှုဖြစ်သည်ဟု၎င်း ထင်မြင်ယူဆလျက်ရှိကြသည်။

ဤနည်းအားဖြင့် သာသနာ့ပညာသည် တိမ်ကောသွားခဲ့ရသည်။ ကမ္ဘာမြေပြင်တွင် လမ်းမှန်တရား၏လင်းရောင်ခြည်သည် ချုပ်ငြိမ်းသွားခဲ့ရသည်။ ထိုပညာရှင်တို့က လူတို့အား 'ဖတ္တဝါရေးရာတတ်ကျွမ်းမှုသည်သာ ပညာဖြစ်သည်ဟု၎င်း၊ အုပ်ချုပ်ရေးကဏ္ဍထဲမှ အငြင်းပွါးမှုများကို ဆုံးဖြတ်သည့်တရားတစ်ထုံးစီရင်မှုသည် ပညာဖြစ်သည်ဟု၎င်း၊ မိမိ၏တော်ကြောင်းမော်ကြောင်း ကြီးကျယ်ကြောင်းများကို ဖေါ်ထုတ်ပြီး တစ်ဘက်လူ နှုတ်လှန်မထိုးနိုင်အောင် စကားစစ်ထိုးရသည့်မုနာဇရာအတတ်ကသာ ပညာဖြစ်သည်ဟု၎င်း၊ ပရိသတ်ကျလောက်အောင် တရားဟောဆရာက စကားတန်ဆာဥပစာများဖြင့် ပြောဆိုသည့်အာဝိဇ္ဇာန်းပညာကသာ ပညာဖြစ်သည်ဟု၎င်း နားလည်သဘောပေါက်စေခဲ့ကြသည်။ ထိုပညာရှင်တို့သည် ဤသုံးမျိုးမှလွဲ၍ အခြားပညာရပ်များတွင် ဟာရာမ်ရှာရန် ထောင်ချောက်နှင့် ဒွန္နယာပစ္စည်းကို သိမ်းကြုံးယူငင်ရန် ပိုက်ကွန်ကို မတွေ့မမြင်ကြပေ။

အာခိရတ်၏လမ်းစဉ်ဖြစ်ပြီး ရှေးသူဟောင်းသူတော်ကောင်းတို့ ဆည်းပူးခဲ့သည့် ပညာရပ်ကို အလ္လာဟ်အရှင်က မိမိ၏ကျမ်းတော်၌ ဖိကဟ်၊ ဟီကမတ်၊ အိလ်မ်၊ အလင်း၊ ရောင်ခြည်၊ ဟိဒါယတ်၊ လမ်းညွှန်မှု-ဟူသောအမည်များဖြင့် ဖေါ်ပြထားတော်မူသည်။ ဤပညာသည် လူတို့အကြားတွင် ကောသွားပေပြီ။ လူတို့သည် ဤပညာကို အမေ့မေ့အလျော့လျော့ပစ်ထားလိုက်ကြပြီဖြစ်သည်။

လက်ရှိအခြေအနေတွင် သာသနာသည် အကြီးအကျယ် ဆုတ်ယုတ်ကျဆင်းလျက်ရှိသည်။ ဤအခြေအနေတွင် သာသနာ့အသိပညာများကို ပြန်လည်ရှင်သန်စေမည့် ဤကျမ်းကို ရေးသားပြုစုရန် အလွန်အရေးကြီးသည်ဟု ကျွန်ုပ်မြင်ပေသည်။ ဤကျမ်းဖြင့် ရှေးဦးခေါင်းဆောင်များ၏လမ်းစဉ်ကို ဖေါ်ပြပြီး နဗီတမန်တော်များعليهم السلامနှင့် ရှေးသူဟောင်းသူတော်ကောင်းတို့ထံမှ အကျိုးပြုပညာများကို ရှင်းလင်းရန်ဖြစ်သည်။

ကျွန်ုပ်သည် ဤကျမ်းကို အပိုင်းလေးပိုင်း ခွဲ၍ ပြုစုထားပါသည်။ အိဗာဒတ်နှင့်သက်ဆိုင်ရာအပိုင်း၊ အဒဗ်ခေါ် အကျင့်ဝေလ့များနှင့်သက်ဆိုင်ရာအပိုင်း၊ မုဟ်လိကာတ် ခေါ် လူသားကို ပျက်စီးဆုံးရှုံးစေမည့်အရာများနှင့်သက်ဆိုင်ရာအပိုင်း၊ မွန်ဂျိယာတ် ခေါ် လူသားကို လွတ်မြောက်အောင်မြင်စေမည့်အရာများနှင့်သက်ဆိုင်ရာအပိုင်း-ဟူ၍ ဖြစ်သည်။ ကျွန်ုပ်သည် အားလုံးထက်အလျင် ပညာနှင့်သက်ဆိုင်ရာအခန်းကဏ္ဍကို ဖေါ်ပြပါသည်။ အကြောင်းမှာ ပညာသည် အလွန်အမင်း အရေးကြီးလှသောကြောင့်ဖြစ်သည်။

တမန်တော်မြတ်ကြီးﷺက- طلب العلم فريضة على كل مسلم 'ပညာရှာဖွေခြင်းသည် မွတ်စလင်မ်တိုင်းအပေါ်မှာ ဖရာဇ်ဖြစ်သည်'ဟု မိန့်ဆိုထားသည်။ ထို့ပြင် တမန်တော်မြတ်ﷺက نعوذ بالله من علم لا ينفع 'အကျိုး

မပြုသောပညာမှ ကင်းရန် အလ္လာဟ်ခိုလှုံပါ၏'ဟု တောင်းဆိုခဲ့သည်။ သို့ဖြစ်ရာ ပညာ၏အခန်းကဏ္ဍတွင် ကောင်းကျိုးပြုသောပညာနှင့် ဆိုးကျိုးပြုသောပညာကို ခွဲခြားဖော်ပြသွားမည်ဖြစ်သည်။

ဤခေတ်တွင် လူတို့သည် မှန်ကန်သောလမ်းကြောင်းပေါ်မှ တိမ်းချော်လျက်ရှိသည်။ ၎င်းတို့သည် တံလျှပ်၏အရိပ်အရောင်က ဖျားယောင်းလှည့်စားခြင်း ခံနေကြရသည်။ ထို့ပြင် လူတို့သည် ပညာရပ်များ၏အနှစ်အသားကို လိုက်စားရန်ထက် အပေါ်ယံအခွံအကာမျှဖြင့် တင်းတိမ်ရောင့်ရဲနေကြသည်။ ပညာနှင့်သက်ဆိုင်ရာကဏ္ဍတွင် ကျွန်ုပ်သည် ဤအချက်များကို ဆန်းစစ်သုံးသပ်မည်ဖြစ်သည်။

**အိဗာဒတ်၏အပိုင်း**တွင် ကဏ္ဍဆယ်ခုပါဝင်သည်။

ပညာကဏ္ဍ၊ အကီဒဟ်အခြေခံကဏ္ဍ၊ သန့်ရှင်းမှု၏အတွင်းရေးများကဏ္ဍ၊ နမာဇ်၏အတွင်းရေးများကဏ္ဍ၊ **ဇကာတ်၏အတွင်းရေးများကဏ္ဍ၊** ရိုဇာ၏အတွင်းရေးများကဏ္ဍ၊ ဟဂ်ျ၏အတွင်းရေးများကဏ္ဍ၊ ကုရ်အာန်တိလာဝပ်၏အဒဗ်များကဏ္ဍ၊ **စိတ်ရှိနှင့်ဒိုအာများကဏ္ဍ၊** အချိန်အလိုက် တသရသော ဝဇီဖဟ်များကဏ္ဍ–တို့ဖြစ်သည်။

**အဒဗ် ခေါ် အကျင့်ဝလေ့များ၏အပိုင်း**တွင် ကဏ္ဍဆယ်ခုပါဝင်သည်။

**စားသောက်ခြင်း၏အဒဗ်များကဏ္ဍ၊ နိကာဟ်၏အဒဗ်များကဏ္ဍ၊ စီးပွါးရှာဖွေမှု**ဆိုင်ရာအမိန့်ပညတ်များကဏ္ဍ၊ ဟလာလ်ဟရာမ်နှင့်သက်ဆိုင်ရာကဏ္ဍ၊ **လူပေါင်းစုံနှင့် ပေါင်းသင်းဆက်ဆံမှု၏**အဒဗ်များကဏ္ဍ၊ ဥပက္ခာပြုခြင်း၏အဒဗ်များကဏ္ဍ၊ ခရီးသွားခြင်း၏အဒဗ်များကဏ္ဍ၊ **စေမအ်နားဆင်ခြင်းနှင့်ဖရဏာပီတိဆိုက်ခြင်း**ကဏ္ဍ၊ မကောင်းမြစ်တာကောင်းရာညွှန်လတ်ခြင်းနှင့်သက်ဆိုင်ရာကဏ္ဍ၊ **သက်တမ်းရှင်နေခြင်း**၏အဒဗ်များနှင့် တမန်တော်မြတ်ﷺ၏ အကျင့်စာရိတ္တတော်များဆိုင်ရာကဏ္ဍ–တို့ဖြစ်သည်။

**မုဟ်လိကာတ်၏အပိုင်း**တွင် ကဏ္ဍဆယ်ခုပါဝင်သည်။

နှလုံးသား၏အံ့သြဖွယ်များအကြောင်းကဏ္ဍ၊ နဖ်စ်စိတ်ကို လေ့ကျင့်ခြင်းကဏ္ဍ၊ ဝမ်းဗိုက်၏ရမ္မက်**နှင့်အရက်**အင်္ဂါ၏ရမ္မက်ဟူသော ရမ္မက်ဆန္ဒနှစ်ခု၏ ဆိုးကျိုးဒုက္ခများကဏ္ဍ၊ နှုတ်လျှာ၏ဆိုးကျိုးဒုက္ခများကဏ္ဍ၊ **ဒေါသမုန်းတီးခြင်း**နှင့်မနာလိုခြင်း၏ဆိုးကျိုးဒုက္ခများကဏ္ဍ၊ ဒွန္နယာ၏မကောင်းကြောင်းကဏ္ဍ၊ ပစ္စည်းဥစ္စာနှင့်**စေးနဲတွန့်တိုမှု**၏မကောင်းကြောင်းကဏ္ဍ၊ ကြီးကျယ်လိုမှုနှင့်ပြစားမှု၏မကောင်းကြောင်းကဏ္ဍ၊ မာနနှင့်အထင်ကြီးမှု၏**မကောင်း**ကြောင်းကဏ္ဍ၊ မောက်မာပလွှားမှု၏မကောင်းကြောင်းကဏ္ဍ–တို့ဖြစ်သည်။

**မွန်ဂျိယာတ်၏အပိုင်း**တွင် ကဏ္ဍဆယ်ခုပါဝင်သည်။

တောင်ဗာ၏ကဏ္ဍ၊ ဆွဘာရ်နှင့်ရှုကွရ်၏ကဏ္ဍ၊ အကြောက်နှင့်မျှော်လင့်မှု၏ကဏ္ဍ၊ ဆင်းရဲခြင်းနှင့်လောကီစွန့်ခြင်း၏ကဏ္ဍ၊ တောင်ဟီဒ်နှင့်တဝပ်ကွလ်၏ကဏ္ဍ၊ ချင်ခင်ခြင်း စွဲလန်းနှစ်သက်ခြင်း စိတ်ညွတ်နူးခြင်း ကြည်ဖြူကျေနပ်ခြင်း၏ကဏ္ဍ၊ နိယတ်ရည်စူးခြင်း သစ္စာရှိခြင်း စိတ်ဖြူစင်ခြင်း၏ကဏ္ဍ၊ မုရာကဘာ(စိတ်ကို ကွပ်ညှပ်ခြင်း)နှင့် မုဟာစဘာ(တွက်ဆစ်ခြင်း)၏ကဏ္ဍ၊ စဉ်းစားတွေးခေါ်ခြင်းကဏ္ဍ၊ သေခြင်းတရားကို ရှုမှတ်ခြင်းကဏ္ဍ–တို့ဖြစ်သည်။

**အိဗာဒတ်၏အပိုင်းကဏ္ဍများ**တွင် ကျွန်ုပ်သည် အိဗာဒတ်များတွင် ဖော်ပြပါရှိသည့်အဒဗ်များ၏ဖုံးကွယ်နေမှုများ၊ စွန္နတ်များ၏လေးနက်သိမ်မွေ့မှုများနှင့် အဓိပ္ပါယ်အလိုသဘောလျှို့ဝှက်ချက်များကို ဖော်ပြမည်ဖြစ်သည်။ **လက်တွေ့ကျင့်သုံးသူ** ပညာရှင်ပင် ထိုအဓိပ္ပါယ်အလိုသဘောများနှင့်ပတ်သက်လျှင် မရှင်းမလင်းဖြစ်ရတတ်သည်။ သို့သာမက ထိုအဓိပ္ပါယ်အလိုသဘောများကို မသိလျှင် အာခိရတ်ပညာရှင်မဖြစ်နိုင်ချေ။ များသောအားဖြင့် ဖိကဟ်ကျမ်းစာများက ဤအကြောင်းအရာကို လွှတ်ထားသည်။

**အကျင့်ဝလေ့များ၏အပိုင်း**တွင် ကျွန်ုပ်သည် လူသားတို့အတွင်း ကျင့်သုံးတည်မြဲနေသောလူမှုဆက်ဆံရေးများ၏ အတွင်းရေးလျှို့ဝှက်ချက်များကို ရေးသားဖော်ပြမည်။ ထို့ပြင် လူမှုဆက်ဆံရေးဆိုင်ရာစွန္နတ်နည်းလမ်းများ၏ လေးနက်သိမ်မွေ့မှုများကိုငင်း၊ ထိုနည်းလမ်းများကို ကျင့်သုံးရာတွင် ဖုံးကွယ်စွာရှိနေသော ရှောင်ကျဉ်မှုကိစ္စများကို ငင်း ဖော်ပြမည်ဖြစ်သည်။ ဤအရာများသည် ဘာသာရေးလေးစားသူများအတွက် မလွဲမသွေလိုအပ်သည့်အရာများ ဖြစ်သည်။

**မုဟ်လိကာတ်၏အပိုင်း**တွင် ကျွန်ုပ်သည် မကောင်းသော အကျင့်စာရိတ္တများ အားလုံးကို ဖော်ပြမည်ဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်တွင် ထိုအကျင့်စာရိတ္တများမှ ကင်းပြီး နဖ်စ်စိတ်နှင့်နှလုံးသားကို သန့်ပြန့်စင်ကြယ်စွာထားရှိရန် လာရှိသည်။ ကျွန်ုပ်သည် ထိုအကျင့်စာရိတ္တများအားလုံး၏အပိုင်းအခြားနှင့်အရင်းခံသဘောများကို တစ်ခုချင်းစီ ဖော်ပြမည်ဖြစ်သည်။ ထို့နောက် ထိုအကျင့်စာရိတ္တများ ဖြစ်ပေါ်စေသည့်အကြောင်းခံများကို ဖော်ပြမည်ဖြစ်သည်။ ထို့နောက် ထိုအကျင့်စာရိတ္တများကြောင့် ဆင့်ကဲဖြစ်ပေါ်ရသည့် ဆိုးကျိုးဒုက္ခများကို ဖော်ပြမည်ဖြစ်သည်။ ထို့နောက် ထိုအကျင့်စာရိတ္တများကို သိနိုင်သည့် အချင်းလက္ခဏာများနှင့် ထိုအကျင့်စာရိတ္တများမှ လွတ်ကင်းစေနိုင်ကုထုံးနည်းလမ်းများကို ဖော်ပြမည်ဖြစ်သည်။ ထိုဖော်ပြချက်အားလုံးနှင့်ဆက်တွဲ၍ သက်ဆိုင်ရာ အာယတ်များနှင့် ဟဒီစ်များ၊ ဆွဟာဗဟ်သြဝါဒများကိုလည်း အထောက်အထားအဖြစ် တင်ပြမည်ဖြစ်သည်။

**မွန်ဂျီယာတ်၏အပိုင်း**တွင် ကျွန်ုပ်သည် ကောင်းမွန်သော အကျင့်စာရိတ္တများနှင့်ဝလေ့စရိုက်များအားလုံးကို ဖော်ပြမည်ဖြစ်သည်။ ၎င်းတို့သည် မုကရ်ရဘီန် ခေါ် အလ္လာဟ်အရှင့်ထံ နီးကပ်မှုရသူများနှင့်ဆွစ်ဒီက်သစ္စာရှင်တို့၏အကျင့်စာရိတ္တများဖြစ်သည်။ ထိုသခင်တို့သည် ထိုအကျင့်စာရိတ္တများဖြင့် အလ္လာဟ်အရှင့်ထံ နီးကပ်မှုရခဲ့ကြခြင်းဖြစ်သည်။ ကျွန်ုပ်သည် ထိုအကျင့်စာရိတ္တများအားလုံး၏အပိုင်းအခြားနှင့်အရင်းခံသဘောများကို တစ်ခုချင်းစီ ဖော်ပြမည်ဖြစ်သည်။ ထို့ပြင် ထိုအကျင့်စာရိတ္တများမှ ဖြစ်ပေါ်ရရှိစေမည့် အကြောင်းခံများကို ဖော်ပြမည်ဖြစ်သည်။ ထို့ပြင် ထိုအကျင့်စာရိတ္တများမှ ရရှိမည့်အသီးအပွင့်အကျိုးရလဒ်များကို ဖော်ပြမည်ဖြစ်သည်။ ထို့နောက် ထိုအကျင့်စာရိတ္တများကို သိနိုင်သည့် အချင်းလက္ခဏာများကို ဖော်ပြမည်ဖြစ်သည်။ ထို့ပြင် ၎င်းတို့ကို ကျင့်မှုရန် စိတ်ထက်သန်လိုလားမှု ရှိစေမည့် ထိုအကျင့်စာရိတ္တများ၏ထွတ်မြတ်မှုများကို ဖော်ပြမည်ဖြစ်သည်။ ဤအကြောင်းအရာများ ဖော်ပြရာတွင် ရှရီအတ်တရားတော်လာ အထောက်အထားများနှင့် အသိဉာဏ်အထောက်အထားများကို ယှဉ်တွဲဖော်ပြမည်ဖြစ်သည်။

ဤအကြောင်းအရာများထဲမှ အချို့ကို ပုဂ္ဂိုလ်အသီးသီးတို့က ကျမ်းစာအုပ်များ ရေးသားပြုစုခဲ့ကြပေပြီ။ သို့သော် ဤအဲဟ်ယာအွလ်အိုလူမ်ကျမ်းနှင့် ထိုကျမ်းစာအုပ်များတွင် ကွာခြားချက် ငါးခုရှိသည်။

**ပထမ**– ၎င်းတို့က သခေ်ပအားဖြင့် ရေးခဲ့သည့်အကြောင်းအရာကို ကျွန်ုပ်က ခက်ဆစ်အဖြေပေးသည်။ ၎င်းတို့က အကျဉ်းချုံ့ရေးခဲ့သည့်အကြောင်းအရာကို ကျွန်ုပ်က အဖွင့်ရေးသည်။

**ဒုတိယ**– ၎င်းတို့က တစ်ကွဲတစ်ပြား ပြန့်နှံ့စွာရေးခဲ့သည်ကို ကျွန်ုပ်က စနစ်တကျ စီစဉ်ပေးသည်။

**တတိယ**– ၎င်းတို့က ရှည်ရှည်လျားလျား ရေးခဲ့သည်ကို ကျွန်ုပ်က အနှစ်ချုပ်၍ အချက်ထုတ်ပေးသည်။

**စတုတ္ထ**– ၎င်းတို့က ထပ်ပြန်တလဲ ရေးခဲ့သည်ကို ကျွန်ုပ်က ဖြုတ်ပယ်သည်။ ၎င်းတို့၏ဆိုလိုချက်ကို အတည်ပြုပြုပေးသည်။

**ပဉ္စမ**– နားလည်ရန် ခက်ခဲပြီး နက်နဲသောအကြောင်းအရာများကို ကျွန်ုပ်က သုံးသပ်ဆန်းစစ်ပြီး အမှန်ဖော်ထုတ်ပေးပေးသည်။ ဤအကြောင်းအရာများမှာမူ ၎င်းတို့၏စာအုပ်များတွင် လုံးဝမပါပါ။

မည်သို့ဆိုစေ အားလုံးတို့သည် လမ်းခရီးတစ်ခုတည်းကို လျှောက်လှမ်းသွားလာနေသူများဖြစ်သည်။ သို့နှင့် အမှု ထိုအထဲမှ တစ်ဦးတစ်ယောက်က သိထားသောကိစ္စကို အခြားတစ်ဦးက မသိဘဲနေမည်ဆိုလျှင်ငင်း၊ သို့မဟုတ် သိတော့သိသည်၊ သို့သော် ကျမ်းစာအုပ်များတွင် ဖော်ပြရန် မေ့လျော့ခဲ့မည်ဆိုလျှင်ငင်း၊ သို့မဟုတ် မေ့၍မဟုတ်ဘဲ အကြောင်းတစ်ခုခုကြောင့် ရေးသားဖော်ပြခြင်း မပြုခဲ့လျှင်ငင်း၊ ဤသည်မှာ အံ့သြစရာမဟုတ်ပါ။ အချုပ်ဆိုရသော် အထက်ပါအချက်ငါးချက်သည် ဤကျမ်း၏ထူးခြားချက်များဖြစ်ပြီး ဇဟိဒ္ဓနှင့်အဖ္ဖတ္တပညာရပ်များသည်လည်း ဤကျမ်းတွင် တစ်စုတစ်ဝေးတည်းပါဝင်နေပေသည်။

ဤကျမ်းကို အပိုင်းလေးပိုင်းခွဲရန် အကြောင်းအချက်နှစ်ခုက ကျွန်ုပ်ကို တိုက်တွန်းလှုံ့ဆော်ခဲ့ခြင်းဖြစ်သည်။

**ပထမအကြောင်း–** ဤအကြောင်းက အရင်းခံဖြစ်သည်။ သုံးသပ်ဆန်းစစ်ခြင်းနှင့်နားလည်သဘောပေါက်အောင် ရှင်းလင်းဖော်ပြရာတွင် ထိုအပိုင်းလေးပိုင်း၏အစီအစဉ်အတိုင်းဖြစ်ရန် အရေးကြီးသည်။ အဘယ်သို့ဆိုသော် အာခိရတ်ဘက်သို့ အလေးပေးသည့်ပညာသည် နှစ်မျိုးရှိသည်။ ထိုနှစ်မျိုးမှာ **မုအာမိလတ်**နှင့်သက်ဆိုင်ရာပညာငင်း **မုကာရှိဖတ်**နှင့်သက်ဆိုင်ရာပညာဟူ၍ ဖြစ်သည်။ မုကာရှိဖတ်ပညာဟုဆိုရာတွင် သိမှုများကို ဖွင့်ပြရှင်းလင်းသည့်ပညာကို ကျွန်ုပ်ရည်ရွယ်ပြောဆိုခြင်းဖြစ်သည်။ တဖန် မုအာမိလတ်ပညာဟု ဆိုရာတွင် သိမှုများကို ဖွင့်ပြရှင်းလင်းခြင်းနှင့်အတူ လက်တွေ့ကျင့်သုံးရန်လည်း ဖော်ပြပါရှိသည့် အသိပညာကို ကျွန်ုပ်ရည်ရွယ်ပြောဆိုခြင်းဖြစ်သည်။ ဤကျမ်း၏ဦးတည်ချက်သည် မုအာမိလတ်ပညာသာဖြစ်ပြီး မုကာရှိဖတ်ပညာ မဟုတ်ပေ။ မုကာရှိဖတ်ကို စာသင်သားများနှင့် သစ္စာရှင်တို့ အလွန်လိုလားမက်မောကြသော်လည်း စာအုပ်များတွင် ထည့်သွင်းဖော်ပြရန် အခွင့်မရှိပေ။ မုအာမိလတ်ပညာသည် ထိုမုကာရှိဖတ်ပညာကို ရှာဖွေသည့်လမ်းဖြစ်သည်။

သို့ရာတွင် နဗီတမန်တော်များ ﷺ သည် လူတို့အား မုအာမိလာတ်ပညာကိုသာ ပြောဆိုညွှန်ပြခဲ့ကြသည်။ မုကာရှိဖတ်ပညာနှင့်ပတ်သက်၍ မပြောဆိုခဲ့ကြပါ။ ပြောဆိုလျှင်လည်း အရိပ်အမြွက်လောက်သာ သင်္ကေတဖြင့် ပုံဆောင်၍ငင်း သခေ်ပအားဖြင့် အကျဉ်းရုံး၍ငင်း ဖော်ပြပြောဆိုခဲ့ကြသည်။ ထိုသခင်တို့သည် ဤပညာရပ်ကို လူတို့နားလည်သဘောပေါက်နိုင်စွမ်း မရှိနိုင်ကြောင်း သိကြသည်။ အိုလမာပညာရှင်ဆိုသည်မှာ နဗီတမန်တော်များ ﷺ ၏အမွေစားအမွေခံပုဂ္ဂိုလ်များဖြစ်ကြသည်။ သို့ဖြစ်ရာ ပညာရှင်တို့အဖို့ နဗီများ၏လမ်းကို မလိုက်ဘဲ ရှောင်လွှဲရန် အခွင့်မရှိပါ။

တဖန် မုအာမိလတ်ပညာကို ဇဟိဒ္ဓပညာနှင့်အဖ္ဖတ္တပညာဟူ၍ နှစ်မျိုးခွဲခြားထားသေးသည်။ ဇဟိဒ္ဓပညာဆိုသည်မှာ ကိုယ်ကာယဖြင့် ကျင့်ဆောင်ရသောပညာဖြစ်သည်။ အဖ္ဖတ္တပညာဆိုသည်မှာ နှလုံးသားဖြင့် ကျင့်ဆောင်ရသောပညာဖြစ်သည်။ ကိုယ်ကာယဖြင့် ကျင့်ဆောင်ခြင်းသည် အဒဗ်ခေါ် အကျင့်ဓလေ့အဖြစ် ကျင့်ဆောင်ခြင်းနှင့် အိဗာဒတ်အဖြစ် ကျင့်ဆောင်ခြင်းဟူ၍ ကွဲပြားသည်။ အဖ္ဖတ္တပညာ၏သက်ဆိုင်ရာသည် နှလုံးသား၏အခြေအနေနှင့် နဖ်စ်စိတ်၏အကျင့်စာရိတ္တဖြစ်သည်။ ယင်းကိုလည်း ကောင်းသောအကျင့်စာရနှင့် မကောင်းသောအကျင့်စာရဟူ၍ နှစ်မျိုးခွဲခြားထားသည်။ သို့ဖြစ်ရာ ပညာရပ်သည် စုစုပေါင်း လေးမျိုးလေးစားရှိသည်။ မုအာမိလတ်ပညာတွင် ဤလေးမျိုးကလွဲ၍ အခြားမရှိပါ။

**ဒုတိယအကြောင်းခံ** – ပညာရှာသူတို့သည် ဖိကဟ်ပညာကို အမှန်တကယ်လိုလားကြကြောင်း ကျွန်ုပ်တွေ့ရှိနေရသည်။ အလ္လာဟ်အရှင်ကို အကြောက်မရှိသူအတွက် ထိုပညာသည် ဂုဏ်ပကာသနရရှိရန် အထောက်အကူသာဖြစ်နိုင်သည်။ ထို့ပြင် ၎င်းအဖို့ ထိုပညာသည် ကြီးကျယ်ကျော်ကြားလိုမှုနှင့် အဆင့်အတန်းတိုးတက်လိုမှုများသာ အားဆောင်တက်ကြွလာနိုင်သည်။

ထိုဖိကဟ်ပညာသည် အပိုင်းကြီးလေးပိုင်းဖြင့် စုပေါင်းထားခြင်းဖြစ်သည်။ အကြောင်းအရာတစ်ခုကို လူတို့ကြိုက်နှစ်သက်သည့်ပုံသဏ္ဍာန်ဖြင့် ဖော်ပြလျှင် ထိုအကြောင်းအရာကိုလည်း လူတို့ကြိုက်နှစ်သက်ကြမြဲဖြစ်သည်။ သို့ဖြစ်ရာ ကျွန်ုပ်သည် ဤကျမ်းကို ဖိကဟ်ကျမ်းစာများ၏စီစဉ်ပုံအတိုင်း စီစဉ်ထားပါသည်။ စိတ်နှလုံးများကို ဆွဲဆောင်သိမ်းသွင်းနိုင်ရန်ဖြစ်ပါသည်။ အချို့ပုဂ္ဂိုလ်တို့က အုပ်ချုပ်ရေးမှူးများ၏စိတ်နှလုံးကို ဆွဲဆောင်သိမ်းသွင်းရန်အတွက် ဆေးပညာကို နက္ခတ်ပညာနှင့် ဆင်တူရိုးမှားဖြစ်အောင် လုပ်ကြသလိုမျိုးဖြစ်သည်။ ၎င်းတို့က မိမိတို့၏စာအုပ်တွင် နက္ခတ်ပညာတွင် အသုံးပြုသည့်ဇယားများ အမှတ်အသားများဖြင့် ဆေးပညာ၏အကြောင်းအရာများကို ဖော်ပြပြီး ကျန်းမာရေးရာသီခွင်ဟု အမည်ပေးလိုက်သည်။ နက္ခတ်ပညာတွင် စိတ်ဝင်စားမှုရှိကြသောအုပ်ချုပ်ရေးမှူးများအဖို့ မိမိတို့စိတ်ဝင်စားသောဘာသာရပ်နှင့် အသွင်သဏ္ဍာန်တူဆင်သောအကြောင်းအရာကို တွေ့မြင်ရသောအခါ လေ့လာလိုက်စားရန် စိတ်အားထက်သန်လာခဲ့ကြသည်။

စင်စစ်တွင် ဆေးပညာသည် ခန္ဓာကိုယ်၏ကျန်းမာမှုအတွက်သာ အကျိုးပြုသောပညာဖြစ်သည်။ တစ်နည်းဆိုရသော် လက်ရှိဘဝသက်တမ်းအတွက်သာ အကျိုးပြုသောပညာရပ်ဖြစ်သည်။ ယခုဤကျမ်းတွင် ရေးသားဖော်ပြမည့်ပညာရပ်သည် နှလုံးသားများနှင့်ရူဟ်ဝိဉာဉ်များကို ကုသသည့်ပညာရပ်ဖြစ်သည်။ တစ်နည်းဆိုသော် ဤပညာရပ်သည် အမြဲထာဝရသက်တမ်းအတွက် အကျိုးပြုသည့်ပညာရပ်ဖြစ်သည်။ တဖန် ခန္ဓာကိုယ်ဆိုသည်မှာ ပျက်စီးပျောက်ကွယ်မည့်အရာဖြစ်သည်။ သို့ဖြစ်ရာ ခန္ဓာကိုယ်ကို ကုသသည့်ပညာသည် နှလုံးသားနှင့်ရူဟ်ဝိဉာဉ်ကို ကုသသည့်ပညာကို အဘယ်မှာ ယှဉ်နိုင်ပါမည်နည်း။

*ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံမှ တရားလမ်းမှန် ညွှန်ပြမှုကို တောင်းခံကြပါသည်။*
*ထိုအရှင်မြတ်သည် ရက်ရောကြင်နာတော်မူသောအရှင်ဖြစ်တော်မူပါသတည်း။*



အခန်းတစ်

# ပညာနှင့်ပညာသင်ပေးခြင်း၏ထွတ်မြတ်မှု
# နှင့်
# ယင်း၏အာဂမယုတ္တိနှင့်သဘာဝယုတ္တိများ

## ပညာ၏ထွတ်မြတ်မှု

ကျမ်းမြတ်ကုရ်အာန်တွင် ပညာ၏ထွတ်မြတ်မှုအကြောင်း အထောက်အထားသာဓကများ ဖေါ်ပြပါရှိလေသည်။ အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်မှာ–

﴿شَهِدَاللّٰهُ اَنَّهُ لَااِلٰهَ اِلَّا هُوَ وَالْمَلَائِكَةُ وَاُولُو الْعِلْمِ قَائِمًا بِالْقِسْطِ﴾

**'အလ္လာဟ်မှတပါး ကိုးကွယ်ခြင်းခံထိုက်သူ မရှိကြောင်း အလ္လာဟ်အရှင်ကိုယ်တော်တိုင် သက်သေခံတော်မူသည်။ ထို့နောက် ကောင်းကင်တမန်များနှင့်ပညာရှင်များက သက်သေခံကြသည်။ ထို့ပြင် ထိုအရှင်သည်ပင် တရားမျှတစွာ အုပ်ချုပ်တော်မူသောအရှင်ဖြစ်သည်။'** (စူရာအာလေ့အင်မ်ရာန် ၊ ၁၈)

ကြည့်ပါလေ။ အလ္လာဟ်အရှင်က သက်သေခံမှုကို မိမိကိုယ်တိုင်ဖြင့် စတင်တော်မူသည်။ ထို့နောက် ကောင်းကင်တမန်များကို ဒုတိယထားတော်မူသည်။ ထို့နောက် ပညာရှင်များကို တတိယအဆင့်မှာ ထားတော်မူသည်။ ဤနည်းအားဖြင့် ဓမ္မပညာရှင်များ၏မြင့်မြတ်မှု သာပိုကြီးမြင့်မှုနှင့် ဂုဏ်သရေတင့်မှုများကို ထူးထူးခြားခြား ဖေါ်ထုတ်တော်မူသည်။ တဖန် အရှင်မြတ်က–

﴿يَرْفَعِ اللّٰهُ الَّذِيْنَ اٰمَنُوْا مِنْكُمْ وَالَّذِيْنَ اُوْتُوا الْعِلْمَ دَرَجَاتٍ﴾

**'အလ္လာဟ်အရှင်သည် အသင်တို့အနက် အီမာန်ယူကြသူများနှင့် ပညာရပ်များမြင့်ခံရသူများအား အဆင့်အတန်းများ တိုးမြှင့်ပေးတော်မူပေသည်။'** (စူရာမုဂျာဒလာ ၊ ၁၁)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿قُلْ هَلْ يَسْتَوِى الَّذِيْنَ يَعْلَمُوْنَ وَالَّذِيْنَ لَا يَعْلَمُوْنَ﴾

**'ပြောလော့။ အသိရှိသူများနှင့် အသိမရှိသူများသည် တူညီနိုင်ပါသလော။'** (စူရာဇုမရ် ၊ ၉)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿اِنَّمَا يَخْشَى اللّٰهَ مِنْ عِبَادِهِ الْعُلَمَاءُ﴾

**'အလ္လာဟ်အရှင်၏ ကျေးကျွန်များအနက် အရှင့်ကို ကြောက်ရွံ့ခန့်ငြားသူများသည်ကား ဓမ္မပညာရှင်များပင်ဖြစ်၏။'** (စူရာဖွါတွေရ် ၊ ၂၈)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿قُلْ كَفَى بِاللهِ شَهِيْدًا بَيْنِي وَبَيْنَكُمْ وَمَنْ عِنْدَهُ عِلْمُ الْكِتَابِ﴾

**'ပြောလော့။ ငါတမန်တော်နှင့် အသင်တို့အကြားတွင် သက်သေခံသူအဖြစ် အလ္လာဟ်အရှင်သည်၎င်း၊ ကျမ်းဂန်တတ်သိသူများသည်၎င်း လုံလောက်ပြီဖြစ်သည်။'** (စူရာရအဒ် ၊ ၄၃)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿قَالَ الَّذِي عِنْدَهُ عِلْمُ الْكِتَابِ اَنَا اٰتِيكَ بِهِ﴾

**'ကျမ်းဂန်၏အသိပညာရှိသူက 'ကျွန်တော်မျိုးသည် ဤအရာကို ကိုယ်တော့်ထံ ယူဆောင်ခဲ့ပါ၏'ဟု ပြောဆိုခဲ့သည်။'** (စူရာနမ်လ် ၊ ၄၀)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَقَالَ الَّذِيْنَ أُوْتُوا الْعِلْمَ وَيْلَكُمْ ثَوَابُ اللهِ خَيْرٌ لِمَنْ آمَنَ وَعَمِلَ صَالِحًا﴾

**'ပညာရှိုးမြင့်ခံရသူများက ပြောဆိုသည်မှာ 'အသင်တို့အဖို့ ပျက်စီးမှုပင်။ အီမာန်ယူသူနှင့် ကောင်းမှုပြုကျင့်သူအတွက် အလ္လာဟ်အရှင်၏ စွဝါဗ်ကသာ အကောင်းဆုံးဖြစ်ပေသည်'။** (စူရာကဆွာဆ် ၊ ၈၀)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَتِلْكَ الْاَمْثَالُ نَضْرِبُهَا لِلنَّاسِ وَمَا يَعْقِلُهَا اِلَّا الْعَالِمُوْنَ﴾

**'ထို့ပြင် ငါအရှင်သည် ထိုဥဒါဟရဏ်များကို လူတို့အတွက် နိုင်းနှိုင်း ပြဆိုတော်မူသည်။ သို့နှင့်ပင် ပညာရှိသူများကသာ ထိုဥဒါဟရဏ်များကို နားလည်ကြသည်။'** (စူရာအန်ကဘူတ် ၊ ၄၃)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَلَوْ رَدُّوْهُ الرَّسُوْلَ وَاِلَى اُوْلِى الْاَمْرِ مِنْهُمْ لَعَلِمَهُ الَّذِيْنَ يَسْتَنْبِطُوْنَهُ مِنْهُمْ﴾

**'အကယ်၍ ၎င်းတို့သည် ထိုအရေးကိစ္စကို တမန်တော်မြတ်ထံသို့၎င်း၊ အရေးပိုင်ပုဂ္ဂိုလ်များထံသို့၎င်း တင်ပြကြမည်ဆိုလျှင် ထိုသူတို့အနက်မှ စေ့ငုဆင်ခြင်သူတို့သည် ထိုအရေးကိစ္စ၏ အရင်းခံသဘောကို မုချ သိကြလိမ့်မည်။** (စူရာနေစာ ၊ ၈၃)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿ يَا بَنِى آدَمَ قَدْ اَنْزَلْنَا عَلَيْكُمْ لِبَاسًا يُوَارِى سَوْاٰتِكُمْ وَرِيْشًا وَلِبَاسُ التَّقْوٰى﴾

**'အို အာဒမ်၏သားမြေးတို့၊ ငါအရှင်သည် အသင်တို့၏ အရှက်ကို ဖုံးအုပ်ရန် ကိုယ်ဝတ်ကို၎င်း၊ တင့်တယ်ဆင်ယင်မှုကို၎င်း၊ တက္ကဝါကိုယ်ဝတ်ကို၎င်း ဖန်ဆင်းပေးတော်မူခဲ့၏ ။'** (စူရာအအ်ရာဖ် ၊ ၂၆)

ဤအာယတ်မှ **'ကိုယ်ဝတ်'**သည် ပညာကို ဆိုလိုသည်။ **'တင့်တယ်ဆင်ယင်မှု'**သည် ယကီန်ကို ဆိုလိုသည်။ **'တက္ကဝါထိုင်ဝတ်'**သည် ဟီရိသြတ္တပ္ပတရားကို ဆိုလိုသည်။ တဖန် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ –

﴿وَلَقَدْ جِئْنَاهُمْ بِكِتَابٍ فَصَّلْنَاهُ عَلَى عِلْمٍ﴾

**'ထို့ပြင် ငါအရှင်သည် ၎င်းတို့ထံသို့ ကျမ်းတော်ကို ဆောင်ကြဉ်းပေးတော်မူခဲ့သည်။ ထိုကျမ်းတော်တွင် ငါအရှင်သည် အသိပညာနှင့်စပ်လျဉ်း၍ အသေးစိတ်လင်းပြတော်မူထားသည်။** (စူရာအအ်ရာဖ် ၊ ၅၂)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿فَلَنَقُصَّنَّ عَلَيْهِمْ بِعِلْمٍ﴾

**'သို့နှင့် ငါအရှင်သည် အသိတော်ဖြင့် ၎င်းတို့အား ဖြစ်ကြောင်းကုန်စင် မိန့်ကြားတော်မူအံ့။'**

(စူရာအအ်ရာဖ်၊ ၇)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿بَلْ هُوَ اٰيَاتٌ بَيِّنَاتٌ فِىْ صُدُوْرِ الَّذِيْنَ اُوْتُوا الْعِلْمَ﴾

**'ထိုသို့မဟုတ်တကား။ အမှန်သော် ဤကျမ်းတော်သည် အသိပညာရှိးမြှင့်ခံရသူတို့၏ ရင်များထဲတွင် ရှင်းလင်းလှသည့် အာယတ်လက္ခဏာများပင်ဖြစ်သည်။'** (စူရာအန်ကဘူတ် ၊ ၄၉)

**အာယတ်တော်များကို ပြဆိုပြီးနောက် ပညာ၏ထွတ်မြတ်မှုနှင့်သက်ဆိုင်ရာတမန်တော်မြတ်ﷺ၏မိန့်ဆိုမှုများကို ဖေါ်ပြမည်။**

တမန်တော်မြတ်မိန့်ﷺဆိုသည်မှာ–

من يرد الله به خيراً يفقهه فى الدين ويلهمه رشده . (ခ.မ)

'အလ္လာဟ်အရှင်က တစ်စုံတစ်ဦးကို ကောင်းစားစေလိုလျှင် ထိုသူ့ကို သာသနာသိနားလည်မှု ချီးမြှင့်တော်မူသည်။ ထို့ပြင် ထိုသူ့ကို အသိပေးတော်မူသည်။ ထို့ပြင် လမ်းမှန် ညွှန်ပြတော်မူသည်။'

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–(ဒ.တ.ဣ.ဟဗ) العلماء ورثة الأنبياء.

'ဓမ္မပညာရှင်များသည်ကား **နဗီတမန်တော်များ၏** အမွေစားအမွေခံပုဂ္ဂိုလ်များဖြစ်ကြသည်။'

နဗူဝပ်ခေါ် တမန်တော်ဖြစ်ရခြင်းထက် မြင့်မားသောအဆင့်အတန်း မရှိကြောင်း ထင်ရှားနေပေသည်။ သို့နှင့်အမျှ ထိုအဆင့်အတန်း၏ အမွေစားအမွေခံဖြစ်ရခြင်းထက် မြင့်မြတ်သောအဆင့်အတန်းသည်လည်း မရှိနိုင်တော့ပေ။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

يستغفر للعالم ما فى السموات و الأرض . (ဒ.တ)

'ဓမ္မပညာရှင်အတွက် မိုး**ကောင်းကင်**နှင့်ကမ္ဘာမြေရှိ အရာအားလုံးက ချမ်းသာဆုပန်ပေးကြသည်။'

မိုးနှင့်မြေတွင်ရှိနေသော ကောင်းကင်တမန်များက မဂ်ဖိရတ် ချမ်းသာဆုပန်ပေးခြင်းခံရသူထက် ပိုပြီး မြင့်မြတ်သောဌာနန္တရဟူ၍ ရှိပါသေးသလား။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن الحكمة تزيد الشريف شرفاً وترفع المملوك حتى يدرك مدارك الملوك . (နဲ.ဗ)

'ဟိက်မတ်ဉာဏ်ပညာသည် အမျိုးမြတ်သူကို မြင့်မြတ်မှုပိုစေသည်။ ထို့ပြင် ကျေးကျွန်ကို ဘုရင်၏ အရိုက်အရာသို့ရောက်အောင် မြှင့်တင်ပေးသည်။'

ဤမိန့်ခွန်းတော်၌ တမန်တော်မြတ်ﷺက ဉာဏ်ပညာရှိသည့်အတွက် ဒွန္နယာတွင် ရရှိမည့်**အသီးအပွင့်**များကို ဖေါ်ပြထားသည်။ သို့ဖြစ်ရာ အာခိရတ်တွင် ရရှိမည့် အသီးအပွင့်များက ပို၍ကောင်းကာ အမြဲတည်ရှိမည့်အကြောင်း သိသာထင်ရှားပေသည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

خصلتان لا يكونان فى منافق : حسن سمت و فقه فى الدين . (တ)

'အကျင့်စာရိတ္တနှစ်ခုသည် ဘာသာရေးအရေခြုံသမားတို့ထံတွင် မရှိချေ။ ယင်းနှစ်ခုမှာ ကောင်းမြတ်သော တူရူပြု ဦးတည်ရာလမ်းနှင့် သာသနာရေးတတ်သိနားလည်မှုဖြစ်သည်။'

**စာရှုသူ**သည် မျက်မှောက်ခေတ်ဖိကဟ်**ပညာရှင်အချို့**၏ အရေခြုံလုပ်ရပ်များကို ကြည့်ပြီး ဤဟဒီစ်ကို သံသယမဖြစ်သင့်ပေ။ ဟဒီစ်တွင် တမန်တော်မြတ်ﷺက 'فقه –ဖိက်ဟ်'(သာသနာ့သိနားလည်မှု)ဟု သုံးနှုန်းထားရာမှာ အသင်သိ

ထားသော ဖိကဟ်ပညာကို **ဆိုခြင်းမဟုတ်ပေ**။ ဖိကဟ်၏အဓိပ္ပါယ်ဖွင့်ဆိုချက်ကို နောက်ပိုင်းတွင် ဖော်ပြမည်။ ယခု မှတ်ထားရမည်မှာ ဖိကဟ်ပညာရှင်တို့၏အဆင့်အတန်းများတွင် အနိမ့်ဆုံးအဆင့်သည် အာခိရတ်ကို ဒွန္နယာထက် ပို၍ ကောင်းမွန်သည်ဟု သိနားလည်ခြင်းဖြစ်သည်။ ဖိကဟ်ပညာရှင်တစ်ဦးတွင် ဤအသိတရား အမှန်တကယ်ရှိပြီး သူ့ကို လွှမ်းမိုးနေမည်ဆိုလျှင် ထိုဖိကဟ်ပညာရှင်သည် အရေခြုံစိတ်ထားနှင့်ပြစ်မှုမှ လွတ်ကင်းမည်ဖြစ်သည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

افضل الناس المؤمن العالم الذي إن احتيج إليه نفع وإن استغنى عنه اغنى نفسه . (شعب)

'လူသားတို့တွင် အမြင့်မြတ်ဆုံးသည် အီမာန်ရှင်ပညာရှိဖြစ်သည်။ လူတို့က သူ့ထံ၌ လိုအပ်ချက်ရှိလျှင် သူက အကျိုးပြုပေးသည်။ အကယ်၍ သူ့ကို မည်သူကမှ ဂရုတစိုက်မရှိလျှင် သူကလည်း မည်သူ့ကိုမျှ ဂရုမစိုက်ဘဲနေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الإيمان عريان ولباسه التقوى وزينته الحياء وثمرته العلم. (مس)

'အီမာန်သည် လုံးတီးဗလာဖြစ်သည်။ ယင်း၏အဝတ်**တန်ဆာသည်** တက်ကွာဝါဖြစ်သည်။ ယင်း၏တင့်တယ်မှုသည် အရှက်အိန္ဒြေဖြစ်၏။ ယင်း၏အသီးအပွင့်**သည် ပညာ**ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

أقرب الناس من درجة النبوة اهل العلم والجهاد أما اهل العلم فدلوا الناس على ما جاءت به الرسل ، وأما اهل الجهاد فجاهدوا بأسيافهم على ما جاءت به الرسل . (نع)

'လူသားတို့တွင် တမန်တော်၏**အဆင့်**အတန်းနှင့် အနီးကပ်ဆုံးသည် ပညာရှင်များငှင်း၊ ဂျိဟာဒ်ဆင်နွှဲသူများဖြစ်သည်။ ပညာရှင်များသည် တမန်တော်များ ယူဆောင်လာခဲ့သည့်အရာကို လူတို့ထံ သင်ပြပို့ချသဖြင့် **နီးကပ်ခြင်းဖြစ်သည်။ ဂျိဟာဒ်ဆင်နွှဲသူများ**ကမူ တမန်တော်များ ယူဆောင်လာခဲ့သည့်အရာအပေါ် **မိမိတို့၏ဓါးလွယ်များဖြင့် ကြိုးပမ်းကြ၍** နီးကပ်ခြင်းဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

لموت قبيلة أيسر من موت عالم . (ط)

'ပညာရှင်တစ်ပါးသေဆုံးခြင်းထက် လူမျိုးနွယ်တစ်ခု သေဆုံးသွားခြင်းက ပေါ့ပါးသက်သာသေး၏။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

الناس معادن كمعادن الذهب والفضة ، فخيارهم فى الجاهلية خيارهم فى الإسلام إذا فقهوا . (خ.م)

'လူသားဟူသည် ရွှေသိုက်ငွေသိုက်ကဲ့သို့ ရတနာသိုက်များဖြစ်သည်။ အမိုက်ခေတ်မှာ ကောင်းမွန်ခဲ့သူများသည် အစ္စလာမ် လက်ခံပြီးနောက်မှာလည်း သာသနာ့သိနားလည်မှု ရှိကြမည်ဆိုလျှင် ကောင်းမွန်သူများပင်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

يوزن يوم القيامة مداد العلماء بدم الشهداء . (بر)

'ကိယာမတ်နေ့တွင် ပညာရှင်များ၏မင်ရည်ကို ရှဟီဒ်များ၏သွေးဖြင့် ချိန်စက်မည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من حفظ على أمتى أربعين حديثًا من السّنة حتى يؤديها إليهم كنت له شفيعا وشهيدًا يوم القيمة .

(بر)

'အကြင်သူသည် ငါ၏အွမ္မတ်တွင် ငါ၏စွန္နတ်အနက်မှ ဟဒီစ်လေးဆယ်ကို မှတ်သားထိမ်းသိမ်းပေး ခဲ့လျှင် ကိယာမတ်နေ့တွင် ငါသည် သူ့အတွက် ရှဖာအတ်ပြုသူနှင့် သက်သေခံသူဖြစ်မည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من حمل من أمتى أربعين حديثًا لقى الله عز وجل يوم القيامة فقيهًا عالمًا . (بر)

'ငါ၏အွမ္မတ်မှ တစ်စုံတစ်ဦးသည် ဟဒီစ်လေးဆယ်ကို မှတ်သားထိန်းသိမ်းခဲ့လျှင် အလ္လာဟ်အရှင် သည် ကိယာမတ်နေ့၌ ထိုသူ့ကို ဖိကဟ်ရှင်နှင့် ပညာရှင်တစ်ပါးအဖြစ် တွေ့ဆုံတော်မူမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

من تفقّه فى دين الله عز وجل كفاه الله تعالى ما أهمه ورزقه من حيث لا يحتسب .

(رواه الخطيب في التاريخ)

'အလ္လာဟ်အရှင့်သာသနာကို သိနားလည်အောင်ဆည်းပူးသူအား အလ္လာဟ်အရှင်က ထိုသူ သောက ဖြစ်နေသည့်အရာများအတွက် တာဝန်ယူတော်မူမည်။ ထို့ပြင် ထိုသူ မမျှော်မှန်းသည့်ဘက်မှ သူ့ကို ချီးမြှင့် ပေးကမ်းတော်မူမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

أوحى الله عزوجل إلى إبراهيم ﷺ : يا إبراهيم إني عليم أحب كل عليم . (بر)

'အလ္လာဟ်အရှင်က အီဗ်ရာဟီမ်ﷺသခင်အား မိန့်မြွက်သည်မှာ– 'ငါအရှင်သည် ပညာအပေါင်း နှင့်ပြည့်စုံတော်မူသောအရှင်ဖြစ်သည်။ ပညာရှိသူအားလုံးကို ငါအရှင် ချစ်ကြည်မြတ်နိုးတော်မူသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

العالم أمين الله سبحانه فى الأرض . (بر)

'ပညာရှင်သည် ကမ္ဘာမြေပေါ်ရှိ အလ္လာဟ်အရှင်၏သစ္စာခံများဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

صنفان من أمتى إذا صلحوا صلح الناس وأذا فسدوا فسدالناس : الأمراء والفقهاء . (بر)

'ငါ့အွမ္မတ်တွင် လူနှစ်စားရှိသည်။ ၎င်းတို့ကောင်းမွန်လျှင် လူအများ ကောင်းမွန်ကြသည်။ ၎င်းတို့ ပျက်စီးလျှင် လူအများ ပျက်စီးကြသည်။ ၎င်းလူနှစ်စားမှာ အုပ်ချုပ်ရေးမှူးများနှင့် ဖိကဟ်ပညာရှင်များဖြစ် သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

إذا أتى عليّ يوم لا أزداد فيه علمًا يقرّبني إلى الله عزوجل فلا بورك لي فى طلوع شمس ذلك اليوم . (طس)

'ငါ့ထံ ဆိုက်ရောက်လာသော နေ့တစ်နေ့တွင် ငါ့အား အလ္လာဟ်ဘက်သို့ နီးကပ်အောင်ပြုပေးမည့် အသိတစ်ခု တိုးပွါးခြင်းမရှိခဲ့လျှင် ထိုနေ့၏နေထွက်ခြင်းသည် ငါ့အဖို့ ဘရ်ကတ်မင်္ဂလာမရှိပေ။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

فضل العالم على العابد كفضلي على أدنى رجل من أصحابى . (ت)

'ပညာရှင်က အာဗိဒ်တရားကျင့်သူထက် သာမြတ်ခြင်းသည် ငါ၏ဆွဟာဗာများတွင် အနိမ့်ဆုံးသူ ထက် ငါကိုယ်တော်က သာမြတ်သကဲ့သို့ဖြစ်သည်။'

ကြည့်ပါလေ။ တမန်တော်မြတ်ﷺက ပညာကို နဗူဝပ်၏အဆင့်နှင့် နီးကပ်စွာဖေါ်ပြထားသည်။ ပညာမရှိဘဲ ကျင့်သုံးမှုသက်သက်၏အဆင့်ကို မည်မျှနိမ့်ကျစွာ ဖေါ်ပြထားသလဲ။ ထိုသို့ရှိသည့်တိုင် အိဗာဒတ်ပြုသူသည် မိမိစွဲမြဲကျင့်သုံးမည့် အိဗာဒတ်နှင့်သက်ဆိုင်ရာ အသိပညာကတော့ ရှိထားမည်သာဖြစ်သည်။ ထိုသို့မှ ရှိမထားလျှင် သူ၏အိဗာဒတ်သည် အိဗာဒတ်မဖြစ်နိုင်ပေ။ တဖန် တမန်တော်မြတ်ﷺ မိန့်ဆိုထားသည်မှာ–

فَضْلُ العالم على العابد كفضل القمر ليلة البدر على سائر الكواكب . (ت)

'ပညာရှင်က တရားကျင့်သူထက် သာမြတ်ပုံမှာ လပြည့်ညတွင် လမင်းက အခြားကြယ်နက္ခတ်အားလုံးထက် သာမြတ်သကဲ့သို့ဖြစ်သည်။'

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

يشفع يوم القيامة ثلاثة : الأنبياء ثم العلماء ثم الشهداء . (ق)

'ကိယာမတ်နေ့တွင် သုံးဦးသောပုဂ္ဂိုလ်တို့၏အသနားခံပေးမှုကို လက်ခံတော်မူမည်။ ယင်းတို့မှာ နဗီတမန်တော်များ၊ ၎င်းနောက် ပညာရှင်များ၊ ၎င်းနောက် ရှဟီဒ်များ-ဖြစ်သည်။'

ပညာရှင်၏အဆင့်သည် မြင့်လှပါတကား။ ၎င်း၏အဆင့်သည် နဗူဝပ်၏နောက် နီးကပ်လျက်ရှိသည်။ မြင့်မြတ်လှပါသည်ဆိုသော ရှဟီဒ်၏အထက်မှာ ရှိသည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ခဲ့သည်မှာ–

ما عبدالله تعالى بشيء أفضل من فقه فى الدين ، و الفقيه و احد أشد على الشيطان من ألف عابد ، ولكل شيء عماد وعماد هذاالدين الفقه . (طس)

'အလ္လာဟ်အရှင်အား တစ်စုံတစ်ခုဖြင့် နာခံဆောက်တည်ရာ၌ ဖိကဟ် ခေါ် သာသနာသိနားလည်မှုထက် ပိုမြတ်သည့်အရာ မရှိပေ။ ဖိကဟ်ရှင်တစ်ဦးသည် ရှိုင်တွာန်အတွက် တရားကျင့်သူ အာဗိဒ်ပေါင်းတစ်ထောင်ထက် ပို၍ ခက်ခဲပေသည်။ အရာအားလုံးတွင် အခြေခံဒေါက်တိုင်များရှိသည်။ ဤသာသနာ၏အခြေခံဒေါက်တိုင်သည် ဖိကဟ်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

خير دينكم أيسره وخير العبادة الفقه . (بر)

'အသင်တို့၏သာသနာတွင် အကောင်းဆုံးသည် လွယ်ကူမှုအရှိဆုံးအရာဖြစ်သည်။ တဖန် အိဗာဒတ်တွင် အကောင်းဆုံးသည် ဖိကဟ် ခေါ် သာသနာသိနားလည်မှုဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

فضل المؤمن العالم على المؤمن العابد بسبعين درجة . (ابن عدي)

'အီမာန်ရှင်ပညာရှင်တစ်ဦးသည် အီမာန်ရှင်အာဗိဒ်တစ်ဦးထက် အဆင့်အတန်းခုနစ်ဆယ် သာမြတ်ပေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺက ဆွဟာဗဟ်များသို့ မိန့်မြွက်ခဲ့သည်မှာ–

إنكم أصبحتم في زمن كثير فقهاؤه قليل قراؤه وخطباؤه قليل سائلوه كثير معطوه ، العمل فيه خير من العلم . وسيأتي على الناس زمان قليل فقهاؤه كثير خطباؤه قليل معطوه كثير سائلوه و العلم فيه خير من العمل . (ط)

'အသင်တို့သည် ဤသို့သောခေတ်ကာလ၌ နေထိုင်ကြရသည်။ ဤခေတ်တွင် ဖိကဟ်တတ်ကျွမ်းသူ

များ များစွာရှိသည်။ ဟောပြောမိန့်ခွန်းသူက အနည်းငယ်သာရှိသည်။ ထို့ပြင် တောင်းရမ်းသူက နည်းပြီး ပေးကမ်းသူက များပြားသည်။ အသင်တို့၏ခေတ်တွင် တရားကျင့်ခြင်းသည် ပညာရှာဖွေခြင်းထက် ပို၍ ကောင်းမြတ်သည်။ ထို့နောက် များမကြာမီ ခေတ်ကာလတစ်ခု ရောက်ရှိလာလိမ့်မည်။ ထိုခေတ်တွင်ကား ဖိကပ်တတ်ကျွမ်းသူ အနည်းငယ်သာရှိပြီး ဟောပြောသူများက များပြားနေလိမ့်မည်။ ထို့ပြင် ပေးကမ်းသူ နည်းပြီး တောင်းရမ်းသူက များပြားလိမ့်မည်။ ထိုခေတ်တွင်ကား ပညာဆည်းပူးခြင်းသည် တရားကျင့်ခြင်း ထက်ပို၍ ကောင်းမြတ်ပေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

بين العالم و العابد مائة درجة بين كل درجتين حضر الجو ادالمضمر سبعين سنة .

(الأصفهاني في الترغيب و الترهيب)

'ပညာရှင်နှင့်တရားကျင့်သူ အကြားတွင် အဆင့်အတန်းပေါင်းတစ်ရာ ကွာခြားသည်။ အဆင့်အတန်း တစ်ခုနှင့်တစ်ခုအကြား အကွာအဝေးမှာ ဒုံးမြင်းတစ်ကောင် နှစ်ပေါင်းတစ်ရာ နှင်သည့် ခရီးဖြစ်သည်။'

ထို့ပြင် တစ်ကြိမ်တွင် တမန်တော်မြတ်ﷺအား တစ်စုံတစ်ဦးက–

وقيل ، يارسول الله : أي الأعمال أفضل ؟ فقال ((العلم بالله عز وجل)) بالله فقيل : أي العلم تريد ؟ قال ﷺ((العلم بالله سبهانه)) فقيل له : نسأل عن العمل و تجيب عن العلم! فقال ﷺ ((إن قليل العمل ينفع مع العلم بالله إن كثير العمل لا ينفع مع الجهل بالله)) . (بر)

'အို အလ္လာဟ့်တမန်တော်၊ မည်သည့်ကျင့်ဆောင်တည်မှုက **အမြတ်ဆုံးပါလဲ**'ဟု မေးမြန်းခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အလ္လာဟ်အရှင်မြတ်နှင့်သက်ဆိုင်ရာ **အသိပညာဖြစ်သည်**'ဟု ဖြေကြားခဲ့သည်။ ထိုအခါ မေးသူက 'ကိုယ်တော်က မည်သည့်အသိပညာကို ဆိုလိုပါသနည်း'ဟု မေးမြန်းခဲ့သည်။ တမန်တော်မြတ်ﷺ က 'အလ္လာဟ်အရှင်မြတ်ကို သိသော **အသိပညာဖြစ်သည်**'ဟု ဖြေကြားခဲ့သည်။ ထို အခါ မေးသူက တမန်တော်မြတ်အား 'ကျွန်တော်မျိုးတို့က ကျင့်သုံးမှုအကြောင်း မေးမြန်းကြသည်။ ကိုယ် တော်က အသိပညာအကြောင်း ဖြေသည်'ဟု တင်ပြခဲ့သည်။ **ထိုအခါ** တမန်တော်ﷺက'အလ္လာဟ်နှင့်သက် ဆိုင်ရာအသိပညာရှိမည်ဆိုလျှင် အနည်းငယ်မျှပင် ကျင့်သုံးသော်လည်း အကျိုးဖြစ်ထွန်းလိမ့်မည်။ တဖန် မြောက်မြားစွာ ကျင့်သုံးသော်လည်း အလ္လာဟ်နှင့်သက်ဆိုင်ရာအသိပညာမရှိလျှင် အကျိုးရှိမည်မဟုတ်ပေ' ဟု ဖြေကြားခဲ့သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ –

يبعث الله سبحانه العباد يوم القيامة ثم يبعث العلماء ثم يقول ((يامعشر العلماء ، إني لم أضع علمي فيكم إلا لعلمي بكم ولم أضع علمي فيكم لأعذبكم ، اذهبوا فقد غفرت لكم)) . (ط)

'ကိယာမတ်နေ့တွင် **အလ္လာဟ်အရှင်မြတ်က** အာဗိဒ်သူတော်ကောင်းများကို ရှင်ထစေမည်။ ထို့နောက် ဓမ္မပညာရှင်များကို **ရှင်ထစေမည်**။ ထို့နောက် မိန့်မြွက်တော်မူမည်မှာ–' အို ဓမ္မပညာရှင်အပေါင်းတို့။ ငါ **သည်** အသင်တို့ကို မသိဘဲနှင့် ငါ၏အသိပညာများကို အသင်တို့အား ပေးအပ်ခဲ့ခြင်းမဟုတ်ပေ။ ထို့ပြင် **အသင်တို့အား** အပြစ်ဒဏ်ခတ်ရန်အတွက် ငါ၏အသိပညာများကို အသင်တို့အား ပေးအပ်ခဲ့ခြင်းလည်း မဟုတ်ပေ။ သွားကြကုန်။ ငါသည် အသင်တို့အား ခွင့်လွှတ်လိုက်ပြီ။'

*ကျွန်ုပ်တို့သည်လည်း ဘဝနိဂုံးကောင်းမွန်ရန်အတွက် အလ္လာဟ်အရှင်မြတ်ထံ အသနားခံပါ၏။*

**တမန်တော်မြတ်ﷺ၏မိန့်ဆိုမှုများကို ဖေါ်ပြပြီးနောက် ဆွဟာဗဟ်သခင်များနှင့် တာဘိအီန်သခင်များ၏အဆို အမိန့်ဩဝါဒများကို တင်ပြပါအံ့။**

အလီအိဗ်နေ့အဘီတွာလိဗ်ؓသခင်က တပည့်ဖြစ်သူ ကုမိုင်လ်အား ပြောဆိုသည်မှာ– 'အိုကုမိုင်လ်၊ ပညာသည် ပစ္စည်းဥစ္စာထက်ပို၍ ကောင်းမွန်သည်။ ပညာက အသင့်ကို ထိမ်းသိမ်းစောင့်ရှောက်သည်။ ဥစ္စာပစ္စည်းကိုမူ အသင်က ထိမ်းသိမ်းစောင့်ရှောက်ရသည်။ တဖန် ပညာသည် စိုးမိုးချယ်လှယ်သူဖြစ်သည်။ ဥစ္စာပစ္စည်းကမူ စိုးမိုးချယ်လှယ်ခံရသည့်အရာဖြစ်သည်။ တဖန် ဥစ္စာပစ္စည်းသည် အသုံးပြုခြင်းဖြင့် လျော့နည်းသွားသည်။ ပညာမူကား အသုံးပြုခြင်းဖြင့် တိုးပွါးလာသည်။' ထို့ပြင် အလီؓသခင်ကပင် ဆိုမိန့်ခဲ့သည်မှာ 'ပညာရှင်တစ်ပါးသည် များစွာ ရိုဇာစောင့်သူ၊ ညထ၍ အိဗာဒတ်ပြုသူနှင့်မုဂျာဟိဒ်တို့ထက် သာမြတ်သည်။ ပညာရှင်တစ်ပါး ကွယ်လွန်သောအခါ အစ္စလာမ်တွင် ခံတပ်ပေါက်သလို ကျိုးပေါက်လစ်ဟာမှုတစ်ခုဖြစ်သွားသည်။ ထိုဟာကွက်ကို ထိုပညာရှင်၏နောက်လိုက်တပည့်က လွဲ၍ မည်သူမှ လုံအောင်ပိတ်ဆို့နိုင်မည်မဟုတ်ပေ။' ထို့ပြင် အလီؓသခင်ကပင် လင်္ကာတစ်ပုဒ်စပ်ဆိုသည်မှာ–

ما الفخرُ إلا لأهلِ العلم إنّهم      على الهدى لمن استهدى أدِلّاء
وقَدْرُ كلّ أمرىءٍ ما كان يحسنُه      والجاهلون لأهْل العلم أعدّاء
تَفُزْ بعلمٍ تَعِشْ حياً به أبداً      النّاسُ موتى وأهلُ العِلْمِ أحْياء

*'ဂုဏ်ယူရမည့်သူဟူ၍ ပညာရှင်များသာရှိသည်။ အကြောင်းမှာ ၎င်းတို့သည် တရားလမ်းမှန်၌ ရှိကြသည်။ လိုလားသူများကိုလည်း တရားလမ်းမှန် ညွှန်ပြပေးကြသည်။ လူ၏တန်ဘိုးသည် သူကောင်းမွန်သမျှသာ။ အသိတရားမရှိသူတို့သည် ပညာရှင်တို့၏ရန်သူများချည်းဖြစ်သည်။ ထာဝရသက်တမ်းတွင် အမြဲနေရမည့် ပညာကို ရှာဖွေဆည်းပူးလော့။ လူတို့သည် သေလွန်ကြရသည်။ ပညာရှင်တို့သာ ရှင် ကျန်ရစ်ကြသည်။'*

အဗွလ်အပ်စ်ဝပ်ဒ်ؒသခင်က 'ပညာထက် ဂုဏ်သိန်ကြီးမြင့်သည့်အရာ ဘာမှမရှိ။ ဘုရင်တို့က လူတို့ကို စိုးမိုးအုပ်ချုပ်ကြသည်။ ပညာရှင်များက ဘုရင်တို့ကို လွှမ်းမိုးချုပ်ကိုင်ကြသည်'ဟု ဆိုမိန့်ခဲ့၏။ အိဗ်နေ့အဗ္ဗာစ်ؓသခင်က ပြောပြသည်မှာ 'ဒါဝုဒ်ؑသခင်၏သားတော် ဆုလိုင်မာန်ؑသခင်အား ပညာ၊ ဥစ္စာ၊ အုပ်ချုပ်မှုအာဏာတို့မှ ကြိုက်နှစ်သက်ရာကို ရွေးချယ်စေရာ ဆုလိုင်မာန်ؑသခင်က ပညာကို ရွေးချယ်ခဲ့သည်။ သို့နှင့်အမျှ သခင်သည် ပစ္စည်းဥစ္စာကိုရော အုပ်ချုပ်မှုအာဏာကိုပါ ချီးမြှင့်ခြင်းခံခဲ့ရသည်။'

အိဗ်နေ့မုဘာရပ်က်ؒသခင်အား 'လူဆိုသည်မှာ မည်သူတွေလဲ'ဟု မေးမြန်းရာ သခင်က 'ဓမ္မပညာရှင်များဖြစ်သည်'ဟု ဖြေခဲ့သည်။ တဖန် 'ရှင်ဘုရင်သည် မည်သူတွေလဲ'ဟု မေးမြန်းသောအခါ 'လောကီမက်မောမှုမရှိသူများဖြစ်သည်'ဟု ဖြေခဲ့သည်။ တဖန် 'အောက်တန်းအကျဆုံးသူ မည်သူလဲ'ဟု မေးမြန်းသောအခါ သခင်က 'မိမိ၏သာသနာဖြင့် လောကီရှာဖွေစားသောက်သူများဖြစ်သည်'ဟု ဖြေခဲ့သည်။

ဤနေရာ၌ ဓမ္မပညာရှင် မဟုတ်သူကို လူဟု မသတ်မှတ်ခြင်းအား ရှင်းပြရန်လိုပေသည်။ လူသားနှင့် အခြားသက်ရှိသတ္တဝါအားလုံးတို့ ကွဲပြားခြားနားသောအချက်မှာ အသိပညာဖြစ်သည်။ လူသားသည် အသိပညာကြောင့်သာ မြင့်မြတ်သောလူဖြစ်ရသည်။ ထိုသို့မြင့်မြတ်ခြင်းသည် အင်အားစွမ်းပကားကြီးမားခြင်းကြောင့်မဟုတ်ပေ။ အင်အားစွမ်းပကားကြောင့်သာ မြင့်မြတ်ရမည်ဆိုလျှင် ကုလားအုပ်သည် လူသားထက် ပို၍ အင်အားစွမ်းပကားကြီးမားသည်။ ထို့ပြင် ကိုယ်ခန္ဓာကြီးမားခြင်းကြောင့် မြင့်မြတ်ခြင်းလည်း မဟုတ်ပေ။ ကိုယ်ခန္ဓာကြောင့်သာ မြင့်မြတ်ရမည်ဆိုလျှင် ဆင်သည် လူသားထက်ပို၍ ကိုယ်ခန္ဓာကြီးမားသည်။ ထို့ပြင် လူသား၏မြင့်မြတ်ခြင်းသည် ရဲစွမ်းသတ္တိရှိသောကြောင့်လည်း မဟုတ်ပေ။ သားရဲတိရိစ္ဆာန်များသည် လူသားထက်ပို၍ ရဲစွမ်းသတ္တိရှိကြသည်။ လူသားသည် စားနိုင်သောက်နိုင်ခြင်းကြောင့် မြင့်မြတ်ရသည်လည်းမဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် နွားသည် လူထက် ဝမ်း

ဗိုက်ပို၍ ကျယ်ဝန်းသည်။ လူသားသည် သံဝါသကြောင့်လည်း မြင့်မြတ်ရသည်မဟုတ်ပေ။ ဤအတွက်ကြောင့်သာ မြတ်ရမည်ဆိုလျှင် စာသူငယ်သည် ဤအမှု၌ လူသားထက်များစွာ စွမ်းလေသည်။ စင်စစ် လူသား၏မြင့်မြတ်ခြင်းသည် အသိပညာကြောင့်သာဖြစ်သည်။

သုခမိန်တစ်ဦးက ဆိုမိန့်သည်မှာ– 'အကြင်သူ ပညာမဲ့ပြီဆိုလျှင် သူ့အဖို့ ဘာမှ ရစရာမရှိတော့ပါ။ ထို့ပြင် အကြင်သူ ပညာကို ရပြီဆိုလျှင် အခြားဘာကိုမှ မလိုအပ်တော့ပါ။'

တမန်တော်မြတ်ﷺက မိန့်ဆိုခဲ့သည်မှာ–

من أوتي القرآن فرأى أن احداً أوتي خيراً منه فقد حقر ما عظم الله تعالى . (ط.م)

'အကြင်သူအား ကုရ်အာန်ကို ချီးမြှင့်ခံရပြီးနောက် အခြားသူတစ်ဦးတွင် ကုရ်အာန်ထက်ပို၍ ကောင်းမြတ်သည့်အရာကို ချီးမြှင့်ထားသည်ဟု သူက အထင်အမြင်ရှိနေလျှင်၊ ထိုသူသည် အလ္လာဟ်အရှင်၏ကြီးကျယ်စွာ ဂုဏ်ပြုချီးမြှင့်မှုကို အသေးအသိမ်ဖြစ်အောင်ပြုသူဖြစ်သည်။'

ဖတာဟ်မော်ဆူလီ^သခင်က– 'ရောဂါဖြစ်နေသူကို အစားအသောက်နှင့်ဆေးဝါးများ ဖြတ်တောက်လိုက်မည်ဆိုလျှင် သူသေရမည်မဟုတ်လား'ဟု မေးမြန်းပြောဆိုသောအခါ လူတို့က 'အမှန်ပင် သေမည်ဖြစ်သည်'ဟု ဖြေကြသည်။ ထိုအခါ သခင်က 'နှလုံးသားကလည်း ဤသို့ပင်ရှိသည်။ အသိဉာဏ်ပညာနှင့် သုံးရက်ဖြတ်တောက်လိုက်လျှင် နှလုံးသားသည် သေရမည်ဖြစ်သည်။'

ခန္ဓာကိုယ်၏အဟာရသည် အစားအစာဖြစ်သည့်နည်းတူ နှလုံးသား၏အဟာရသည် အသိဉာဏ်နှင့် ပညာဖြစ်သည်။ နှလုံးသားသည် ဤနှစ်ခုဖြင့် အသက်ရှင်နေသည်ဆိုသည့်အချက်မှာ အမှန်ပင်ဖြစ်သည်။ အကြင်သူသည် အသိပညာမရှိလျှင် သူ၏စိတ်နှလုံးသည် ရောဂါရပြီး သေဖို့သာရှိသည်။ သို့ရာတွင် သူကိုယ်တိုင်က ဤအချက်ကို မသိချေ။ ဒွန္နယာကို စွဲလန်းချစ်ခင်ခြင်းနှင့် ထိုအထဲတွင် နစ်မွန်းနေခြင်းက သူ၏အသိအာရုံကို ပျက်ယွင်းစေသည်။ ကြောက်ရွံ့ထိပ်လန့်မှုက လွှမ်းမိုးသွားသောအခါ လောလောဆယ်ဖြစ်နေသည့် ဒဏ်ရာဝေဒနာကို ဖြစ်နေမှန်းတော့သိပြီး နာကျင်ရမှန်း မသိသလိုဖြစ်သည်။ သေခြင်းက ဒွန္နယာ၏ဝန်ထုပ်ဝန်ပိုးများကို သူ့ထံမှ ဖယ်ထုတ်လိုက်ပြီဆိုသောအခါမှ မိမိသေပြီဆိုတာကို သိပြီး နောင်တရကာ ဝမ်းနည်းပက်လက်ဖြစ်ရသည်။ သို့သော် ထိုနောင်တသည် ဘာမှ အသုံးမဝင်တော့ပြီ။ အန္တရာယ်မှ လွတ်ကင်းအေးချမ်းသောအခါမှ ဘေးအန္တရာယ်ကို သတိပြုမိသလို၊ မေ့မျောနေရာက သတိပြန်လည်လာခါမှ မေ့မျောနေစဉ် ကြောက်ရွံ့ဖွယ် ကြုံတွေ့ရသည့် ဒဏ်ရာဒဏ်ချက်ကို သိလိုက်ရသလိုမျိုးဖြစ်သည်။

*ကျွန်တော်မျိုးတို့သည် အဖုံးအကာများ ဖွင့်ဟပေါ်ထွက်မည့်နေ့မှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံကြပါသည်။* ယခုမူကား လူတို့သည် အိပ်ပျော်လျက်ရှိကြပြီး သေလွန်သောအခါမှ အိပ်ရာက နိုးထကြလေသည်။

ဟစ်ဘစ္စရီသခင်^က– 'ဓမ္မပညာရှင်များ၏မင်ရည်ကို ရှဟီဒီများ၏သွေးဖြင့် ချိန်စက်မည်။ ထို့နောက် ဓမ္မပညာရှင်များ၏မင်ရည်များကို ရှဟီဒီများ၏သွေးထက် ပို၍အချိန်စီးစေမည်'ဟု ဆိုခဲ့သည်။ အီဗ်နေ့မပ်စ်အုဒ်ﷺ သခင်က ဆိုမိန့်သည်မှာ– 'အသင်တို့ ပညာကို မရုပ်သိမ်းမီ ဤပညာကို ဂရုတစိုက်ဆည်းပူးကြကုန်။ ဤပညာကို ဆင့်ပြန်ပို့ချသူများ သေလွန်ကုန်ခြင်းဖြင့် ဤပညာကို ရုပ်သိမ်းမည်ဖြစ်သည်။ ကျွန်ုပ်၏အသက်ကို လက်ဝယ်ပိုင်စိုးသော အရှင့်ကစမ်း။ ဓမ္မပညာရှင်များ၏ဂုဏ်ပြုခံရသည့်အဖြစ်ကို မြင်တွေ့သောအခါ အလ္လာဟ့်လမ်းတွင် သတ်ဖြတ်ခံရသူရှဟီဒီများက ၎င်းတို့ကိုလည်း အလ္လာဟ်အရှင်က ဓမ္မပညာရှင်များအဖြစ် ရှင်ထစေရန်လိုလားမက်ထားကြလိမ့်မည်။ မည်သူတစ်ဦးတစ်ယောက်မှ ပညာရှင်အဖြစ် မွေးလာသည်မဟုတ်ပါ။ ပညာဆိုသည်မှာ သင်ယူဆည်းပူးခြင်းဖြင့်သာ ရရှိနိုင်ပါသည်။'

အိဗ်နေ့အဗ္ဗာစ်ﷺသခင်က ဆိုမိန့်သည်မှာ– 'ကျွန်ုပ်သည် ညဉ့်၏အချိန်အနည်းငယ်တွင် ပညာအကြောင်း ဆွေးနွေးရခြင်းကို တစ်ညဉ့်လုံးနိုးထ၍ အိဗာဒတ်ပြုရခြင်းထက် ပို၍နှစ်သက်ပါသည်။' အဗူဟုရိုင်ရဟ်ﷺနှင့် အဟ်မဒ်အိဗ်နေ့ဟန်ဘလ်ﷺသခင်တို့ကလည်း ဤနည်းအလားတူ ပြောဆိုခဲ့ကြသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်က ကျွန်ုပ်တို့အား ဒိုအာတောင်းရန် နည်းလမ်းပြမိန့်ကြားသည်မှာ–

﴿رَبَّنَا آتِنا فِي الدُّنْيا حَسَنَةً وَّفِي الآخِرَةِ حَسَنَةً﴾

**'အို ကျွန်တော်မျိုးတို့၏ ရဗ်အရှင်။ ကျွန်တော်မျိုးတို့အား ဒွန်နယာ၏ အကောင်းအမွန်ကိုငှ်း၊ အာခိရတ်၏ အကောင်းအမွန်ကိုငှ်း ပေးသနားတော်မူပါ။'** (ဗကရာသူရာ ၊ ၂၀၁)

ဟစ်ဘဇ္ဇရီသခင်ﷺက ဤအာယတ်လာ 'ဒွန်နယာ၏ကောင်းမွန်မှု'သည် ပညာနှင့် အိဗာဒတ်ဖြစ်သည်ဟုငှ်း၊ 'အာခိရတ်၏ကောင်းမွန်မှု'သည် ဂျန္နတ်ဖြစ်သည်ဟုငှ်း ရှင်းပြခဲ့သည်။

ပညာရှိသုခမိန်တစ်ဦးအား 'အသင် ဘယ်အရာကို ရှာဖွေစုဆောင်းသနည်း'ဟု မေးသည့်အခါ 'သင် စီးနင်းလိုက်ပါလာသောသင်္ဘော ပျက်စီးနစ်မြုပ်သည့်အခါ သင်နှင့်အတူ ရှိနေမည့်အရာများကို စုဆောင်းပါသည်'ဟုဖြေသည်။ အသိပညာကို စုဆောင်းပါသည်ဟု ဆိုလိုခြင်းဖြစ်၏။ ဤအဖြေတွင် သင်္ဘောနစ်မြုပ်ခြင်းသည် 'သေခြင်းနှင့်အတူ ခန္ဓာကိုယ်ကြီး ပျက်စီးသွားခြင်းကို ဆိုလိုသည်'ဟု အချို့က ရှင်းပြသည်။

အချို့သောသုခမိန်များက ဆိုမိန့်ခဲ့ကြသည်မှာ– 'အကြင်သူသည် ဟီကမတ်ဉာဏ်ပညာကို ဖော်ကိုင်နိုင်ပြီဆိုလျှင် သူ့အား လူအများက မိမိတို့၏ခေါင်းဆောင်အဖြစ် တင်မြှောက်ကြလိမ့်မည်။ ထို့ပြင် အကြင်သူ ဟီကမတ်ကို သိပြီဆိုလျှင် သူ့ကို လူတို့က ဂုဏ်ပေးသောအကြည့်ဖြင့် ကြည့်ရှုကြသည်။' အိမာမ်ရှာဖအီﷺသခင်က 'ပညာ၏ထွတ်မြတ်မှုတစ်ခုမှာ ဤသို့ရှိသည်။ အကြင်သူအား ပညာ၏သေးငယ်သောအစိတ်အပိုင်းကလေးတစ်ခုဖြင့် ဆက်စပ်ပတ်သက်ရလျှင်ပင် ထိုသူ ပျော်ရွှင်မှုရရှိသည်။ တဖန် အကြင်သူ့ကို ပညာ၏အစိတ်အပိုင်းကလေးတစ်ခုမှ ခွဲခွါလိုက်လျှင် ထိုသူသည် သောကရောက်ရသည်။'

အိခ်ရိမသခင်က မိန့်ဆိုသည်မှာ 'အသင်တို့ ပညာကို ဂရုတစိုက်ဆည်းပူးကြကုန်။ အလ္လာဟ်အရှင့်တွင် ခြုံထည်တစ်ခုရှိတော်မူသည်။ အရှင်မြတ်သည် ထိုခြုံထည်ကို နှစ်သက်တော်မူသည်။ အကြင်သူတစ်ဦးသည် ပညာ၏အစိတ်အပိုင်းတစ်ခုကို သင်ယူခဲ့လျှင် အလ္လာဟ်အရှင်က သူ့ကို ထိုခြုံထည်ဖြင့် ခြုံပေးတော်မူမည်။ အကယ်၍ သူက အပြစ်တစ်ခုခုကို ကျူးလွန်လျှင် သုံးကြိမ် သတိပေးတော်မူမည်။ ထိုခြုံထည်ကို ရုပ်သိမ်း မခံရစေရန်ဖြစ်သည်။ အကယ်၍ သူသည် ထိုအမှုကို သေသည့်တိုင် ကြာရှည်စွာ ကျူးလွန်နေသော်လည်း သတိပေးတော်မူနေမည်ဖြစ်သည်။'

အဟ်နဖ်ﷺသခင်က 'ဓမ္မပညာရှင်များသည် အရှင်သခင်များ ဖြစ်တော့မတတ်ပင်။ အသိပညာကသာ ၎င်းတို့ကို ဂုဏ်ဟီတ်ဖြင့် ဝန်းရံထောက်ကူထားခြင်းမရှိလျှင် သူတို့သည် သိမ်ငယ်မှုထဲသို့ ကျရောက်ကြရပေတော့မည်'ဟု မိန့်ဆိုခဲ့သည်။ ဆာလင်မ်အိဗ်နေ့အဗီဂျအ်ဒ်ﷺသခင်က ပြောပြသည်မှာ 'ကျွန်ုပ်၏သခင်က ကျွန်ုပ်ကို ဒရ်ဟမ်သုံးရာဖြင့် ဝယ်ယူခဲ့သည်။ ထို့နောက် ကျွန်ုပ်ကို ကျွန်ဘဝမှ သူကောင်းပြုလွတ်လပ်စေခဲ့သည်။ ထိုအခါ ကျွန်ုပ်က သခင့်အား 'ကျွန်တော် ဘယ်အတတ်ကို သင်ယူရမလဲ'ဟု မေးခဲ့သည်။ သို့ဖြင့် ကျွန်ုပ်သည် ပညာကို သင်ယူခဲ့သည်။ ထိုသို့သင်ယူစဉ် တစ်နှစ်မပြည့်မီ မဒီနာမြို့တော်ဝန်က ကျွန်ုပ်အား တွေ့ဆုံရန်လာသည်။ ကျွန်ုပ်က လက်ခံတွေ့ဆုံခြင်း မပြုခဲ့ပါ။'

ဇုတိုင်ရ်အိဗ်နေ့အဗူဘကရ်ﷺသခင်က 'ကျွန်ုပ် အီရတ်တွင်ရှိစဉ် ဖခင်က ကျွန်ုပ်ထံ စာရေးခဲ့သည်။ စာမှာ–

'မင်းအနေနဲ့ ပညာကိုသာ ကြိုးစားသင်ယူပါ။ မင်းဟာ ဆင်းရဲသွားမည်ဆိုရင်လဲ ပညာက မင်းအတွက် ဥစ္စာပစ္စည်းဖြစ်လိမ့်မည်။ အကယ်၍ မင်းသည် ချမ်းသာကြွယ်ဝသွားမည်ဆိုရင်လဲ ပညာသည် မင်းအတွက် ဂုဏ်သရေတင့်ဖို့ဘဲဖြစ်လိမ့်မည်'ဟုဖြစ်၏။ ထို့ပြင် လွက်မာန် သခင်က မိမိသားကို မှာတမ်းဆုံးမရာတွင်လည်း– 'အို ချစ်သား၊ ဓမ္မပညာရှင်များနှင့်အတူ ထိုင်ပါလေ။ အသင်၏ဒူးနှစ်ဘက်ကို သူတို့၏ဒူးများဆီ တိုးကပ်ထားပါလေ။ အလ္လာဟ်အရှင်သည် ကမ္ဘာမြေကြီးကို မိုးရေဖြင့် ရှင်စေသလို နှလုံးသားများကို ဟိကမတ်ဉာဏ်အမြော်အမြင်၏ လင်းရောင်ခြည်ဖြင့် ရှင်သန်စေတော်မူသည်'ဟု ထည့်သွင်းဆုံးမခဲ့ပါသည်။

ပညာရှိသုခမိန်အချို့က ဆိုမိန့်ကြသည်မှာ– 'ပညာရှင်တစ်ဦး ကွယ်လွန်သေဆုံးသည့်အခါ ရေတွင်ရှိသော ငါးများနှင့် လေထဲတွင်ရှိသောငှက်များက ငိုကြွေးကြသည်။ ထို့ပြင် ထိုပညာရှင်၏မျက်နှာသည် မြင်ကွင်းမှ ပျောက်ကွယ်သွားသော်လည်း သူ့ကို မမေ့မပျောက် အမှတ်ရလျက်ပင်ရှိသည်။' ထို့ပြင် ဇုဟ်ရီ သခင်က– 'ပညာဆိုသည့် စကားလုံးသည် ပုလ္လိင်စာလုံးဖြစ်သည်။ သို့ဖြစ်၍ ဤပညာကို ယောက်ျားသားများကသာ လိုလားနှစ်သက်ကြသည်' ဟု မိန့်ဆိုခဲ့ပါသည်။

## ပညာသင်ယူခြင်း၏ထွတ်မြတ်မှုများ

ဦးစွာ ဤအခန်းနှင့်သက်ဆိုင်ရာ အာယတ်များကို ဖော်ပြမည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿فَلَوْ لَا نَفَرَ مِنْ كُلِّ فِرْقَةٍ مِنْهُمْ طَائِفَةٌ لِيَتَفَقَّهُوا فِي الدِّيْنِ﴾

**'သို့ဖြစ်ရာ အုပ်စုတိုင်းမှ အဖွဲ့တစ်ဖွဲ့စီသည် ဘာသာနာရေးသိနားလည်မှုအတွက် မထွက်ကြပြီလော။'**

(နူရာတောင်ဘာ ၊ ၁၂၂)

ထို့ပြင် အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်မှာ–

﴿ فَاسْأَلُوْا أَهْلَ الذِّكْرِ إِنْ كُنْتُمْ لَا تَعْلَمُوْنَ﴾

**'သို့ဖြစ်ရာ အသင်တို့ မသိကြပါလျှင် တတ်ကျွမ်းသူများထံမှ မေးမြန်းဆည်းပူးကြကုန်။'**

(နူရာနဟ်လ်၊ ၄၃။ နူရာအန်ဘီယာ၊ ၇)

ဆက်လက်၍ ပညာသင်ယူဆည်းပူးခြင်း၏ ထွတ်မြတ်မှုအကြောင်း လာရှိသော ဟဒီစ်တော်များကို ဖော်ပြပါမည်။ တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ–

مَنْ سَلَكَ طريقاً يطلب فيه علماً سلك الله به طريقًا إلى الجنة . (م)

'အကြင်သူသည် ခရီးလမ်းတစ်ခုသို့ သွားရောက်၍ ပညာရှာမည်ဆိုလျှင် အလ္လာဟ်အရှင်က သူ့အား ဂျန္နတ်သို့ သွားရာလမ်းကို ညွှန်ပြတော်မူမည်။'

ထို့ပြင် တမန်တော်မြတ် ﷺ မိန့်ဆိုခဲ့သည်မှာ–

إنَّ الملائكة لتضع أجنحتها الطالب العلم رضاء بما يصنع . (احب.مس)

'ကောင်းကင်တမန်များက ပညာရှာဖွေသူ၏ လုပ်ရပ်ကို နှစ်သက်ကြသဖြင့် ထိုသူ့အတွက် မိမိတို့၏ အတောင်များကို ဖြန့်ခင်းပေးကြသည်။'

ထို့ပြင် တမန်တော်မြတ် ﷺ မိန့်ဆိုခဲ့သည်မှာ–

لأن تغدو فتتعلم باباً من العلم خير من أن تصلي مائة ركعة . (بر)

'အသင် နံနက်မှာသွား၍ ပညာ၏ကဏ္ဍတစ်ခုကို သင်ယူခြင်းသည် နဖီလ်ရကအတ်တစ်ရာ ဖတ်ခြင်း

ထက်ပို၍ ကောင်းမွန်ပေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ-

باب من العلم يتعلمه الرجل خير له من الدنيا وما فيها .(حب)

'လူတစ်ယောက်က ပညာ၏ကဏ္ဍတစ်ခုကို သင်ယူခြင်းသည် ထိုသူ့အတွက် လောကနှင့်လောကရှိ အရာများထက် ပို၍မြတ်ပေသည်။'

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-

اطلبوا العلم ولو بالصين . (ابن عدي.سنى)

'ပညာသည် စိနရဋ္ဌကဲ့သို့ ဝေးလံသောအရပ်၌ ရှိနေမည်ဆိုလျှင်လည်း သွားရောက်သင်ယူကြကုန်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ-

طَلَبُ العلم فريضة على كل مسلم . (ق)

'ပညာသင်ယူခြင်းသည် မွတ်စလင်မ်အားလုံးအပေါ်မှာ ဖရာဇ်တာဝန်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ -

العلم خزائن مفاتيحها السؤال ألا فاسألوا فإنه يؤجر فيه أربعة . السائل والعالم والمستمع والمحب لهم . (نع)

'ပညာသည် ရတနာသိုက်ကြီးဖြစ်ပြီး သူ့ကို ဖွင့်သည့်သော့တန်က မေးမြန်းခြင်းဖြစ်သည်။ ပညာကို မေးမြန်းသင်ယူကြပါ။ ဤသို့မေးမြန်းသင်ယူခြင်းဖြင့် လေးဦးသောသူတို့ စွဝါဗ်ရကြမည်။ မေးမြန်းသင်ယူသူ၊ သင်ပေးသူ ပညာရှင်၊ ကြားနာသူနှင့် ဤသုံးဦးအား ချစ်ခင်သူတို့ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-

لا ينبغي للجاهل أن يسكت على جهله ولا للعالم أن يسكت على علمه . (طس.مرى.نع)

'မသိသူသည် မိမိ၏မသိနားမလည်သည့်အပေါ်မှာ နှုတ်ဆိတ် မနေသင့်ပေ။ ပညာရှင်ကလည်း မိမိ၏ပညာအပေါ်မှာ နှုတ်ပိတ်မနေသင့်ပေ။'

ထို့ပြင် တစ်ကြိမ်တွင် တမန်တော်မြတ်ﷺက-

حضور مجلس عالم أفضل ألف ركعة وعيادة ألف مريض وشهود ألف جنازة ، فقيل يارسول الله ، ومن قراة القرآن ؟ فقالﷺ:((وهل ينفع القرآن إلا بالعلم ؟ )) . (ابن الجوزي في الموضوعات)

'ပညာရှင်တစ်ဦး၏ထိုင်ဝိုင်းတွင် ဝင်ထိုင်ခြင်းသည် နမာဇ်ရကအတ်တစ်ထောင် ဖတ်ခြင်းထက်ငင်း၊ လူမမာတစ်ထောင်ကို မေးခြင်းထက်ငင်း၊ ဂျနာဇာတစ်ထောင်တွင် ပါဝင်ခြင်းထက်ငင်း ပို၍မြတ်ပေသည်' ဟု မိန့်ဆိုသောအခါ တစ်စုံတစ်ဦးက 'အို အလ္လာဟ့်တမန်တော်၊ ကုရ်အာန်ဖတ်ရွတ်ခြင်းထက် ပို၍မြတ်ပါသလား'ဟု မေးမြန်းခဲ့သည်။ ထိုအခါ တမန်တော်က 'ပညာမရှိဘဲ ကုရ်အာန်က အကျိုးပြုမလား'ဟု မိန့်မြွက်ခဲ့သည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-

من جاءه الموت وهو يطلب العلم ليحيي به الإسلام بينه بين الأنبياء في الجنة درجة واحدة . (مى)

'အကြင်သူသည် အစ္စလာမ်ကို ရှင်သန်စေရန်ရည်ရွယ်ပြီး ပညာဆည်းပူးနေစဉ် သေဆုံးခဲ့မည်ဆိုလျှင် ဂျန္နတ်တွင် သူနှင့်တမန်တော်များအကြား၌ အဆင့်တစ်ခုသာ ကွာခြားလိမ့်မည်။'

**ဆက်လက်၍ ပညာသင်ယူဆည်းပူးခြင်း၏ထွတ်မြတ်မှုအကြောင်း လာရှိသော ဆွဟာဗဟ်သခင်များ ﷺနှင့် တာဘိအီန်သခင် ~ တို့၏အဆိုအမိန့်ညွှန်ကြားချက်များကို ဖော်ပြပါအံ့။**

**အီဗ်နေ့အဗ္ဗာစ်**ﷺသခင်က ' ကျွန်ုပ်သည် ပညာရှာသူဘဝက သိမ်သိမ်ငယ်ငယ်ရှိခဲ့သည်။ ကျွန်ုပ်ထံ လူတို့ **ပညာလာသင်ကြသောအခါ**တွင်ကား ဂုဏ်သိက္ခာရှိလာခဲ့သည်'ဟု ဆိုခဲ့၏။ ဤအချက်ကို အီဗ်နေ့အဗီမုလိုင်ကာ~ **သခင်က ပြောပြသည်မှာ** 'ကျွန်ုပ်သည် အီဗ်နေ့အဗ္ဗာစ်ကဲ့သို့ ပုဂ္ဂိုလ်မျိုးကို မတွေ့ဖူးပေ။ သူ့ကို အသင်ကြည့်မည်ဆို **လျှင် လူတို့အထဲမှာ** အလှပဆုံးမျက်နှာကို မြင်ရမည်။ သူနှင့် စကားပြောသောအခါ လူတို့တွင် နှုတ်လျှာ အချိုသာ **ဆုံးဖြစ်ကြောင်း၊** သူဖတ္တဝါပေးသည့်အခါ လူတို့တွင် ပညာကို အတတ်ကျွမ်းဆုံးပုဂ္ဂိုလ်ဖြစ်ကြောင်း တွေ့ရမည်။'

**အီဗ်နေ့မုဘာရပ်က်**~သခင်က 'ပညာသင်ယူခြင်းမပြုသူကို ကျွန်ုပ်အံ့သြမိသည်။ ပညာမရှိဘဲနှင့် သူ၏စိတ် **က သူ့ကို** ဂုဏ်သရေရှိသည့်ဘက်သို့ မည်သို့ ဆွဲခေါ်မည်လဲ'ဟု ဆိုခဲ့သည်။ သုခမိန်တစ်ဦးက ဆိုသည်မှာ 'ကျွန်ုပ် **သည် နှစ်ဦးသော**ပုဂ္ဂိုလ်ကလွဲ၍ မည်သူ့ကိုမှ မသနားခဲ့ပါ။ တစ်ဦးမှာ ပညာကို သင်ယူသော်လည်း နားမလည်ရှာသူ **ဖြစ်သည်။** နောက်တစ်ဦးမှာ ပညာကို နားလည်သော်လည်း လိုလားမှုမရှိသူဖြစ်သည်။'

အဗူဒါရ်ဒါအ်ﷺသခင် ဆိုမိန့်သည်မှာ 'ကျွန်ုပ်သည် မတ်စ်အလာတစ်ခု သင်ယူရခြင်းကို တစ်ညလုံးနိုးထ **အိဗာဒတ်ပြုရခြင်း**ထက်ပို၍နှစ်သက်သည်။' ထို့ပြင် သခင်ပင် ဆိုမိန့်ထားသည်မှာ 'သင်သည် ပညာရှင်ဖြစ်ချင်ဖြစ်၊ **သို့မဟုတ်** ပညာရှာသူဖြစ်ချင်ဖြစ်၊ သို့မဟုတ် သင်ပေးသင်ယူပြုနေသည်ကို နားထောင်သူဖြစ်ချင်ဖြစ်၊ သင် **စတုတ္ထလူ တော့** မဖြစ်နှင့်။ စတုတ္ထလူဖြစ်လျှင်ကတော့ အသင်ပျက်စီးမည်သာ။' ထို့ပြင် အတ္တာ~သခင်က ဆိုမိန့်ခဲ့သည်မှာ– 'အသိပညာ၏ထိုင်ဝိုင်းတစ်ခုသည် အလဟသထိုင်ဝိုင်းပေါင်း ခုနှစ်ဆယ်အတွက် ကဖ်ဖာရဟ်ပြေဆေးဖြစ်သည်။'

အိုမရ်ﷺသခင်က မိန့်ဆိုသည်မှာ 'အလ္လာဟ်အရှင် ခွင့်ပြုသောကိစ္စနှင့်ခွင့်မပြုသော**ကိစ္စ**များတွင် ကောင်းစွာ ကျွမ်းကျင်သူပညာရှင်တစ်ပါး သေဆုံးခြင်းထက် ညဉ့်နိုးထ၍ အိဗာဒတ်ပြုသူ၊ နေ့တွင် ရိုဇာမပြတ်စောင့်သူ အာဗိဒ် ပေါင်း တစ်ထောင်သေဆုံးခြင်းက ပို၍ပေါ့ပါးသက်သာသေးသည်။' တဖန် အိမာမ်ရှာဖအီ~သခင်ကလည်း 'ပညာ သင်ယူခြင်းသည် နဖီလ်အိဗာဒတ်ထက်ပို၍မြတ်သည်'ဟု မိန့်ဆိုထား၏။ အီဗ်နေ့အဗ်ဒွလ်ဟကမ်က ပြောပြသည် မှာ– 'ကျွန်ုပ်သည် အိမာမ်မာလိက်~သခင့်ထံ စာသင်နေစဉ် ဇဟွရ်အချိန်ရောက်လာသည်။ ထိုအခါ ကျွန်ုပ်က နမာဇ် ဖတ်ရန် စာအုပ်များကို ထပ်လိုက်သည်။ ဤတွင် အိမာမ်မာလိက်~က 'လူလေး။ နိယတ်သာမှန်မယ်ဆိုရင် မင်းအခု သွားမဲ့ဥစ္စာက မင်းအခုလုပ်နေတာထက် ပိုမမြတ်ပါဘူး'ဟု ပြောဆိုခဲ့သည်။

အဗူဒါရ်ဒါအ်ﷺသခင်က 'တစ်စုံတစ်ဦး၏ပညာသင်ရန် သွားရောက်ခြင်းကို ဂျိဟာဒ်မဟုတ်ဟု ထင်မြင်ယူ **ဆလျှင်** ထိုသူသည် အသိဉာဏ်လျော့နည်းနုံ့ချာသူသာဖြစ်သည်'ဟု ပြောဆိုခဲ့ပေသည်။

## ပညာသင်ပေးခြင်း၏ထွတ်မြတ်မှုများ

ဦးစွာ ဤအခန်းနှင့်သက်ဆိုင်ရာ အာယတ်များကို ဖော်ပြမည်။ အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿وَلِيُنذِرُوا قَوْمَهُمْ إِذَا رَجَعُوا إِلَيْهِمْ لَعَلَّهُمْ يَحْذَرُونَ﴾

**'ထို့ပြင် ၎င်းတို့သည် မိမိတို့၏အမျိုးသားများထံ ပြန်ရောက်သောအခါ ထိုသူတို့အား သတိပေးနိုင် ကြရန်ဖြစ်သည်။ သို့မှသာ ထိုသူတို့သည် သတိသမ္ပဇဉ်ရှိနိုင်ကြမည်။'** (စူရာတောင်ဘာ ၊၁၂၂)

ဤအာယတ်သည် သင်ကြားပို့ချမှုနှင့် တရားလမ်းညွှန်ပြမှုကို ဆိုလိုခြင်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ وَ اِذْ اَخَذَ اللهُ مِيْثَاقَ الَّذِيْنَ اُوْتُوا الْكِتَابَ لَتُبَيِّنُنَّهٗ لِلنَّاسِ وَلَا تَكْتُمُوْنَهٗ ﴾

**'အလ္လာဟ်အရှင်က ကျမ်းဂန်တတ်ကျွမ်းသူများထံမှ လူအများအား ကျမ်းဂန်ကို ရှင်းလင်းသင်ပြရန်နှင့် ထိုကျမ်းကို ဖုံးကွယ်သိုဝှက်ခြင်းမပြုရန် ကတိယူတော်မူ၏။'** (စူရာအာလိအင်မရာန် ၊၉၃)

ဤအာယတ်က သင်ပြပို့ချပေးခြင်းသည် အရေးကြီးသောတာဝန်ဖြစ်ကြောင်း ညွှန်ပြထားသည်။ ထို့နောက် အလ္လာဟ်အရှင် မိန့်ကြားသည်မှာ– ﴿وَاِنَّ فَرِيْقًا مِنْهُمْ لَيَكْتُمُوْنَ الْحَقَّ وَهُمْ يَعْلَمُوْنَ﴾

**'ထို့ပြင် ၎င်းတို့အနက် အုပ်စုတစ်စုသည် အမှန်တရားကို သိကြပါလျက် ဖုံးကွယ်၍ ထားကြ၏။'**

(စူရာဗာကရာ ၊၁၄၆)

ဤအာယတ်က ဖုံးကွယ်ထိမ်ချန်ခြင်းသည် ဟရာမ်ဖြစ်ကြောင်း ဖော်ပြသည်။ သက်သေခံမှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်က– ﴿وَمَنْ يَكْتُمْهَا فَاِنَّهٗ اٰثِمٌ قَلْبُهٗ﴾

**'အကြင်သူသည် (သက်သေခံချက်)ကို ဖုံးကွယ်ထားမည်ဆိုလျှင် ထိုသူ၏နှလုံးသားသည် ဒုစရိုက်ကျူးလွန်သူဖြစ်သည်။'** (စူရာဗာကရာ ၊၂၈၃)

ဟု မိန့်တော်မူသကဲ့သို့ဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ –

ما آتى الله عالماً إلا و أخذ عليه من الميثاق ما اخذ على النبيين أن يبينوه للناس و لا يكتموه . (ابو)

'အလ္လာဟ်အရှင်သည် ပညာရှင်တစ်ဦးအား ပညာပေးသည့်အခါ နဗီတမန်တော်များထံမှ ယူခဲ့သည့်ကတိကို ထိုပညာရှင်ထံမှ ယူတော်မူ၏။ ထိုကတိမှာ မိမိရရှိသည့်ပညာကို လူအများအား ရှင်းလင်းသင်ပြရန်၎င်း၊ ဖုံးကွယ်ထိမ်ချန်ခြင်းမပြုရန်ဖြစ်သည်။'

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَمَنْ اَحْسَنُ قَوْلًا مِمَّنْ دَعَا اِلَى اللهِ وَعَمِلَ صَالِحًا﴾

**'အကြင်သူ အလ္လာဟ်အရှင့်ဘက်တော်သို့ ဖိတ်ခေါ်ကာ မြတ်သောအကျင့်ကိုလည်း ကျင့်မူသူထက်၊ မည်သူသည် စကားအရာမှာ ပို၍ကောင်းမွန်နိုင်သနည်း။'** (စူရာဟာမီမ်စဂျ်ဒဟ်၊ ၃၃)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿اُدْعُ اِلٰى سَبِيْلِ رَبِّكَ بِالْحِكْمَةِ وَالْمَوْعِظَةِ الْحَسَنَةِ﴾

**'အသင့်ရဗ်အရှင်၏လမ်းသို့ ဟိကမတ်ဖြင့်၎င်း ကောင်းမွန်သောသွန်သင်မှုဖြင့်၎င်း ဖိတ်ခေါ်လော့။'**

(စူရာနဟ်လ်၊၁၂၅)

တဖန် အရှင်မြတ် မိန့်တော်မူသည်မှာ– ﴿وَيُعَلِّمُهُمُ الْكِتَابَ وَالْحِكْمَةَ﴾

**'ထို့ပြင် (တမန်တော်များက) ၎င်း(လူသား)တို့အား ကျမ်းဂန်နှင့် ဟိကမတ်ကို သင်ကြားပေးကြ၏။'**

(စူရာဗာကရာ၊၁၂၉။ ၁၅၁။ စူရာအာလိအင်မ်ရာန်၊ ၁၆၄။ စူရာဂျုမုအာ၊ ၂)

**ဆက်လက်၍ ပညာသင်ကြားပေးခြင်း၏ထွတ်မြတ်မှုအကြောင်းလာရှိသော ဟဒီစ်တော်များကို ဖော်ပြမည်။**

တမန်တော်မြတ်ﷺက မအာဇ်ﷺသခင်ကို ယမန်ပြည်သို့ စေလွှတ်ရာ၌ မိန့်ဆိုခဲ့သည်မှာ–

لأن يهدي الله بك رَجُلًا اَحَدًا خير لك من الدنيا وَمَا فِيْهَا . (١)

'သင့်ကို အကြောင်းပြုပြီး အလ္လာဟ်အရှင်က တစ်စုံတစ်ဦးကို တရားလမ်းမှန်ပေးတော်မူမည်ဆိုလျှင် ဤသည်မှာ သင့်အတွက် လောကနှင့်လောကရှိ အရာအားလုံးထက် ပို၍ကောင်းမွန်ပေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من تعلم بابًا من العلم ليعلم الناس أعطى ثواب سبعين صديقًا .

'အကြင်သူတစ်ဦးသည် လူတို့အား သင်ပြပေးရန်အတွက် ပညာ၏အခန်းကဏ္ဍတစ်ခုကို သင်ယူခဲ့လျှင် ထိုသူ့ကို ဆွစ်ဒီက်သစ္စာဝါဒီခုနစ်ဆယ်၏ဆွဝါဗ်ကို ချီးမြှင့်တော်မူမည်။'

ဤနေရာတွင် တမန်တော်အီစာ ﷺသခင်၏အဆိုအမိန့်ရှိသည်မှာ –

'အကြင်သူ ပညာတတ်မြောက်ပြီး ထိုပညာနှင့်အညီ ကျင့်ဆောက်တည်ကာ အခြားသူများကိုလည်း သင်ပြမည်ဆိုလျှင် မိုးကောင်းကင်ရှိ အုပ်ချုပ်မှုဌာနတွင် သူ့အား အဇ္ဇီမ်း(ကြီးမြတ်သူ)ဟု ခေါ်ကြမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

وقال رسول اللهﷺ : «إذا كان يوم القيامة يقول الله سبحانه للعابدين و المجاهدين : ادخلوا الجنة» فيقول العلماء بفضل علمنا تعبدوا و جاهدوا ، فيقول الله عز وجل:«انتم عند كبعض ملائكتي اشفعوا فيشفعون ثم يدخلون الجنة» . (أبو عباس، الذهبي في العلم)

'ကိယာမတ်နေ့ရောက်သောအခါ အလ္လာဟ်အရှင်မြတ်က အာဗိဒ်များနှင့်မုဂျာဟိဒ်များသို့ 'အသင်တို့ ဂျန္နတ်သို့ ဝင်ကြလော့'ဟု မိန့်ကြားတော်မူမည်။ ထိုအခါ ဓမ္မပညာရှင်များက 'ဤသူတို့သည် ကျွန်ုပ်တို့ သင်ပေးသည့် ပညာကို အကြောင်းပြု၍ အိဗာဒတ်နှင့် ဂျိဟာဒ်ကို ပြုနိုင်ကြခြင်းဖြစ်ပါသည်'ဟု လျှောက်ထားကြမည်။ ထိုအခါ အလ္လာဟ်အရှင်က 'ငါ့ထံတွင် အသင်တို့သည် ငါအရှင်၏အချို့သောကောင်းကင်တမန်များကဲ့သို့ဖြစ်သည်။ အသင်တို့ အသနားခံပေးကြကုန်။ အသင်တို့၏အသနားခံမှုကို ငါအရှင်လက်ခံတော်မူမည်။ ထိုအခါ ၎င်းတို့သည် အသနားခံပေးကြလိမ့်မည်။ ထို့နောက်တွင် ဂျန္နတ်သို့ ဝင်ကြမည်။'

ဤသို့ ပညာရှင်များ အာခိရတ်တွင် မြင့်မားသော အဆင့်အတန်းရရှိခြင်းမှာ ၎င်းတို့ထံတွင် ပညာ ရှိနေသောကြောင့် မဟုတ်ဘဲ အခြားသူများထံ ပညာကို ရောက်ရှိအောင် သင်ပေးသောကြောင့်သာဖြစ်သည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

إنَّ الله عز وجل لا ينتزع العلم انتزاعاً من الناس بعد أن يؤتيهم إياه ولكن يذهب بذهاب العلماء، فكلما ذهب بما معه من العلم ، حتى لم يبق إلا رؤساء جهالًا إن سئلوا أفتوا بغير علم فيضلون و يضلون . (خ.م)

'အလ္လာဟ်အရှင်က ပညာကို ရုပ်သိမ်းမည်ဆိုရာ၌ လူတို့အား ပညာကို ချီးမြှင့်ပြီးနောက် ၎င်းတို့ထံမှ ဆွဲနှုတ်ယူမည်ဟု ဆိုလိုခြင်း မဟုတ်ပေ။ သို့သော် ပညာသည် ဓမ္မပညာရှင်များ သေဆုံးကြသည့်နောက် သို့လိုက်ပါသွားမည်ဖြစ်သည်။ ပညာရှင်တစ်ဦး ကွယ်ပျောက်တိုင်း သူ့မှာရှိသည့်ပညာလည်း ကွယ်ပျောက်လိမ့်မည်။ နောက်ဆုံး၌ ပညာမတတ်သောခေါင်းဆောင်များကလွဲ၍ အခြားကျန်ရစ်တော့မည်မဟုတ်ပေ။ သူတို့သည် လူတို့က မေးမြန်းလျှင် ပညာမရှိဘဲနှင့် ဖတ္တဝါများပေးကြလိမ့်မည်။ သို့ဖြင့် သူတို့ကိုယ်တိုင်လည်း လမ်းမှားကြပြီး အခြားသူများကိုလည်း လမ်းမှားစေကြလိမ့်မည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من علم علماً فكتمه الله يوم القيامة بلجام من نار . (د.ت.ق)

'အကြင်သူသည် ပညာရပ်တစ်ခုကို တတ်မြောက်ပြီးနောက် ထိုပညာကို ဖုံးကွယ်ထိမ်ချန်ခဲ့မည်ဆိုလျှင် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်က ထိုသူ့ကို မီးဇက်ကြိုး ခွံ့တော်မူမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

نِعْم العطية ونِعم الهدية كلمة حكمة تسمعها فتطوي عليها ثم تحملها ألى أخ لك مسلم تعلمه
إياها تعدل عبادة سنة . (ط)

'ကောင်းသော ပေးကမ်းခြင်းပင်။ မွန်မြတ်သော လက်ဆောင်ပင်။ ဟီကမ်မတ်ပါသောစကားရပ်တစ်ခုကို သင်က ကြားနာ မှတ်သားထားသည်။ ထို့နောက် ထိုစကားကို သယ်ဆောင်ပြီး အသင်၏မွတ်စလင်မ်ညီနောင်တစ်ဦးကို သင်ပေးသည်။ ဤလုပ်ရပ်သည် တစ်နှစ်အိဗာဒတ်ပြုခြင်းနှင့် ညီမျှပေသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

الدنيا ملعونة ملعون ما فيها إلا ذكر الله سبحانه وما والاه أو معلماً أو متعلماً . (ت،ق)

'ဒွန်နယာသည် လအ်နတ်ပြုခံရသောအရာဖြစ်၏။ အလ္လာဟ်အရှင်ကို သတိရတသခြင်း၊ ၎င်းသတိရတသခြင်းနှင့် ဆက်စပ်သောအရာ၊ သင်ပေးသူနှင့် သင်ယူသူတို့မှလွဲ၍ အခြားဒွန်နယာ၌ရှိနေသောအရာများသည်လည်း လအ်နတ်ပြုခံရသောအရာများဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

أن الله سبحانه وملائكته وأهل سمواته وأرضه حتى النملة في جحرها حتى الحوت في البحر
ليصلون على معلم الناس الخير . (ت)

'အလ္လာဟ်အရှင်မြတ်သည်၎င်း၊ အရှင်၏ကောင်းကင်တမန်များသည်၎င်း၊ တွင်း၌ရှိသော ပုရွက်ဆိတ်နှင့် ပင်လယ်တွင်ရှိနေသော ငါးမှအစ၊ အရှင်၏မိုးကောင်းကင်သားများနှင့် အရှင်၏မြေကမ္ဘာမှ ဝေနေယျများသည် လူသားတို့အား ကောင်းမှုကောင်းရာ သင်ပေးသူများအတွက် ရဟ်မတ်ဒိုအာပြုပေးကြ၏။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ما أفاد المسلم أخاه فائدة أفضل من حديث حسن بلغه فبلغه . (بر)

'မွတ်စလင်မ်တစ်ဦးသည် မိမိသိရှိရသည့် ကောင်းမွန်သောစကားတစ်ခွန်းကို မိမိ၏ညီနောင်တစ်ဦးအား တဆင့်ဖေါက်သည်ချခြင်းလောက်၊ ညီနောင်မွတ်စလင်မ်ချင်း အကျိုးပြုသည့်အရာမရှိပေ။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

كلمة من الخير يسمعها المؤمن فيعلمها ويعمل بها خير له من عبادة سنة . (ابن المبارك)

'အီမာန်ရှင်တစ်ဦးက ကောင်းမွန်သောစကားတစ်ခွန်းကို ကြားရပြီးနောက် ထိုစကားကို တစ်ဆင့်သင်ပေးမည်၊ ထိုအခါ ထိုစကားရပ်အတိုင်း လက်တွေ့ကျင့်သုံးဖြစ်မည်ဆိုလျှင် ဤသည်မှာ ထိုအီမာန်ရှင်အဖို့ တစ်နှစ်တာ အိဗာဒတ်ပြုခြင်းထက် မြတ်ပေသည်။'

တစ်နေ့တွင် တမန်တော်မြတ်ﷺအဆောင်တော်မှ ထွက်သောအခါ ထိုင်ဝိုင်းနှစ်ခုကို တွေ့ခဲ့ရသည်။ ထိုင်ဝိုင်းတစ်ခုက အလ္လာဟ်အရှင့်ထံမှာ ဒိုအာပြုနေကြပြီး အရှင့်ဘက်သို့ အာရုံရှူးစိုက်ပန်ကြားလျက်ရှိကြသည်။ ဒုတိယထိုင်ဝိုင်းမှ လူတို့ကို သင်ပေးနေကြသည်။ ထိုတွင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

أما هؤلاء فيسألون الله تعالى فأن شاء أعطاهم وإن شاء منعهم، وأما هؤلاء فيعلمون الناس وإنما بعثت
معلماً ثم عدل إليهم ومجلس معهم . (ق)

'ဤသူတို့သည် အလ္လာဟ်အရှင့်ထံမှ တောင်းခံနေကြသည်။ အလ္လာဟ်အရှင်က ဤသူတို့ကို ပေးလိုက ပေးတော်မူမည်။ မပေးဘဲနေလိုက နေတော်မူမည်။ ၎င်းနောက် ဤသူများက မူလူတို့အား သင်ပေးနေကြသည်။ ငါသည်လည်း သင်ပေးသူအဖြစ် စေလွှတ်ခံရခြင်းဖြစ်သည်။'

ဤသို့ မိန့်ဆိုပြီးနောက် တမန်တော်မြတ်ﷺသည် ဒုတိယထိုင်ဝိုင်းဘက်သို့ လှည့်၍ သူတို့နှင့်အတူ ထိုင်တော်မူလေ

သည်။ တဖန် တမန်တော်မြတ်ﷺမိန့်ခဲ့သည်မှာ –

مثل ما بعثني الله عز وجل به من الهدى و العلم كمثل الغيث أصاب أرضاً فكانت منها بقعة قبلت الماء فأنبتت الكلأ و العشب الكثير ، وكانت منها بقعة أمسكت الماء ينفع الله عز وجل بها الناس فشربوا منها وسقوا وزرعوا ، وكانت منها طائفة فيعان لا تمسك ماء ولا ينبت كلأ . (خ.م)

'အလ္လာဟ်အရှင်က ငါ့အား တရားလမ်းစဉ်၊ အသိပညာနှင့်တကွ စေလွှတ်တော်မူခြင်း၏ဥပမာသည် ကမ္ဘာမြေပြင်သို့ မိုးရေ ကျရောက်ခြင်းနှင့်တူသည်။ ကမ္ဘာမြေပြင်တွင် မိုးရေကို စုပ်ယူထားသော မြေကွက်များရှိသည်။ ထိုမြေမျိုးတွင် နွယ်မြက်သစ်ပင်များစွာပေါက်ရောက်သည်။ ထို့ပြင် မိုးရေကို ထိန်းထားသော မြေကွက်များလည်းရှိသည်။ ထိုထိန်းထားသောရေဖြင့် အလ္လာဟ်အရှင်က လူသားကို အကျိုးဖြစ်စေသည်။ ထိုရေကို သောက်ကြ၏။ ထိုရေဖြင့် သွန်းလောင်းစိုက်ပျိုးကြ၏။ တဖန် အချို့ကုန်းခြောက်မြေများမှာကား ရေကို ထိန်းထားခြင်းမရှိပေ။ သို့ဖြစ်ရာ ထိုမြေကွက်မျိုးတွင် မြက်အစရှိသည်တို့လည်း မပေါက်နိုင်ပေ။'

ဤမိန့်ဆိုမှုတွင် ပထမပြသော ဥပမာသည် မိမိ၏အသိပညာဖြင့် အကျိုးခံစားရသူဖြစ်သည်။ ဒုတိယပြသော ဥပမာသည် မိမိ၏အသိပညာဖြင့် အခြားသူများကို အကျိုးပြုသူဖြစ်သည်။ တတိယဥပမာမှာ မိမိ၏အသိပညာက မိမိကိုယ်ကိုလည်း အကျိုးမပြု၊ အခြားသူများကိုလည်း အကျိုးမပြုသူဖြစ်သည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသေးသည်မှာ–

إذا مات ابن آدم انقطع عمله إلا من ثلاث : علم ينتفع به وصدقة جارية و ولد صالح يدعو له بالخير . (م)

'လူတစ်ယောက် ကွယ်လွန်သေဆုံးသောအခါ သူ၏ကျင့်မှုရာအားလုံး ရပ်ဆဲသွားပြီး သုံးခုအရာသာ ကျန်ရစ်ခဲ့သည်။ ထိုသုံးခုမှာ ထိုသူက အခြားသူများကို အကျိုးရှိစေခဲ့သော အသိပညာ၊ ထိုသူ၏ဆွဒကာ ဂျာရီယာအလှူဒါနနှင့် သူ့အတွက် ကောင်းရာမွန်ရာ ဆုတောင်းပေးမည့် သားသမီးရတနာတို့ဖြစ်သည်။'

တဖန် တမန်တော်မြတ်ﷺမိန့်ခဲ့သည်မှာ–

الدال على الخير كفاعله . (ت)

'ကောင်းမှုဘက်သို့ ညွှန်ပြသူသည် ထိုကောင်းမှုကို ကိုယ်တိုင်လုပ်သူကဲ့သို့ပင်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

لا حسد إلا في اثنين : رجل حكمة فهو يقضي بها ويعلمها الناس ، ورجل آتاه الله مالًا فسلطه على هلكته فى الخير . (خ.م)

'မနာလိုဝန်တိုခြင်းမပြုရပါ။ သို့သော် နှစ်ဦးသောပုဂ္ဂိုလ်အပေါ်မှာ မနာလိုဖြစ်ခွင့်ရှိသည်။ တစ်ဦးမှာ အလ္လာဟ်အရှင်က ဟိက်မတ်ဉာဏ်ပညာချီးမြှင့်ထားသူဖြစ်သည်။ ထိုသူသည် မိမိ၏ဉာဏ်ပညာနှင့်အညီ စဉ်းစားဆုံးဖြတ်သည်။ ထို့ပြင် လူတို့အားလည်း ထိုဉာဏ်ပညာကို သင်ကြားပေးသည်။ နောက်တစ်ဦးမှာ အလ္လာဟ်အရှင်က ပစ္စည်းဥစ္စာကိုင်း၊ ထိုဥစ္စာပစ္စည်းကို ကောင်းကျိုးကောင်းရာ၌ ကုန်ကုန်ခမ်းခမ်းသုံးစွဲနိုင် စွမ်းကိုင်း ချီးမြှင့်ခြင်းခံရသူဖြစ်သည်။'

ထို့ပြင် တစ်ကြိမ်တွင် တမန်တော်မြတ်ﷺက–

((على خلفائي رحمة الله)) قيل : ومن خلفاؤك ؟ قال ((الذين يحيون سنتي ويعلمونها عباد الله . (بر)

'ငါ၏ကိုယ်စားလှယ်များအပေါ် အလ္လာဟ်အရှင့်ရဟ်မတ် သက်ရောက်ပါစေ'ဟု မိန့်ဆိုလိုက်သည်။ ထို၌ လူတို့က 'ကိုယ်တော်၏ကိုယ်စားလှယ်များက မည်သူတွေပါလဲ'ဟု မေးကြသည်။ ဤတွင် တမန်

တော်မြတ်ﷺက 'ငါ၏စွန္နတ်ကို ချစ်မြတ်နိုးများနှင့် စွန္နတ်လမ်းစဉ်ကို လူသားတို့အား ပြန်လည်သင်ပြသူများဖြစ်သည်'ဟု မိန့်ဆိုခဲ့၏။'

**ဆက်လက်၍ ဆွဟာဗဟ်သခင်များ(ရ)နှင့် တာဘိအီန်သခင်များ(ရဟ်) ဆိုမိန့်ခဲ့သော ပညာသင်ကြားပို့ချခြင်း၏ ထွတ်မြတ်မှုအကြောင်း ဩဝါဒများကို ဖေါ်ပြပါအံ့။**

အိုမရ်(ရ)သခင်က မိန့်ဆိုခဲ့သည်မှာ 'အကြင်သူသည် ဟဒီစ်တစ်ပုဒ်ကို ပို့ချပြောပြခဲ့ရာ ကြားနာသူက ထိုဟဒီစ်အပေါ် လက်တွေ့ကျင့်သုံးခဲ့မည်ဆိုလျှင် ကျင့်သုံးမှုနှင့်အမျှ ပြောပြသူ စွဝါဗ်ရမည်။' တဖန် အိဗ်နေ့အဗ္ဗာစ်(ရ)သခင်က 'လူတို့အား ကောင်းမြတ်သောအရာကို သင်ပြပေးသူအတွက် ပင်လယ်ရှိငါးများမှအစ အရာအားလုံးတို့က ချမ်းသာဆုပန်ပေးကြသည်'ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် သုခမိန်တစ်ဦးက 'ပညာရှင်ဆိုသည်မှာ အလ္လာဟ်အရှင်နှင့် ထိုအရှင်၏အဖန်ဆင်းခံများအကြားတွင် ကြားခံပုဂ္ဂိုလ်ပင်ဖြစ်သည်။ သို့ဖြစ်ရာ သူမည်ကဲ့သို့ကြားဝင်ဆောင်ရွက်သည်ကို ကြည့်ရှုပါ'ဟု ဆိုခဲ့သည်။

ဆွဖ်ယာန်ဆော်ရ်ရီ(ရဟ်)သခင် အဝ်စ်ကလာန်မြို့သို့ ရောက်ရှိသည့်အကြောင်း လာရှိသည်။ သခင်သည် ထိုမြို့တွင် နေထိုင်ခဲ့ပြီး မည်သူတစ်ယောက်မှ သခင့်ထံလာရောက် မေးမြန်းခြင်းမပြုပါ။ ထိုအခါ သခင်က 'ဒီမြို့က ထွက်သွားဖို့အတွက် ငါ့ကို အစီးအနင်းငှါးပေးကြ။ ဒီမြို့ဟာ ပညာသေမယ့် မြို့ဘဲ'ဟု ပြောဆိုခဲ့သည်။ ပညာသင်ပေးခြင်း၏ထွတ်မြတ်မှုကိုငှင်း၊ သင်ပေးခြင်းဖြင့် ပညာအခွန့်ရှည်တည်မြဲမည်ကိုငှင်း လိုလားမက်ထားစိတ်ဖြင့် ဤသို့ပြောဆိုခဲ့ခြင်းဖြစ်ပါသည်။ တဖန် အတွာ(ရဟ်)သခင်က ပြောပြသည်မှာ 'ကျွန်ုပ်သည် စအီဒ်အိဗ်နေ့မုဆိုင်ယာဗ်ထံ ရောက်ရှိခဲ့သည်။ ရောက်ရှိချိန်တွင် သူသည် ငိုလျက်ရှိသည်။ ကျွန်ုပ်က 'ခင်ဗျားဘာကြောင့် ငိုနေတာလဲ'ဟု မေးသည်။ သူက 'ဘယ်သူတစ်ဦးမှ ငါ့ဆီကိုလာပြီး မေးခြင်းမြန်းခြင်းမရှိတော့ပါ'ဟု ပြောပြ၏။

ကဝိတို့စကားရှိသည်မှာ 'ပညာရှင်များသည် ခေတ်အသီးသီး၏မီးရှူးတန်ဆောင်များဖြစ်ကြသည်။ ပညာရှင်တစ်ပါးစီသည် သူ့ခေတ်၏လမ်းပြမီးတိုင်ပင်ဖြစ်သည်။ သူ့ခေတ်၏လူအများသည် ထိုမီးတိုင်ဖြင့် အလင်းရကြ၏။' တဖန် ဟစ်ဘစ္စရီ(ရဟ်)သခင်က 'အကယ်၍ ပညာရှင်များသာမရှိပါလျှင် လူသားတို့သည် တိရိစ္ဆာန်များအလားဖြစ်ကုန်ကြလိမ့်မည်'ဟု ပြောဆိုခဲ့လေသည်။ သခင်က ဆိုလိုသည်မှာ ပညာရှင်များ၏သွန်သင်ပြသမှုဖြင့် လူသားတို့သည် တိရိစ္ဆာန်ဘောင်မှ ထွက်၍ လူသားဘောင်သို့ ရောက်ခဲ့ရသည်။

အပ်က်ရာမာ(ရဟ်)သခင်က 'ပညာတွင် အဖိုးအခရှိသည်'ဟု ပြောသောအခါ လူတို့က 'ပညာ၏အဖိုးအခက ဘာပါလဲ'ဟု မေးကြသည်။ ထိုအခါ သခင်က 'ပညာကို ကောင်းစွာ မှတ်သားထိမ်းသိမ်းမည့်သူ၊ ၎င်းဖျက်ဆီးခြင်းမပြုမည့်သူအား သင်ပေးရန်ဖြစ်သည်'ဟု ဖြေခဲ့သည်။ ထို့ပြင် ယဟ်ယာအိဗ်နေ့မအာဇ်(ရဟ်)သခင်က 'ပညာရှင်များသည် မုဟမ္မဒ်ﷺသခင်၏အွမ္မတ်ကို ၎င်းတို့၏ဘိုးဘွားမိဘများထက်ပို၍ သနားကြင်နာကြသည်'ဟု ပြောဆိုသောအခါ လူတို့က 'အဘယ်သို့ပါလဲ'ဟု မေးခဲ့ကြသည်။ သခင်က '၎င်းတို့၏မိဘများက ၎င်းတို့ကို ဒွန္နယာ၏မီးမှ ကာကွယ်ထိန်းသိမ်းပေးကြသည်။ ပညာရှင်များကမူ ၎င်းတို့ကို အာခိရတ်၏မီးမှ ကာကွယ်ထိန်းသိမ်းပေးသည်'ဟု ဖြေကြားခဲ့သည်။

ပညာသင်ကြားမှု အဆင့်ဆင့်နှင့်စပ်လျဉ်း၍ အဆိုအမိန့်ရှိသည်မှာ 'ပထမ တိတ်ဆိတ်စွာနေပါ။ ထို့နောက် နားစိုက်ထောင်ပါ။ ထို့နောက် မှတ်သားပါ။ ထို့နောက် ကျင့်သုံးပါ။ ထို့နောက် ၎င်းပညာကို လူတို့ထံ ဖြန့်ဝေပါ။' ထို့ပြင် အဆိုအမိန့်ရှိသည်မှာ 'အသင်သိထားသော အသိပညာကို မသိနားမလည်သူများအား သင်ပေးပါ။ အသင်မသိသည့်အရာကို တတ်သိနားလည်သူများထံမှ သင်ယူပါ။ ဤသို့ပြုခြင်းဖြင့် အသင် မသိသောအရာကို သိနိုင်ပြီး

အသင် သိထားသောအရာကို ထိန်းသိမ်းမှတ်သားနိုင်မည်ဖြစ်သည်။'

မအာဇ်အိဗ်နေ့ဂျဘ်လ်(رض)သခင်ထံ သင်ပေးသင်ယူလုပ်ငန်းနှင့်ပတ်သက်၍ ဆိုမိန့်ခဲ့သည်။ ကျွန်ုပ်(ဂဇာလီ) သည် ဤစကားရပ်ကို တမန်တော်မြတ်ﷺ၏ မိန့်ဆိုချက်အဖြစ်လည်း တွေ့ရ၏။ ယင်းမှာ 'ပညာကို သင်ယူကြကုန်။ ထိုပညာကို အလ္လာဟ်အရှင့်အတွက်ရည်စူး သင်ယူခြင်းသည် အရှင့်အား ကြောက်ရွံ့ခြင်းဖြစ်၏။ ထိုပညာကို စူးစမ်းရှာဖွေခြင်းသည် အ်ဗာဒတ်ဖြစ်၏။ ယင်းကို လေ့ကျက်ဆည်းပူးခြင်းသည် တက်စ်ဗီစ်ဖြန်းခြင်းဖြစ်၏။ ပညာနှင့်စပ်လျဉ်း၍ ဆွေးနွေးသုံးသပ်ခြင်းသည် ဂျိဟာဒ်ဖြစ်၏။ ယင်းကို သင်ပြပို့ချခြင်းသည် အလ္လူဒါနဖြစ်၏။ ယင်းကို ထိုက်တန်သူများအား ပေးကမ်းခြင်းသည် အလ္လာဟ်အရှင်နှင့်နီးကပ်စေမှုဖြစ်၏။ ယင်းပညာသည် အဖော်မဲ့နေရသည့်အခါ အဖော်မွန်။ တစ်ကိုယ်တည်းရှိသည့်အခါ စကားပြောဘက်။ သာသနာရေးမှာ လမ်းပြပုဂ္ဂိုလ်။ ဒုက္ခသုခကြုံရသည့်အခါ အလင်းမီးတိုင်။ မိတ်ဆွေသူငယ်ချင်းများအကြားတွင် ကိုယ်စားလက်ထောက်။ သူစိမ်းများအကြားတွင် သွေးသားရင်းခြာ။ ဂျန္နတ်သို့ သွားရာလမ်းအတွက် လမ်းပြမီးအိမ်ပင်ဖြစ်တော့သည်။'

'အလ္လာဟ်အရှင်သည် ဤပညာကို အကြောင်းပြုပြီး လူသားကို မြှင့်တင်ပေးတော်မူသည်။ ထို့ပြင် လူသားကို ကောင်းမှုကောင်းရာနှင့်ပတ်သက်၍ ရှေ့ဆောင်ရှေ့ရွက်လမ်းပြပုဂ္ဂိုလ်များအဖြစ် ပြုလုပ်တော်မူသည်။ ၎င်းတို့၏နောက်မှ အနော်အတာခံစေသည်။ ကောင်းမှုကောင်းရာဘက်သို့ လမ်းညွှန်ပုဂ္ဂိုလ်များဖြစ်စေသည်။ သူတို့၏ခြေရာကို နင်းလျှောက်ကြရသည်။ သူတို့၏အပြုအမူများကို စူးစိုက်ကြည့်ရှုကြရသည်။ ကောင်းကင်တမန်များကပင် သူတို့နှင့် အဆွေခင်ပွန်း ဖွဲ့ချင်ကြသည်။ ကောင်းကင်တမန်များက မိမိတို့၏တောင်ပံများနှင့် သူတို့ကို ပွတ်သပ်ကြသည်။ ပင်လယ်ထဲမှ ငါးများ၊ ပိုးမွှားသတ္တဝါများ၊ ကုန်းမြေပေါ်ရှိ သားရဲနှင့်တိရိစ္ဆာန်များ၊ မိုးကောင်းကင်နှင့် မိုးပေါ်ရှိ ကြယ်နက္ခတ်များ–ပုပ္ဖရှုရှု ရှိသမျှခပ်သိမ်းတို့က ပညာရှင်များအတွက် ချမ်းသာဆုပန်ပေးကြသည်။*

အကြောင်းမှုကား ပညာသည် စုံးစုံးကန်းနေသောနှလုံးသားကို ပြန်၍ရှင်စေသည်။ အမှောင်ထဲတွင် မျက်စိ၏အလင်းရောင်ဖြစ်သည်။ အားအင်ချိနဲ့နေသည့် ခန္ဓာကိုယ်အတွက် ခွန်အားဖြစ်သည်။ ဤပညာကို အကြောင်းပြု၍ ကျေးကျွန်သည် သူတော်ကောင်းတို့၏အဆင့်အတန်းများနှင့် မြင့်မားသည့်အရိုက်အရာများကို ရရှိလေသည်။ အသိပညာနှင့်ပတ်သက်၍ စဉ်းစားတွေးခေါ်ခြင်းသည် ရိုဇာနှင့် တူမျှ၏။ အသိပညာကို သင်အံဆည်းပူးခြင်းသည် ညဥ့်တွင် နိုးထအိဗာဒတ်ပြုခြင်းနှင့် တန်းတူဖြစ်၏။ ဤပညာကို အကြောင်းပြု၍ အလ္လာဟ်အရှင်၏အမိန့်ကို နာခံရ၏။ အိဗာဒတ်ပြုရ၏။ တစ်ပါးရှင်ရှိမှန်း သိရ၏။ ဤပညာဖြင့်သာ အရှင့်ကို ချီးမွမ်းထောမနာပြုရ၏။ ဤပညာဖြင့်သာ အရှင့်အား ကြောက်ရွံ့ခန့်ငြားခြင်းတည်းဟူသော တက္ကဝါကို ရရှိ၏။ ဤပညာဖြင့် သားချင်းဆွေမျိုး ဆက်ကြရ၏။ ဤပညာဖြင့် ဟလာလ်ဟရာမ်ကို ခွဲခြားသိရှိရ၏။ ပညာကသာလျှင် ရှေ့ဆောင်ဖြစ်ပြီး ကျင့်သုံးမှုသည် နောက်လိုက်မှုဖြစ်၏။ ပညာသည် တက္ကဒီရ်ကောင်းသူများ၏နှလုံးသားတွင် ခိုအောင်းဝင်ရောက်၏။ တက္ကဒီရ်ဆိုးသူများသည် ပညာမှ လက်မဲ့ဖြစ်ကြရ၏။

*ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံတွင် ကောင်းမွန်သောကျင့်ဆောင်နိုင်စွမ်းကို တောင်းခံကြပါ၏။*

---

* ဤမိန့်ဆိုချက်ကို ဟဒီစ်ပညာရှင်ကြီး ရှိက်ခ်အီဗ်နေ့ဟစ်ဗာန်(رح)၏ဖခင်က 'ပါ ၃ဟါ ပင်' ကျမ်းတွင် ဖော်ပြထားသည်။ **အိဗ်နေ့အဗ်ဒုလ်ဘရ်**(رح)ကလည်း ဤမိန့်ဆိုချက်ကို မိမိ၏ကျမ်း၌ ဖော်ပြပြီး 'ဤမိန့်ဆိုချက်အတွက် အားကောင်းသော **စနဒ်ဆက်**မရှိပါ'ဟု ဆိုခဲ့သည်။

## ပညာ၏ထွတ်မြတ်မှုကို သဘာဝယုတ္တိအရ ရှင်းပြခြင်း

ဤအခန်းတွင် အဓိကမှာ ပညာ၏ထွတ်မြတ်တန်ဘိုးရှိမှုကို သိရှိနိုင်ရန်ဖြစ်သည်။ 'ထွတ်မြတ်မှု'ဆိုသည့် စကားလုံးနှင့် ယင်း၏အလိုသဘောကို သိနားလည်ခြင်းမရှိဘဲ၊ ဤစကားလုံးကို 'ပညာ'တွင် ဝိသေသပြုထားချက်အား သိနားလည်ရန် မဖြစ်နိုင်ပေ။ ဤနည်းအတူ အခြားသောအကျင့်အမူများကို 'ထွတ်မြတ်သည်'ဟု ပြောဆိုသည့်အခါမှလည်း သိနားလည်မည်မဟုတ်ပေ။ 'ဟီကမတ်'၏အဓိပ္ပါယ်နှင့်အရင်းခံသဘောကို မသိသူက 'ဇိုက်ဒ်သည် ဟီကမတ်ရှင်ဖြစ်သည်'ဆိုသောစကားရပ်ကို မည်မျှပင် သိချင်ပါသော်လည်း သိရန်လမ်းမရှိပေ။

'ထွတ်မြတ်မှု'အတွက် အရဗီစာလုံး 'ဖဒွီလတ်-فضيلة'သည် 'ဖဒ္ဒလ်-فضل'စာလုံးမှ ထုတ်ယူထားခြင်းဖြစ်သည်။ 'فضل'၏အဓိပ္ပါယ်သည် 'သာပိုခြင်း'ဖြစ်၏။ အရာဝတ္ထုနှစ်ခုတွင် ကိစ္စရပ်တစ်ခုသည် စင်ပြိုင်ပါရှိနေပြီး အရာနှစ်ခုအနက် တစ်ခုတွင် ထိုကိစ္စရပ်က ပိုများသည့်အခါ တစ်ခုသည် တစ်ခုထက် သာပိုမှုရှိသည်ဟု ဆိုကြ၏။ သို့နှင့်တိုင် 'فضل'ကို ထွတ်မြတ်မှုအဖြစ် သုံးနှုံးရာ၌ ကောင်းမြတ်သောကိစ္စတွင်ဖြစ်ရမည်။ ဥပမာ မြင်းသည် မြည်းထက် ထွတ်မြတ်သည်ဟု ပြောဆိုရာတွင် အလိုသဘောမှာ မြင်းနှင့်မြည်းသည် ဝန်တင်နိုင်မှု အတူတူဖြစ်သည်။ သို့သော် ဒုန်းဆိုင်းရာနှင့် ခရီးပြင်းချီရာတွင် မြင်းက သာသည်။ ရုပ်ဆင်းမှာလည်း ပို၍ လှသည်။ အကယ်၍ မြည်းက ကုန်စည်ကို များစွာပိုပြီးတင်နိုင်သော်လည်း သာမြတ်သည်ဟု မပြောနိုင်ပါ။ အဘယ်ကြောင့်ဆိုသော် ဤသို့ ကုန်ပိုတင်နိုင်ခြင်းသည် ကိုယ်ခန္ဓာပဟူသောဗဟိဒ္ဓသဘောကြောင့်ဖြစ်သည်။ မြည်းတွင် အဇ္ဈတ္တသဘောအရ လျော့နည်းမှုက ရှိနေသည်။ တဖန် ကိုယ်ခန္ဓာအလုံးအထည်သည် ကောင်းမြတ်မှုတွင်ပါဝင်သည်မဟုတ်ပေ။

တိရိစ္ဆာန်များကို လိုလားနှစ်သက်ရခြင်းသည် ၎င်းတို့၏အတွင်းပိုင်းအဇ္ဈတ္တနှင့် အရည်အသွေးများကြောင့်ဖြစ်သည်။ ၎င်းတို့၏ကိုယ်ခန္ဓာကြောင့် မဟုတ်ပါ။ အသင်သည် ဤအချက်ကို နားလည်ပြီဆိုလျှင် ပညာကို အခြားသော ဝိသေသထူးမှုများနှင့် နှိုင်းယှဉ်ကြည့်သည့်အခါ ပညာတွင် ထွတ်မြတ်မှုရှိနေသည့်အချက်ကို၊ သင့်အနေနှင့် မရှင်းမလင်းဖြစ်စရာ မရှိတော့ပါ။ ဥပမာအားဖြင့် မြင်းကို အခြားသောတိရိစ္ဆာန်များအားလုံးနှင့် နှိုင်းယှဉ်သည့်အခါ မြင်းတွင် ထွတ်မြတ်မှု ရှိသကဲ့သို့ဖြစ်၏။ သို့နှင့်တိုင် မြင်း၌ရှိသော အပြင်းအထန်ထိုးဖေါက်ချီတက်နိုင်စွမ်းဆိုသည့် ထွတ်မြတ်မှုသည် မြင်းသတ္တဝါတို့၏သီးခြားကိုယ်ပိုင် ထွတ်မြတ်မှုကား မဟုတ်ပေ။ နှိုင်းယှဉ်ချက်အရ သိရသည့် ထွတ်မြတ်မှုသာဖြစ်သည်။ ဤအဖြစ်နှင့် ဆန့်ကျင်လျက် ပညာကမူ ကိုယ်တိုင်က ထွတ်မြတ်မှု ရှိနေခြင်းဖြစ်သည်။ အခြားအရာနှင့် နှိုင်းယှဉ်ချက်အရမဟုတ်ဘဲ သီးသန့်ပင်ကိုယ်သဘောအရ ထွတ်မြတ်မှုရှိခြင်းဖြစ်သည်။

ပညာသည် အလ္လာဟ်အရှင်၏ကုန်လုံပြည့်စုံမှုကို ဖေါ်ပြသည့် ဂုဏ်ပုဒ်ဝိသေသဖြစ်သည်။ ဤပညာကြောင့်သာ ကောင်းကင်တမန်များနှင့် နဗီတမန်တော်များ မြင့်မြတ်မှုရှိကြရခြင်းဖြစ်သည်။ စင်စစ်တွင် မြင်းများကို ထုံထိုင်းသော မြင်းထက် ချက်ချာသော မြင်းများက ပို၍ကောင်းသည် ဆိုခြင်းကို နှိုင်းယှဉ်ဆင်ခြင်မှုဖြင့် ခွဲခြားသိရခြင်းဖြစ်သည်။ ပညာ၏ထွတ်မြတ်ခြင်းကမူ နှိုင်းယှဉ်ချက်အရ မဟုတ်ဘဲ၊ သီးသန့်ပင်ကိုယ်သဘောအရဖြစ်သည်။

တန်ဘိုးရှိသော အရာတစ်ခုကို လိုလားမက်မောရခြင်းသည် အကြောင်းသုံးမျိုးကြောင့်ဖြစ်သည်။ ယင်းတို့မှာ အခြားအရာကို အကြောင်းပြု၍ လိုလားမက်မောဖွယ်ဖြစ်ခြင်း၊ ပင်ကိုယ်က လိုလားမက်မောဖွယ်ဖြစ်ခြင်း၊ အခြားအရာကို အကြောင်းပြုမှုနှင့် ပင်ကိုယ် လိုလားမက်မောဖွယ်ဖြစ်မှုနှစ်ရပ် ပူးတွဲပါရှိခြင်းတို့ဖြစ်သည်။ သို့ဖြစ်ရာ ပင်ကိုယ် လိုလားမက်မောဖွယ်ဖြစ်ခြင်းသည် အခြားအရာကို အကြောင်းပြု၍ လိုလားမက်မောဖွယ်ဖြစ်ခြင်းထက် ပို၍ ကောင်းမွန်ပြီး ထွတ်မြတ်မှုရှိလေသည်။

အခြားအရာကို အကြောင်းပြု၍ လိုလားနှစ်သက်ဖွယ်ဖြစ်ခြင်း၏ဥပမာသည် ငွေဒင်္ဂါးနှင့် ရွှေဒင်္ဂါးဖြစ်သည်။ ဤအရာနှစ်မျိုးသည် သတ္တုပြားများသာဖြစ်သည်။ အကယ်၍ အလ္လာဟ်အရှင်က လူတို့၏လိုအပ်ချက်များကို ဖြည့်ဆည်းရာမှာ ဤနှစ်ခုဖြင့် လွယ်ကူမှုပြုမပေးလျှင် ဤနှစ်ခုသည် ဘာမှအသုံးမကျပေ။ သတ္တုစများက သတ္တုစများသာဖြစ်သည်။ ထို့နောက် ပင်ကိုယ်အရ လိုလားနှစ်သက်ဖွယ်ဖြစ်ခြင်း၏ဥပမာသည် အာခိရတ်၌ ပျော်ရွှင်ကြည်နူးရခြင်း၊ အလ္လာဟ်အရှင်၏ရွှေမျက်နှာတော်ကို ဖူးမျှော်ရခြင်းတို့ဖြစ်သည်။ အခြားအရာကို အကြောင်းပြုပြီး လိုလားနှစ်သက်ဖွယ်ဖြစ်မှုနှင့် ပင်ကိုယ်လိုလားနှစ်သက်ဖွယ်ဖြစ်မှုနှစ်ရပ် ပူးတွဲပါရှိသောအရာ၏ဥပမာသည် ခန္ဓာကိုယ် ကောင်းမွန်ချမ်းမြေ့စွာရှိခြင်းဖြစ်သည်။ ဥပမာ ခြေထောက် ကောင်းမွန်စွာရှိခြင်းသည် လိုလားအပ်သောအရာဖြစ်သည်။ ခြေထောက်တွင် အနာဒုက္ခမှ ကင်းရှင်းခြင်းသည် ခန္ဓာကိုယ်၏ချမ်းမြေ့မှုဖြစ်သည်။ ခြေထောက်ကောင်းလျှင် လိုရာပန်းတိုင်သို့ သွားလာနိုင်သည်။ ပညာကို ဤအခြေခံဖြင့် အသင်စဉ်းစားလျှင် ပညာသည် ပင်ကိုယ်ဓာတိရုပ်က အမြိုက်ချမ်းသာဖြစ်ကြောင်း၊ သို့ဖြစ်သောကြောင့်လည်း ပကတိသဘောအရ ပညာသည် လိုလားမက်မောအပ်သောအရာဖြစ်ရကြောင်း တွေ့ရမည်။

ထို့ပြင် ပညာသည် အာခိရတ်ရေးအတွက် အထောက်အကူအရာဖြစ်သည်။ အာခိရတ်တွင် ပျော်ရွှင်မှု ရစေမည့်အရာဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်နှင့် နီးကပ်မှုဖြစ်စေမည့်ပဓာနအချက်ဖြစ်သည်။ ပညာမပါဘဲ အလ္လာဟ်အရှင့်ထံ ပေါက်မြောက်ရောက်ရှိရန် မဖြစ်နိုင်ပေ။

လူသားအတွက် အရာရာတွင် အကြီးကျယ်ဆုံးသည် ထာဝရတက္ကဒီရ်ကောင်းခြင်းဖြစ်သည်။ သို့နှင့်အမျှ လူသားအတွက် အရာရာတွင် ထွတ်မြတ်မှုအရှိဆုံးသည် ထာဝရပျော်ရွှင်ချမ်းမြေ့မှုရရန် အထောက်အကူပြုမည့်အရာဖြစ်သည်။ တဖန် ထာဝရတက္ကဒီရ်ကောင်းရန်ဆိုသည်မှာ အသိပညာနှင့်ကျင့်သုံးမှုမပါဘဲ မဖြစ်နိုင်ပေ။ ကျင့်သုံးမှုအဆင့်သို့ ရောက်ရန်မှာလည်း ကျင့်သုံးမှုနည်းလမ်းကို သိသော အသိပညာနှင့်သာဖြစ်နိုင်သည်။ သို့ဖြင့် ဒွန္နယာနှင့် အာခိရတ်တွင် တက္ကဒီရ်ကောင်းခြင်း၏အရင်းခံအရာသည် ပညာပင်ဖြစ်သည်။ သို့ဖြစ်ရာ ပညာသည် ကျင့်ဆောက်တည်မှုအားလုံးတွင် အမြင့်မြတ်ဆုံးဖြစ်ရတော့သည်။

သင်သည် အရာတစ်ခု၏မြင့်မြတ်မှုကို ထိုအရာမှ ထွက်ပေါ်သော ရလဒ်အသီးအပွင့်ဖြင့် သိရခြင်းဖြစ်သည်။ သို့ဖြစ်ရာ ပညာ၏အသီးအပွင့်သည် လောကခပ်သိမ်း၏ရစ်အရှင်နှင့် နီးကပ်ရမှုဖြစ်သည်ကိုငှ၊ ကောင်းကင်တမန်များ၏အသိုင်းအဝိုင်းသို့ ပူးပေါင်းရမှုဖြစ်သည်ကိုငှ၊ မလအိအအ်လာထံ ပေါက်မြောက်ရောက်ရှိမှုဖြစ်သည်ကိုငှ၊ အသင်သိနိုင်ပြီဖြစ်သည်။ ဤအထိမှာ အာခိရတ်နှင့်သက်ဆိုင်သမျှသာဖြစ်သည်။

ပညာကြောင့် ဒွန္နယာတွင် ရရှိသော အကျိုးရလဒ်များကား ဥပမာ ဂုဏ်သိက္ခာ၊ အရှိအသေခံရမှု၊ အုပ်ချုပ်သူဘုရင်များအပေါ် ဩဇာညောင်းခြင်း၊ လူတို့၏စိတ်တွင် ကြည်ညိုလေးစားမှုဖြစ်ပေါ်ခြင်း စသည်ဖြင့်ဖြစ်သည်။ အသိဉာဏ်နည်းသော တူရကီများနှင့် ကျေးတောသားအရစ်အရိုင်းများ၏စိတ်ထားသည်ပင် သဘာဝအရ၊ မိမိတို့အထဲမှ သက်ကြီးရွယ်အိုများကို မိမိတို့ထက်အသိပညာ ပိုသည့်အတွက် အရှိအသေပေးကြသည်။ ထိုသက်ကြီးပုဂ္ဂိုလ်တို့သည် အသိပညာကို မိမိတို့၏အတွေ့အကြုံများမှ ရရှိကြခြင်းဖြစ်သည်။ တိရိစ္ဆာန်တို့သည်ပင် ၎င်းတို့၏ဇီဝသဘာဝအရ လူသားကို လေးစားခန့်ညားမှုရှိကြသည်။ ဤသို့ရှိခြင်းမှာ တိရိစ္ဆာန်များက လူသားတွင် မိမိတို့အဆင့်ထက် ကျော်လွန်ကွာလှမ်းသော ပါရမီပြည့်ဝမှုရှိကြောင်း ခွဲခြားသိရှိကြသောကြောင့်ဖြစ်သည်။

ဤအထိမှာ ပညာ၏ထွတ်မြတ်မှုသက်သက်ကို ပြဆိုခြင်းဖြစ်သည်။ မကြာမီရှင်းလင်းဖော်ပြမည့်အတိုင်းပင် ပညာရပ်များသည် အမျိုးမျိုးအထွေထွေရှိနေသည်။ ထိုပညာရပ်များသည် တစ်ခုနှင့်တစ်ခု ကွာခြားသည့်အပေါ် ၎င်းတို့၏ထွတ်မြတ်မှုမှာလည်း မလွဲမသွေကွဲပြားခြားနားသည်။ ပညာကို သင်ပြခြင်းနှင့် သင်ယူခြင်း၏ထွတ်မြတ်မှု

မှာကား ကျွန်ုပ်တို့အထက်က တင်ပြခဲ့သမျှဖြင့် ထင်ရှားနေပြီဖြစ်သည်။

ပညာသည် အရာအားလုံးထက် အမြတ်ဆုံးဖြစ်သည့်တံထွာ ထိုပညာကို သင်ယူခြင်းသည် အမြတ်ဆုံးကို ရှာဖွေခြင်းဖြစ်သဖြင့် ၎င်းသည်လည်း အမြတ်ဆုံးဖြစ်သည်။ တဖန် ပညာကို သင်ပေးခြင်းသည်လည်း အမြတ်ဆုံးအရာကို သင်ပေးခြင်းဖြစ်သည်။ ဤအကြောင်းကို ရှင်းပြရမည်ဆိုလျှင် လူသားတွင် သာသနာရေးအတွက်ရော လောကီရေးအတွက်ပါ ဦးတည်ရည်ရွယ်ချက်များရှိနေသည်။ တဖန် လောကီရေးတွင် စည်းစနစ်တကျမရှိဘဲ သာသနာရေးသည် စည်းစနစ်တကျမဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဒွန္နယာလောကသည် အာခိရတ်၏လယ်ယာစိုက်ခင်းဖြစ်သည်။ အကြင်သူသည် ဒွန္နယာလောကကို အသုံးချတတ်လျှင် ဤဒွန္နယာသည် အလ္လာဟ်အရှင်ထံ ပေါက်ရောက်စေမည့် ကိရိယာဖြစ်သည်။ သို့ဖြစ်ရာ ဤဒွန္နယာကို ယာယီစခန်းတစ်ထောက်အဖြစ်သာ သဘောထားရမည်ဖြစ်သည်။ ဤဒွန္နယာကို အတည်တကျ နေထိုင်ရမည့်နေရာအဖြစ် မသတ်မှတ်သင့်ချေ။

ဒွန္နယာ၏အရေးကိစ္စများ စည်းစနစ်တကျဖြစ်ရေးသည် လူတို့၏ပြုမူဆောင်ရွက်မှုဖြင့်သာဖြစ်နိုင်သည်။ ဤနေရာ၌ လူတို့၏အလုပ်အကိုင်နှင့် လုပ်ငန်းဆောင်တာများသည် အချုပ်အားဖြင့် သုံးမျိုးသာရှိသည်။

**ပထမအမျိုးအစားမှာ** အခြေခံလုပ်ငန်းများဖြစ်သည်။ ဤလုပ်ငန်းများမရှိဘဲ ကမ္ဘာကြီး မရပ်တည်နိုင်ပါ။ အခြေခံလုပ်ငန်းများမှာ လေးမျိုးရှိသည်။ ယင်းမှာ စိုက်ပျိုးရေးလုပ်ငန်း၊ အထည်လုပ်ငန်း၊ ဆောက်လုပ်ရေးလုပ်ငန်းနှင့်အုပ်ချုပ်ရေးလုပ်ငန်းတို့ဖြစ်သည်။ စိုက်ပျိုးရေးက အစားအစာအတွက်ဖြစ်သည်။ အထည်လုပ်ငန်းက ဝတ်ဆင်မှုအတွက်ဖြစ်သည်။ ဆောက်လုပ်ရေးက နေထိုင်မှုအတွက်ဖြစ်သည်။ အုပ်ချုပ်ရေးက လူသားတို့အကြား ပြေလည်သင့်မြတ်မှုရှိရန်၊ စုစည်းမှုရှိရန်နှင့် အသက်မွေးမှုကိစ္စများတွင် အပြန်အလှန်ကူညီရန်အတွက်ဖြစ်သည်။

**ဒုတိယအမျိုးအစားမှာ** အထက်ပါလုပ်ငန်းရပ်လေးမျိုးအတွက် အကြိုပြင်ဆင်မှုလုပ်ငန်းများနှင့် အထောက်အကူပြုလုပ်ငန်းများဖြစ်သည်။ ဥပမာ– ပန်းပဲလုပ်ငန်းက စိုက်ပျိုးရေးလုပ်ငန်းကို အထောက်အကူပြုသည်။ ထို့ပြင် အခြားလုပ်ငန်းများအတွက် ကိရိယာတန်ဆာပလာများကို ဤပန်းပဲလုပ်ငန်းကပင် ထုတ်လုပ်ပေးသည်။ ထို့နောက် ချည်ငင်ဝါဖတ်လုပ်ငန်းနှင့် ရက်ကန်းလုပ်ငန်းများက အထည်ချုပ်လုပ်ငန်းကို အထောက်အကူပြုသည်။

**တတိယအမျိုးအစားမှာ** အခြေခံလုပ်ငန်းများကို ပြည့်စုံအောင် အပြီးသတ်ပေးသည့်လုပ်ငန်းများနှင့်အချောကိုင်ပေးသည့်လုပ်ငန်းများဖြစ်သည်။ ဥပမာ သီးနှံကျိတ်ခွဲသည့်လုပ်ငန်းနှင့် မုံ့ဖုတ်သည့်လုပ်ငန်းများသည် စိုက်ပျိုးရေးလုပ်ငန်းကို အပြီးသတ်အချောကိုင်ပေးသည်။ အရောင်ဆိုးခြင်းနှင့် ချုပ်လုပ်ခြင်းတို့သည် အထည်လုပ်ငန်းကို အပြီးသတ်အချောကိုင်ပေးသည်။

ဤအခြေခံလုပ်ငန်းသုံးရပ်နှင့် ကမ္ဘာလောက၏လည်ပတ်ရပ်တည်မှုတို့ ဆက်စပ်ပတ်သက်ပုံမှာ ပမာအားဖြင့် လူ့ခန္ဓာကိုယ်၏အစိတ်အပိုင်းများနှင့်အဓိကအင်္ဂါရပ်သုံးခုတို့ ဆက်စပ်ပတ်သက်ပုံကဲ့သို့ဖြစ်သည်။ ဥပမာ နှလုံး၊ အသဲနှင့် ဦးနှောက်တို့သည် အဓိကအစိတ်အပိုင်းများဖြစ်ပြီး အစာအိမ်၊ သွေးကြောမများ၊ သွေးကြောမွှားများ၊ အရွတ်များနှင့် ဇက်ကြောကဲ့သို့ အစိတ်အပိုင်းများသည် ထိုအဓိကအစိတ်အပိုင်းများကို အထောက်အကူပြုသကဲ့သို့ဖြစ်သည်။ တဖန် ထိုအစိတ်အပိုင်းများကို လက်သဲခြေသဲများ၊ လက်ချောင်းခြေချောင်းများ၊ မျက်ခုံးမွေးကဲ့သို့ အစိတ်အပိုင်းများက ပြည့်ဝစုံလင်ပြီး တင့်တယ်လှပအောင်ပြုလုပ်ပေးလေသည်။

အထက်ပါလုပ်ငန်းလေးမျိုးတွင် အမြတ်ဆုံးမှာ အခြေခံလုပ်ငန်းများဖြစ်သည်။ တဖန် ထိုအခြေခံလုပ်ငန်းများတွင် အမြတ်ဆုံးမှာ အုပ်ချုပ်ရေးဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ချစ်ကြည်သင့်မြတ်မှုနှင့် လူသားအချင်းချင်း ကောင်းမွန်စွာ ဆက်ဆံနေထိုင်ရေးသည် ထိုစီမံအုပ်ချုပ်ရေးအပေါ်မှာသာ မူတည်နေသည်။ သို့အတွက်ကြောင့်ပင် အုပ်ချုပ်ရေးလုပ်ငန်းကို တာဝန်ယူထားသူများသည် အရည်အသွေးပြည့်ဝရန်လိုအပ်သည်။ အခြားလုပ်ငန်းများတွင်

ဤကဲ့သို့မလိုလှပေ။ ထို့ကြောင့်ပင် အုပ်ချုပ်ရေးတာဝန်ခံသည် အခြားလုပ်ငန်းလုပ်ဆောင်သူအားလုံးထံမှ ထောက်ပံ့ကူညီမှုကို မလွဲမသွေယူကြရသည်။

လူသားတို့၏ကောင်းရာကောင်းကြောင်းနှင့် ၎င်းတို့အား ဒွန္နယာအာခိရတ်နှစ်ဘဝ လွတ်မြောက်အောင်မြင်မှု၏လမ်းကို ညွှန်ကြားပြသရေးဖြစ်သည့် အုပ်ချုပ်မှုလုပ်ငန်းသည် အဆင့်အတန်း လေးမျိုးရှိသည်။

**ပထမအဆင့်** – ဤအဆင့်သည် နဗီတမန်တော်များ ﷺ ၏အုပ်ချုပ်ရေးဖြစ်ပြီး အဆင့်အမြင့်ဆုံးလည်းဖြစ်သည်။ နဗီတမန်တော် ﷺ တို့၏အာဏာစက်သည် သီးသန့်လူနှင့် သာမန်လူအားလုံးအပေါ်၊ ၎င်းတို့၏အပြင်ဗဟိဒ္ဓကိုရော အတွင်းအဇ္ဈတ္တကိုပါ စူးရှသက်ရောက်မှုရှိသည်။

**ဒုတိယအဆင့်** – ခလီဖဟ်များ၊ ဘုရင်များနှင့်အာဏာပိုင်များဖြစ်သည်။ ၎င်းတို့၏အာဏာစက်သည် သီးသန့်လူနှင့် သာမန်လူအားလုံးတို့အပေါ်တွင် သက်ရောက်မှုရှိသည်။ သို့ရာတွင် လူတို့၏ဗဟိဒ္ဓကိုသာ သက်ရောက်ခြင်းဖြစ်ပြီး အဇ္ဈတ္တကို မသက်ရောက်ပါ။

**တတိယအဆင့်** – အလ္လာဟ်အရှင်ကိုင်း၊ အလ္လာဟ်အရှင်၏သာသနာကိုင်း သိကျွမ်းသောပညာရှင်များဖြစ်သည်။ ဤပညာရှင်များသည် **နဗီတမန်တော်များ ﷺ ၏အမွေခံပုဂ္ဂိုလ်များဖြစ်သည်။** ဤပညာရှင်တို့၏အာဏာစက်သည် သီးသန့်လူတို့၏အဇ္ဈတ္တကိုသာ သက်ရောက်သည်။ သာမန်လူတို့တွင် ထိုပညာရှင်များထံမှ အကျိုးရလဒ် ထုတ်ယူနိုင်လောက်အောင် နားလည်မှုစွမ်းရည် မမြင့်မားပေ။ တဖန် ပညာရှင်တို့၌လည်း တားမြစ်ချက်နှင့် ပြဋ္ဌာန်းချက်ဆိုင်ရာများကို လူတို့၏ဗဟိဒ္ဓအထိ အာဏာတည်နိုင်ရန် အင်အားမရှိကြပေ။

**စတုတ္ထအဆင့်** – တရားဓမ္မဟောပြောပို့ချသူများဖြစ်သည်။ ၎င်းတို့၏ဩဇာသက်ရောက်မှုသည် သာမန်လူတို့၏အဇ္ဈတ္တကိုသာဖြစ်သည်။

ဤအဆင့်အတန်းလေးခုတွင် နဗီတမန်တော်များ ﷺ ၏ **အဆင့်နောက်** အမြတ်ဆုံးသည် ပညာဖြင့် အကျိုးဆောင်ခြင်း၊ လူတို့၏စေတသိတ်ကို ဆုံးရှုံးနစ်နာစေသည့် **မကောင်းသောအကျင့်စာရိတ္တများမှ** သွန်သင်ဆုံးမခြင်း၊ အာခိရတ်တွင် ပျော်ရွှင်စေမည့် ကောင်းမြတ်သော **အကျင့်စာရိတ္တများဘက်သို့** ညွှန်ပြခြင်းများဖြစ်သည်။ ယင်းသည် သင်ကြားခြင်း၏အဓိကဦးတည်ချက်လည်းဖြစ်သည်။

အုပ်ချုပ်မှုလုပ်ငန်းက အခြားလုပ်ငန်းအတတ်များထက် ပို၍ မြတ်သည်ဟု ကျွန်ုပ်က ပြောဆိုရာမှာ လုပ်ငန်းအတတ်များ၏မြင့်မြတ်မှုကို အချက်သုံးခုအား ထောက်ရှု၍သိရခြင်းဖြစ်သည်။ ပထမတစ်ခုမှာ ထိုလုပ်ငန်းကို သိရမှု အခြေခံ၏အင်အားကို ထောက်ရှု၍ မြတ်ကြောင်း သိရခြင်းဖြစ်သည်။ ဥပမာအားဖြင့် ဉာဏ်ပညာသည် စာပေပညာထက်ပို၍ မြတ်သည်။ ဟိကမတ်ကို စဉ်းစားဉာဏ်ဖြင့်သိရခြင်းဖြစ်သည်။ စာပေပညာကို နားသောတဖြင့် သိရခြင်းဖြစ်သည်။ သို့ဖြစ်ရာ စဉ်းစားဉာဏ်သည် နားသောတထက် ပို၍မြတ်လေသည်။ ဒုတိယတစ်ခုမှာ လူများစုအတွက် အကျိုးဖြစ်ထွန်းမှုကို ကြည့်၍ သိရခြင်းဖြစ်သည်။ ဥပမာ ပန်းထိမ်လုပ်ငန်းထက် စိုက်ပျိုးရေးလုပ်ငန်းက ပို၍မြတ်ခြင်း ကဲ့သို့ဖြစ်သည်။ တတိယတစ်ခုမှာ သုံးစွဲအခြေခံမှုကို ထောက်ရှု၍ သိရခြင်းဖြစ်သည်။ ဥပမာ သားရေနယ်လုပ်ငန်းထက် ပန်းထိမ်လုပ်ငန်းက မြတ်ခြင်းမျိုးဖြစ်သည်။ ပန်းထိမ်လုပ်ငန်း၏အခြေခံသည် ရွှေဖြစ်ပြီး သားရေနယ်လုပ်ငန်း၏အခြေခံသည် အသေကောင်၏သားရေဖြစ်သည်။

သာသနာရေးပညာရပ်များ၏မြင့်မြတ်ခြင်းသည် အထက်ပါအချက် သုံးခုစလုံးဖြင့် ဖြစ်ကြောင်း သိသာထင်ရှားပေသည်။ ဤပညာရပ်သည် အာခိရတ်၏လမ်းကို သိကျွမ်းမှုဖြစ်သည်။ ဤသို့သိကျွမ်းရန်မှာ အသိဉာဏ်ပြည့်ဝပြီး မျှော်မြင်ဉာဏ်ထက်သန်မှသာ ဖြစ်နိုင်လေသည်။ သို့ရှိရာ အသိဉာဏ်သည် လူသား၏ဝိသေသဂုဏ်ပုဒ်များတွင်

အမြတ်ဆုံးဖြစ်သည်။ ဤအကြောင်းရင်းလင်းချက်ကို မကြာမီ ဖော်ပြမည်။

အသိဉာဏ်ဖြင့်သာ အလ္လာဟ်အရှင်၏တာဝန်ပေးအပ်မှုကို လက်ခံရယူရခြင်းဖြစ်သည်။ အသိဉာဏ်ဖြင့်သာ အလ္လာဟ်အရှင်၏အနီးအပါးသို့ ပေါက်မြောက်ရောက်ရှိရခြင်းဖြစ်သည်။ သို့ရှိရာ အသိဉာဏ်ကြောင့် လူသားအများစု အကျိုးခံစားကြသည်မှာ သံသယဖြစ်စရာမလိုပေ။ ယင်း၏အကျိုးရလဒ်အသီးအပွင့်မှာ အာခိရတ်တွင် ပျော်ရွှင်ရခြင်းဖြစ်သည်။ အခြေခံသည့်နေရာဌာန၏မြင့်မြတ်ခြင်းမှာလည်း သင်ပြပို့ချပေးသူသည် လူသားတို့၏နှလုံးသားများကို အခြေခံအသုံးပြုရသည်မှာ ရှင်းနေပေသည်။

ကမ္ဘာမြေပြင်၌ တည်ရှိနေသောအရာများတွင် အမြတ်ဆုံးသည် လူသားမျိုးနွယ်ဖြစ်သည်။ တဖန် ထိုလူသား၏ခန္ဓာကိုယ်တွင် အမြတ်ဆုံးအစိတ်အပိုင်းသည် နှလုံးသားဖြစ်သည်။ သင်ကြားပေးသူဆရာသည် ထိုနှလုံးသားကို ကုံလုံပြည့်ဝအောင်၊ ထွန်းလင်းတောက်ပအောင်၊ သန့်ရှင်းဖြူစင်အောင် ကြိုးပမ်းလုပ်ဆောင်ပေးသူပင်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်နှင့် နီးကပ်မှုဘက်သို့ ဆွဲဆောင်ခေါ်ယူသူဖြစ်သည်။ သို့ဖြစ်ရာ ပညာသင်ပေးခြင်းသည် တနည်းအားဖြင့် အလ္လာဟ်အရှင်ကို အိဗာဒတ်ပြုခြင်းဖြစ်သည်။ အခြားတစ်နည်းအားဖြင့် အလ္လာဟ်၏ကိုယ်စား ဆောင်ရွက်ရသောလုပ်ငန်းဖြစ်သည်။ သို့သာမက အလ္လာဟ်အရှင်၏ကိုယ်စား ဆောင်ရွက်သောလုပ်ငန်းများတွင် အကြီးကျယ်ဆုံးလည်းဖြစ်သည်။

အလ္လာဟ်အရှင်သည် မိမိ၏ဂုဏ်တော်များတွင် အထူးကဲဆုံးဖြစ်သည့် ပညာကို ပညာရှင်၏နှလုံးသားတွင် ဖွင့်လှစ်ပြသတော်မူသည်။ သို့ဖြစ်ရာ ပညာရှင်၏နှလုံးသားသည် အလ္လာဟ်အရှင်၏အဖိုးအနဂ္ဃအထိုက်ဆုံး ဘဏ္ဍာတိုက်ကို သော့ကိုင်ကြီးမှူးရသည့် ဘဏ္ဍာစိုးသဖွယ်ဖြစ်သည်။ အလိုရှိသူများအပေါ် ထိုဘဏ္ဍာတိုက်ထဲမှ အလိုရှိရာကိုပေးကမ်းသုံးစွဲရန် အခွင့်အာဏာရထားသူပင်ဖြစ်သည်။ သို့ဖြစ်ရာ ဤအဆင့်အတန်းထက် ကြီးကျယ်သည့်အဆင့်အတန်း အဘယ်မှာ ရှိတော့သနည်း။ ပညာရှင်သည် ရဗ်အရှင်နှင့် အရှင်၏အဖန်ဆင်းခံလူသားများအကြား ကြားခံဆက်သွယ်သူ၏အဆင့်အတန်းဖြစ်သည်။ ထို့ပြင် ထိုလူသားများကို ဂျန္နတ်ကွန်းသာယာဘက်သို့ ဆွဲဆောင်ခေါ်ယူသူဖြစ်သည်။

*အလ္လာဟ်အရှင်သည် ကျွန်တော်မျိုးတို့အား မိမိ၏အသနားတော်ဖြင့် ထိုပုဂ္ဂိုလ်တို့၏အသိုင်းအဝိုင်းတွင် ထည့်သွင်းတော်မူပါ။ ထို့ပြင် အလ္လာဟ်အရှင်၏ဂရုဏာတော်သည် လက်ရွေးစင်ပုဂ္ဂိုလ်အားလုံးအပေါ်သို့ သက်ရောက်တော်မူပါစေ။*



အခန်း နှစ်

# ကောင်းမြတ်သောပညာ နှင့် ဆိုးယုတ်သောပညာ
# ၎င်းပညာနှစ်ရပ်၏အမျိုးအစားများနှင့်အမိန့်ပညတ်များ

ဤအခန်းတွင် ဖရာဗ်အိုင်နှင့်ဖရာဗ်ကိဖာယာ နှစ်မျိုးကို ရှင်းပြထားသည်။ ထို့နောက် ဓမ္မပညာရပ်ထဲမှ ဖိကဟ်နှင့် ကလာမ်ပညာ၏အခန်းကဏ္ဍကိုင်း။ အာခိရတ်ပညာ၏အသေးစိတ်ကိုင်း ရှင်းပြထားသည်။

## ဖရာဗ်အိုင်နိဖြစ်သောပညာကို ရှင်းပြခြင်း

တမန်တော်မြတ်ﷺက– طَلبُ العلم فريضة على كل مسلم

'ပညာရှာဖွေခြင်းသည် မွတ်စလင်မ်အားလုံးအပေါ်မှာ ဖရာဗ်တာဝန်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့ပြင် ကိုယ်တော်ﷺက– اطلبوا العلم ولو بالصين

'ပညာသည် စိနရဋ္ဌကဲ့သို့ ဝေးကွာသောအရပ်ဒေသ၌ ရှိနေလျှင်လည်း သွားရောက်သင်ယူကြကုန်'ဟု မိန့်ဆိုထားသည်။ သို့နှင့်တိုင် မည်သည့်ပညာက မွတ်စလင်မ်အားလုံးအပေါ် ဖရာဗ်ဖြစ်သည်ဆိုခြင်းနှင့်ပတ်သက်၍ လူတို့တွင် အကွဲအလွဲများရှိသည်။ ဤကိစ္စအပေါ်မှာ သဘောထားကွဲလွဲသော အုပ်စုပေါင်း နှစ်ဆယ်ကျော်ရှိနေသည်။ ကျွန်ုပ်တို့သည် ဤအကြောင်းကို အသေးစိတ် အကျယ်ရေးသားရန် မဟုတ်ပေ။ ဤသို့ကွဲလွဲနေခြင်းမှာလည်း အုပ်စုတိုင်းက မိမိတို့အစွဲသန်ရာ ပညာရပ်ကို အဓိကသင်ယူရမည့်ပညာရပ်အဖြစ် ဖော်ပြကြသောကြောင့်ဖြစ်သည်။

ကလာမ်ပညာရှင်များက 'လူတိုင်းအပေါ်မှာ ဖရာဗ်ဖြစ်သော ပညာသည် ကလာမ်ပညာဖြစ်သည်။ ဤပညာကို အကြောင်းပြု၍ တစ်ပါးရှင် ရှိတော်မူကြောင်းကို သိရသည်။ ဤပညာဖြင့်သာ အလ္လာဟ်အရှင်မြတ်ကိုင်း၊ ထိုအရှင်၏ဝိသေသဂုဏ်တော်များကိုင်း သိရသည်'ဟု ဆိုကြသည်။

တဖန် ဖိကဟ်ပညာရှင်များက 'ဖရာဗ်ဖြစ်သော ပညာသည် ဖိကဟ်ပညာဖြစ်သည်။ ဖိကဟ်ပညာဖြင့် အိဗာဒတ်ကျင့်သုံးမှုကိုင်း၊ ဟလာလ်နှင့်ဟရာမ်ကိုင်း၊ လူမှုဆက်ဆံရေးတွင် ပြုပိုင်မပြုပိုင်ကိစ္စများကိုင်း သိရှိရသည်။ ဤပညာရပ်သည် လူတိုင်းလူတိုင်းအတွက် လိုအပ်သည်။ မလိုအပ်သူဟူ၍ ချွင်းချက်အနည်းငယ်မျှသာရှိသည်'ဟု ဆိုကြသည်။

ထို့ပြင် တဖ်စီရ်ပညာရှင်များနှင့် ဟဒီစ်ပညာရှင်များက 'လူတိုင်းအပေါ်မှာ ဖရာဗ်ဖြစ်သောပညာသည် ကျမ်းမြတ်နှင့် စွန္နတ်၏ပညာပင်ဖြစ်သည်။ ဤနှစ်ခုဖြင့် ပညာရပ်များအားလုံးကို သိကျွမ်းပေါက်မြောက်နိုင်သည်'ဟု ဆိုကြသည်။

ဆူဖီသခင်များကလည်း 'လူတိုင်းသင်ယူရန် ဖရာဗ်ဆိုရာမှာ တဆောင်ဝုဖ်ပညာကို ဆိုခြင်းဖြစ်သည်'ဟု ပြော

ဆိုကြသည်။ ထိုသခင်တို့အထဲမှအချို့ကလည်း 'လူသားသည် မိမိ၏အခြေအနေကို သိရှိခြင်းနှင့် အလ္လာဟ်အရှင့်ထံတွင် မိမိ၏အဆင့်နေရာကို သိခြင်းဖြစ်သည်'ဟု ဆိုကြသည်။ အချို့ကမူ 'ဖရာဇ်ဖြစ်သောပညာသည် အီခ်လာဆ္ဖ် ခေါ် အလ္လာဟ်အရှင့်အတွက် တစ်စိတ်တစ်လက်ဖြစ်မှု၊ စိတ်စေတသိတ်၏ဒုက္ခအန္တရာယ်ကို သိမှု၊ ကောင်းကင်တမန်များ၏အသိပေးချက်နှင့်ရှိုင်တွာန်၏လှုံ့ဆော်ချက်ကို ခွဲခြားနိုင်မှုတို့ဖြစ်သည်'ဟု ဆိုကြသည်။ ၎င်းတို့အနက်အချို့က– 'ဖရာဇ်ဖြစ်သောပညာသည် အတွင်းပညာဖြစ်သည်။ ဤပညာကို လိုက်စားရန်အတွက် သီးသန့်ပုဂ္ဂိုလ်များအပေါ်မှာသာ ဝါဂျိဗ်ဖြစ်သည်။ ထိုသီးသန့်ပုဂ္ဂိုလ်များကသာ ဤပညာနှင့် ထိုက်တန်ကြသည်'ဟု ဆိုကြသည်။ ဤသို့ဆိုသူများသည် တမန်တော်မြတ်ﷺက အများဆိုင်အဖြစ် သုံးစွဲခဲ့သောစကားလုံးကို သီးသန့်လူပုဂ္ဂိုလ်အချို့နှင့်သာ သက်ဆိုင်သည်အဖြစ်သို့ ပြောင်းလဲဖွင့်ဆိုခဲ့ကြခြင်းဖြစ်သည်။

အဗူတွာလိဗ်မက္ကီ⁽ᴿ⁾သခင်ကမူ 'ဖရာဇ်ဖြစ်သော ပညာသည် အစ္စလာမ်၏အမြစ်တရားများအကြောင်း လာရှိသောဟဒီးစ်၌ ဖော်ပြပါဝင်လျက်ရှိသည်။ ယင်းမှာ တမန်တော်မြတ်ﷺ၏မိန့်ဆိုမှု–

بُني الإسلام على خمس : شهادة أن لا إله إلاالله . الخ

'အစ္စလာမ်သည် ငါးခုသောအရာတွင် အခြေခံထားသည်။ ယင်းတို့မှာ အလ္လာဟ်အရှင်မှတပါး ခဝ်ကိုးကွယ်ရာအရှင်မရှိကြောင်း ဝန်ခံမြွက်ဟခြင်း'–စသည်ဖြင့် ဟဒီးစ်အဆုံးအထိဖြစ်သည်။ အဓိကအကျဆုံးမှာ ဤငါးခုသာဖြစ်သည်။ သို့ဖြစ်ရာ ဤအဓိကအရာငါးခု၏ကျင့်သုံးပုံနည်းလမ်းများနှင့်သက်ဆိုင်သည့်ပညာရပ်သည်လည်း အဓိကဖြစ်ရမည်'ဟု ဆိုသည်။

ဤသို့အဆိုအမိန့်အမျိုးမျိုးရှိနေသည့်တိုင် ကျွန်ုပ်တို့ယခုဖော်ပြမည့်အချက်ကိုမူ ဒွိဟသံသယမရှိဘဲ ယတိပြတ် လက်ခံရန်ထိုက်သည်။ ယင်းမှာ ကျမ်းဦးအချီး၌ နိဒါန်းချီခဲ့သည့်အတိုင်း ပညာသည် မုအာမိလတ်ပညာနှင့် မုကာရှိဖတ်ပညာဟူ၍ နှစ်မျိုးရှိသည်။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည့် လူတိုင်းအတွက် ဖရာဇ်ဖြစ်သော ပညာမှာ မုအာမိလတ်ပညာဖြစ်သည်။ မုအာမိလတ်ပညာအရ အရွယ်ရောက်ပြီး အသိဉာဏ်ရှိသူတစ်ဦးအပေါ် တာဝန်ဖြစ်သော ကျင့်သုံးမှုမှာ အမျိုးအစားသုံးမျိုးဖြစ်သည်။ ယင်းတို့မှာ ယုံကြည်လက်ခံမှု၊ ပြုကျင့်ဆောင်ရွက်မှုနှင့် ရှောင်ကျဉ်မှုတို့ ဖြစ်သည်။ ဤနည်းဖြင့် အသိဉာဏ်ရှိသူတစ်ဦးသည် နေ့၏ကျာရှ်အချိန်တွင် အဲဟ်တိလာမ်ဖြစ်၍ ဖြစ်စေ၊ အသက်ပြည့်၍ဖြစ်စေ အရွယ်ရောက်ခဲ့လျှင် ပထမဆုံး ထိုသူ့အပေါ်တာဝန်ရှိလာသည်မှာ ကလေမာရှဟာဒတ်ကို အဓိပ္ပါယ်ပါ နားလည်အောင် သင်ယူရန်ဖြစ်သည်။ ထိုကလေမာမှာ– لَا إِلٰهَ إِلَّا اللّٰهُ ، مُحَمَّدٌ رَّسُوْلُ اللّٰهِ ('အလ္လာဟ်အရှင်မှတပါး ကိုးကွယ်ရာအရှင်မရှိ။ မုဟမ္မဒ်သခင်သည် အလ္လာဟ်အရှင်၏တမန်တော်ဖြစ်သည်')–ဟူ၍ပင်။

ဤသို့ သင်ယူရာတွင် ကျယ်ပြန့်စွာဆည်းပူးပြီး အထောက်အထားသာဓကများကို စူးစမ်းသုံးသပ်သည်အထိ ထဲထဲဝင်ဝင်ပြုရန် တာဝန်မရှိပေ။ စင်စစ် ဒွိဟသံသယကင်းပြီး စိတ်ဇဝေဇဝါမဖြစ်ဘဲ ကလေမာတော်၏အဓိပ္ပါယ်ကို အမှန်အကန်ဖြစ်ကြောင်း အခိုင်အမာယုံကြည်ထားပြီဆိုလျှင် လုံလောက်ပြီဖြစ်သည်။ ဤမှုအတွက်မှာ အထောက်အထားမပါ စူးစမ်းလေ့လာမှုမရှိဘဲ တက္ကလီဒ် ခေါ် နောက်လိုက်မှုသက်သက်ဖြင့်၎င်း၊ နားကြား သက်သက်ဖြင့်၎င်း ဖြစ်နိုင်လေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺက 'ကျေးတောသားအရဗ်တို့၏အထောက်အထားဖြင့် သင်ယူခြင်းမဟုတ်ဘဲ မှန်ကန်ကြောင်းဝန်ခံမြွက်ဟခြင်းကို လုံလောက်သည်'ဟု ဆိုခဲ့သည်။'

إذا اكتفى رسول الله ﷺ : (( من أجلاف العرب بالتصديق الإقرار من غير تعلم دليل)) . (خ.م)

အချုပ်မှာ လူသားသည် ဤမှုကျင့်မှုလိုက်ရုံဖြင့် အချိန်အခါအလိုက် ဖြစ်ပေါ်လာသောတာဝန်ကို ကျေပွန်ပြီဖြစ်သည်။ ထိုအချိန်တွင် ၎င်းအပေါ်မှာ ရှိနေသည့် ဖရာဇ်ဖြစ်သောပညာသည် ကလေမာကော်နှင့်ထိုကလေမာ၏ အဓိပ္ပါယ်ကို သင်ယူရန်ဖြစ်သည်။ ထို့ပြင် ထိုအချိန်တွင် ၎င်းအပေါ်၌ ထိုသင်ယူမှုထက်ပိုပြီး အဓိကကျသည့်အရာ

ဟူ၍ မရှိတော့ပေ။ ဥဒါဟရဏ်အားဖြင့် အကယ်၍ ထိုသူသည် ကလေမာတော်ကို လက်ခံသင်ယူပြီးလျှင် ပြီးချင်း သေဆုံးခဲ့မည်ဆိုပါက ၎င်းသည် အလ္လာဟ်အရှင်ကို နာခံသူအဖြစ် သေဆုံးခြင်းဖြစ်ပြီး ဖီဆန်သူ မဖြစ်တော့ပါ။ ဤသို့ ကလေမာတော်ကို သင်ယူပြီးသည့်နောက် သူ့အပေါ်ရှိလာမည့် တာဝန်ဝတ္တရားများသည် မတူကွဲလွဲသောအခြေအနေအပေါ်မှာ အမျိုးမျိုးဖြစ်နိုင်သည်။ ဤတာဝန်ဝတ္တရားများသည် လူအားလုံးအပေါ်မှာ တစ်ပြေးညီတာဝန်ထိုက်သည်လည်းမဟုတ်ပါ။ သို့မှုမက အချို့ပုဂ္ဂိုလ်များသည် ထိုတာဝန်ဝတ္တရားများမှ ကင်းလွတ်မှုပင် ရရှိနိုင်လေသည်။ ဆိုခဲ့သကဲ့သို့ အခြေအနေအမျိုးမျိုးအပေါ်မှာ တာဝန်ထိုက်သက်လာမှုများသည် ကျင့်သုံးမှု၊ ရှောင်ကျဉ်မှုနှင့် ယုံကြည်သက်ဝင်မှု-သုံးမျိုးအနက် တစ်မျိုးမျိုးဖြစ်မည်ဖြစ်သည်။

**ကျင့်သုံးမှုအမျိုးအစား**အတွက် ရှင်းပြချက်မှာ ဤ**သို့ဖြစ်သည်။ အ**ထက်ပါပုဂ္ဂိုလ်သည် ထိုနေ့၏ကျာရ်ှအချိန်မှ ဇုဟွရ်အချိန်အထိ အသက်ရှင်နေ**မည်**ဆိုလျှင် **ဇုဟွရ်ချိန်ဝင်သည်နှင့်** သူ့အပေါ်တက်လာမည့်တာဝန်အသစ်သည် သန့်ရှင်းမှုနှင့်နမာဇ်ကို သင်ယူ**ရန်ဖြစ်သည်**။ **အကယ်၍ ထို**သူသည် ကျန်းမာစွာရှိပြီး မွန်းလွဲချိန်အထိ တစ်စုံတစ်ရာ မသင်ယူသေးဘဲ၊ မွန်းလွဲ**ပြီး**မှ **စ၍သင်ယူမည်ဆိုလျှင်**လည်း အချိန်ပိုင်းအတွင်း အားလုံးကို သင်နေရသဖြင့် ကျင့်သုံးခြင်းမပြုလိုက်ရဘဲ **သင်ယူမှုဖြင့်** အချိန်**ကုန်**သွားလိမ့်မည်။ ဤပုံစံတွင် ပေါ်ပေါက်သည်မှာ 'ထိုသူအသက်ရှင်နေမည်ဆိုလျှင် ထိုအချိန်**မတိုင်မီ** သင်ယူစရာရှိသည်ကို သင်ယူရန် တာဝန်ဖြစ်သည်'ဟု ပြောဆို၍ ဖြစ်နိုင်သလို၊ 'တာဝန်ရှိသော သင်ယူမှုသည် ကျင့်သုံးမှုအတွက် လိုအပ်ချက်ဖြစ်သည်။ ဤလိုအပ်ချက်သည် ကျင့်သုံးရန် တာဝန်ရှိပြီး နောက်မှဖြစ်သည်။ သို့ဖြစ်ရာ ပထမအချိန်တွင် သူ့အပေါ်မှာ သင်ယူရန် တာဝန်မရှိသေးပါ'ဟုလည်း ပြောဆိုနိုင်သည်။ ကျန်နမာဇ်များအတွက်လည်း ဤနည်းအလားတူဖြစ်သည်။

ထိုပုဂ္ဂိုလ်သည် ရမ်ဇာန်လအထိ အသက်ရှင်နေမည်ဆိုလျှင် ထိုလမြတ်နှင့် တွေ့ဆုံရခြင်းကြောင့် သူ့အပေါ်တွင် တာဝန်အသစ်တစ်ခု ရှိလာဦးမည်။ ယင်းမှာ ရိုဇာကို သင်ယူရန်ဖြစ်သည်။ ရိုဇာစောင့်ရမည့်အချိန်သည် နံနက်မိုးသောက်ယံမှ နေဝင်ချိန်အထိဖြစ်သည်။ ရိုဇာ၏တာဝန်များသည် နိယတ်ပြုခြင်း၊ အစားအသောက်နှင့် မေထုန်မှုမှ ချုပ်တည်းထားခြင်းဖြစ်သည်။ ဤတာဝန်သည် ရှောင်ဝလ်လ၏ဆန်းဦးလကို မြင်တွေ့သည်အထိ၊ သို့မဟုတ် သက်သေနှစ်ဦးက လမြင်ကြောင်း ထွက်ဆိုသည်အထိ ရှိနေမည်ဖြစ်သည်။

ထိုသူ့တွင် ပစ္စည်းဥစ္စာရှိခဲ့မည်ဆိုလျှင်၊ သို့မဟုတ် ထိုသူသည် အရွယ်ရောက်ချိန်တွင် ပစ္စည်းဥစ္စာရှိသူဖြစ်လာမည်ဆိုလျှင် သူ့အဖို့ ဇကာတ်ကို သင်ယူရန်လည်း တာဝန်ဖြစ်လိမ့်မည်။ သို့သော် သူ့အပေါ်မှာ ချက်ချင်းလက်ငင်းသင်ယူရန် တာဝန်ထိုက်ခြင်းမဟုတ်ပေ။ အစ္စလာမ့်ပြက္ခဒိန်၏တစ်နှစ်တာအတွင်း သင်ယူရန် ထိုက်ခြင်းဖြစ်သည်။ အကယ်၍ သူ့တွင် ကုလားအုတ်မှလွဲ၍ အခြားပိုင်ဆိုင်မှု မရှိခဲ့လျှင် သူ့အဖို့ ကုလားအုတ်၏ဇကာတ်ကို သင်ယူရန် တာဝန်ဖြစ်သည်။ အခြားပစ္စည်းပိုင်ဆိုင်မှုအမျိုးမျိုးအတွက်လည်း ဤနည်းအလားတူ ဆင်ခြင်ပါလေ။

ဟဂ်ျ၏လရာသီရောက်သည်နှင့် သူ့အပေါ်မှာ ဟဂ်ျ၏ပညာကို သင်ယူရန် အရေးတကြီး မဟုတ်သေးပေ။ ဟဂ်ျတာဝန်ကို တစ်သက်တာအတွင်း ဆိုင်းငံ့ဆောင်ရွက်နိုင်သောကြောင့် ထိုအတွက် သင်ယူခြင်းသည် လက်ငင်းတာဝန်မဖြစ်သေးချေ။ သို့သော် အစ္စလာမ့်ပညာရှင်များက သူ့အား 'လမ်းစားရိတ်နှင့်အစီးအနင်းတတ်နိုင်သူအားလုံးအပေါ်မှာ တစ်သက်တွင်တစ်ကြိမ် ဟဂ်ျပြုရန် ဖရာဇ်ဖြစ်သည်။ ခရီးစားရိတ်နှင့်အစီးအနင်းပိုင်ဆိုင်သူသည် စိတ်ကိုပိုင်းဖြတ်၍ ဟဂ်ျတာဝန်ကို တစောတလျင်ဆောင်ရွက်ရမည်'ဟု သတိပေးနှိုးဆော်ကြရမည်။ ထိုသို့ ဆောင်ရွက်ရန် ပိုင်းဖြတ်ပြီးပြီဆိုလျှင် ဟဂ်ျလမ်းစဉ်ကို သူ့အပေါ်မှာ သင်ယူရန် တာဝန်ရှိလာပြီဖြစ်သည်။ သင်ယူရန် တာဝန်ရှိသည်ဆိုရာ၌ ရက္ကန်များနှင့် ဝါဂျိဗ်များကိုသာသင်ယူရန်ဖြစ်သည်။ နဖီလ်များကို သင်ယူရန် အရေးတကြီးတာဝန်မဟုတ်ပါ။ ကျင့်သုံးမှုတစ်ခုသည် နဖီလ်ဖြစ်လျှင် ယင်းကို သင်ယူခြင်းကလည်း နဖီလ်တာဝန်သာဖြစ်သည်။ နဖီလ်ကျင့်

သုံးမှုတစ်ခုကို သင်ယူရန် ဖရာဇ်အိုင်န်မဟုတ်ပါ။ တစ်ခုရှိသည်မှာ ဟဂ်ျပြုရန်တာဝန်ရှိနေသူကို သတိပေးနှိုးဆော်မှု မပြုဘဲ နှုတ်ဆိတ်နေခြင်း ဟရာမ်ဖြစ်သည်။ ထိုအကြောင်းအရာကမူ ဖိကဟ်နှင့်သက်ဆိုင်ရာကိစ္စဖြစ်သည်။

ဖရာဇ်အိုင်န်ဖြစ်သော ကျင့်သုံးမှုအားလုံး၏အသိပညာကို သင်ယူခြင်းသည် ဤအစဉ်အတိုင်းသာဖြစ်သည်။

**ရှောင်ကျဉ်မှုအမျိုးအစား**အတွက် ရှင်းပြချက်မှာ ဤသို့ဖြစ်သည်။ ရှောင်ဖယ်စွန့်ခွါရမည့် အခြေအနေများ ပေါ်ပေါက်ကြုံတွေ့လာသည်နှင့်အမျှ ဤအတွက် ပညာသင်ယူရန်လည်း တာဝန်ဖြစ်လာပါသည်။ ဤတာဝန်သည် လူပုဂ္ဂိုလ်၏အခြေအနေအပေါ် မူတည်ပြီး ကွဲပြားခြားနားလေသည်။ နားမကြားသူအတွက် နားထောင်ခြင်း ဟရာမ် ဖြစ်သော စကားများအကြောင်း သင်ယူရန် တာဝန်မရှိပေ။ မျက်မမြင်အတွက် ကြည့်ခြင်း ဟရာမ်ဖြစ်သည့်အရာများ အကြောင်းသင်ယူရန် တာဝန်မရှိပေ။ ကျေးတောသားအတွက် ထိုင်ရန်ဟရာမ်ဖြစ်သော နေရာထိုင်ခင်းအသိုင်းအဝိုင်း များအကြောင်း သင်ယူရန်တာဝန်မရှိပေ။ ဤနည်းဖြင့် သင်ယူရန် တာဝန်ရှိခြင်းသည် အခြေအနေလိုအပ်ချက်အပေါ် မူတည်နေပေသည်။ လူတစ်ဦးအတွက် ၎င်းကင်းရှင်းစွာရှိသောအရာကို ရှောင်ကျဉ်ရန် သင်ယူဖို့ တာဝန်မရှိပါချေ။ တဖန် လူတစ်ဦးသည် ရှောင်ကျဉ်ရမည့်အရာများတွင် နစ်မွန်းနေလျှင် ထိုသူ့ကို သတိပေးပြောဆိုရန် တာဝန်ပင်ဖြစ် သည်။ ဥပမာ လူတစ်ဦးသည် အစ္စလာမ့်ဘောင်သို့ ဝင်ရောက်ပြီးနောက် ပိုးထည်ဝတ်ခြင်း၊ လုယက်ရယူထားသော မြေတွင် နေထိုင်ခြင်း၊ နိကဟ်ပြုပိုင်သည့် တရဲဆံအမျိုးသမီးကို ကြည့်ရှုခြင်းတို့မှ ရှောင်ကျဉ်ရန် အရေးကြီးကြောင်း အသိပေးပြောဆိုရမည်။

လောလောဆည်ကျူးလွန်ခြင်း မရှိသော်လည်း ကျူးလွန်မိရန် အလားအလာရှိသည့် အစားအသောက်ကဲ့သို့ ကိစ္စများကို သင်ပေးရန်တာဝန်ရှိသည်။ မြို့တစ်မြို့တွင် အရက်သောက်ခြင်းနှင့်ဝက်သားစားခြင်း အကျင့်ဖြစ်နေလျှင် ထိုအရာများသည် ဟရာမ်ဖြစ်ကြောင်း သွန်သင်ဆုံးမ သတိပေးတားမြစ်ရန် တာဝန်ဖြစ်သည်။ အရာတစ်ခုကို သင် ကြားပြသရန် တာဝန်ဖြစ်လျှင်၊ ထိုအရာကို သင်ယူခြင်းလည်း တာဝန်ဖြစ်ပါသည်။

**ယုံကြည်သက်ဝင်မှုအမျိုးအစား**အတွက် ရှင်းပြချက်မှာ ဤသို့ဖြစ်သည်။ ဤအမျိုးအစားသည် နှလုံးသား ၏လုပ်ဆောင်မှုများဖြစ်သည်။ စိတ်နှလုံးတွင် ဝိတက်ခေါ် အတွေးချွတ်ချော်မှုများ ရှိနေသည်နှင့်အမျှ ဤအသိပညာ ကို သင်ယူရန်တာဝန်ဖြစ်သည်။ ကလေမာရှဟာဒတ်က ညွှန်ပြသော အမိပ္ပါယ်အပေါ် ဒွိဟဖြစ်ခဲ့လျှင် ထိုဒွိဟကို ချေ ဖျက်မည့်အရာများကို သင်ယူရန် ထိုသူ့အတွက် တာဝန်ဖြစ်သည်။

ယုံကြည်လက်ခံရမည့်အချက်များတွင် ကျမ်းမြတ်ကုရ်အာန်သည် အဖန်ဆင်းခံမဟုတ်ဘဲ ကဒီမ်း ခေါ် မူလ ပကတူးက ရှိခဲ့သည့်အရာဖြစ်ကြောင်း၊ အီမာန်ရှင်တို့သည် အလ္လာဟ်အရှင်မြတ်အား အာခိရတ်တွင် မြင်တွေ့ကြရမည် ဖြစ်ကြောင်း၊ ကျမ်းမြတ်ကုရ်အာန်တွင် အပြောင်းအလဲဟူ၍ မဖြစ်ပေါ်နိုင်ကြောင်း စသည်ဖြင့်ရှိထားသည်။ လူတစ်ဦး သည် အသက်ရှင်နေစဉ် ထိုအရာများကို ယုံကြည်လက်ခံခြင်း မပြုလိုက်ရသော်လည်း၊ ကလေမာတော်၏အမိပ္ပါယ် အပေါ် ဝိတက်မပွါးဘဲ ကွယ်လွန်သေဆုံးခဲ့မည်ဆိုလျှင် သူသည် အစ္စလာမ်ဘာသာဝင်အဖြစ် သေဆုံးသူဖြစ်ကြောင်း အားလုံးက အညီအညွှတ်ရှိကြသည်။ သို့နှင့်တိုင် ထိုကဲ့သို့ယုံကြည်သက်ဝင်မှုကိစ္စများအပေါ် ဝိတက်ဝိစာရဖြစ်ရခြင်း များ၌ အချို့ဝိတက်သည် သက်ဆိုင်ရာပုဂ္ဂိုလ်၏ပင်ကိုယ်သဘောထားကြောင့် ဖြစ်ရပြီး အချို့ဝိတက်သည် လူတို့၏ ပြောစကားများကို ကြားရ၍ ဖြစ်သည်။

လူတစ်ဦးသည် ဗိဒအတ်တရားသစ်များ အပြောအဆိုများပြားသောမြို့တွင် နေသူဖြစ်လျှင် အရွယ်ရောက်ချိန် မှာ အမှန်တရားကို သင်ပေးပြီး တရားသစ်မှ ကာကွယ်ထိန်းသိမ်းရမည်။ အကယ်၍ ထိုသူ၏စိတ်နှလုံးတွင် တရား များဝင်ရောက်သွားမည်ဆိုက ထိုတရားများကို ရှင်းလင်းဖယ်ထုတ်ရန် တာဝန်ဖြစ်သည်။ သို့နှင့်တိုင် ထိုသို့ရှင်းလင်း ဖယ်ထုတ်ရန် မကြာခဏ အခက်အခဲတွေ့ရတတ်သည်။ ဥပမာ လောလောဆည်အစ္စလာမ်ကို လက်ခံထားသူတစ်ဦး

သည် ကုန်သည်တစ်ဦးဖြစ်ပြီး အတိုးလုပ်ငန်းများပြားသောမြို့တွင် နေမည်ဆိုလျှင် သူ့အတွက် အတိုးမှရှောင်ကျဉ်မှုကို သင်ယူရန် တာဝန်ရှိလေသည်။

ဖရာဇ်ပညာဆိုသည်မှာ လူတစ်ဦးအပေါ် တာဝန်ဖြစ်နေသောကိစ္စတစ်ခု၏ကျင့်သုံးမှုနည်းလမ်းကို သိနိုင်သည့်ပညာဟု ဖွင့်ဆိုခြင်းသည် အမှန်ဖြစ်သည်။ လူတစ်ဦးသည် မိမိအပေါ်၌ တာဝန်ဖြစ်သောပညာကိုငင်း၊ ထိုတာဝန်ကိုဆောင်ရွက်ရမည့်အချိန်ကိုငင်း သိမည်ဆိုလျှင် ထိုသူသည် မိမိအပေါ်သင်ယူရန် ဖရာဇ်ဖြစ်သည့်ပညာကို သိနားလည်ပြီဖြစ်သည်။ တဖန် ဖရာဇ်ပညာကို ဖွင့်ဆိုရာတွင် ဆူဖီသခင်များက 'ရန်သူကြီး ရှိုင်တွာန်၏ဝိတက်ဝိစာရစေ့ဆော်မှုနှင့် ကောင်းကင်တမန်၏အသိပေးမှုကို ခွဲခြားသိရှိခြင်း'ဟု ဖော်ပြကြ၏။ ဤဖွင့်ဆိုချက်သည်လည်း အမှန်ဖြစ်သည်။ သို့သော် ဤဖွင့်ဆိုချက်သည် လူတိုင်းအတွက် မဟုတ်ဘဲ ထိုအကြောင်းအရာမျိုးကို လိုက်စားမှုရှိသူအတွက်သာဖြစ်သည်။

များသောအားဖြင့် လူသားသည် အကျင့်တန်မှု၊ ပြစ်မှု၊ မနာလိုဝန်တိုမှု၏အကြောင်းတရားများမှ ကင်းရန်မဖြစ်နိုင်ပေ။ သို့ဖြစ်ရာ မုဟ်လိကတ်၏အပိုင်းတွင် ဖော်ပြထားသည့် ပျက်စီးဆုံးရှုံးစေသော အကြောင်းအရာများထဲမှ မိမိအတွက် လိုအပ်သည်ဟု မြင်သည့်အရာများကို သင်ယူရန်အရေးကြီးပေသည်။ အရေးမကြီးဘဲ အဘယ်မှာရှိမည်နည်း။ တမန်တော်မြတ်ﷺက မိန့်ဆိုထားသည်မှာ—

ثلاث مهلكات : شح مطاع ، وهوى متبع ، إعجاب المرء بنفسه

'သုံးခုသောအရာသည် ပျက်စီးဆုံးရှုံးစေသောအရာများဖြစ်သည်။ ယင်းတို့မှာ စေးနဲမှု၏အစေခံဖြစ်ခြင်း၊ စိတ်အလိုဆန္ဒနောက်သို့ လိုက်ခြင်းနှင့် မိမိကိုယ်ကို ကြီးကျယ်သူဟု ထင်မြင်ခြင်းတို့ဖြစ်သည်။'

လူသာမန်ပုထုဇဉ်သည် ဤအရာများမှ မကင်းနိုင်ပါ။ ကျွန်ုပ်တို့ ဤကျမ်းနောက်ပိုင်းတွင် ဖော်ပြမည့် နှလုံးသား၏မကောင်းဆိုးယုတ်သောအခြေအနေများသည် ထိုပျက်စီးဆုံးရှုံးစေသောအရာသုံးခု၏ဆင့်ပွါးပေါ်ထွက်မှုများသာဖြစ်သည်။ ပျက်စီးဆုံးရှုံးစေသောအရာများကို ဖယ်ရှားရှင်းလင်းရန် ဖရာဇ်အိုင်န်ဖြစ်သည်။ ဤသို့ ဖယ်ရှားရှင်းလင်းရန်ဆိုသည်မှာ ယင်းပျက်စီးဆုံးရှုံးစေသောအရာများ၏ဖွင့်ဆိုသတ်မှတ်ချက်များ၊ ဖြစ်ပေါ်လာရသည့်အကြောင်းခံများ၊ ယင်းတို့၏လက္ခဏာရပ်များ၊ ယင်းတို့ကို ကုစားနိုင်မည့်နည်းလမ်းများနှင့်သက်ဆိုင်ရာ အသိတရားများမရှိဘဲ မဖြစ်နိုင်ချေ။ အကြင်သူသည် မကောင်းမှုကို သိမထားလျှင် ၎င်းသည် မကောင်းမှုထဲသို့ ကျရောက်ရလိမ့်မည်။

ပျက်စီးဆုံးရှုံးစေသောအရာများမှ ကုစားမှုနည်းလမ်းသည် အကြောင်းခံအသီးသီးကို ယင်း၏ဆန့်ကျင်ဘက်အရာနှင့် ထိပ်တိုက်တွေ့ပေးခြင်းဖြစ်သည်။ သို့ဖြစ်ရာ ဤသို့ကုစားရန်မှာ ပျက်စီးဆုံးရှုံးစေသောအရာများ ဖြစ်လာရသည့်အကြောင်းခံနှင့်အကြောင်းရင်းကို မသိဘဲ မဖြစ်နိုင်ပေ။ ပျက်စီးဆုံးရှုံးစေသောအရာများကဏ္ဍတွင် ကျွန်ုပ်တို့၏ရေးသားဖော်ပြချက်အများစုသည် ဖရာဇ်အိုင်န်အဆင့်ဝင် အသိပညာများဖြစ်သည်။ လူသားသည် အဓိပ္ပါယ်မဲ့ကိစ္စများတွင် စုံးစုံးမြုပ်နစ်မွန်းနေပြီး ဤဖရာဇ်တာဝန်ကိုမူ လက်လွှတ်ထားလေသည်။

အာခိရတ်ရေးကိစ္စများ ဖော်ပြထားခြင်း မရှိသည့် အခြားဘာသာတစ်ခုခုမှ အစ္စလာမ်သို့ ကူးပြောင်းလက်ခံလာသူဖြစ်လျှင် ဂျန္နတ်၊ ဂျဟန္နမ်၊ ဟရှရ်တွင် ရှင်ထစုရုံးရခြင်း အစရှိသည့် အာခိရတ်ရေးကိစ္စများကို ယုံကြည်သက်ဝင်ပြီး အစစ်အမှန်ဖြစ်ကြောင်း လက်ခံလာသည်အထိ လက်ငင်းသင်ပြပေးရမည်။ ဤယုံကြည်သက်ဝင်မှုများသည် ကလိမာရှဟာဒတ်ကို ပြီးပြည့်စုံအောင်လုပ်ပေးသည့်အရာဖြစ်သည်။

ထို့ပြင် ထိုပုဂ္ဂိုလ်သည် တမန်တော်မြတ်ﷺအား ရစူလ်တမန်တော်ဖြစ်ကြောင်း လက်ခံပြီးသည့်နောက် တမန်တော်ﷺပို့ချသည့်တရားကို နားလည်ရန် လိုအပ်ပေသည်။ ယင်းမှာ အကြင်သူသည် အလ္လာဟ်အရှင်နှင့်အလ္လာဟ်အရှင်၏တမန်တော်၏အမိန့်ကို နာခံခဲ့လျှင် ထိုသူ ဂျန္နတ်ရမည်။ တဖန် အကြင်သူသည် အလ္လာဟ်အရှင်နှင့်အလ္လာဟ်

အရှင်၏တမန်တော်ကို ဖီဆန်လျှင် ထိုသူ ဂျဟန္နမ်ကျမည်။ ဤအဆင့်ကို နားလည်သဘောပေါက်ပြီဆိုလျှင် မှန်ကန်သော ဘာသာတရားသည် အစ္စလာမ်သာဖြစ်ကြောင်း သင်သိရပြီဖြစ်သည်။

ဤရှင်းပြချက်များအရ လူတိုင်းသည် မိမိတို့၏အိဗာဒတ်ရေးနှင့် လူမှုဆက်ဆံရေးကိစ္စများတွင် နေ့နေ့ညည ကြုံတွေ့ပေါ်ပေါက်မှုအရ တာဝန်အသစ်များ တင်ရှိလာမည်ဖြစ်ကြောင်း ကောက်ချက်ချနိုင်သည်။ သို့ဖြင့် ယင်းသည် မိမိ၏ထူးခြားသောကြုံတွေ့ရမှုနှင့်ပတ်သက်၍ မေးမြန်းရန်ငှင်း၊ မကြာမီဖြစ်လာမည်ဟု မျှော်လင့်ရသည့်ကိစ္စအတွက် သင်ယူရန်ငှင်း လက်ငင်းတာဝန်ဖြစ်လာပေသည်။

တမန်တော်မြတ်ﷺက– طَلَبُ العلم فريضة على كل مسلم (၉) 'ပညာရှာဖွေခြင်းသည် မွတ်စလင်မ်အားလုံးအပေါ်မှာ ဖရာဇ်တာဝန်ဖြစ်သည်'ဟု မိန့်ရာ၌ 'العلم'(ပညာ)စကားလုံးကို သီးသန့်ဆိုလိုချင်သော'ပညာ'ဖြစ်စေရန် အရဗီသဒ္ဒါနည်းအရ 'ال' (တပ်အပ်သိပြအလိဖ်လာမ်)ဖြင့် သုံးနှုန်းခဲ့သည်။ ဤနေရာတွင် ရှင်းလင်းသိသာသည့်အချက်မှာ တမန်တော်မြတ်ﷺရည်ညွှန်းမိန့်ဆိုသည့် 'ပညာ'သည် ကျင့်သုံးမှုပညာဖြစ်သည်။ ယင်းပညာသည် မွတ်စ်လင်မ်တို့အပေါ် အရေးကြီးတာဝန်များအဖြစ် လူအများသိထားသောကျင့်မှုရာများကို ကျင့်သုံးရန်အတွက်ဖြစ်သည်။ ဤသည်မှလွဲ၍ အခြားမဟုတ်ပေ။ ဤနည်းဖြင့် တာဝန်ဖြစ်မှုအဆင့်ဆင့်နှင့် တာဝန်ဖြစ်လာသည့်အချိန်အကြောင်း ရှင်းသွားသည်။

## ဖရာဇ်ကိဖာယာဖြစ်သောပညာကို ရှင်းပြခြင်း

ပညာရပ်များ၏အမျိုးအစားများကို ဖော်ပြခြင်းမပြုဘဲ ဖရာဇ်ပညာနှင့် ဖရာဇ်မဟုတ်သောပညာကို ခွဲခြားရန် မဖြစ်နိုင်ပေ။ ကျွန်ုပ်တို့ ယခုလိုက်နေသောဦးတည်ချက်အရ ပညာသည် နှစ်မျိုးရှိသည်။ တစ်မျိုးမှာ ရှရီအတ်၏ပညာဖြစ်ပြီး နောက်တစ်မျိုးမှာ ရှရီအတ်မဟုတ်သောပညာဖြစ်သည်။ ရှရီအတ်၏ပညာဆိုရာတွင် နဗီတမန်တော်များﷺထံမှ ရရှိသောပညာကို ကျွန်ုပ်တို့ဆိုလိုပါသည်။ ရှရီအတ်၏ပညာရပ်ကို ကျွန်ုပ်တို့သည် သင်္ချာပညာကို ရရှိသလို အသိဉာဏ်ဖြင့် စဉ်းစားကြံဆပြီး ရရှိခြင်းမဟုတ်ပါ။ ထို့ပြင် ဆေးပညာကို ရရှိသလို အတွေ့အကြုံအရ ရရှိခြင်းလည်းမဟုတ်ပါ။ ထို့ပြင် ဘာသာစကားကို ရရှိသလို အကြားအာရုံဖြင့် ရရှိခဲ့ခြင်းလည်းမဟုတ်ပါ။

တဖန် ရှရီအတ်၏ပညာ မဟုတ်သော အခြားပညာရပ်များကို ကောင်းသောပညာ၊ မကောင်းသောပညာနှင့် မိုဘာဟ် ခေါ် ခွင့်ပြုထားသောပညာ–ဟူ၍ သုံးမျိုးခွဲခြားနိုင်သည်။ ကောင်းသောပညာဆိုသည်မှာ ဆေးပညာ၊ သင်္ချာပညာကဲ့သို့ ဒွန်နယာရေးကောင်းကျိုးကောင်းရာရရှိမှုနှင့် သက်ဆိုင်သောပညာများဖြစ်သည်။ ထိုကောင်းသောပညာကိုလည်း ဖရာဇ်ကိဖာယာဖြစ်သောပညာနှင့် ကောင်းရုံကောင်းပြီး ဖရာဇ်မဟုတ်သောပညာဟူ၍ ခွဲခြားသည်။ ဖရာဇ်ကိဖာယာပညာဆိုသည်မှာ ဒွန်နယာရေးကိစ္စများ လည်ပတ်မှုအတွက် လိုအပ်သောပညာရပ်များဖြစ်သည်။ ဥပမာ ဆေးပညာသည် ခန္ဓာကိုယ်များ၏ရပ်တည်မှုအတွက် လိုအပ်ချက်ဖြစ်သဖြင့် အရေးကြီးသောပညာပင်ဖြစ်သည်။ ထို့ပြင် ဥပမာ သင်္ချာပညာသည် လူမှုဆက်ဆံရေး၊ သေတမ်းစာနှင့်အမွေပုံများ ခွဲခြမ်းရေးအစရှိသည်တို့တွင် အရေးကြီးလိုအပ်သည်။ မြို့ပြတစ်ခုတွင် ဤပညာရပ်များကို တတ်မြောက်သူ တစ်ဦးတစ်ယောက်မှမရှိလျှင် မြို့သူမြို့သားများ ဒုက္ခကြီးကြုလိမ့်မည်။ ထို့နောက် တစ်စုံတစ်ဦးက ဤပညာရပ်များကို သင်ယူတတ်မြောက်ပြီသောအခါ ဤဖရာဇ်တာဝန်သည် အခြားသူများအပေါ်မှ ကျသွားသည်။

ဆေးပညာနှင့် သင်္ချာပညာတို့ကို ဖရာဇ်ကိဖာယာပညာများဖြစ်သည်ဟု ဆိုလိုက်သဖြင့် အသင် မအံ့သြသင့်ပေ၊ အမှန်စင်စစ် လယ်ယာစိုက်ပျိုးရေး၊ အဝတ်အထည်ယက်လုပ်ရေး၊ အုပ်ချုပ်ရေးမှအစ တွင်စုပ်ခြင်းနှင့်အဝတ်အ

**ထည်ချုပ်သည့်**လုပ်ငန်းများအထိပါဝင်သော အခြေခံအတတ်ပညာများသည်လည်း **ဖရာဗ်ကိဖာယာ**ပညာများပင်ဖြစ်သည်။ **အကယ်၍** မြို့တစ်မြို့တွင် တွင်စုပ်သူမရှိပါက ထိုမြို့သားများသည် မြန်မြန်ဆန်ဆန်သေကုန်ကြမည်ဖြစ်၏။ **မိမိတို့၏အသက်များ**ကို သေခြင်းလက်သို့ ဝကွက်အပ်နံ့ရမည့် အချိန်ရောက်လာမည်ဖြစ်၏။ ရောဂါကို ချပေးသော **အရှင်က** ဆေးဝါးကိုလည်း ချပေးတော်မူသည်။ ထို့ပြင် ထိုဆေးဝါးကို သုံးစွဲပုံကိုလည်း ညွှန်ပြတော်မူသည်။ ထို့ပြင် **ထိုအတွက်** အခြေခံလိုအပ်ချက်များကိုလည်း ပြင်ဆင်စီမံထားတော်မူသည်။ သို့ဖြစ်ရာ ဤအရာများကို ဥပက္ခာပြု၍ **မိမိကိုယ်ကို** အသေခံရန် ခွင့်မပြုပေ။

ကောင်းသာ ကောင်းပြီး ဖရာဗ်မဟုတ်သော ပညာရပ်များရှိသေးသည်။ ဥပမာ သင်္ချာ၏နက်နဲသောကိစ္စများ၊ **ဆေးပညာ၏နက်နဲသောကိစ္စများ** စသည်တို့ကို ထဲထဲဝင်ဝင်သင်ယူခြင်းသည် အရေးတကြီးလိုအပ်ချက်မဟုတ်ပေ။ **သို့နှင့်တိုင် လိုအပ်ချက်ရှိသလောက်** လိုက်စားသင်ယူခြင်းဖြင့် ပညာအင်အားနှင့်အရည်အချင်းများ တိုးတက်မှုရလာ**မည်ဖြစ်သည်**။

မကောင်းသောပညာများမှာ အောက်လမ်း ပရောဂပညာ၊ အင်းအိုင်လက်ဖွဲ့နှင့် ပဥ္စလက်ပညာများဖြစ်သည်။ မိုဘာဟ် ခေါ် ခွင့်ပြုထားသောပညာရပ်များမှာ ထိခိုက်မှုမရှိသည့်ကဗျာလင်္ကာပညာ၊ သမိုင်းပညာနှင့် အခြားအလားတူပညာရပ်များဖြစ်သည်။

ဤကျမ်းတွင် အဓိကဖော်ပြမည်မှာ **အစ္စလာမ့်ရှရီအတ်၏**ပညာရပ်များဖြစ်သည်။ ဤပညာရပ်များအားလုံးသည် ကောင်းမြတ်သောပညာများချည်းဖြစ်သည်။ **သို့နှင့်တိုင် ရံဖန်ရံခါ** ထင်ယောင်ထင်မှားဖြစ်ကာ ရှရီအတ်ပညာရပ်များဟု ယူဆမိပြီး၊ တကယ်တန်းတွင် ဆိုးယုတ်သောပညာဖြစ်နေတတ်သည်။ သို့ဖြစ်ရာ ၎င်းကိုလည်း ကောင်းမြတ်သောနှင့် ဆိုးယုတ်သောပညာဟူ၍ ခွဲခြားပါသည်။ ကောင်းမြတ်သောပညာတွင် အရင်းခံပညာ၊ လက်အောက်ခံပညာ၊ အကြိုပြင်ဆင်မှုပညာနှင့် အဖြည့်ခံပညာဟူ၍ လေးမျိုးလေးစားရှိသည်။

**ပထမအမျိုးအစား–** အရင်းခံပညာတွင် အလ္လာဟ်အရှင်၏ကျမ်းတော်၊ တမန်တော်မြတ်ﷺ၏စွန္နတ်တော်၊ အွမ္မတ်**၏**ဥသံ့သဘောထား၊ ဆွဟာဗဟ်များ၏ဩဝါဒဟူ၍ အရင်းခံပမာနလေးရပ်ရှိသည်။ အွမ္မတ်၏ဥသံ့သဘောထားသည် အရင်းခံဖြစ်သော်လည်း စွန္နတ်ကိုပင် ညွှန်ပြခြင်းဖြစ်သဖြင့် ယင်း၏အဆင့်သည် စွန္နတ်၏နောက်မှဖြစ်သည်။ **ဆွဟာဗဟ်များ၏**ဩဝါဒများသည်လည်း အလားတူဖြစ်သည်။ အကြောင်းမှာ ဆွဟာဗဟ်သခင်များ؇သည် ဝဟီ**ကိုရင်း**၊ ကျမ်းတော်ကျရောက်ခြင်းကိုရင်း မျက်မြင်ကိုယ်တွေ့ကြုံခဲ့ရသူများဖြစ်သည်။ ထို့ပြင် အခြားသူများ မြင်တွေ့**ခွင့်မရခဲ့သော** အခြေအနေအဆက်အစပ်များကို ကိုယ်တိုင်တွေ့ကြုံခဲ့သူများဖြစ်သည်။ ထိုသခင်တို့သည် မိမိတို့တွေ့**ခဲ့ရသည့်** ထိုအဆက်အစပ်များကို စာပေဖြင့် **ရေးသားမှတ်တမ်းတင်နိုင်ခဲ့ခြင်းကား**မရှိပါ။ ထိုအကြောင်းကြောင့်ပင် **ဆွဟာဗဟ်သခင်များ؇၏နောက်မှလိုက်ပြီး ထိုသခင်တို့၏**အဆိုအမိန့်ဩဝါဒများကို ဆွဲကိုင်ခြင်းတွင် ကောင်းကျိုးရှိသည်ဟု ဓမ္မပညာရှင်များက ခံယူခဲ့ကြသည်။ ဤသို့နောက်လိုက်ရာတွင် ကျိုးကြောင်းအခြေခံမှုအရ သီးခြားစည်းကမ်းချက်များကားရှိလေသည်။ ထိုအကြောင်းကို ဤနေရာတွင် ရှင်းလင်းဖော်ပြရန်မဟုတ်ပေ။

**ဒုတိယအမျိုးအစား–** လက်အောက်ခံပညာသည် အဆိုပါအရင်းခံပညာလေးခုကို အခြေခံ၍ သိရှိရခြင်းဖြစ်သည်။ သို့သော် စာလုံးအက္ခရာများ၏အလိုအရ သိရှိရခြင်းမဟုတ်ပေ။ စင်စစ်တွင် အနက်အဓိပ္ပါယ်နှင့် အကြောင်းအချက်**အပေါ်**မှာ ဉာဏ်အမျှော်အမြင်ဖြင့် ဆင်ခြင်နားလည်ရခြင်းဖြစ်သည်။ ဤနည်းဖြင့် အမိန့်ပညတ်သည် ကျယ်ပြန့်လာကာ စာသားဖော်ပြချက်အပြင် စာသားဖော်ပြချက်မဟုတ်သည့်အရာကိုလည်း နားလည်ရသည်။ ဥပမာ တမန်တော်**မြတ်**ﷺက– لايقضي القاضي و هو غضبان (خ.م) 'ကာဇီသည် အမျက်ဒေါသဖြစ်နေချိန်တွင် တရားမစီရင်ရပါ' ဟု မိန့်ဆိုခဲ့သည်။ ဤအမိန့်ထဲတွင် ကြောက်ရွံ့နေချိန်၊ ဆာလောင်နေချိန်နှင့် ရောဂါဝေဒနာခံစားနေချိန်များတွင် တရား

စီရင်ခြင်းမပြုရန် ပါဝင်နေသည်။

လက်အောက်ခံပညာသည် **နှစ်မျိုးရှိသည်**။

**ပထမတစ်မျိုးမှာ**– ဒွန္နယာရေး ကောင်းကျိုးဖြစ်ထွန်းမှုနှင့် သက်ဆိုင်ရာပညာရပ်ဖြစ်သည်။ ဤပညာရပ်ကို ဖိကဟ်ကျမ်းများတွင် စုစည်းဖော်ပြထားသည်။ ဖိကဟ်ပညာရှင်များသည် ဤပညာရပ်၏ တာဝန်ခံများဖြစ်ကြသည်။ ၎င်းတို့သည် ဒွန္နယာ့ပညာရှင်များဖြစ်ကြသည်။

**ဒုတိယတစ်မျိုးမှာ**– အာခိရတ်ရေး ကောင်းကျိုးဖြစ်ထွန်းမှုနှင့်သက်ဆိုင်ရာပညာများဖြစ်သည်။ ယင်းတို့အထဲတွင် နှလုံးသား၏ အခြေအနေများကို သိရသည့်ပညာ၊ အကျင့်စာရိတ္တများ၏ ကောင်းမြတ်ခြင်း ဆိုးယုတ်ခြင်း၊ အလ္လာဟ်အရှင် နှစ်သက်ခြင်း မနှစ်သက်ခြင်းကို သိရသည့်ပညာများ ပါဝင်သည်။ ထိုပညာရပ်များကို ဤကျမ်း၏ ဒုတိယပိုင်းတွင် ဖော်ပြမည်။ ဆိုလိုသည်မှာ အဲဟ်ယာအွလ်အိုလူမ်ကျမ်း၏ နောက်ပိုင်းတစ်ဝက်ဖြစ်သည်။ ဤပညာရပ်များတွင် နှလုံးသားမှ ကိုယ်ကာယဆီသို့ စိမ့်ထွက်စီးကျသည့် အိဗာဒတ်များနှင့် အဒတ် ခေါ် အကျင့်ဓလေ့ကောင်းများပါဝင်ရာ ယင်းတို့ကို ဤကျမ်း၏ ပထမတစ်ဝက်တွင် ဖော်ပြမည်ဖြစ်သည်။

**တတိယအမျိုးအစား**– အကြိုပြင်ဆင်မှုပညာရပ်များသည် လုပ်ငန်းသုံးကိရိယာတန်ဆာပလာများကဲ့သို့ဖြစ်သည်။ ဥပမာ အဘိဓာန်ပညာနှင့်သဒ္ဒါပညာတို့ဖြစ်သည်။ ဤပညာရပ်နှစ်ခုသည် အလ္လာဟ်အရှင်၏ ကျမ်းတော်နှင့် တမန်တော်မြတ်ﷺ၏ စွန္နတ်တော်ဆိုင်ရာပညာရပ်ကို သင်ယူဆည်းပူးရန်အတွက် ကိရိယာတန်ဆာပလာများဖြစ်ကြသည်။ အဘိဓာန်ပညာနှင့်သဒ္ဒါပညာများကိုယ်တိုင်က ရှရီအတ်တရားတော်၏ ပညာရပ်များတွင် ပါဝင်သည်မဟုတ်ပါ။ သို့သော် ရှရီအတ်ကို အကြောင်းပြုပြီး ဤပညာရပ်နှစ်ခုအား ထဲထဲဝင်ဝင်ငုတ်လျှိုးလိုက်စားရန် လိုအပ်လာရပေသည်။ အစ္စလာမ့်ရှရီအတ်သည် အရဗ်တို့၏ ဘာသာစကားဖြင့် ရောက်ရှိလာခြင်းဖြစ်သည်။ ရှေးအထက်အွမ္မတ်သားတို့၏ ရှရီအတ်များအားလုံးသည်လည်း ဘာသာစကားတစ်ခုခုဖြင့် ပေါ်ပေါက်လာခြင်းဖြစ်သည်။ သို့ဖြစ်ရာ သက်ဆိုင်ရာ ဘာသာစကားကို အသုံးချကိရိယာအဖြစ် သင်ယူရန် မုချလိုအပ်ပေသည်။

ပညာရပ်များထဲမှ အသုံးချကိရိယာနှင့်တူသော ပညာရပ်တစ်ခုသည် အရေးအသားပညာဖြစ်သည်။ သို့သော် တမန်တော်မြတ်ﷺသည် စာရေးစာဖတ်တတ်သူမဟုတ်ခဲ့သဖြင့် ဤပညာကို လိုက်စားသင်ယူရန် အရေးတကြီးကိစ္စ မဖြစ်ခဲ့ပါ။ ကြားရသမျှအားလုံးကို မှတ်သားနိုင်သည့် ထူးခြားသော မှတ်ဉာဏ်အင်အားရှိခဲ့သဖြင့်လည်း ရေးသားမှု ပညာမလိုခဲ့ခြင်းဖြစ်သည်။ သို့နှင့်တိုင် များသောအားဖြင့် လူတို့သည် ထိုကဲ့သို့ မစွမ်းနိုင်ကြတော့ရာ ဤပညာသည် အရေးကြီးလိုအပ်လာပေသည်။

**စတုတ္ထအမျိုးအစား**– အဖြည့်ခံပညာများတွင် ကုရ်အာန်ဆိုင်ရာပညာများနှင့် ဟဒီစ်ဆိုင်ရာပညာများဟူ၍ နှစ်ပိုင်းရှိသည်။ ကုရ်အာန်ဆိုင်ရာပညာများတွင် ကိရာအတ်ဖတ်ရွတ်မှု နည်းစနစ်များနှင့် အရဗီအက္ခရာများ၏ ဌာန်များကို သင်ယူခြင်းကဲ့သို့ ကျမ်းတော်၏ စကားလုံးနှင့်သက်ဆိုင်ရာပညာများရှိသည်။ ကျမ်းတော်၏ အနက်အဓိပ္ပါယ်နှင့်သက်ဆိုင်ရာ တဖ်စီရ်ပညာရှိသည်။ ဤပညာသည် အာဂမအထောက်အထားများကို အခြေပြုရသည်။ ဤတဖ်စီရ်ပညာသည် ဘာသာစကားနားလည်မှုသက်သက်ဖြင့် မလုံလောက်ချေ။

အချို့ပညာရပ်များသည် ကုရ်အာန်ကျမ်းမြတ်မှ ပလပ်ခံအမိန့်၊ ပလပ်အမိန့်၊ အများဆိုင်အမိန့်၊ သီးသန့်အမိန့်၊ မူရင်းလာရှိမှု၊ အလိုသဘောပေါ်ထွက်မှုတို့ကို သိကျွမ်းခြင်း၊ ၎င်းတို့မှ တရားတော်အမိန့်ပညတ်များ ထုတ်နှုတ်သည့် နည်းလမ်းဥပဒေသကို ပြဆိုရာဖြစ်သည်။ ထိုပညာသည် အိုစူလိဖိကဟ် ခေါ် ဖိကဟ်သဘောတရားပညာဖြစ်သည်။

အဖြည့်ခံပညာရပ်များထဲမှ ဟဒီစ်နှင့် ဆွဟာဗဟ်ဩဝါဒဆိုင်ရာ ပညာရပ်များတွင် ရိဂျာလ် ခေါ် ဟဒီစ်နှင့် သက်ဆိုင်ရာပုဂ္ဂိုလ်များ၊ ၎င်းတို့၏ အမည်များ၊ ၎င်းတို့၏ ဂုဏ်ရည်များ၊ တဖန် ဆွဟာဗဟ်များ၏ အမည်များနှင့်

၎င်းတို့၏ဂုဏ်ထူးဝိသေသများနှင့်ဆိုင်ရာ ပညာရပ်ပါရှိသည်။ ရာဝီခေါ် ဟဒီစ်ဆင့်ပြန်သူများ၏သမ္မာသမတ်ရှိမှုဆိုင်ရာပညာ၊ အားနည်းသောဟဒီစ်နှင့် အားကောင်းသောဟဒီစ်ကို ခွဲခြားသိရှိနိုင်ရန်အတွက် ရာဝီများ၏ဘဝအခြေအနေလေ့လာမှုဆိုင်ရာပညာ၊ မုရ်ဆရ်ဟဒီစ်နှင့်မွစ်နဒ်ဟဒီစ်ကို ခွဲခြားရန်အတွက် ရာဝီတို့၏သက်တမ်းကိုလေ့လာမှုဆိုင်ရာပညာရပ်များပါဝင်သည်။ ထို့ပြင် ဤနည်းအလားတူ အကြောင်းအရာနှင့်သက်ဆိုင်ရာ ဘာသာရပ်များပါဝင်လေသည်။ ဤပညာရပ်အားလုံးသည် အစ္စလာမ့်ရှရီအတ်၏ပညာရပ်များပင်ဖြစ်သည်။ ထို့ပြင် ဤပညာရပ်အားလုံးသည် ကောင်းမြတ်သောပညာရပ်များချည်းဖြစ်သည်။ သို့သာမက ဤပညာရပ်အားလုံးသည် တတ်ကျွမ်းသူ လုံလုံလောက်လောက်မရှိလျှင် ကျန်မွတ်စလင်မ်များအားလုံး မသင်မနေရတာဝန်ဖြစ်သည့် ဖရာဇ်ကိဖာယာအဆင့်ရှိ ပညာရပ်များဖြစ်ကြသည်။

အကယ်၍ စာရှုသူအသင်က 'ဖိကဟ်ပညာကို လောကီရေးပညာထဲတွင် အဘယ်ကြောင့် ထည့်သွင်းရသလဲ' ဟု မေးလာမည်ဆိုလျှင် ကျွန်ုပ်က အောက်ပါအတိုင်းရှင်းပြမည်။

အလ္လာဟ်အရှင်က အာဒမ်ﷺသခင့်ကို မြေကြီးမှ ထုတ်ယူဖန်ဆင်းတော်မူသည်။ တဖန် သခင်၏သားမြေးများကို ဖုတ်ထားသောရွှံ့စေးနှင့် ခုန်ထွက်သောရေတို့မှ ထုတ်ယူဖန်ဆင်းတော်မူသည်။ ထို့နောက်တဖန် လူသားတို့ကို ဖခင်၏ကျောကုန်းနှင့် မိခင်ဝမ်းကြာတိုက်မှ ထုတ်ယူတော်မူသည်။ ထို့နောက် ဒွန်နယာလောကမှ သင်္ချိုင်းတွင်းသို့ ရောက်စေတော်မူသည်။ ထို့နောက် စာရင်းစစ်ဆေးတော်မူသည်။ ထို့နောက် အသီးသီးတို့အား ဂျန္နတ်နှင့်ဂျဟန္နမ်သို့ ပို့တော်မူသည်။ ဤသည်မှာ လူသား၏မူလပထမ လာရာစခန်းနှင့် နိဂုံးကမ္ဗတ်အဆုံးသတ် လားရာစခန်းစဉ်အဆင့်ဆင့်ဖြစ်သည်။

အလ္လာဟ်အရှင်သည် ဒွန်နယာလောကကို အာခိရတ်အတွက် ရိက္ခာစုဆောင်းရာစခန်းအဖြစ် ဖန်ဆင်းတော်မူထားသည်။ သို့မှသာ ဒွန်နယာမှ ထွက်ခွါသည့်အခါ လမ်းခရီးအတွက် အကျိုးပြုမည့်အရာကို ယူဆောင်သွားနိုင်ရန်ဖြစ်သည်။ အကယ်၍ လူသားတို့သည် ထိုရိက္ခာများကို တရားနည်းလမ်းတကျ ယူဆောင်သုံးစွဲကြမည်ဆိုလျှင် ပဋိပက္ခမှုများ ချုပ်ငြိမ်းပေလိမ့်မည်။ ထိုအခါ ဖိကဟ်ပညာရှင်များရှိနေခြင်းသည်လည်း အပိုဖြစ်နေလိမ့်မည်။ သို့ရာတွင် လူသားတို့သည် ထိုရိက္ခာများကို လောဘရမ္မက်ကြီးစွာဖြင့် ယူငင်သုံးစွဲကြသည်။ ထိုအခါ ပဋိပက္ခများ ပေါ်ပေါက်လာသည်။ ဤတွင် လူသားတို့ကို အုပ်ချုပ်ကွပ်ကဲရန် အာဏာပိုင်တစ်ဦး လိုအပ်လာသည်။ တဖန် ထိုအာဏာပိုင်အတွက်လည်း လူသားတို့ကို အုပ်ချုပ်ရန် စည်းမျဉ်းဥပဒေတစ်ရပ်လိုအပ်ပြန်သည်။ သို့ဖြစ်ရာ ဖိကဟ်ပညာရှင်သည် အုပ်ချုပ်ရေးဥပဒေကို၎င်း၊ လူသားအချင်းချင်း လောကသဏ္ဌာယကြောင့် ဖြစ်ပွါးလာရသည့်အငြင်းအခုန်ဖြစ်မှုများကို မျှမျှတတဖြေရှင်းပေးမည့်နည်းလမ်းကို၎င်း တတ်မြောက်သောပညာရှင်ဖြစ်သည်။ အချုပ်ဆိုရသော် ဖိကဟ်ပညာရှင်သည် အာဏာပိုင်အား လူသားတို့အပေါ် အုပ်ချုပ်သည့်နည်းလမ်းကို သင်ကြားပေးသူဖြစ်သည်။ ဖိကဟ်ပညာရှင်၏သွန်သင်ပြသမှုဖြင့် လူတို့၏လောကီရေးကိစ္စရပ်များတွင် စနစ်ကျပြီး မျှတကောင်းမွန်သော အုပ်ချုပ်ကွပ်ကဲမှုရရှိမည်ဖြစ်သည်။

စင်စစ် ဖိကဟ်ပညာသည် သာသနာနှင့်သက်ဆိုင်မှုရှိသည်မှာ သံသယဖြစ်စရာမရှိပါချေ။ သို့သော် ဤသို့သက်ဆိုင်ခြင်းသည် တိုက်ရိုက်မဟုတ်ပေ။ ဒွန်နယာကို ကြားခံအဖြစ် ထား၍သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဒွန်နယာသည် အာခိရတ်၏လယ်ယာစိုက်ခင်းဖြစ်သည်။ သာသနာသည် ဒွန်နယာမပါဘဲ မပြည့်စုံနိုင်ပါ။ အုပ်ချုပ်ရေးနှင့်သာသနာသည် အမွှာညီနောင်ဖြစ်သည်။ သို့သော် သာသနာက အခြေခံအုတ်မြစ်ဖြစ်ပြီး အာဏာပိုင်က အစောင့်အရှောက်ဖြစ်သည်။ အုတ်မြစ်မရှိလျှင် ပြိုလဲမည်သာဖြစ်သည်။ အစောင့်အရှောက်မရှိလျှင် ဆုံးရှုံးပျက်စီးရမည်ဖြစ်သည်။ အုပ်ချုပ်ကွပ်ကဲမှုသည် အာဏာပိုင်ဖြင့်သာဖြစ်သည်။ အမှုအခင်းကိစ္စများကို ဖြေရှင်းရေးအတွက် နည်းလမ်း

ချမှတ်ခြင်းသည် ဖိကဟ် **ခေါ် သာသနာ**သိနားလည်မှုဖြင့်သာဖြစ်သည်။ အာဏာပိုင်က လူသားတို့ကို အုပ်ချုပ်ရာ၌ သာသနာ့ပညာသည် ရှေ့တန်းမှ **ပါဝင်**ခြင်းမဟုတ်ဘဲ အထောက်အကူနေရာမှသာဖြစ်သည်။ ဤအထောက်အကူမပါဘဲ သာသနာရေးသည် ပြည့်**စုံ**ခြင်းမရှိပေ။

လူသားတို့အား အုပ်ချုပ်ရေးသည် ဥဒါဟရဏ်အားဖြင့် ဟဂ်ျခရီးကဲ့သို့ဖြစ်သည်။ ဟဂ်ျခရီးစဉ်သည် အရစ်လူဆိုးတို့ရန်မှ ကာကွယ်စောင့်ရှောက်ပေးမည့် **အစောင့်**အရှောက်မပါဘဲ မပြည့်စုံနိုင်ပေ။ သို့နှင့်တိုင် ဟဂ်ျပြုခြင်းသည် တစ်ကိစ္စ၊ ဟဂ်ျ၏လမ်းခရီး သွားရေးလာရေးသည် ဒုတိယကိစ္စဖြစ်သည်။ အစောင့်အရှောက်ပါမှ ဟဂ်ျပြည့်စုံခြင်းသည် တတိယကိစ္စဖြစ်သည်။ လမ်းခရီးလုံခြုံရေးကို သိနားလည်ခြင်း၊ လုံခြုံရေးအစီအမံနှင့် စည်းစနစ်ချမှတ်ခြင်းသည် စတုတ္ထကိစ္စဖြစ်သည်။ ဖိကဟ်ဘာသာရပ်၏ရလဒ်ဦးတည်ချက်သည် အုပ်ချုပ်ရေးနှင့်ထိန်းသိမ်းစောင့်ရှောက်မှုနည်းလမ်းကို သိနားလည်ရန်ဖြစ်သည်။ ဤအချက်ကို စနဒ်ပါဆင့်ပြန်ချက်တစ်ခုက **ညွှန်**ပြလျက်ရှိသည်။ ယင်းမှာ–

لا يفتي الناس إلا ثلاثة : أمير أو مأمور أو متكلف. (၃)

'သုံးဦးသောသူကသာ ဖတ္တဝါဆုံးဖြတ်ကြသည်။ ယင်းမှာ **အမိန်**၊ **အမိန့်**ခံရသူနှင့် တာဝန်မဲ့ဝင်လုပ်သူတို့ဖြစ်သည်။'

ဤဟဒီစ်တွင် 'အမိန်'ဆိုသည်မှာ တာဝန်ခံအရာရှိ၊ 'အမိန့်ခံရသူ'ဆိုသည်မှာ **အမိန်၏**လက်ထောက်ဖြစ်သည်။ တာဝန်မရှိဘဲပြုသူဆိုသည်မှာ ပထမနှစ်ဦးတွင် အကျုံးမဝင်သူ**ဖြစ်သည်။ သူသည် ဖတ္တဝါဆုံးဖြတ်**သည့်တာဝန်ကို မလိုအပ်ဘဲ ဝင်ယူသူဖြစ်သည်။

ဆွဟာဗဟ်သခင်များ ﷺသည် ဖတ္တဝါတာဝန်မှ ရှောင်ရှားလေ့ရှိခဲ့ကြသည်။ ဖတ္တဝါပေးဖို့ကြုံလျှင် ထိုသခင်တို့သည် တစ်ဦးကိုတစ်ဦး လွှဲချနေလေ့ရှိသည်။ ထိုသခင်တို့သည် ကုရ်**အာန်၏ပညာနှင့်** အာခိရတ်လမ်းစဉ်ပညာကို မေးလာလျှင်မူ ရှောင်လွှဲလေ့မရှိကြပေ။ အချို့ဆင့်ပြန်ချက်များတွင် 'المتكلف'(တာဝန်မရှိဘဲ ဝင်လုပ်သူ)၏နေရာ၌ 'المرائي'(ပြစားသူ)ဟု ဖော်ပြထားသည်။ အကြင်သူသည် လိုအပ်ချက်အရ သတ်မှတ်ခန့်ထားခြင်းမဟုတ်ဘဲ မိမိသဘောနှင့် ဖတ္တဝါတာဝန်ကို ဝင်ယူပြီဆိုလျှင် သူ၏ရည်ရွယ်ချက်သည် ကျော်ကြားမှုနှင့်ပစ္စည်းဥစ္စာ ရလိုမှုအတွက်သာဖြစ်လိမ့်မည်။

အကယ်၍ စာရှုသူအသင်က 'ထိခိုက်ဒဏ်ရာရမှုများ၊ ပြစ်ဒဏ်အစားပေးမှုများ၊ လျော်ကြေးငွေပေးဆပ်မှုနှင့် ခိုက်ရန်ဖြစ်ပွါးငြင်းခုန်မှုများအပေါ် အဆုံးအဖြတ်ပေးရေးနှင့်ပတ်သက်၍တော့ သင့်ဘက်က ရှင်းပြချက်ကို လက်ခံနိုင်ပါသည်။ သို့သော် ဤကျမ်း၏အိဗာဒတ်အပိုင်းမှ ရှိဆာနမာဇ်နှင့်သက်ဆိုင်ရာများငှင်း၊ ရှိသေယဉ်ကျေးမှုအပိုင်းမှ လူမှုဆက်ဆံရေး ခွင့်ပြုမပြုကိစ္စ ရှင်းလင်းချက်များကို အသင် ထည့်မပြောတော့ပါ။ ဖိကဟ်ပညာရှင်သည် ထိုကိစ္စများကိုလည်း ဖတ္တဝါပေးရပါသည်'ဟု စောဒကတက်မည်ဆိုလျှင် ကျွန်ုပ်က အောက်ပါအတိုင်း အဖြေပေးမည်။

ဖိကဟ်ပညာရှင်က ဖော်ပြသည့်ကျင့်မှုရာများတွင် အာခိရတ်ရေးအကျင့်အမှုဆို၍ အများဆုံးပြောနိုင်သည်မှာ **အစ္စလာမ်**၊ နမာဇ်၊ ဇကာတ်နှင့် ဟလာလ်ဟရာမ်တို့သာဖြစ်သည်။ အသင့်**အနေနှင့်** ဖိကဟ်ပညာရှင်၏အဆုံးစွန်ကို မျှော်ကြည့်မည်ဆိုလျှင် ဒုန်ယာ၏နယ်နိမိတ်မှ ကျော်၍ အာခိရတ်သို့ **မရောက်ကြောင်း** တွေ့ရမည်။ ဤသုံးခုသည်ပင် ဒုန်ယာရေးအတွင်း၌သာရှိနေကြောင်း သိရလျှင် အခြားအရာ**များနှင့်ပတ်သက်၍ကား** ပိုပြီးသိသာနိုင်ပေသည်။ **အစ္စလာမ့်အကြောင်း** ဖိကဟ်ပညာရှင်တို့ ဖော်ပြသည်မှာ ဤသာသနာ၏**ပြုခွင့်ရှိခြင်း**မရှိခြင်းနှင့် သာသနာဝင်မည့်သူတစ်ဦး**အတွက်** စည်းကမ်းချက်များဖြစ်သည်။ ဤကိစ္စအားလုံးသည် နှုတ်ဖြင့် ပြောဆိုရသောအရာများချည်း ဖြစ်ပြီး အခြားဘက်မလှည့်ပါ။ နှလုံးသားကိစ္စဆိုသည်မှာ ဖိကဟ်ပညာရှင်၏ပိုင်နက်နယ်အပြင်ဘက်မှဖြစ်သည်။ သို့ဖြစ်၍ لعزل رسول الله ﷺ أرباب السيوف و السلطنة عنه حيث قال : (( هلا سقفت عن قلبه)) . (၄) –ဟဒီစ်တွင်

ဓါးပိုင်များ၊ အာဏာပိုင်များကို နှလုံးသားကိစ္စမှ ဖယ်ထုတ်သည့်အနေဖြင့် တမန်တော်မြတ်ﷺက–

'ဘာလဲ၊ အသင်က သူ့နှလုံးသားကို ခွဲကြည့်ပြီး သိရခြင်းလား'

ဟု မေးမြန်းခဲ့သည်။ ဖြစ်ပုံမှာ လူတစ်ယောက်က ကလေမာဖတ်ပြီး အစ္စလာမ်လက်ခံလာသူတစ်ဦးကို သတ်ဖြတ်ခဲ့သည်။ ထို့နောက် ၎င်းက အသတ်ခံရသူ၏ကလေမာဖတ်ခြင်းသည် ဓါးကို ကြောက်၍ ဖြစ်သည်ဟု အကြောင်းပြပြောဆိုသဖြင့် တမန်တော်မြတ်ﷺက အထက်ပါအတိုင်း မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ဤနေရာတွင် ဖိကဟ်ပညာရှင်က ဓါးမိုးခြိမ်းခြောက်၍ ဖြစ်စေကာ အစ္စလာမ့်ဘောင်သို့ ဝင်ရောက်ခြင်းကို အတည်ဖြစ်သည်ဟု ဆုံးဖြတ်မည်ဖြစ်သည်။ သို့သော် ဓါးသည် လူတစ်ဦး၏ ဒွိဟကို ရှင်းလင်းဖယ်ရှားနိုင်ခြင်း မရှိသည်ကိုင၎်း၊ ထိုသူ၏မသိနားမလည်မှုအကာအဆီးကို ခွါချမပေးနိုင်သည်ကိုင၎်း ထိုဖိကဟ်ပညာရှင်က သိရှိထားပြီးသည်။ သို့နှင့်တိုင် ဓါးက လည်ကုပ်တွင် ဝဲနေပြီး လက်က ပစ္စည်းဆီကို လှမ်းနေသော်လည်း ပစ္စည်းရှင်သည် ဤကလေမာတော်ကို ရွတ်ဆိုပြီး မိမိ၏အသက်နှင့်ပစ္စည်းကို ကာကွယ်ထိန်းသိမ်းနိုင်လေသည်။ ထို့ပြင် ၎င်း၏အသက်တည်မြဲနေသ၍ ၎င်း၏လည်ကုပ်နှင့်ပစ္စည်းဘက်သို့ မည်သူမျှ စောင်းငဲ့ကြည့်ရှုခွင့်မရှိတော့ချေ။ ထိုအတွက်ကြောင့် တမန်တော်မြတ်ﷺက–

أُمِرْتُ أن أقاتلَ الناس حتى يقولوا لاإله إلاالله فإذا قالوها فقد عصموا مني دماءهم و أموالهم. (خ.م)

'လူတို့အား 'လာအိလာဟအိလ္လလ္လာဟ်–အလ္လာဟ်အရှင်မှတပါး ကိုးကွယ်ရာအရှင်မရှိပါ'ဟု မြွက်ဟကြသည်အထိ တိုက်ပွဲဝင်ရန် ငါ့ကို အမိန့်ပေးတော်မူထားသည်။ သို့ရှိရာ လူတို့သည် ကလေမာတော်ကို ဖတ်ကြမည်ဆိုလျှင် ၎င်းတို့၏အသက်နှင့်၎င်းတို့၏ပစ္စည်းသည် ငါ၏ကာကွယ်စောင့်ရှောက်မှုအောက်တွင် ရှိနေမည်ဖြစ်သည်။'

တမန်တော်မြတ်ﷺက ဤမိန့်ဆိုမှုဖြင့် ကလေမာတော်ကို နှုတ်လျှာမှ မြွက်ဆိုခဲ့ခြင်းကြောင့် အသက်နှင့်ဥစ္စာပစ္စည်းအပေါ်မှာသာ သက်ရောက်မှုရှိနိုင်ကြောင်း ညွှန်ပြခဲ့သည်။ အာခိရတ်တွင်ကား ထိုသို့နှုတ်လျှာသက်သက်ဖြင့် ဖတ်ရွတ်ခဲ့ခြင်းက မည်သို့မျှ အကျိုးပြုလိမ့်မည်မဟုတ်ပေ။ စင်စစ်တွင် နှလုံးသား၏အလင်းရောင်များ၊ အတွင်းပိုင်းထွန်းလင်းတောက်ပမှုများနှင့် နှလုံးသား၏အိခ်လာစ္စ်ဖြူစင်မှုတို့ကသာ အာခိရတ်တွင် အကျိုးပြုမည်ဖြစ်သည်။ ဤနှလုံးသားကိစ္စများသည် ဖိကဟ်ပညာနှင့်သက်ဆိုင်ခြင်းမရှိပေ။ အကယ်၍ ဖိကဟ်ပညာရှင်က ဤကိစ္စများတွင် ထဲထဲဝင်ဝင်ရှင်းလင်းပြောဆိုလာမည်ဆိုလျှင် သူသည် မိမိ၏ဘာသာရပ်နှင့်မဆိုင်သော ကလာမ်ပညာနှင့်ဆေးပညာတွင် ဝင်ရောက်ပြောဆိုသလိုဖြစ်လိမ့်မည်။

ပုဂ္ဂိုလ်တစ်ဦးက နမာဇ်ကို ဗဟိဒ္ဓစည်းကမ်းချက်များနှင့်အညီ ပုံစံကျအောင် ဖတ်ရွတ်မည်ဆိုလျှင် ထိုနမာဇ်ကို ဖိကဟ်ပညာရှင်က ပိုင်သည်ဟု ဖတ္တဝါပေးမည်ဖြစ်သည်။ အကယ်၍ ထိုပုဂ္ဂိုလ်သည် နမာဇ်ကို တက္ကဗီရ်မှလွဲ၍ အစမှအဆုံး အမေ့ဆိုက်ပြီး ဈေးထဲမှ အပေးအယူကိစ္စများကို တွက်ချက်စဉ်းစားရင်း ဖတ်ရွတ်ခဲ့မည်ဆိုလျှင်လည်း ဖိကဟ်ပညာရှင်က သူ၏နမာဇ်ကို ပိုင်သည်ဟု ဆုံးဖြတ်မည်သာဖြစ်သည်။ သို့သော် ထိုနမာဇ်မျိုးသည် အာခိရတ်တွင် ဘာမှအသုံးဝင်လိမ့်မည်မဟုတ်ပေ။ ပမာဆိုရသော် နှုတ်လျှာသက်သက်ဖြင့် အစ္စလာမ်ကိုလက်ခံခြင်းက ဘာမှအကျိုးမရှိလိုပင်ဖြစ်သည်။ သို့နှင့်တိုင် ဖိကဟ်ပညာရှင်က ပြဋ္ဌာန်းလာရှိသည့်အတိုင်း အသွင်သဏ္ဍာန်တူအောင် လုပ်ဆောင်ခဲ့သည့်အတွက် ထိုသူ၏အစ္စလာမ့်ဘောင်သို့ ဝင်ရောက်ခြင်း အတည်ဖြစ်ပြီး ထိုသူ့အား စီရင်ရန်နှင့် အရေးယူရန်ကိစ္စများ ရပ်ဆိုင်းသွားပြီဟု ဖတ္တဝါပေးမည်ဖြစ်သည်။

ရိုကျိုးခြင်းနှင့်တစ်စိတ်တစ်လက်ရှိခြင်းတို့သည် အာခိရတ်နှင့်သက်ဆိုင်သော ကျင့်မူရာဖြစ်သည်။ ဤအဓျတ္တကျင့်မူရာများဖြင့်သာ ဗဟိဒ္ဓကျင့်ဆောင်မှုက အကျိုးဖြစ်ထွန်းမည်ဖြစ်သည်။ ဖိကဟ်ပညာရှင်သည် ဤအရာများကို ကိုင်တွယ်ခြင်းမပြုပါ။ အကယ်၍ ကိုယ်တွယ်ခဲ့မည်ဆိုလျှင်လည်း ယင်းသည် ဖိကဟ်ပညာရပ်မှ အပြင်သို့ ထွက်သူ

ဖြစ်လိမ့်မည်။

ဇကာတ်နှင့်စပ်လျဉ်း၍လည်း ဖိကဟ်ပညာရှင်က ကြည့်သည်မှာ ပစ္စည်းရှင်ထံမှ အာဏာပိုင်က အတောင်းရ လွတ်သွားခြင်းကိုသာဖြစ်သည်။ ဇကာတ်ပေးရန် ငြင်းဆန်သူထံမှ အာဏာပိုင်က ထိုဇကာတ်ကို အတင်းအကြပ်ရ ယူမည်ဆိုလျှင်လည်း၊ ငြင်းဆန်သူ ပစ္စည်းရှင်အတွက် ဇကာတ်တာဝန်ကျသည်ဟု ဆုံးဖြတ်မည်ဖြစ်သည်။

အဆိုရှိသည်မှာ ကာဇ္ဇီအဗူယူစွဖ်ႛသည် မိမိ၏ပစ္စည်းများကို နှစ်ကုန်ခါနီးတိုင်း မိမိဇနီးသို့ ပေးလေ့ရှိသည်။ မိမိအပေါ်တွင် ဇကာတ် မထိုက်စေရန်ဖြစ်သည်။ ထို့နောက် မိမိဇနီးထံမှ ပစ္စည်းကို ပြန်ပေးရန် တောင်းလေသည်။ ဤအကြောင်းကို အိမာမ်အဗူဟနီဖဟ်ႛသခင်ကို ပြောပြသောအခါ သခင်က 'ထိုသို့ပြုခြင်းသည် သူ၏ဖိကဟ်အရ ဖြစ်သည်'ဟု ဆိုပြီး မှန်ကြောင်းပြောခဲ့သည်။ ဤသို့မှန်ခြင်းမှာ ဒွန္နယာ့ဖိကဟ်ပညာဖြင့် ပိုင်အောင် လုပ်လိုက်သော ကြောင့်ဖြစ်သည်။ သို့နှင့်တိုင် ထိုလုပ်ရပ်အတွက် အာခိရတ်တွင် ရင်ဆိုင်ရမည့် ဘေးအန္တရာယ်သည် အပြစ်ဒုစရိုက် အားလုံးတွင် အကြီးကျယ်ဆုံးလိမ့်မည်။ ထို့ကြောင့် ဤကဲ့သို့ပညာမျိုးကို 'ဘေးဒုက္ခပညာ'ဟုခေါ်သည်။

ဟလာလ်ဟရာမ်နှင့်ပတ်သက်၍ ဆိုရပါမူ ဟရာမ်မှ ရှောင်ကျဉ်ခြင်းသည် သာသနာရေးပင်ဖြစ်သည်။ သို့ သော် ဤနေရာတွင် ရှောင်ကျဉ်ခြင်းသည် အဆင့်အတန်းလေးခုရှိသည်။

**ပထမအဆင့်**– ဤအဆင့်အတွက် ဆိုင်ရာပုဂ္ဂိုလ်သည် သက်သေခံမှု သမ္မာသမတ်ရှိရမည်ဟု စည်းကမ်းချက်ထား သည်။ ဤစည်းကမ်းနှင့်မညီလျှင် ထိုပုဂ္ဂိုလ်ကို သက်သေခံပိုင်ခွင့်၊ တရားသူကြီးလုပ်ခွင့်၊ အုပ်ချုပ်ရေးတွင် ပါဝင်ခွင့် အရည်အချင်းများ မရှိဟုသတ်မှတ်သည်။ ဤအဆင့်သည် ထင်ထင်ရှားရှားဟရာမ်ဖြစ်သောအရာမှ ရှောင်ကျဉ်ခြင်း ဖြစ်သည်။

**ဒုတိယအဆင့်**– ဤအဆင့်မှာ သူတော်စင်တို့၏တက္ကဝါဖြစ်သည်။ ဟလာလ်နှင့်ဟရာမ် နှစ်မျိုးစလုံးဖြစ်နိုင်သော ဒွိဟဖြစ်ဖွယ်အရာမှ ရှောင်ကျဉ်ခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုမှုသည်မှာ–

دع ما يريبك إلى ما لا يريبك . (ت . س . حب)

'အသင် ဒွိဟဖြစ်သောအရာကို စွန့်ခွါ၍ ဒွိဟမဖြစ်သောအရာကို ရွေးချယ်ပါ။'

ထို့ပြင် တမန်တော်မြတ်ﷺက– الإثم حزاز القلوب (سي)

'အပြစ်ဒုစရိုက်သည် နှလုံးသားကို တုန်လှုပ်စေသောအရာဖြစ်သည်'ဟု မိန့်ဆိုခဲ့၏။

**တတိယအဆင့်**– ဤအဆင့်သည် မွတ္တကီပုဂ္ဂိုလ်မြတ်တို့၏ရှောင်ကျဉ်မှုဖြစ်သည်။ ဟရာမ်ဘက်သို့ ရောက်သွား မည် စိုးရိမ်ပြီး ဟလာလ်စစ်စစ်ကို လွှတ်လိုက်ခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

لايكون الرجل من المتقين حتى يدع ما لا بأس به مخافة مما به بأس . (ت . ق . مس)

'လူသားသည် ဘေးဒုက္ခဖြစ်လာမည်ကို စိုးရိမ်ပြီး ဘေးဒုက္ခမရှိသည့်အရာကို စွန့်လွှတ်ခြင်းမပြုသ၍ ၎င်းသည် မွတ္တကီမဖြစ်သေးပေ။'

ဤအတွက်ဥပမာမှာ အတင်းအဖျင်းဖြစ်လာမည်ကို စိုးရိမ်ပြီး လူတို့၏အကြောင်းသတင်းများ ပြောဆိုခြင်း ကို ရှောင်ကျဉ်ခြင်းဖြစ်သည်။ တဖန် စားကောင်းသောက်ဖွယ်များမှ ရှောင်ကျဉ်ခြင်းဖြစ်သည်။ ထိုအရာများကို စား သောက်ခြင်းဖြင့် အပျော်ကျူး တက်ကြွလာပြီး ထိုမှ တားမြစ်ထားသောအရာများကို ချိုးဖေါက်ကျူးလွန်မိမည်ကို စိုး ရိမ်သောကြောင့်ဖြစ်သည်။

**စတုတ္ထအဆင့်**– ဤအဆင့်သည် ဆွစ်ဒီက်သစ္စာဝါဒီတို့၏တက္ကဝါဖြစ်သည်။ ဤပုဂ္ဂိုလ်တို့သည် အလ္လာဟ်အရှင်မှ အပ အခြားအရာအားလုံးကို ကျောခိုင်းထားကြသည်။ အလ္လာဟ်အရှင်နှင့်နီးကပ်ရခြင်းလောက် အကျိုးမရှိသည့်ကိစ္စ

တွင် မိမိတို့သက်တမ်း၏ တဒင်္ဂကလေး အသုံးပြုမိမည်ကို စိုးရိမ်ကြသောကြောင့်ဖြစ်သည်။ ထိုကိစ္စကို လုပ်ကိုင်ခြင်းသည် ဘယ်လိုမှ ဟရာမ်မဖြစ်နိုင်ကြောင်း အသေအချာသိပြီးနောက်တွင်မှ ရှောင်ကျဉ်ခြင်းဖြစ်သည်။

ပထမအဆင့်မှလွဲ၍ ကျန်အဆင့်အားလုံးသည် ဖိကဟ်ပညာရှင်၏ကြည့်ရှုမှု အပြင်ဘက်မှဖြစ်သည်။ ပထမအဆင့်သည် သက်သေခံသူများနှင့်တရားသူကြီးများ၏ ရှောင်ကျဉ်မှုဖြစ်သည်။ **ဖိကဟ်ပညာရှင်က** ၎င်းတို့၏သမ္မာသမတ်ရှိမှုတွင် အပြစ်ထောက်စရာ ရှိမရှိစစ်ဆေးကြည့်ရှုသည်။ ထိုကဲ့သို့သောရှောင်ကျဉ်မှုမျိုးသည် အာခိရတ်တွင် အရေးယူခံရနိုင်သော ပြုမူဆောင်ရွက်မှုမှ ရှောင်ကျဉ်သည့်အဓိပ္ပါယ် ဘယ်လိုမှ မထွက်ပါချေ။ တမန်တော်မြတ်ﷺက ဆွဟာဗဟ်တစ်ပါးဖြစ်သူ ဝါဘိဆွာ(ရ)သခင်အား မိန့်ဆိုသည်မှာ–

استفت قلبك و إن أفتوك و إن أفتوك و إن أفتوك ـ (၁)

'အသင်သည် **မိမိ၏**နှလုံးသားမှ ဖတ္တဝါယူပါ။ အကယ်၍ လူတို့က အသင့်ထံ ဖတ္တဝါတောင်းလာခဲ့သော်။ ဖတ္တဝါတောင်းလာခဲ့သော်။ ဖတ္တဝါတောင်းလာခဲ့သော်။'

ဖိကဟ်ပညာရှင်သည် နှလုံးသား၏ဗျာပါရများအကြောင်းကိုင်း၊ ထိုဗျာပါရများတွေ့ကြုံလျှင် ကျင့်မူရမည့်နည်းလမ်းများအကြောင်းကိုင်း ပြောဆိုခြင်းမပြုပေ။ စင်စစ်တွင် ဖိကဟ်ပညာရှင်၏ ရှုးစိုက်မှုသည် သမ္မာသမတ်ရှိမရှိကိုသာဖြစ်သည်။ ဖိကဟ်ပညာရှင်၏ အမြင်ရှုဒေါင့်အားလုံးသည် ဒွန္နယာနှင့်ဆက်စပ်လျက်ရှိပြီး ထိုဆက်စပ်မှုများကြောင့် အာခိရတ်၏ လမ်းခရီး သာယာဖြောင့်ဖြူးရခြင်းဖြစ်သည်။ အကယ်၍ ဖိကဟ်ပညာရှင်သည် နှလုံးသား၏ ဝိသေသထူးချက်များနှင့် အာခိရတ်ရေးပညတ်ချက်များအကြောင်း တစ်စုံတစ်ခုပြောဆိုခဲ့မည်ဆိုလျှင်၊ ထိုသို့ပြောဆိုခြင်းသည် အခြားအကြောင်းတစ်ခုကြောင့်ဖြစ်သည်။ ဥပမာအဖြစ် ဖိကဟ်ပညာရှင်၏ပြောဆိုမှုများတွင် ဆေးပညာ၊ သင်္ချာပညာ၊ နက္ခတ်ပညာနှင့်ကလာမ်ပညာများ၏ အကြောင်းအရာများကို တွေ့ရခြင်းမျိုးလိုဖြစ်သည်။ သဒ္ဒါပညာနှင့် လင်္ကာပညာတွင် ဟီကမတ်မျှော်မြင်ဉာဏ်အကြောင်း ပါလာသကဲ့သို့ဖြစ်သည်။

ဆွဖ်ယန်စောရ်ရီ(ရ)သခင်သည် ဗဟိဒ္ဓပညာတွင် အီမာမ်တစ်ပါးဖြစ်ခဲ့သည်။ သို့နှင့်တိုင် သခင်က 'ဤပညာရပ်ကို လိုက်စားခြင်းသည် အာခိရတ်ရေးလမ်းခရီးရိက္ခာအတွက် မဟုတ်ပေ'ဟု ဆိုခဲ့သည်။

ပညာသည် လက်တွေ့ကျင့်သုံးမှုကြောင့်သာ မြင့်မြတ်ရခြင်းဖြစ်ကြောင်း အားလုံးက သဘောတူထားပြီးဖြစ်သည်။ သို့ဖြစ်ရာ တစ်စုံတစ်ဦးသည် ဇွေဟာရ်၊ လိအာန် စသည် ကျိမ်ဆိုမှုများနှင့် ဆလွာမ်၊ အိဂျာရာ၊ ဆွရ်ဖ် စသည် ရောင်းဝယ်မှုပုံစံဆိုင်ရာ ပညာရပ်ကို အလ္လာဟ်အရှင်နှင့် နီးကပ်မှု ရရှိရန်အတွက် သင်ယူခဲ့မည်ဆိုလျှင်၊ ထိုသူသည် ရူးသွပ်သူသာဖြစ်လိမ့်မည်။ နာခံမှုအရာများကို ကျင့်ဆောင်သည်ဆိုရာမှာ နှလုံးသားနှင့်ကိုယ်ကာယ နှစ်ခုစလုံး၏ လုပ်ရပ်ကို ဆိုလိုခြင်းဖြစ်သည်။ တဖန် ထိုလုပ်ရပ်များကသာ မြင့်မြတ်မှုရှိခြင်းဖြစ်သည်။

အကယ်၍ စာရှုသူအသင်က 'ဖိကဟ်နှင့် ဆေးပညာကို အသင် အဘယ်ကြောင့် တစ်ပြေးညီထားပါသလဲ။ ဆေးပညာသည်လည်း ဒွန္နယာနှင့်သက်ဆိုင်သောပညာဖြစ်ပြီး ခန္ဓာကိုယ်၏ ကျန်းမာမှုဖြစ်သည်။ တဖန် ခန္ဓာကိုယ်ကျန်းမာမှုသည် သာသနာရေးပုံမှန်ရှိမှု၏ အခြေခံလည်းဖြစ်သည်။ သို့ဖြစ်ရာ ယခုလိုတစ်ပြေးညီထားလိုက်ခြင်းသည် အားလုံး၏သဘောထားနှင့် ဆန့်ကျင်သွားမည်မဟုတ်လော'ဟု စောဒကတက်မည်ဆိုက၊ ကျွန်ုပ် ရှင်းပြလိုသည်မှာ တစ်ပြေးညီထားသည်ဆိုရာ၌ ထပ်တူထပ်မျှတူညီသည်ဟု ဆိုခြင်းမဟုတ်ပါ။ ဤပညာရပ်နှစ်ခုတွင် ကွာခြားချက်များရှိသည်။ ဖိကဟ်ပညာသည် အချက်သုံးချက်ကြောင့် ဆေးပညာထက် ပို၍မြင့်မြတ်ရသည်။

**ပထမအချက်–** ဖိကဟ်ပညာသည် ရှရီအတ်၏ ပညာရပ်တစ်ခုဖြစ်သည်။ ဆိုလိုသည်မှာ နဗူဝပ်မှ ရယူထားသော ပညာဖြစ်သည်။ ဆေးပညာကမူ ရှရီအတ်ပညာ မဟုတ်ပေ။

**ဒုတိယအချက်–** ဖိကဟ်ပညာသည် အာခိရတ်ခရီးကို လျှောက်လှမ်းမည့်၊ ကျန်းမာသူဖြစ်စေ မကျန်းမာသူဖြစ်စေ လူ

လူတိုင်းအတွက် မရှိမဖြစ် လိုအပ်ချက်ဖြစ်သည်။ ဆေးပညာကမူ အနည်းစုဖြစ်သော ရောဂါဝေဒနာရှင်များအတွက်သာ လိုအပ်သည်။

**တတိယအချက်–** ဖိကဟ်ပညာသည် အာခိရတ်လမ်းစဉ်ပညာနှင့် မိတ်ဖက်ဖြစ်သည်။ အကြောင်းမှာ ဖိကဟ်ပညာသည် ကိုယ်ကာယဖြင့် ပြုလုပ်သော ကျင့်ဆောင်မှုများကို စူးစိုက်ကြည့်ရှုသည်။ ကိုယ်ကာယ၏ကျင့်ဆောင်မှုများ အရင်းခံထွက်ပေါ်ရာသည် နှလုံးသား၏အရည်အသွေးဝိသေသများမှဖြစ်၏။ ကောင်းမြတ်သော ကျင့်ဆောင်မှုများသည် ကောင်းမြတ်သောအကျင့်စာရများမှ ပေါ်ထွက်သည်။ ယင်းသည်ပင် အာခိရတ်တွင် လွတ်မြောက်အောင် မြင်စေမည့်အရာဖြစ်သည်။ ဆိုးယုတ်သော ကျင့်ဆောင်မှုများသည် ဆိုးယုတ်သောအကျင့်စာရများမှ ပေါ်ထွက်သည်။ ကိုယ်ကာယနှင့်နှလုံးသားတို့၏ဆက်သွယ်နေခြင်းသည် သိသာထင်ရှားသောကိစ္စဖြစ်သည်။ ကျန်းမာခြင်းနှင့်ရောဂါဝေဒနာ၏ပေါ်ထွက်ရာသည် လူသား၏ဓါတ်ခံသဘာဝဖြစ်သည်။ ဓါတ်ခံသဘာဝသည် ခန္ဓာကိုယ်၏အရည်အသွေးဝိသေသများဖြစ်ပြီး နှလုံးသား၏အရည်အသွေး ဝိသေသများ မဟုတ်ပေ။

ဤအချက်များအရ ဆေးပညာနှင့် မည်သို့ပင်ယှဉ်ယှဉ် ဖိကဟ်ပညာက မြင့်မြတ်သည်မှာ ပေါ်လွင်သည်။ တဖန် အာခိရတ်လမ်း၏ပညာကို ဖိကဟ်ပညာနှင့် ယှဉ်ကြည့်သည့်အခါမှာလည်း အာခိရတ်လမ်း၏ပညာက မြင့်မြတ်သည်မှာ ရှင်းလှပါသည်။

စာရှုသူအသင်က 'အာခိရတ်လမ်း၏ပညာကို အလုံးစုံအသေးစိတ်ဖော်ပြရန် မဖြစ်နိုင်လျှင်လည်း အညွှန်းမျှလောက်တော့ ရှင်းလင်းဖော်ပြစေလိုသည်'ဟု တောင်းဆိုမည်ဆိုအံ့။ ကျွန်ုပ်က ရှင်းလင်းဖော်ပြမည်မှာ ဤပညာသည် မုကာရှိဖတ်ပညာနှင့် မုအာမိလတ်ပညာဟူ၍ နှစ်မျိုးနှစ်စားရှိသည်။

**ပထမအမျိုးအစား–** ဤမုကာရှိဖတ်ပညာဆိုသည်မှာ အတွင်းရေးအစ္ဈတ္တပညာပင်ဖြစ်သည်။ ယင်းသည် ပညာရပ်အပေါင်း၏အန္တိမပညာဖြစ်သည်။ အာရီဖ်သူတော်ကောင်းတစ်ပါးက 'ဤအစ္ဈတ္တပညာကို သိကျွမ်းမှုမရှိသူအတွက် အဆုံးနိဂုံး မကောင်းမည်ကို ကျွန်ုပ်စိုးရိမ်သည်။ သိကျွမ်းမှု၏အနိမ့်ဆုံးအဆင့်သည် ဤပညာကို အသိအမှတ်ပြုပြီး ထိုက်တန်သူများတွင် ဤပညာရှိကြောင်း လက်ခံရန်ဖြစ်သည်'ဟု ဆိုမိန့်ခဲ့ကြသည်။

နောက်ပုဂ္ဂိုလ်တစ်ဦးက 'အကြင်သူ့တွင် အကျင့်ဆိုးနှစ်ခုရှိလျှင် ထိုသူသည် ဤပညာထဲမှ ဘာတစ်ခုမှ သိရမည်မဟုတ်ပေ။ ထိုအကျင့်ဆိုးနှစ်ခုမှာ ဗိဒအတ်နှင့်မာန်မာနဖြစ်သည်။ အကြင်သူ ဒုန္နယာကို ချစ်မည်၊ သို့မဟုတ် စိတ်အလိုဆန္ဒနောက် စိုက်လိုက်မတ်တပ်လိုက်ပါမည်ဆိုလျှင်၊ အခြားပညာရပ်များအားလုံး သူ့တွင် ရှိမည်ဆိုက ရှိနိုင်သော်လည်း ဤပညာကတော့ ရှိမည်မဟုတ်ပါ။ ဤပညာကို ငြင်းဆိုသူအတွက် အနိမ့်ဆုံးဒဏ်ခတ်မှုသည် ဤပညာနှင့်ပတ်သက်၍ တစ်စုံတရာ အရသာခံ မြည်းစမ်းခွင့်မရခြင်းဖြစ်သည်'ဟု ရှင်းပြပြီး ရွတ်ဆိုခဲ့သည်မှာ–

وارض لمن غاب عنك غيبته فذاك ذنب عقابه فيه

*'အသင်၏မမြင်ကွယ်ရာတွင် ရှိနေသူကို ကျေနပ်လိုက်ပါ။*
*အကြောင်းမှာ မမြင်ကွယ်ရာ၌ ရှိခြင်းသည် ပြစ်မှုဖြစ်၏။*
*ထိုအတွက်ပြစ်ဒဏ်သည်လည်း ထိုအထဲတွင်သာရှိနေ၏။'*

ဤပညာသည် သစ္စာဝါဒီများနှင့် အလ္လာဟ်အရှင့်ထံ နီးကပ်ခွင့်ရသူများ၏ပညာဖြစ်သည်။ ဆိုလိုသည်မှာ မုကာရှိဖတ်ပညာသည် နူရ်အလင်းရောင်တစ်ခုဖြစ်သည်။ နှလုံးသားတွင် မကောင်းသောဂုဏ်သတ္တိများ သန့်ရှင်းစင်ကြယ်သောအခါ ဤအလင်းရောင်သည် ထွန်းတောက်ပေါ်ထွက်လာသည်။ များစွာသောကိစ္စရပ်များသည် ယခင်က အမည်နာမများအဖြစ်သာ ကြားဖူးနားဝရှိပြီး အဓိပ္ပါယ်ကို မပီမပြင် ဝိုးတိုးဝါးတားဖြစ်နေခဲ့ရာမှ ဤအလင်းရောင်ဖြင့် ထင်းလင်းသိရှိလာရသည်။ ထို့ပြင် ဤအလင်းရောင်ဖြင့် အရာအားလုံး၏အဓိပ္ပါယ်အလိုသဘောကို အသိအလင်းရ

ရှိသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်၏ပကတိသဘောကို သိသော အစစ်အမှန်အသိထူးကို ရရှိလာသည်။ ထို့ပြင် အလ္လာဟ်အရှင်၏ပြီးပြည့်စုံသော ထာဝရဂုဏ်တော်များ၊ ထိုအရှင်၏လုပ်ရပ်တော်များ၊ ဒွန္နယာနှင့်အာခိရတ်ကို ဖန်ဆင်းတော်မူခြင်းနှင့် အာခိရတ်ကို ဒွန္နယာ၏အထက်မှာထားရသည့် အလ္လာဟ်အရှင်၏ဟီကံမတ်တော်များကို သိရသည်။ နဗွတ်နှင့် နဗီ၏အဓိပ္ပါယ်၊ ဝဟီ၏အဓိပ္ပါယ်၊ ရှိုင်တွာန်၏အဓိပ္ပါယ်၊ မလာအိကာနှင့်ရှိန်တွာန်များ ဆိုသော စကားလုံးများ၏အဓိပ္ပါယ်၊ ရှိုင်တွာန်က လူသားကို ရန်ငြိုးထားသည့်အလိုသဘော၊ နဗီတမန်တော်များက ကောင်းကင်တမန်ကို သိရသည့်အလိုသဘော၊ တမန်တော်များထံသို့ ဝဟီကျရောက်သည့်အလိုသဘောများကိုငင်း၊ ထို့ပြင် မိုးအထပ်ထပ်နှင့် မြေပထဝီကို စိုးမိုးအုပ်ချုပ်သည့်အကြောင်း မအ်ရိဖတ်အသိထူး၊ နှလုံးသားနှင့်သက်ဆိုင်ရာ မအ်ရိဖတ်အသိထူး၊ ထိုနှလုံးသားတွင် ကောင်းကင်တမန်များ၏တပ်ဖွဲ့နှင့် ရှိုင်တွာန်များ၏တပ်ဖွဲ့များ ရင်ဆိုင်တိုက်ခိုက်ကြပုံ၊ ကောင်းကင်တမန်၏အသိပေးမှုနှင့် ရှိုင်တွာန်၏ဝိစိကိစ္စာဖြစ်စေမှုတို့ ကွာခြားပုံအသိထူး၊ အာခိရတ်-ဂျန္နတ်-ဂျဟန္နမ်-အဇာဗ်ပြစ်ဒဏ်ကဘရ်-ဆွေရာတ်တံတား-မီဇာန်ချိန်ခွင်၊ ကိုယ်ကျင့်စာရင်းစစ်ဆေးမှုတို့နှင့်သက်ဆိုင်သည့် အသိထူးများကိုလည်း ရရှိသည်။ ထို့ပြင် အောက်ပါအလ္လာဟ်အရှင် မိန့်ကြားမှုအာယတ်များ၏အဓိပ္ပါယ်ကိုလည်း သိလာရသည်။

﴿ إِقْرَأْ كِتَابَكَ كَفَى بِنَفْسِكَ الْيَوْمَ عَلَيْكَ حَسِيبًا ﴾

**'အသင်၏စာအုပ်ကို ဖတ်ရှုလော့။ ယနေ့သော်ကား အသင်ကိုယ်တိုင်သည် အသင့်အား စစ်ဆေးသူဖြစ်ရန် လုံလောက်ပေပြီ။'** (စူရာအစ္စရာအ် ၊ ၁၄)

﴿وَاِنَّ الدَّارَ الْاٰخِرَةَ لَهِيَ الْحَيَوَانُ لَوْ كَانُوْا يَعْلَمُوْنَ﴾

**'အာခိရတ်၏အိမ်သည်သာ ထာဝရရှင်နေရမည့် နေရာဖြစ်၏။ ထိုသူတို့ သိကြလျှင် ကောင်းပေစွ။'** (စူရာအန်ကဘွတ် ၊ ၆၄)

ထို့ပြင် အလ္လာဟ်အရှင်နှင့် တွေ့ဆုံရခြင်း၊ အလ္လာဟ်အရှင်၏မျက်နှာတော်ကို ကြည့်ရှုရခြင်းတို့၏အဓိပ္ပါယ်၊ အလ္လာဟ်အရှင်နှင့်နီးကပ်ရခြင်း၊ အရှင်၏အပါးတော်တွင် နေထိုင်ရခြင်း၏အလိုသဘောကိုငင်း၊ ထာဝရပျော်ရွှင်မှုရရှိခြင်း၊ မလအိအအ်လာတို့နှင့် အကျွမ်းဝင်ရခြင်း၊ ကောင်းကင်တမန်များနဗီများနှင့် ဆက်စပ်မှုရခြင်း၏အဓိပ္ပါယ်ကိုငင်း၊ ဂျန္နတ်ရရှိသူများ၏အဆင့်အတန်းများ ကွာခြားကြခြင်းနှင့် မိုးထက်တွင် တောက်ပသောကြယ်တာရာကို မြင်ရသလို ဂျန္နတ်သားများ တစ်ဦးကိုတစ်ဦး မြင်တွေ့ကြရမည်ဆိုခြင်း၏အဓိပ္ပါယ်ကိုငင်း သိရသည်။ ဤသည်တို့အပြင် အသေးစိတ်ဖော်ပြရလျှင် ရှည်လျားမည်ဖြစ်သော အကြောင်းအရာများဖြစ်သည်။

လူတို့သည် အထက်ပါအကြောင်းအရာများ၏အရင်းခံသဘောကို အမှန်ဟုလက်ခံပြီးနောက်၊ ယင်းတို့၏ အဓိပ္ပါယ်အလိုသဘောတွင်မူ အမျိုးမျိုးကွဲလွဲလျက်ရှိကြသည်။ အချို့က 'ဤအရာများအားလုံးသည် ပုံဆောင်မှုများဖြစ်ကြသည်။ မည်သည့်မျက်စေ့ကမှ မမြင်ဘူး၊ မည်သည့်နားကမှ မကြားဘူး၊ မည်သည့်လူ့နှလုံးသားကမှ မစဉ်းစားဘူးသေးသောအရာများကို အလ္လာဟ်အရှင်သည် မိမိ၏ကျေးကျွန်သူတော်စင်များအတွက် အသင့်ပြင်ဆင်ထားတော်မူသည်။ ထို့ပြင် လူသားတို့အတွက် ဂျန္နတ်တွင် ဝိသေသဂုဏ်ပုဒ်များနှင့် အမည်နာမများမှလွဲ၍ အခြားဘာမှ မရှိ' ဟုဆိုကြသည်။

အချို့ပုဂ္ဂိုလ်တို့က 'ဤအရာများထဲမှ အချို့သည် ပုံဆောင်မှုဖြစ်သည်။ အချို့သည် စကားလုံးဝေါဟာရနှင့် အစစ်အမှန်သဘောတို့ ကိုက်ညီသည်' ဟု ဆိုကြသည်။ ဤနည်းနှင့်နှင့် အချို့က 'အလ္လာဟ်ကို သိသည့် မအ်ရိဖတ်အသိထူး၏အဆုံးစွန်သည် 'အရှင့်ကို သိနိုင်စွမ်းမရှိပါ' ဟု ဝန်ခံခြင်းဖြစ်သည်' ဟု ဆိုသည်။ အချို့ကလည်း အလ္လာဟ်အရှင့်ကို သိသောမအ်ရိဖတ်နှင့်ပတ်သက်၍ အလွန်ကြီးကျယ်သောကိစ္စရပ်များကို ထုတ်ဖော်ပြောဆိုကြသည်။ အချို့

**တမူ** အလ္လာဟ်အရှင်ကို သိရသည့် မအ်ရိဖတ်၏နယ်နိမိတ်သည် လူအားလုံး သိထားသော အယုံအကြည်အတိုင်းပင် **ဖြစ်**သည်။ ဆိုလိုသည်မှာ လူအားလုံးတို့က အလ္လာဟ်အရှင်သည် တည်ရှိတော်မူသောအရှင်၊ သိတော်မူသောအရှင်၊ **စွမ်း**တော်မူသောအရှင်၊ ကြားတော်မူသောအရှင်၊ မြင်တော်မူသောအရှင်၊ မိန့်ကြားတော်မူသောအရှင်ဟု ယုံကြည်သိ **မှတ်**ထားကြသည့်အတိုင်းဖြစ်သည်။

သို့ဖြစ်ရာ ကျွန်ုပ်တို့ ဆိုလိုသည့် မုကာရှိဖတ်ပညာဆိုသည်မှာ ဤအကြောင်းအရာများအပေါ် ဖုံးကွယ်ထား သောအဖုံးအအုပ်ကို ဖွင့်ဖယ်လိုက်ပြီးနောက် မျက်စိနှင့်တပ်အပ်မြင်ရသကဲ့သို့ ဒွိဟမရှိတော့အောင် သစ္စာကြုတ်ဖွင့် အမှန်တရားကို ရှင်းလင်းပီသစွာ သိခြင်းဖြစ်သည်။ အကယ်၍ နှလုံးသားကြေးမုံပြင်သည် ဒွန္နယာ၏အညှိအကြေး ချေးညှော် အညစ်အပတ်များ ကပ်ညိပေရေခြင်းမရှိလျှင် ဤသို့သိရန်မှာ လူသား၏ဗီဇသတ္တိအရ ဖြစ်နိုင်သောအချက် ဖြစ်သည်။ အာခိရတ်လမ်း၏ပညာဆိုသည်မှာ အလ္လာဟ်အရှင်နှင့် အရှင်၏ဂုဏ်တော်များ၊ လုပ်ရပ်တော်များကို သိ သည့် မအ်ရိဖတ်အသိထူးကို အကွယ်အကာဖြစ်စေသော ထိုအညစ်အကြေးများကို နှလုံးသားကြေးမုံပြင်မှ ပြောင်စင် အောင် ပြုလုပ်သည့်နည်းလမ်းကို ပြသည့်ပညာဖြစ်သည်။ ထိုအညစ်အကြေးများ ပြောင်စင်သန့်ရှင်းစေရန်မှာ အလို ရမ္မက်ကို ထိန်းကွပ်ပြီး အခြေအနေအားလုံးတွင် နဗီတမန်တော်များ၏နောက်သို့လိုက်နာခြင်းဖြစ်သည်။ သို့ဖြစ်ရာ နှလုံးသားကြည်လင်စင်ကြယ်မှုရှိသလောက် အမှန်တရားသည် ပေါ်လွင်ပြီး **အစစ်အမှန်သဘောများ** ထွန်းလင်းလာ မည်ဖြစ်သည်။ ဤသို့ရှိရန်မှာ လေ့ကျင့်မှုများမပါဘဲနှင့် မဖြစ်နိုင်ပေ။ ထိုလေ့ကျင့်ခန်းများအကြောင်း သက်ဆိုင်ရာ ကဏ္ဍတွင် အသေးစိတ် ဖော်ပြမည်ဖြစ်သည်။

ထို့ပြင် သင်ယူခြင်းမပြုဘဲနှင့်လည်း နှလုံးသားကြည်လင်သန့်ရှင်းရန် မဖြစ်နိုင်ချေ။ ဤပညာရပ်များသည် ကျမ်းစာအုပ်များတွင် ရေးထားဖော်ပြထားခြင်းမရှိပါ။ အလ္လာဟ်အရှင်က ဤအသိပညာများထဲမှ တစ်စုံတစ်ရာ ချီး မြှင့်ခြင်းခံရသူကလည်း အရည်အချင်းရှိပြီး ထိုက်တန်သူမှလွဲ၍ အခြားသူကို ပြောပြခြင်းမပြုပေ။ ဤပညာသည် ဖုံး ကွယ်ထားသောပညာဖြစ်ကြောင်း ရည်ညွှန်းလျက် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن من العلم كهيئة المكنون لا يعلمه إلا اهل المعرفة بالله تعالى ، فاذا نطقوا به لم يجهله إلا أهل الاغترار بالله تعالى فلا تحقروا عَالِمًا أتاه الله تعالى علماً منه ، فإن الله عز وجل لم يحقره إذ أتاه إياه . (ابو عبدالرحمن السلمي في الأربعين)

'အချို့သောအသိပညာများသည် သိုက်မြှုပ်ထားသကဲ့သို့ဖြစ်သည်။ အလ္လာဟ်အရှင်အား အသိထူး ရှိ ကြသော အာရိဖ်များမှလွဲ၍ ဤပညာကို မည်သူမှ မတတ်ကျွမ်းပေ။ ထိုပုဂ္ဂိုလ်များက ဤပညာကို ထုတ် ဖော်ပြောဆိုသည့်အခါ၊ အလ္လာဟ်အရှင်နှင့်ပတ်သက်၍ လှည့်ဖျားခံထားရသူများမှ လွဲ၍ မည်သူမှ မငြင်း ပယ်ကြပေ။ သို့ဖြစ်ရာ အလ္လာဟ်အရှင်က ထိုအထဲမှ ပညာရပ် ပေးအပ်ချီးမြှင့်ထားသူ ပညာရှင်တစ်ဦးကို အထင်မသေးနှင့်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်က ထိုသို့ပညာကို ပေးအပ်ချီးမြှင့်ထားခြင်းဖြင့် ထိုသူ့ကို သေးသိမ်အောင်ပြုမည် မဟုတ်တော့ပေ။'

**ဒုတိယအမျိုးအစား–** ဤအမျိုးအစားသည် မုအာမိလတ်ပညာဖြစ်သည်။ ယင်းသည် စိတ်နှလုံး၏အခြေအနေများ ကို သိကျွမ်းနားလည်သောပညာဖြစ်သည်။ အခြေအနေဆိုရာတွင် ကောင်းမြတ်သောအခြေအနေနှင့် ဆိုးယုတ်သော အခြေအနေများ ပါဝင်လျက်ရှိသည်။ **ကောင်းမြတ်သောအခြေအနေများမှာ– သီးခံခြင်း**၊ ကျေးဇူးတင်ခြင်း၊ ကြောက် ရွံ့ခန့်ငြားခြင်း၊ အကောင်းမျှော်လင့်ခြင်း၊ အခြေအနေအရပ်ရပ်တွင် ကျေနပ်မှုရှိခြင်း၊ ဒွန္နယာစွန့်ခွါခြင်း၊ တက္ကဝါရှိခြင်း၊ ရောင့်ရဲခြင်း၊ ရက်ရောခြင်း၊ အခြေအနေအရပ်ရပ်တွင် အလ္လာဟ်အရှင်၏ကျေးဇူးကို သိခြင်း၊ လူတို့နှင့် ကောင်းစွာ ဆက်ဆံခြင်း၊ အလ္လာဟ်အရှင်နှင့်ပတ်သက်၍ ကောင်းသောထင်မြင်ချက်ထားခြင်း၊ အကျင့်စာရကောင်းခြင်း၊ ပေါင်း

သင်းမှုကောင်းခြင်း၊ သစ္စာရှိခြင်း၊ စေတနာဖြူစင်ခြင်းတို့ဖြစ်သည်။ ထို့ပြင် ဤစိတ်နှလုံးအခြေအနေများ၏အရင်းခံ သဘောနှင့် ဖွင့်ဆိုမှုကိုင်၊ ဤအခြေအနေများ ဖြစ်ပေါ်စေမည့် အကြောင်းတရားများကိုင်း၊ ပေါ်ထွက်မည့်ရလဒ် ကိုင်း၊ နိမိတ်လက္ခဏာများကိုင်း သိခြင်းဖြစ်သည်။ ထို့ပြင် ဖော်ပြပါစိတ်အခြေအနေတို့မှ အားနည်းသောအချက် ကို အားကောင်းစေရန် ကုစားပေးမည့် ကုထုံးနည်းလမ်းကို သိခြင်းဖြစ်သည်။ ဤအသိပညာနည်းလမ်းများအားလုံး သည် အာခိရတ်ပညာတွင် အကျုံးဝင်လေသည်။

**စိတ်နှလုံး၏ဆိုးယုတ်သောအခြေအနေများမှာ–** ဆင်းရဲမည်ကို ကြောက်ခြင်း၊ တက္ကဒီရ်သတ်မှတ်ချက်အပေါ် မကျေနပ်ခြင်း၊ အဘိဇ္ဈာများခြင်း၊ အမျက်သိုခြင်း၊ မနာလိုခြင်း၊ ဟန်ဆောင်ခြင်း၊ ဘဝင်မြင့်ခြင်း၊ အချီးမွမ်းခံလိုခြင်း၊ ဒွန်ယာတွင် စည်းစိမ်ခံစားရန် ကြာရှည်စွာ နေလိုခြင်း၊ မာန၊ ပြစ်မှု၊ ဒေါသ၊ ပကာသန၊ ရန်လိုခြင်း၊ မုန်းတီးခြင်း လောဘ၊ စေးနဲခြင်း၊ အလိုရမ္မက်၊ မောက်မာခြင်း၊ ထောင်လွှားခြင်း၊ မတန်မရာထင်မှတ်ခြင်း၊ သူဌေးသူကြွယ်များကို အထူးအရိုအသေပြုခြင်း၊ ဆင်းရဲသားများကို အထင်သေးနှိမ့်ချခြင်း၊ ဂုဏ်မောက်ခြင်း၊ စိတ်ကြီးဝင်ခြင်း၊ ဂုဏ်တုဂုဏ် ပြိုင်ပြုခြင်း၊ အကျိုးမဲ့ကိစ္စတွင် လိုက်စားခြင်း၊ များစွာပြောဆိုမှုကို နှစ်သက်ခြင်း၊ တစ်ဖက်သား နားခါးသောစကားကို ပြောဆိုခြင်း၊ လူတို့ အထင်ကြီးရန် ဆင်ယင်ချယ်သခြင်း၊ သာသနာရေးတွင် ပျင်းရိခြင်း၊ မိမိကိုယ်ကို အထင်ကြီးခြင်း မိမိ၏အပြစ်များကို လျှစ်လျူရှုပြီး သူတစ်ပါး၏အပြစ်များကို ဖော်ထုတ်ခြင်း၊ စိတ်နှလုံးတွင် ပူပင်သောကမထားခြင်း နှလုံးသားမှ အလ္လာဟ်အရှင့်အား ကြောက်ရွံ့စိတ် ထွက်သွားခြင်း၊ နဖ်စ်စိတ်ကို သိမ်ငယ်အောင်ပြုခံရသည့်အခါ ပြင်း ထန်စွာတုန့်ပြန်ခြင်း၊ အမှန်တရားနှင့်ပတ်သက်လျှင် တုန့်ပြန်မှုအားနည်းခြင်း၊ အတွင်းကို ရန်ပြုရန်အတွက် အပြင်နှင့် မိတ်ဖွဲ့ခြင်း၊ အလ္လာဟ်အရှင်က ပေးအပ်ထားသောအရာကို ပြန်ယူတော့မည်မဟုတ်ဟု စိတ်အေးလက်အေးနေခြင်း အမိန့်နာခံမှုအပေါ်မှာ အားကိုးယုံပုံခြင်း၊ ကောက်ကျစ်ခြင်း၊ ယုံကြည်မှုအလွဲသုံးခြင်း၊ ပရိရာယ်များခြင်း၊ ရှည်ရှည် ဝေးဝေးမျှော်လင့်ချက်ထားခြင်း၊ စိတ်မာခြင်းခြင်း၊ အပြောခက်ထန်ခြင်း၊ ဒွန်ယာတွင် ပျော်မွေ့ပြီး ဒွန်ယာမှ ခွဲခွာရမည် အခါ ဝမ်းနည်းပက်လက်ဖြစ်ခြင်း၊ လူတို့နှင့်ရှိနေသည့်အခါ နှည့်သိမ်မွေ့ပြီး ကင်းကွာသည့်အခါ ကြမ်းကြုပ်ခြင်း ရိုင်းပြစော်ကားခြင်း၊ အပေါ့တစားရှိခြင်း၊ အလျင်စလိုရှိခြင်း၊ အရှက်နည်းခြင်း၊ အကြင်နာတရား ခေါင်းပါးခြင်းနှင့် အခြားအလားတူအရာတို့သည် အားလုံးပင် မကောင်းဆိုးယုတ်သောအရာများဖြစ်သည်။ စိတ်နှလုံး၏ဝိသေသဂုဏ် ပုဒ်များတွင် ဤအကျင့်ဓလေ့များသည် အဆိုးရွားဆုံးအရာများဖြစ်သည်။ မကောင်းသောကျင့်မှုရာများ၏ရေသောက် မြစ်များဖြစ်သည်။

ဤအရာများနှင့် ဆန့်ကျင်ဘက်တွင် ကောင်းမြတ်သော အကျင့်စာရိတ္တများရှိသည်။ ထိုကောင်းမြတ်သော အကျင့်စာရိတ္တများကမူ အမိန့်နာခံမှုနှင့် အရှင့်ထံနီးကပ်မှု၏စမ်းပေါက်ဝဖြစ်သည်။ အချုပ်ဆိုရသော် ဤစိတ်အခြေ အနေများ၏အလိုသဘော၊ အရင်းခံအချက်၊ အကြောင်းခံများ၊ အကျိုးဆက်များ၊ ကုထုံးနည်းလမ်းများကို သိကျွမ်း နားလည်ခြင်းသည် အာခိရတ်ပညာဖြစ်သည်။ ဤပညာကို သင်ယူခြင်းသည် အာခိရတ်ပညာရှင်များ၏ဖတ္တဝါအရ ဖရာ့်အိုင်န်တာဝန်ဖြစ်သည်။

ဤတာဝန်မှ ရှောင်လွှဲသူသည် ဘုရင်တကာ့ဘုရင် အလ္လာအရှင်၏အမျက်တော်ဖြင့် အာခိရတ်တွင် ပျက်စီး မည်။ ဒွန်ယာလောကတွင် ဗဟိဒ္ဓကျင့်ဆောင်မှုတာဝန်များမှ ရှောင်လွှဲကျောခိုင်းသူသည် ဒွန်ယာရှိ ဖိကဟ်ရှင်တို့၏ ဖတ္တဝါအရ အာဏာပိုင်တို့၏ဓါးချက်ဖြင့် ပျက်စီးရသကဲ့သို့ဖြစ်သည်။ ဖိကဟ်ပညာရှင်များက ဒွန်ယာရေးကောင်း ကျိုးကောင်းရာရှိမှုကို ကြည့်ပြီး ဖရာ့်အိုင်န်တာဝန်များကို သတ်မှတ်ကြသည်။ ယခုအာခိရတ်ပညာကမူ အာခိရတ် ရေး ကောင်းကျိုးကောင်းရာရှိမှုကို ကြည့်လေသည်။

ဖိကဟ်ပညာရှင်တစ်ဦးအား အိခ်လာစ္စ်–စေတနာဖြူစင်မှုနှင့် တဝပ်ကွလ်–အရှင့်အားယုံပုံလွှဲအပ်ခြင်းတို့၏

အလိုသဘော၊ ရိယာပြစားမှုမှ ရှောင်ကျဉ်နည်းအကြောင်းများကို မေးမြန်းခဲ့မည်ဆိုလျှင် သူသည် တုန့်ဆိုင်းနေမည် ဖြစ်သည်။ သို့နှင့်တိုင် ဤအရာများသည် ထိုဖိကဟ်ပညာရှင်ကိုယ်တိုင်အတွက်လည်း ဖရာဇ်အိုင်န်ဖြစ်ပြီး ဤအရာများကို သိနားလည်ခြင်းမရှိလျှင် သူသည် အာခိရတ်တွင် ပျက်စီးမှုနှင့် ကြုံရမည်ဖြစ်သည်။ အကယ်၍ သင်က သူ့ကို လိအာန်ကျိမ်ဆိုမှု၊ ဇွေဟာရ်ကျိမ်ဆိုမှု၊ မြင်းစီး မြားပစ်အကြောင်းများ မေးမြန်းမည်ဆိုလျှင် အသေးစိတ်အချက်အလက်များကို အကျယ်တဝင့်ရှင်းလင်းပြောပြမည်ဖြစ်သည်။ သို့နှင့်တိုင် ထိုအသေးစိတ်ကိစ္စများသည် တစ်ခေတ်ကြာလို့မှ တစ်ခါလောက် မလိုအပ်သောအရာများဖြစ်သည်။ အကယ်၍ လိုအပ်ခဲ့မည်ဆိုလျှင်လည်း မြို့ပေါ်တွင် ထိုအကြောင်းအရာကို ရှင်းပြနိုင်သူ တစ်ဦးမဟုတ်တစ်ဦးကတော့ ရှိနေမည်သာဖြစ်သည်။

ဖိကဟ်ရှင်သည် ဤဖိကဟ်ပညာရပ်ကို ကျက်မှတ်ဆည်းပူးရာတွင် နေ့နေ့ညည အပင်ပန်းခံနေရလေသည်။ သို့နှင့်တိုင် သူသည် မိမိအတွက်ရော သာသနာရေးအတွက်ပါ အရေးကြီးလှသောကိစ္စရပ်ကိုမူ မေ့ပျောက်ထားသည်။ အကယ်၍ သူ့ကို ဤကိစ္စအတွက် စောဒနာခဲ့မည်ဆိုလျှင်လည်း သူက 'ကျွန်ုပ် ဖိကဟ်ပညာတွင် နစ်မွန်းနေရခြင်းမှာ ဤပညာသည် သာသနာ့ပညာဖြစ်သည်။ ထို့ပြင် ဖရာဇ်ကိဖာယာအဆင့်ဝင် ပညာလည်းဖြစ်သည်'ဟု ပြောမည်ဖြစ်သည်။ ဤနည်းဖြင့် သူသည် ဤပညာကို သင်ကြားသည့်ကိစ္စ၌ မိမိကိုယ်ကိုရော အခြားသူများကိုပါ လှည့်စားနေလေသည်။

ပါးနပ်သူကမူ ဖရာဇ်ကိဖာယာတာဝန်ကို ကျေပြွန်ရန် ရည်ရွယ်ချက်ဖြစ်မည်ဆိုလျှင် ဖရာဇ်အိုင်န်ကို ဖရာဇ်ကိဖာယာ၏အထက်မှာ ဦးစားပေးရမည်ဖြစ်ကြောင်း သဘောပေါက်သည်။ ဖရာဇ်ကိဖာယာဟု ဆိုရာမှာပင် ဖိကဟ်ပညာထက် ပို၍ ဦးစားပေးရမည့် ပညာရပ်များ ရှိနေသေးသည်။ ဥပမာ အချို့မြို့များတွင် ဆေးဆရာမရှိပါ။ ရှိသည့်ဆေးဆရာကလည်း ဇင်မ်မီကာဖိရ်များဖြစ်နေသည်။ ၎င်းကာဖိရ်ဆေးဆရာများ၏ဆေးပညာဆိုင်ရာ သက်သေခံချက်များကို ဖိကဟ်ပညတ်ချက်အရ လက်ခံခွင့်မရှိပေ။ ဤသို့ရှိသော်လည်း ဆေးပညာလိုက်စားသူ တစ်ဦးတစ်ယောက်ကို ကျွန်ုပ်တို့မတွေ့မြင်ရပေ။ ဖိကဟ်ပညာကိုသာ အကျိတ်အနယ် သင်ယူနေကြသည်။ အထူးသဖြင့် ဝိဝါဒကွဲလွဲမှုနှင့် အငြင်းအခုံကိစ္စများတွင် သူ့ထက်ငါဆိုသလို လိုက်စားနေကြသည်။ တစ်မြို့လုံးသည် ဖတ္တဝါကိစ္စများ၊ အမှုအခင်း စီရင်ချက်ရေးသားမှုများတွင် နစ်မွန်းနေသော ဖိကဟ်ပညာရှင်များဖြင့် ပြည့်နှက်လျက်ရှိသည်။

ကျွန်ုပ်အား ရှင်းပြစေလိုသည်မှာ လူတစ်စုက ဤဖရာဇ်ကိဖာယာတာဝန်ကို ကျေပြွန်ထားကြပြီဖြစ်ပါလျက်နောက်ထပ် ဤပညာကို သင်ယူရန် သာသနာရေးဖိကဟ်ပညာရှင်များက အဘယ်ကြောင့် ခွင့်ပြုနေပါသေးသနည်း။ ဖရာဇ်ကိဖာယာတစ်ခုဖြစ်ပြီး တတ်ကျွမ်းသူမရှိသောဆေးပညာကိုမူ အဘယ်ကြောင့် လွှတ်ထားစေပါသနည်း။ ဆေးပညာသည် ဝကဖ်လှူဒါန်းမှုနှင့် ဝဆိယတ်မှာတမ်းမှုများတွင် တာဝန်ပေးလွှဲအပ်ခံရသူဖြစ်ရန်၊ ဖတဆိုးကလေးများ၏ပစ္စည်းများကို ထိန်းသိမ်းသူဖြစ်ရန် အခွင့်အလမ်းမသာသောကြောင့်လော။ ကာဇီရာထူးနှင့် အုပ်ချုပ်ရေးအဖွဲ့တွင် ပါဝင်ရန် တက်လမ်းမဖြောင့်သောကြောင့်လော။ ဖိကဟ်တတ်လျှင် ခေတ်ပြိုင်ပုဂ္ဂိုလ်များအပေါ် အထက်စီးယူရန်၊ မတည့်သူကို အလဲထိုးအနိုင်ယူရန် လမ်းပွင့်နိုင်သောကြောင့်လော။ ထိုသို့ဆိုလျှင်မူ ဝမ်းနည်းစရာပင်။ ပညာရှင်ဆိုးတို့၏လှည့်စားဖျားယောင်းမှု၌ ဓမ္မပညာသည် တိမ်ကောရလေပြီ။ *ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် ဤမှောက်မှားမှုမှ ကင်းရှင်းရန် အသနားခံကြပါ၏။*

ဗဟိဒ္ဓပညာရှင်များထဲမှ အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခန့်ငြားသောပုဂ္ဂိုလ်များက အစ္စလာ့ပညာရှင်များနှင့် နှလုံးရည်ရှင်ပုဂ္ဂိုလ်များ၏မြင့်မြတ်မှုကို အသိအမှတ်ပြုကြလေသည်။ အိမာမ်ရှာဖအီ သခင်သည် ရှိုင်ဘာန်ရာအီ၏ရှေ့တွင် ကျောင်းသားကလေးထိုင်သလို ထိုင်ပြီး 'မည်သည့်ကိစ္စတွင် မည်သို့ဆောင်ရွက်ရမည်'ကို မေးမြန်းလေ့ရှိသည်။ ထိုအခါ လူတို့က အိမာမ်ရှာဖအီသခင့်အား 'အသင့်လိုပုဂ္ဂိုလ်က ဤကဲ့သို့တောသားကြီးဆီမှာ မေးမြန်း

ပါသလား'ဟု ပြောဆိုကြသည်။ ထိုအခါ သခင်က 'ကျွန်ုပ်တို့ လျှစ်လျူရှုထားသောအရာများကို ဤပုဂ္ဂိုလ်က ကျင့်ဆောင်နိုင်စွမ်းရရှိထားသည်'ဟု ဖြေခဲ့သည်။

**အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ်**ﷺသခင်နှင့် ယဟ်ယာအိဗ်နေ့မုအီန်ﷺသခင်တို့သည် မအ်ရှုဖ်ကရ်ခီﷺသခင်ကြီးထံ အခစားဝင်လေ့ရှိကြသည်။ မအ်ရှုဖ်ကရ်ခီﷺသခင်သည် ဗဟိဒ္ဓပညာတွင် ထိုသခင်နှစ်ပါး၏အဆင့်အတန်းကို မီသည်မဟုတ်ပေ။ သို့နှင့်တိုင် ထိုသခင်နှစ်ပါးသည် သခင်ကြီးထံ မေးမြန်းခဲ့ကြရသည်။ သခင်နှစ်ပါးက သခင်ကြီးအား တင်ပြကြသည်မှာ 'ကျွန်ုပ်တို့ မည်သို့ပြုရမည်နည်း။ တမန်တော်မြတ်ﷺထံ အမေးရှိခဲ့သည်တို့ကတော့ အဖြေရှိပြီးဖြစ်သည်။ သို့သော် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီစ်မိန့်ဆိုမှု မတွေ့ရသည့်ကိစ္စများတွင် ကျွန်ုပ်တို့မည်သို့ပြုရမည်နည်း။ တမန်တော်မြတ်ﷺမိန့်တော်မူသွားသည်မှာ–

سلوا الصالحين و اجعلوه شورى بينهم . (طب)

**'သူတော်ကောင်းများထံ မေးမြန်းကြကုန်။** ထို့ပြင် ထိုသူတော်ကောင်းတို့နှင့် တိုင်ပင်နှီးနှောကြကုန်။'

သို့ကြောင့်ပင် 'ဗဟိဒ္ဓပညာရှင်များသည် မြေကမ္ဘာနှင့် တိုင်းနိုင်ငံ၏တင့်တယ်မှုဖြစ်သည်။ အဇ္ဈတ္တပညာရှင်များကမူ မိုးကောင်းကင်များနှင့် ကောင်းကင်တမန်လောက၏တင့်တယ်မှုဖြစ်သည်'ဟု အဆိုရှိခဲ့ခြင်းဖြစ်သည်။

သူတော်စင်ကြီး ဂျိုနိုက်ဒ်ဘဂ္ဂဒါဒီﷺသခင်က ပြောဆိုသည်မှာ 'တစ်နေ့သ၌ ကျွန်ုပ်၏ဆရာသခင် စီရ်ရီသခင်က ကျွန်ုပ်အား 'အသင် ကျွန်ုပ်ထံက သွားသည့်အခါ ဘယ်သူနှင့်နေမှာလဲ'ဟုမေးခဲ့၏။ ကျွန်ုပ်က 'မုဟာစိဘ်သခင့်ထံတွင်နေမည်'ဟု ဖြေသောအခါ သခင်က 'ကောင်းသည်။ သူ့ထံမှ ပညာနှင့်ရှိသေကိုင်းရှိုင်းမှုကို သင်ယူပါ။ သို့သော် ကလာမ်ပညာအပေါ် သူ၏ဆန့်ကျင်မှု၊ ကလာမ်ပညာရှင်များအပေါ် ချေပမှုများကိုတော့ သင်ယူခြင်းမပြုလေနှင့်'ဟု ဆုံးမပြောဆိုပါသည်။ ထို့နောက် အချိန်တန်၍ သခင့်ထံမှ ကျောခိုင်းထွက်ခွာခဲ့စဉ် သခင်က 'အလ္လာဟ်အရှင်က သင့်ကို ဟဒီစ်ပညာရှင် ဆူဖီတစ်ဦးဖြစ်အောင်ပြုတော်မူပါစေ။ သင့်ကို ဆူဖီ ဟဒီစ်ပညာရှင်မပြုပါစေနှင့်'ဟု ပြောဆိုသည်ကို ကျွန်ုပ်ကြားခဲ့ရသည်။ ထိုစကား၏အလိုသဘောမှာ အကြင်သူသည် ဟဒီစ်နှင့်ပညာကို သင်ယူပြီးနောက်မှ တဆောင်ဝုဖ်လိုက်လျှင် ထိုသူအောင်မြင်မည်။ သို့သော် အကြင်သူ ပညာကို မသင်ယူမီ တဆောင်ဝုဖ်လိုက်ခဲ့လျှင် သူသည် မိမိနဖ်စ်ကို ဝိတက်ဝိစာရထဲ တွန်းချသူဖြစ်သည်။

အကယ်၍ စာရှုသူက 'ပညာ၏အမျိုးအစားများတွင် ကလာမ်ပညာနှင့်ဒဿနပညာကို အဘယ်ကြောင့် ထည့်သွင်းဖော်ပြခြင်းမပြုပါသလဲ။ ထို့ပြင် ဤပညာနှစ်ခုကို ကောင်းမြတ်သောပညာဖြစ်သည်၊ သို့မဟုတ် ဆိုးယုတ်သောပညာဖြစ်သည်ကို ဘာကြောင့် ရှင်းပြခြင်းမပြုပါသလဲ'ဟု မေးလာအံ့။ ထိုအတွက် အဖြေသည် ဤသို့ဖြစ်သည်။

ကလာမ်ပညာတွင် တွေ့ရသော အကျိုးပြုသည့် အထောက်အထားများသည် ကုရ်အာန်နှင့် ဟဒီစ်တွင် ပါပြီးဖြစ်သည်။ ထိုသို့မဟုတ်ဘဲ ကုရ်အာန်နှင့်ဟဒီစ်၏ပြင်ပမှ ဖြစ်မည်ဆိုလျှင်လည်း၊ ထိုအရာသည် ရှေ့မကြာမီပေါ်ပြမည့် ဗိဒအတ်တရားသစ်များထဲမှ မကောင်းသောအငြင်းအခုန်ကိစ္စဖြစ်ချင်ဖြစ်၊ သို့မဟုတ် အုပ်စုများ၏အယူအဆရေးရာ အပြန်အလှန်ငြင်းခုန်မှုများနှင့် ရှည်လျားစွာကိုးကားပြောဆိုမှုများဖြစ်မည်။ ထိုအရာအများစုသည် ကမောက်ကမနှင့် ကယောင်ကတမ်းအရာများသာဖြစ်သည်။ ဤအရာများသည် အမှားအယွင်းဖြစ်ကြောင်း ပုံမှန်စိတ်ထားရှိသူက သဘောပေါက်သည်။ သို့ဖြစ်ရာ ထိုစကားများကို နားထဲသို့ မသွင်းတော့ပေ။

ကလာမ်ပညာ၏အချို့နက်နက်နဲနဲ ဖော်ပြချက်များသည် အစ္စလာမ်နှင့် မသက်ဆိုင်ပေ။ ထို့ပြင် အစ္စလာမ့်ခေတ်ဦးပိုင်းက ဤအရာများကို မွေလျော်ခြိုက်မြိုက်ခဲ့ခြင်းမရှိပေ။ ထိုခေတ်ဦးပိုင်းက ဤအရာများတွင် လုံးလုံးမြုပ်လိုက်စားခြင်းသည် ဗိဒအတ်ဖြစ်ခဲ့သည်။ သို့သော် ထိုပညတ်ချက်သည် ယခုအခါ ပြောင်းသွားခဲ့သည်။ ကုရ်အာန်နှင့်ဟဒီစ်၏ဦးတည်ချက်ကို တိမ်းယိမ်းအောင်ပြုမည့် ဗိဒအတ်များပေါ်လာသည်။ ထို့နောက်တဖန် လူတ

ပေါ်ထွက်လာပြီး ထိုဗိဒအတ်များအပေါ် ထပ်ဆင့်၍ ဒွိဟများဖြင့် မွမ်းမံခဲ့ကြသည်။ ထို့ပြင် ထိုဗိဒအတ်များထဲတွင် စကားတန်ဆာဆွဲဆောင်မှုများ ထည့်သွင်းခဲ့ကြသည်။ သို့ဖြစ်ရာ တစ်ချိန်က နက်နက်နဲနဲလိုက်စားခြင်းမပြုရန် တားမြစ်ထားသောအရာသည် ယခုအခါ အရေးကြီးလိုအပ်သည့်အလျှောက် ခွင့်ပြုသောပညာဖြစ်လာခဲ့သည်။ သို့သာမက ဗိဒအတ်သမားတစ်ဦးက ဗိဒအတ်လုပ်ငန်းဘက်သို့ ဆွဲဆောင်လာသည့်အခါ သူ့ကို ရင်ဆိုင်ချေပနိုင်စွမ်းရှိလောက်အောင် ကလာမ်ပညာကို သင်ယူလိုက်စားခြင်းသည် ဖရာ့ဒ်ကိဖာယာဖြစ်လာပေသည်။ ဤအတွက် စည်းကမ်းသတ်မှတ်ချက်တော့ရှိပြီး ယင်းတို့ကို ရှေ့အခန်းတွင် ထိုအကြောင်းကို ဖော်ပြမည်။ إنشاءالله تعالى

ဒသနပညာနှင့်ပတ်သက်၍ ဖော်ပြရလျှင် ယင်းသည် သီးခြားပညာရပ်တစ်ခုမဟုတ်ပေ။ အမှန်မှာ ဒသနသည် အစိတ်အပိုင်းလေးခုဖြင့် ပေါင်းစပ်ထားခြင်းဖြစ်သည်။

**ပထမအပိုင်းမှာ–** ယုကလစ်ပညာ*နှင့်သင်္ချာပညာဖြစ်သည်။ ဤပညာနှစ်ခုသည် အထက်၌ ရှင်းပြခဲ့သကဲ့သို့ သင်ယူလိုက်စားခွင့်ရှိသော ပညာများပင်ဖြစ်သည်။ ဤပညာနှစ်ခုကို အကြောင်းပြုပြီး မကောင်းသောပညာများဘက်သို့ နယ်လွန်သွားမည်ကို စိုးရိမ်ရသူမှလွဲ၍ အခြားသူများအပေါ် တားမြစ်ထားခြင်းမရှိပေ။ ဤပညာနှစ်ခုကို တစိုက်မတ်မတ်လိုက်စားသူအများစုသည် ဤပညာ၏နယ်ပယ်မှ ကျော်ထွက်ပြီး တရားသစ်များဘက်သို့ ရောက်ကုန်ကြသည်။ သို့ဖြစ်ရာ အီမာန်အားနည်းသူကို ဤပညာနှစ်ခုမှ ကာကွယ်ပေးသင့်သည်။ ဤသို့ကာကွယ်ခြင်းသည် ပမာအားဖြင့် မြစ်ထဲကျမည် စိုးရိမ်၍ ကလေးငယ်ကို မြစ်ကမ်းပါးထက် မသွားရန် ကာကွယ်ပေးသကဲ့သို့ဖြစ်သည်။ ထို့ပြင် အစ္စလာမ့်ဘောင်အတွင်း အသစ်ဝင်လာသူကို အကီဒဟ်ပျက်မည်ကို စိုးရိမ်ပြီး ကာဖိရ်များနှင့် ရောနှောခြင်းမှ ကာကွယ်ထိန်းသိမ်းသကဲ့သို့ဖြစ်သည်။ အီမာန်အား ကောင်းသူများအတွက်မူ ဤသို့ရောနှောခြင်းဖြင့် ထိခိုက်စရာမရှိပါ။

**ဒုတိယအပိုင်းမှာ–** ယုတ္တိဗေဒပညာဖြစ်သည်။ ဤပညာသည် အထောက်အထားပြမှုနည်းလမ်းနှင့်ယင်း၏စည်းကမ်းချက်များဖြစ်သည်။ ထို့ပြင် အဓိပ္ပါယ်ဖွင့်ဆိုမှုများနှင့်ယင်းတို့၏အကြောင်းပြချက်ငင်း စည်းကမ်းချက်များဖြစ်သည်။ ဤနှစ်ခုသည် ကလာမ်ပညာတွင် အကျုံးဝင်သောအရာများဖြစ်သည်။

**တတိယအပိုင်းမှာ–** ကိုးကွယ်ရာအရှင်နှင့် သက်ဆိုင်ရာဘာသာရပ်ဖြစ်သည်။ ယင်းသည် အလ္လာဟ်အရှင်မြတ်၏ ပကတိသဘောကိုငင်း၊ အရှင်၏ဝိသေသဂုဏ်တော်များကိုငင်း စူးစမ်းလေ့လာသော ဘာသာရပ်ဖြစ်သည်။ ဤဘာသာရပ်သည်လည်း ကလာမ်ပညာတွင် အကျုံးဝင်လျက်ရှိ၏။ ဒသနပညာရှင်များသည် ဤဘာသာရပ်ကို အခြားပညာရပ်နည်းတူ တစ်ဘာသာဖော်ထုတ်ထားခြင်းမရှိပေ။ သို့သာမက မိမိတို့၏လမ်းစဉ်အလျှောက် တစ်သီးတစ်ခြားစီရှိနေကြသည်။ ၎င်းတို့တွင် အချို့က ကွဖ်ရ်ဖြစ်၍ အချို့က ဗိဒအတ်ဖြစ်သည်။ ဥပမာအားဖြင့် မုအ်တဇိလာသည် သီးသန့်ပညာရပ်တစ်ခုမဟုတ်ပေ။ ကလာမ်ပညာရှင်အုပ်စုတစ်ခုမှ စူးစမ်းတွေးခေါ်သူများက မှားယွင်းသောလမ်းစဉ်တစ်ခု ထူထောင်ထားခြင်းဖြစ်သည်။ ဒသနပညာကို ဤနည်းအလားတူ မှတ်ယူရမည်။

**စတုတ္ထအပိုင်းမှာ–** သဘာဝတ္တဆိုင်ရာဖြစ်သည်။ ဤဘာသာရပ်၏အချို့ဖော်ပြချက်များသည် ရှရီအတ်နှင့်သော်ငင်း၊ သာသနာနှင့်သော်ငင်း၊ အမှန်တရားနှင့်သော်ငင်း ဗီလာဖြစ်သည်။ သို့ဖြစ်ရာ ယင်းသည် မသိမိုက်မဲမှုသာဖြစ်သည်။ ပညာ၏အမျိုးအစားများတွင် ထည့်သွင်းဖော်ပြထားသော်လည်း ပညာရပ်တစ်ခုမဟုတ်ပေ။ ယင်း၏အချို့ဖော်ပြချက်များသည် ရုပ်ပိုင်းဖွဲ့စည်းမှုများ၏ဝိသေသများ၊ ထူးခြားချက်များနှင့် ယင်းတို့၏ဖြစ်ပေါ်ပြောင်းလဲမှုများအကြောင်း စူးစမ်းလေ့လာမှုများဖြစ်သည်။ ယင်းသည် သာဓကအားဖြင့် ဆေးဆရာနှင့် တူသည်။ သို့နှင့်တိုင် ဆေး

* ဤပညာရပ် အရဗီအမည်သည် (الهندسة)ဖြစ်သည်။ ခေတ်သစ်ဂျီသြမေတြီနှင့် နီးစပ်သောပညာဖြစ်သည်။ သို့သော် ကွဲလွဲမှုများလည်း ရှိနေသဖြင့် ရှေးသုံးအတိုင်း ယုကလစ်ပညာဟု သုံးစွဲလိုက်ပါသည်။ နီးစပ်ရာ သုံးစွဲခြင်းသာဖြစ်ပြီး ဤပညာများကို တစ်ခုနှင့်တစ်ခု ထပ်တူညီသည်ဟု မမှတ်ယူစေလိုပါ။

ဆရာက လူ၏ခန္ဓာကိုယ်တွင် ရောဂါဘယဖြစ်ပွါးမှုနှင့် ကျန်းမာမှုကို အထူးသဖြင့် ကြည့်ရှုသည်။ သဘာဝတ္တသမား များကမူ ရုပ်လောကတစ်ခုလုံး၏အပြောင်းအလဲနှင့် လှုပ်ရှားမှုများကို ကြည့်ရှုလေသည်။ သို့သော် လိုအပ်ချက်ဖြစ် သည့်အတွက် ဆေးပညာက ပို၍ထွတ်မြတ်မှုရှိသည်။ ၎င်းတို့၏သဘာဝတ္တဆိုင်ရာ အသိပညာများကမူ လိုအပ်ချက် မဟုတ်ပေ။

**အချုပ်ဆိုသော်** ကလာမ်ပညာက ဖရာဇ်ကိဖာယာဖြစ်ရခြင်းသည် လူတို့၏စိတ်နှလုံးများကို ဗိဒအတ်သမား များ၏အတွေးအခေါ်အယူအဆများမှ ထိန်းသိမ်းကာကွယ်ရန်ဖြစ်သည်။ တရားသစ်များပေါ်လာသည်နှင့်အမျှ ဤ ပညာ၏အခန်းကဏ္ဍသည်လည်း ပေါ်လာသည်။ ဟဂ်ျခရီးတွင် အရဗ်လူဆိုးတို့၏လုယက်တိုက်ခိုက်မှုများရှိသည့် အပေါ်မှာ လူတို့အတွက် အစောင့်အရှောက်ငှါးရမ်းရန် လိုအပ်သကဲ့သို့ဖြစ်သည်။ အကယ်၍ အရဗ်လူဆိုးများက သူ တို့၏ကျူးလွန်မှုများကို စွန့်လွှတ်ခဲ့လျှင် ဟဂ်ျ၏သတ်မှတ်ချက်များတွင် လုံခြုံရေးငှါးရမ်းမှုပါရှိတော့မည်မဟုတ်ပေ။ ဤနည်းနှင်နှင် ဗိဒအတ်သမားက ၎င်း၏အကျိုးမဲ့လုပ်ရပ်ကို စွန့်လွှတ်မည်ဆိုလျှင် ကလာမ်ပညာသည် ဆွဟာဗဟ် များခေတ်ကထက် တိုး၍ လိုအပ်မည်မဟုတ်တော့ပေ။ သို့ဖြစ်ရာ ကလာမ်ပညာသင်ယူမည့်သူသည် သာသနာတွင် ဤပညာ၏အခန်းကဏ္ဍကို သိထားရမည်။ ဤပညာသည် ဟဂ်ျခရီးမှ လုံခြုံရေးသမား၏အခန်းကဏ္ဍတွင်ရှိသည်။ လုံခြုံရေးသမားသည် လုံခြုံရေးကိစ္စအတွက်သာဖြစ်သည်ဆိုလျှင် သူသည် ဟာဂျီများ၏စာရင်းတွင် ပါဝင်ခြင်းမရှိ သည်မှာ ရှင်းနေပေသည်။

ကလာမ်ပညာရှင်အဖို့ အချေအတင်ဆွေးနွေးခြင်း၊ ဗိဒအတ်တိုက်ဖျက်ရေးများတွင် နစ်မွန်းနေပြီး အာခိရတ် လမ်းကို လိုက်ရန်အတွက်၎င်း၊ မိမိ၏နှလုံးသားကို ထိန်းသိမ်းပြုပြင်ရန်အတွက် အားထုတ်ခြင်းမပြုလျှင် သူသည် ဓမ္မပညာရှင်များထဲတွင် ပါဝင်သူ လုံးဝမဟုတ်နိုင်ပေ။ ကလာမ်ပညာရှင်တစ်ဦးထံ၌ သာသနာရှိသည်ဆိုရာမှာ သူ သည် မွတ်စလင်မ်အားလုံး လက်ခံယုံကြည်သော **အကီဒဟ်ကိုပင်** အများသူငါလို ယုံကြည်ရခြင်းဖြစ်သည်။ ယင်း ယုံကြည်မှုသည် သူ့ချည်းသက်သက် ပြည့်စုံသည်မဟုတ်ဘဲ လက်တွေ့ကျင့်သုံးမှု၊ နှလုံးသားနှင့်နှုတ်လျှာတို့ ပေါင်း စပ်မှသာဖြစ်သည်။ ကလာမ်ပညာရှင်က သာမန်မွတ်စလင်မ်တို့နှင့် ကွာခြားသည်မှာ သူက ဗိဒအတ်ကို တိုက်ခိုက် ပြီး မွတ်စလင်မ်တို့အား ထိမ်းသိမ်းစောင့်ရှောက်ပေးခြင်းသာဖြစ်လေသည်။

အလ္လာဟ်အရှင်၏မအ်ရိဖတ်၊ အရှင်၏ဂုဏ်တော်များ၊ အလုပ်တော်များနှင့် မုကာရှိဖတ်ပညာတွင် ကျွန်ုပ်တို့ ဖေါ်ပြထားသောအရာအားလုံးကို ကလာမ်ပညာဖြင့် သိကျွမ်းတတ်မြောက်နိုင်ခြင်း မရှိချေ။ သို့မှုမက ကလာမ်ပညာ သည် မုကာရှိဖတ်ပညာအတွက် အကာအဆီး အဟန့်အတားပင်ဖြစ်နေပေသေးသည်။ မုကာရှိဖတ်ပညာကို ဖွဲခတ် ကြိုးပမ်းမှုဖြင့်သာ ရရှိနိုင်လေသည်။ အလ္လာဟ်အရှင်မြတ်က ထိုဖွဲခတ်ကြိုးပမ်းမှုကို တရားလမ်းမှန်ရရှိမှု၏အကြိုရေ ပြေးအဖြစ် သတ်မှတ်တော်မူထားသည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ—

﴿وَالَّذِينَ جَاهَدُوا فِينَا لَنَهْدِيَنَّهُمْ سُبُلَنَا وَإِنَّ اللَّهَ لَمَعَ الْمُحْسِنِينَ﴾

**'တဖန် ငါအရှင့်အတွက် ဖွဲခတ်ကြိုးပမ်းကြသူများကား၊ ငါအရှင်သည် ၎င်းတို့အား ငါ၏လမ်းများ ကို ညွှန်ပြတော်မူမည်။ ထို့ပြင် အလ္လာဟ်အရှင်သည် သူတော်ကောင်းများနှင့်အတူ ရှိတော်မူ၏။'**

(စူရာအန်ကဗူတ် ၊ ၆၉)

အကယ်၍ စာရှုသူက စောဒကအဖြစ် 'ကလာမ်ပညာရှင်ဆိုသည်မှာ လူထု၏အကီဒဟ်ကို ဗိဒအတ်သမား များနှင့် ရောနှောရှုပ်ထွေးခြင်းမှ ထိန်းသိမ်းရန်ဖြစ်သည်ဟု ဆိုခဲ့သည်။ ဥပမာအားဖြင့် လုံခြုံရေးသမားသည် ဟာဂျီ တို့၏ပစ္စည်းများကို အရဗ်လုယက်သူများ၏ရန်မှ ထိန်းသိမ်းဖြစ်သည် ဆိုသကဲ့သို့ဖြစ်သည်။ ထို့ပြင် ဖိကဟ်၏ဖွ ဆိုချက်ကိုလည်း အာဏာပိုင်က လူတို့ တစ်ဦးကိုတစ်ဦး ရန်ပြုဆိုးသွမ်းမှုမှ တားဆီးပေးနိုင်မည့် ပြဋ္ဌာန်းချက်ဥပဒေ

ဖြစ်သည်ဟု ရှင်းပြခဲ့၏။ ဤကလာမ်ပညာနှင့်ဒဿနသည် ဓမ္မပညာနှင့်နှိုင်းယှဉ်လျှင် အောက်နှစ်ဆင့် နိမ့်နေသည်။ အွမ္မတ်သားထဲမှ အကျော်အမော်ပညာရှင်များသည် ဖိကဟ်ရှင်များ၊ ကလာမ်ပညာရှင်များဖြစ်ကြပြီး ယင်းတို့သည် အလ္လာဟ်အရှင့်ထံတော်တွင် အမြင့်မြတ်ဆုံးလူသားများဖြစ်ကြသည်။ သို့ဖြစ်ရာ ဤပုဂ္ဂိုလ်များ၏အဆင့်ကို ဓမ္မပညာနှင့်ယှဉ်လျှင် နိမ့်ကျသည့်အဆင့်သို့ အဘယ်ကြောင့်နှိမ့်ချပစ်ရသနည်း'ဟု ပြောဆိုလာလျှင် ထိုအတွက်အဖြေမှာ ဤသို့ဖြစ်သည်။

အကြင်သူသည် အမှန်တရားကို လူပုဂ္ဂိုလ်ဖြင့် သိရခြင်းဖြစ်လျှင် လမ်းမှားတွင် တဝဲလယ်လယ်ဖြစ်နေမည်သာဖြစ်သည်။ သို့ဖြစ်ရာ အသင်သည် အမှန်တရား၏လမ်းလိုက်သူဖြစ်လျှင် ဦးစွာအမှန်တရားကို သိအောင်လုပ်ပါ။ ထိုအခါ သင်သည် အမှန်တရားရှင်များကို သိလာလိမ့်မည်။ အကယ်၍ အသင်သည် အခြားလူ၏နောက်က လိုက်ရုံဖြင့် ရောင့်ရဲမည်။ မြင့်မြတ်သောအဆင့်ရှိလူတို့အနက်မှ ကျော်ကြားသူများကိုသာ ကြည့်ရှုမည်ဆိုလျှင် ဆွဟာဗဟ်သခင်များ﵁နှင့် ထိုသခင်တို့၏မြင့်မားသောအဆင့်အတန်း ဌာနန္တရကို မမေ့ပါနှင့်။ ဤသခင်များ ထိပ်တန်းနေရာမှာ ရှိခဲ့သည့်အကြောင်းကို တစ်ညီတစ်ညွတ်ထုတ်ဖော်ကြသည်မှာ 'သာသနာရေးတွင် ထိုသခင်တို့နှင့် ယှဉ်၍ မည်သူမှ ရှေ့မထွက်နိုင်၊ ၎င်းတို့၏နောက် ခပ်လှမ်းလှမ်းကပင် မလိုက်နိုင်ခြင်းမှာ ထိုသခင်တို့သည် ကလာမ်ပညာနှင့် ဖိကဟ်ပညာမှာ ထိပ်တန်းရောက်ခဲ့ကြသောကြောင့်မဟုတ်ပေ။ အမှန်မှာ ထိုသခင်တို့၏အာခိရတ်ပညာနှင့် ထိုပညာအပေါ် လျှောက်လှမ်းခဲ့ကြသောကြောင့်ဖြစ်သည်။

လူသားတို့တွင် အဗူဗကရ်﵁သခင်၏မြင့်မြတ်ရခြင်းသည် ရိုဇာနှင့် နမာဇ်ကို များစွာကျင့်မှုသောကြောင့်မဟုတ်ပေ။ ဟဒီစ်တော်အများအပြားကို ဆင့်ပြန်ပြီး ဖတ္တဝါအများအပြားထုတ်ပြန်ခဲ့သောကြောင့်လည်း မဟုတ်ပေ။ ထိုပြင် ကလာမ်ပညာကို များစွာတတ်ကျွမ်းသောကြောင့်လည်းမဟုတ်ပေ။ သို့နှင့်တိုင် သခင်၏ရင်တွင် စွဲမြဲနေသောအရာတစ်ခုကြောင့်သာဖြစ်သည်။ တမန်တော်အပေါင်း၏ဦးစီးဥသျှောင် တမန်တော်မြတ်ﷺက ဤအတိုင်းပင် သက်သေမှုခဲ့သည်။ သို့ဖြစ်ရာ အသင်သည် ထိုလျှို့ဝှက်ချက်ကို ရယူနိုင်ရန် လိုလားမက်မောမှုရှိရမည်။ ထိုလျှို့ဝှက်ချက်သည် အဖိုးထိုက်သောကျောက်မျက်နှင့် ဖုံးဝှက်ထားသောပုလဲရတနာပင်ဖြစ်သည်။ လူအများတို့ တစ်သဘောတည်းရှိကြသော ထိုသခင့်အကြောင်းကို ချန်ထားခဲ့မည်။ အကြောင်းအချက်များအရ ထိုသခင့်အား အလေးအမြတ်ပြုခြင်းနှင့် ဂုဏ်ပေးလေးစားခြင်း၏အသေးစိတ်များသည် အတန်ပင်ရှည်လျားလေသည်။ သို့ဖြစ်ရာ ၎င်းတို့ကိုလည်း ထားခဲ့မည်။

တမန်တော်မြတ်ﷺသည် မိမိ၏နောက်တွင် ဆွဟာဗဟ်သခင်﵁ထောင်ပေါင်းများစွာကို ချန်ထားခဲ့သည်။ ထိုသခင်များအားလုံးသည် အလ္လာဟ်အရှင့်ကို သိကျွမ်းသူ ပညာရှင်များချည်းဖြစ်သည်။ တမန်တော်မြတ်ﷺက ထိုသခင်များကို ချီးကျူးဂုဏ်ပြုတော်မူခဲ့သည်။ သို့သော် ထိုသခင်များတွင် ကလာမ်ပညာတတ်သူ တစ်ပါးမှ မပါရှိပေ။ ဖတ္တဝါဖြေရန် တာဝန်ယူသူ ဆယ်ဦးကျော်ကျော်သာရှိသည်။ ထိုအထဲတွင် အီဗ်နေ့အိုမရ်﵁သခင်သည် တစ်ပါးအပါအဝင်ဖြစ်သည်။ ထိုသခင်သည် မိမိထံ ဖတ္တဝါမေးလာလျှင် မေးသူအား 'အုပ်ချုပ်ရေးမှူး မည်သူမည်ဝါ့ဆီ သွား၊ သူက လူတို့၏အရေးကိစ္စများကို တာဝန်ယူထားသည်။ မေးခွန်းကို သူ့လည်ကုပ်ပေါ်တင်ချေ။ အမှုအခင်းနှင့်အမိန့်ပညတ်ရေးရာများအတွက် ဖတ္တဝါပေးခြင်းသည် အုပ်ချုပ်ရေးလုပ်ငန်း၏အစိတ်အပိုင်းဖြစ်သည်'ဟု ပြောလွှတ်လေ့ရှိခဲ့ပေသည်။

အိုမရ်﵁သခင် ကွယ်လွန်သောအခါ အဗ်ဒွလ္လာဟ်အီဗ်နေ့မတ်စအုဒ်﵁သခင်က 'ပညာဆယ်ပုံတွင် ကိုးပုံတတ်ကျွမ်းသူ ကွယ်လွန်ပြီ'ဟု ပြောဆိုခဲ့သည်။ ထိုအခါ လူတို့က သခင်အား 'ကျွန်ုပ်တို့အထဲတွင် ကြီးကျယ်သော ဆွဟာဗဟ်ကြီးများ အထင်အရှားရှိနေသေးပါလျက် အသင် ဤသို့ ပြောသလား'ဟု ဆိုကြသည်။ ထိုအခါ သခင်က

'ငါသည် ဖတ္တဝါပညာကို ဆိုလိုခြင်းမဟုတ်။ ငါဆိုလိုသည်မှာ အလ္လာဟ်အရှင့်ကို သိသောပညာဖြစ်သည်'ဟု ရှင်းပြခဲ့သည်။ ဤနေရာတွင် အစ်ဒွလ္လာဟ်အိဗ်နေ့မတ်စအုဒ်ﷺသခင်က ကလာမ်ပညာနှင့် မုနာဇရာပညာများဟု မဆိုခဲ့ပါ။ သို့ဖြစ်ရာ အိုမရ်ﷺသခင် ကွယ်လွန်ခြင်းနှင့်အတူ ဆယ်ပုံမှာ ကိုးပုံ ကွယ်သွားခဲ့ပြီဖြစ်သည့် ထိုပညာကို သင်ယူရန် အသင်ဘာကြောင့် လိုလားမက်မောခြင်းမရှိသလဲ။ ဤသခင်သည် ကလာမ်ပညာနှင့်အငြင်းအခုန်ကိစ္စများ၏ တံခါးကို ပိတ်ပစ်ခဲ့သူဖြစ်သည်။ သခင်က မိမိအား 'ကျမ်းမြတ်ကုရ်အာန်၏အာယတ်နှစ်ခု တစ်ခုနှင့်တစ်ခု ဝိရောဓိဖြစ်နေကြောင်း မေးခွန်းထုတ်လာသည့်အတွက် ဇဘီအ်ကို ကြိမ်ဒဏ်ရိုက်ခဲ့သည်။ ထို့ပြင် သခင်သည် ဇဘီအ်ကို ကိုယ်တိုင်လည်း အပေါင်းအသင်းမလုပ်ဘဲနေခဲ့သည်။ လူတို့အား သူနှင့် အပေါင်းအသင်းမလုပ်ကြရန်လည်း အမိန့်ထုတ်ခဲ့သည်။

စာရေးသူက 'ပညာရှင်များတွင် ထင်ရှားကျော်ကြားသူများသည် ဖိကဟ်ရှင်များနှင့် ကလာမ်ပညာရှင်များဖြစ်ကြပါသည်'ဟု ဆောဒကတက်ခဲ့သည်။ ဤနေရာတွင် သိထားသင့်သည်မှာ အလ္လာဟ်အရှင့်ထံတွင် မြင့်မြတ်မှုရှိခြင်းနှင့် လူတို့ထံမှာ ထင်ရှားကျော်ကြားမှုရှိခြင်းသည် သီးခြားအရာများဖြစ်သည်။ အဗူဗာကရ်ﷺသခင်သည် ခလီဖဟ်သမ္မတကြီးအဖြစ် ထင်ရှားကျော်ကြားသည်။ သို့သော် သခင်၏မြင့်မြတ်ခြင်းသည် သူ၏နှလုံးအိမ်တွင် စွဲမြဲတည်ရှိနေသောအရာက လျှို့ဝှက်ချက်ဖြစ်သည်။ အိုမရ်သခင်ﷺ၏ကျော်ကြားမှုသည် အုပ်ချုပ်ရေးဖြင့်ဖြစ်သည်။ သို့နှင့်တိုင် သခင်၏မြင့်မြတ်ခြင်းသည် အလ္လာဟ်ကို သိသည့် အသိပညာကြောင့်ဖြစ်သည်။ သခင်ကွယ်လွန်ခြင်းနှင့်အတူ ထိုပညာ၏ဆယ်ပုံကိုးပုံလည်း ကွယ်သွားခဲ့သည်။ ထို့ပြင် အိုမရ်ﷺသခင်၏မြင့်မြတ်ခြင်းသည် လူသားတို့အား တရားမျှတစွာ အုပ်ချုပ်ခြင်း၊ မေတ္တာထားခြင်းတို့ဖြင့် အလ္လာဟ်အရှင်နှင့် နီးကပ်ရမှုကို ဦးတည်ရည်သန်ခဲ့သောကြောင့်ဖြစ်သည်။ ဤဦးတည်ချက်သည် သခင်၏နှလုံးအိမ်တွင် ဖုံးဝှက်တည်ရှိနေသည်။

သခင်၏အပြင်ပန်းလုပ်ဆောင်ချက်အားလုံးသည် ကြီးကျယ်မှုနှင့် နာမည်ကျော်ကြားမှုကို ရှာဖွေသူ၊ ထင်ရှားကျော်ကြားမှုကို အလိုထားသူ မည်သူ့တွင်မဆို ဖြစ်ရှိနိုင်သည်။ သို့သော် ဤနည်းဖြင့် ထင်ရှားကျော်ကြားရခြင်းတွင် ပျက်စီးဆုံးရှုံးမှုသာရှိလေသည်။ မြင့်မြတ်ခြင်းကမူ မည်သူ့ကိုမျှ အသိမပေးဘဲ ဖုံးဝှက်ထားမှုထဲတွင် ရှိသည်။

ဖိကဟ်ရှင်နှင့် ကလာမ်ပညာရှင်များသည် ခလီဖဟ်သမ္မတများ၊ ကာဇီတရားသူကြီးများ၊ ဓမ္မပညာရှင်များကဲ့သို့ပင် ကွဲပြားခြားနားကြသည်။ ယင်းတို့အနက် အချို့သည် မိမိတို့၏ပညာ၊ မိမိတို့၏ဖတ္တဝါဖြင့် အလ္လာဟ်အရှင့်ကိုရရန် ရည်ရွယ်ချက်ထားကြသည်။ ယင်းတို့သည် မိမိတို့၏ပညာ၊ မိမိတို့၏ဖတ္တဝါဖြင့် ပကာသနဖြစ်မှု ထင်ပေါ်ကျော်ကြားမှုကို အလိုမထားပေ။ သို့ဖြစ်ရာ ထိုပုဂ္ဂိုလ်တို့သည်သာ အလ္လာဟ်အရှင်၏ကျေနပ်နှစ်သက်မှု ရရှိသူများဖြစ်ကြသည်။ အလ္လာဟ်အရှင့်ထံတွင် ထိုပုဂ္ဂိုလ်တို့ မြင့်မြတ်မှုရှိခြင်းသည် မိမိတို့၏ပညာနှင့်အညီ ကျင့်သုံးကြသောကြောင့်ဖြစ်သည်။ မိမိတို့၏ဖတ္တဝါ၊ မိမိတို့၏တွေးခေါ်မြော်မြင်မှုကို အကြောင်းပြုပြီး အလ္လာဟ့်ထံမှ မျက်နှာသာရမှုကို အလိုဆန္ဒထားခဲ့ကြသည်။

ပညာဟူသမျှသည် ကျင့်ဆောင်စရာများချည်းဖြစ်သည်။ ပညာကိုယ်တိုင်ကပင် ရှာဖွေရသည့်လုပ်ငန်းတစ်ခုဖြစ်သည်။ သို့သော် ကျင့်ဆောင်မှုအားလုံးသည် ပညာမဟုတ်ပေ။ ဆေးပညာရှင်သည် မိမိ၏ပညာဖြင့် အလ္လာဟ်အရှင့်ထံနီးကပ်မှု ရယူနိုင်ခဲ့သည်ဆိုလျှင် သူသည် မိမိ၏ပညာကို အကြောင်းပြုပြီး အလ္လာဟ်အရှင့်အတွက် ဆောင်ရွက်သူဖြစ်သဖြင့် သူ၏ပညာသည် ဆုဝါဗ်ရရန်အကြောင်းခံဖြစ်လိမ့်မည်။ အာဏာပိုင်တစ်ဦးသည် လူသားတို့နှင့် သက်ဆိုင်ရာကိစ္စ စီမံခန့်ခွဲမှုကိစ္စများကို အလ္လာဟ်အရှင့်အတွက် ရည်ရွယ်လုပ်ကိုင်ခဲ့လျှင် ထိုလုပ်ရပ်သည် အလ္လာဟ်အရှင့်ထံ၌ ကျေနပ်နှစ်သက်မှုနှင့် ဆုဝါဗ်ရမည့်အရာဖြစ်လိမ့်မည်။ ဤနေရာတွင် အာဏာပိုင်သည် ဓမ္မပညာကို တာဝန်ခံရသူဖြစ်၍ မဟုတ်ပေ။ အမှန်မှာ အလ္လာဟ်အရှင့်ထံ နီးကပ်မှုရရန်ဟူသော ရည်ရွယ်ချက်ဖြင့် လုပ်ကိုင်ဆောင်

ရှက်ခဲ့သော ယင်း၏လုပ်ရပ်ကသာ အကြောင်းခံဖြစ်သည်။

အလ္လာဟ်အရှင့်ထံ နီးကပ်မှုရနိုင်မည့်အရာသည် သုံးမျိုးရှိသည်။ ပထမတစ်မျိုးမှာ အသိပညာသက်သက်ဖြင့် အလ္လာဟ်အရှင့်ထံ နီးကပ်မှုရယူခြင်းဖြစ်သည်။ ယင်းသည် မုကာရှိဖဟ်ပညာဖြစ်သည်။ ဒုတိယတစ်မျိုးမှာ လုပ်ရပ်သက်သက်ဖြင့် အလ္လာဟ်အရှင်နှင့် နီးကပ်မှုရယူခြင်းဖြစ်သည်။ ဤအတွက် ဥပမာသည် တရားမျှတပြီး လူသားတို့ကို စည်းစံနစ်ဖြင့် အုပ်ချုပ်သော အာဏာပိုင်ဖြစ်သည်။ တတိယမှာ ပညာနှင့်လုပ်ရပ် ပေါင်းစပ်ခြင်းဖြင့်ဖြစ်သည်။ ယင်းမှာ အာခိရတ်လမ်း၏ပညာဖြစ်သည်။ ဤပညာကို တတ်ကျွမ်းသူသည် ပညာရှင်များတွင်၎င်း အမှုထမ်းဆောင်သူများတွင်၎င်း တစ်ပြိုင်နက် ပါဝင်သည်။ သို့ဖြစ်ရာ အသင်သည် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်၏ပညာရှင်များအုပ်စုတွင်ဖြစ်စေ၊ အလ္လာဟ်အရှင်၏အမှုတော်ထမ်းများတွင်ဖြစ်စေ ပါဝင်နိုင်ရန် အားထုတ်ပါလေ။ သို့မဟုတ် အုပ်စုနှစ်ခုစလုံးတွင် ပါဝင်နိုင်ရန်အားထုတ်ပါလေ။ ဤနည်းဖြင့် အုပ်စုတိုင်းမှ သင့်အတွက် ဝေစုကို ရယူပါလေ။ ဤသို့ကြိုးပမ်းအားထုတ်ရေးသည် သက်သက်ထင်ပေါ်ကျော်ကြားမှု၏နောက်သို့ လိုက်ခြင်းထက် သင့်အတွက်ပိုပြီး အရေးကြီးပါသည်။ စာဆိုရှိသည်မှာ—

خُـذ مـا تـراه ودَع شيئـاً سمعت بـه      في طلعـة الشمس مـا يغنيـك من زُحل

*'မျက်မြင်ဒိဋ္ဌကို စွဲယူပြီး သူပြောငါကြားကို ရှောင်ပါလေ။*
*နေမင်းကြီး ထွက်ပြူနေမှတော့ ဂြိုလ်စနေ မလိုပါချေ။'*

သို့ပြီးတကား ကျွန်ုပ်သည် ဖိကဟ်ပညာရှင်ကြီးများ၏ဖြစ်ကြောင်းထုပ္ပတ်များကို ဖော်ပြမည်ဖြစ်သည်။ ထိုအခါ မိမိတို့ကိုယ်ကို ထိုဖိကဟ်ရှင်ကြီးများ၏မဇ်ဟဗ်ဝင်များဖြစ်ပါသည်ဟု စာရင်းသွင်း ပြောဆိုနေသူများသည် ထိုဖိကဟ်ရှင်ကြီးများအား မတော်မတရားပြုနေသူများဖြစ်ကြောင်း အသင်သိလာလိမ့်မည်။ ထို့ပြင် ကိယာမတ်နေ့တွင် ၎င်းတို့သည် ထိုဖိကဟ်ရှင်ပညာကြီးများ၏ကြီးမားသောရန်ဘက်များဖြစ်ကြလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ထိုပုဂ္ဂိုလ်ကြီးများသည် အသိပညာနှင့်ပတ်သက်၍ အလ္လာဟ်အရှင်၏နှစ်သက်မှု ရရန်မှတပါး အခြားဘာကိုမှ မရည်ရွယ်ခဲ့ကြသောကြောင့်ပင်။

ဤပုဂ္ဂိုလ်ကြီးများ၏အကြောင်းအရာများထဲတွင် အာခိရတ်ပညာရှင်၏အချင်းလက္ခဏာများကို တွေ့မြင်ကြရသည်။ ဤလက္ခဏာများအကြောင်းကိုမူ အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာများအခန်းတွင် ရှင်းလင်းဖော်ပြမည်။ ဤပုဂ္ဂိုလ်ကြီးများသည် ဖိကဟ်ပညာအတွက်သာ တစ်ဘက်သတ် ရပ်တည်သူများမဟုတ်ခဲ့ကြပေ။ အမှန်မှာ ဤသခင်တို့သည် နှလုံးရည်ပညာတွင် နစ်မွန်းသူများဖြစ်ပြီး စိတ်နှလုံးကို ထိန်းချုပ်ကွပ်ကဲနိုင်သူများဖြစ်ခဲ့ကြသည်။ သို့သော် ဤပုဂ္ဂိုလ်တို့သည် နှလုံးသားပညာရပ်နှင့်ပတ်သက်၍ သင်ခန်းစာပို့ချခြင်း၊ စာပေပြုစုခြင်းများ မပြုလုပ်ခဲ့ကြပေ။ ဆွဟာဗဟ်သခင်များ❀က ဖိကဟ်ပညာနှင့်ပတ်သက်၍ သင်ခန်းစာပို့ချခြင်း၊ စာပေပြုစုခြင်းများ မပြုလုပ်ခဲ့ကြသလိုပင်ဖြစ်သည်။ ဤသို့ရှိရခြင်းမှာ ဆွဟာဗဟ်သခင်များ❀သည် ဖတ္တဝါပညာနှင့်ပတ်သက်လာလျှင် ပြိုင်စံမဲ့ဖိကဟ်ပညာရှင်ကြီးများဖြစ်ကြသည်။ သို့ဖြစ်ရာ ထိုသခင်များအတွက် အဆိုပါအခြေခံအထောက်အကူများ မလိုအပ်သည့်အကြောင်းမှာ ဖော်ပြစရာပင် မလိုပါ။

ယခု ကျွန်ုပ်တို့သည် အစ္စလာမ့်ဖိကဟ်ရှင်ကြီးများ၏အကြောင်းထုပ္ပတ်များကို ဖော်ပြမည်။ ထို့တွင် ကျွန်ုပ်အထက်က ဖော်ပြခဲ့သည်တို့သည် ထိုပုဂ္ဂိုလ်များအပေါ် ဝေဖန်ပြစ်တင်ခြင်းမဟုတ်ကြောင်း စာရှုသူ သိပါလိမ့်မည်။ စင်စစ် မိမိတို့ကိုယ်ကို ထိုပုဂ္ဂိုလ်များ၏နောက်မှ နောက်လိုက်နောက်ပါစာရင်းဝင်များဖြစ်သည်ဟု ပြောဆိုနေကြပြီး၊ ၎င်းတို့၏ကျင့်သုံးမှုနှင့် ဘဝသရုပ်က ၎င်းတို့လက်ခံထားသော မဇ်ဟဗ်နှင့်ဆန့်ကျင်ဘက်ဖြစ်နေသူများကို ပြစ်တင်စောကြောလိုခြင်းသာဖြစ်သည်။

ဤဖိကဟ်ရှင်ကြီးများသည် ဖိကဟ်ပညာ၏အကြီးအမှူးများဖြစ်သလို ကိုယ်ကျင့်တရား၏ဦးစီးရှေ့ဆောင်များလည်းဖြစ်ကြသည်။ ကျွန်ုပ်ဆိုလိုသည်မှာ နောက်လိုက်သူ အများဆုံး မဇ်ဟဗ်ငါးခု၏ မဇ်ဟဗ်ရှင်ကြီးများဖြစ်သော အိမာမ်ရှာဖအီʼ၊ အိမာမ်မာလိက်ʼ၊ အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ʼ၊ အိမာမ်အဗူဟနီဖဟ်ʼနှင့် ဆွဖ်ယန်ဆောရ်ရီʼ သခင်တို့ဖြစ်ကြသည်။ ဤသခင်တို့သည် မြောက်များစွာ အိဗာဒတ်ပြုသူ၊ ဒွန်နယာစွန့်သူ၊ အာခိရတ်ပညာကို ကျွမ်းကျင်သူ၊ ဒွန်နယာရှိ အဖန်ဆင်းခံတို့၏ ကောင်းကျိုးရှိရာရှိကြောင်းကို သိနားလည်သူ၊ မိမိတို့တတ်ကျွမ်းသည့် ဖိကဟ်ပညာဖြင့် အလ္လာဟ်အရှင်၏ မျက်နှာသာပေးမှုကို လိုလားသူများဖြစ်ကြသည်။ ယင်းသည်ပင် ဤပုဂ္ဂိုလ်တို့ အကျင့်စာရင်းငါးခုဖြစ်သည်။

မျက်မှောက်ခေတ် ဖိကဟ်ပညာရှင်တို့တွင် ထိုအကျင့်စာရင်းငါးခုအနက် တစ်ခုကိုသာ တွေ့ရှိရတော့သည်။ ထိုတစ်ခုမှာ ဖိကဟ်၏ အသေးစိတ်အကွဲအလွဲများကို အရည်အတွက် များနိုင်သလောက် များများသိရအောင် ရှာဖွေမှတ်သားကြခြင်းဖြစ်သည်။ ကျန်အကျင့်စာရလေးခုသည် အာခိရတ်ရေး ကောင်းကျိုးကောင်းရာရှိမှုများဖြစ်ပြီး ဤတစ်ခုကသာ ဒွန်နယာရေး ကောင်းကျိုးကောင်းရာဖြစ်သည်။ ဤတစ်ခုဖြင့် အာခိရတ်ရေး ကောင်းကျိုးရရှိလိုသည်ဆိုလျှင်၊ အာခိရတ်ရေးအောင်မြင်မှုကို ဦးတည်ရည်မှန်းရမည်ဖြစ်သည်။ သို့သော် မျက်မှောက်ခေတ် ဖိကဟ်ပညာရှင်တို့သည် ဒွန်နယာဘက်သို့ ပို၍ ယိမ်းယိုင်လျက်ရှိကြသည်။ တဖန် မိမိတို့တွင်ရှိသည့် ထိုအကျင့်စာရတစ်ခုဖြင့် ၎င်းတို့က မိမိတို့ကိုယ်ကို အိမာမ်ကြီးများနှင့် အဆင့်အတန်းတူညီသွားသယောင် ပခုံးချင်းယှဉ်လျက်ရှိကြသည်။ ဝေးလေစွ။ ပန်းပဲသမားသည် ကောင်းကင်တမန်နှင့် အဘယ်သို့တူနိုင်ပါသနည်း။

ယခု ထိုအိမာမ်ကြီးများ၏ ဘဝအခြေအနေများကို ဖော်ပြမည်။ ထိုအထဲတွင် ထိုအကျင့်စာရလေးခု ပေါ်လွင်တွေ့မြင်ရမည်။ ဤပုဂ္ဂိုလ်ကြီးတို့၏ ဖိကဟ်တတ်ကျွမ်းမှုမှာကား အများသိ ကျော်ကြားပြီးဖြစ်သည်။

## အိမာမ်ရှာဖအီʼသခင်

သခင်သည် ညဥ့်ကို သုံးပုံ ပုံပြီး တစ်ပုံကို ပညာရပ်လေ့လာမှုအတွက်၊ တစ်ပုံကို အိဗာဒတ်အတွက်၊ တစ်ပုံကို အိပ်ရန်အတွက် ခွဲခြားသတ်မှတ်သည်ဟု အဆိုရှိသည်။ ဤအဆိုဖြင့် သခင်သည် အာဗိဒ်ခေါ် အိဗာဒတ်များစွာပြုသူ တစ်ဦးဖြစ်ကြောင်း သိရသည်။ ရာဘီအ်ʼသခင်က 'အိမာမ်ရှာဖအီʼသခင်သည် ရမဇာန်လတွင် ကျမ်းမြတ်ကုရ်အာန်ကို ခတမ်ခြောက်ဆယ် ဖတ်လေ့ရှိသည်။ အားလုံးကို နမာဇ်အတွင်း၌ ဖတ်ခြင်းဖြစ်သည်။ သခင်၏ တပည့်တစ်ဦးဖြစ်သူ ဗုဝိုင်တွီသည်လည်း ရမဇာန်လတွင် တစ်ရက် တစ်ခတမ်ဖတ်သူဖြစ်သည်'ဟု ပြောပြပါသည်။ ဟစ်ကရာဘီ
က 'ကျွန်ုပ်သည် အိမာမ်ရှာဖအီနှင့်အတူ ညဥ့်အတော်များများ အိပ်ဖူးသည်။ သခင်သည် ညဥ့်၏သုံးပုံကို နမာဇ်ဖြ
ကုန်ဆုံးစေလေ့ရှိသည်။ သခင်သည် နမာဇ်တွင် အာယတ်ငါးဆယ်ထက် ပိုဖတ်သည်ကို ကျွန်ုပ်မတွေ့ဖူးပါ။ ပိုလျှ
လည်း အာယတ်တစ်ရာအထိ ဖတ်လေ့ရှိသည်။ ဤသို့ဖတ်ရာတွင် ရဟ်မတ်နှင့်သက်ဆိုင်ရာအာယတ်ကို ဖတ်သည်
အခါ အလ္လာဟ်အရှင့်ထံမှ မိမိအတွက်နှင့် အများမွတ်စလင်မ်တို့အတွက် ရဟ်မတ်ပြုတော်မူရန် ဒိုအာတောင်းသည်
အဇာဗ်ပြစ်ဒဏ်နှင့်ဆိုင်သောအာယတ်ကို ဖတ်သည့်အခါ၌ အလ္လာဟ်အရှင့်ထံမှာ မိမိအား၎င်း အများမွတ်စလင်မ်
အား၎င်း အဇာဗ်ပြစ်ဒဏ်မှ လွတ်ကင်းရန် ဒိုအာတောင်းခံသည်။ သခင့်ထံတွင် မျှော်လင့်ချက်နှင့် အကြောက်တရ
သည် တစ်ခုတည်းလိုဖြစ်နေသည်။'

ဤပြောကြားချက်ကို ကြည့်မည်ဆိုလျှင် အာယတ်ငါးဆယ်မျှသာ ဖတ်လေ့ရှိခြင်းက သခင်၏ ကုရ်အာန်
အတွင်းကျကျနားလည်မှု၊ ကျမ်းတော်အား ကျွမ်းကျင်ပိုင်နိုင်မှုကို တွေ့ရသည်။ အိမာမ်ရှာဖအီʼသခင်က ဆိုမိန့်သ

မှာ 'ကျွန်ုပ်သည် ဆယ့်ခြောက်နှစ်တိုင် ဗိုက်ပြည့်အောင် စားသောက်ခြင်းမပြုခဲ့ပါ။ ဗိုက်အပြည့်စားခြင်းသည် ကိုယ်ခန္ဓာကို လေးလံစေသည်။ စိတ်နှလုံးကို မာမြင်းစေသည်။ ဖြတ်လတ်ချက်ချာမှုကို ပျောက်ကွယ်စေသည်။ အအိပ်ကြီးစေသည်။ ဗိုက်ပြည့်အောင်စားသူသည် အိဗာဒတ်တွင် အားနည်းမည်သာဖြစ်သည်။'

ဗိုက်အပြည့်စားသောက်ခြင်း၏ဆိုးကျိုးဒုက္ခများကို ဖေါ်ပြရာတွင် အိမာမ်ရှာဖအီ ်သခင်၏အမျှော်အမြင်ရှိမှုကို ကြည့်ပါလေ။ သခင်၏အားထုတ်မှုသည် အိဗာဒတ်အတွက်ဖြစ်ခဲ့သည်။ ဗိုက်ပြည့်အောင် မစားဘဲနေခြင်းသည် အိဗာဒတ်ပြုနိုင်ရန်အတွက်ဖြစ်ခဲ့သည်။ အိဗာဒတ်၏အခရာသည် အနည်းငယ်သာ စားသောက်ခြင်းဖြစ်သည်။ တဖန် အိမာမ်ရှာဖအီ ်သခင်က ပြောဆိုသည်မှာ–

'ကျွန်ုပ်သည် အလ္လာဟ်အရှင်အား တိုင်တည်၍ အမှန်ကိစ္စကိုလည်း မကျိမ်တွယ်၊ မမှန်သည့်ကိစ္စကိုလည်း မကျိမ်တွယ်ပါ။' ဤစကားကို စဉ်းစားကြည့်မည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်အား သခင်၏ရိုသေခန့်ငြားမှုကို တွေ့နိုင်သည်။ ကဲ့ပြင် အလ္လာဟ်အရှင်၏ဂုဏ်ဒြပ်ကြီးကျယ်မှုအပေါ် သခင်၏အသိရှိမှုကိုလည်း တွေ့ရသည်။ တစ်ကြိမ်တွင် အိမာမ်ရှာဖအီ ်သခင့်အား မတ်စအလာမေးရာ သခင်က မဖြေဘဲ ဆိတ်ဆိတ်နေခဲ့သည်။ ထိုအခါ မေးသူက–

'ဘာကြောင့် မဖြေပါသလဲ။ ခင်ဗျားကို အလ္လာဟ်အရှင် သနားပါစေ'ဟု ပြောလေသည်။ ထိုအခါ သခင်က–

'ကျွန်ုပ်သည် ဆိတ်ဆိတ်နေခြင်းက အကျိုးရှိသလား၊ ဖြေခြင်းက အကျိုးအမြတ်ရှိသလားဆိုသည်ကို မသိရမချင်း ကျွန်ုပ် ဖြေကြားခြင်း မပြုပါ'ဟု ရှင်းပြသည်။ ဤတွင်လည်း သခင်၏နှုတ်လျှာကို ထိန်းချုပ်နိုင်မှုကို တွေ့ရသည်။ တကယ်တန်းတွင် ထိုနှုတ်လျှာသည် ဖိကဟ်ပညာရှင်များအဖို့ အရှိန်ဩဇာအရှိဆုံးအင်္ဂါအစိပ်အပိုင်းဖြစ်၏။ ထို့ပြင် ထိန်းသိမ်းချုပ်တည်းရန် အခက်ဆုံးလည်းဖြစ်၏။ ဤဖြစ်ရပ်ဖြင့် သခင်၏စကားပြောဆိုခြင်းနှင့်စကားမပြောဘဲ တိတ်ဆိတ်စွာနေခြင်း နှစ်ခုစလုံးသည် အကျိုးစွဝါဗ်ရရှိရန်အတွက်သာဖြစ်ကြောင်း သိရသည်။

အဟ်မဒ်အိဗ်နေ့ယဟ်ယာအိဗ်နေ့ဝဇီရ်က ပြောပြသည်မှာ– 'တစ်ရက်တွင် ရှာဖအီသခင်သည် ဖယောင်းတိုင်ဈေးသို့ ထွက်ခဲ့သည်။ ကျွန်ုပ်တို့လည်း သခင့်နောက်သို့ လိုက်သွားကြသည်။ ထိုအချိန်တွင် လူတစ်ဦးက ပညာရှင်အသိုင်းအဝိုင်းမှ ပုဂ္ဂိုလ်တစ်ဦးကို ရှုံ့ချပြောဆိုနေသည်။ ထိုအခါ ရှာဖအီသခင်က ကျွန်ုပ်တို့ဘက်သို့ လှည့်ပြီး–

'အသင်တို့သည် မိမိတို့၏နှုတ်လျှာများကို အရုက်ကင်းမဲ့သောစကားများမှ သန့်ရှင်းစွာ ထားကြသည်။ ဤနည်းအတူ အသင်တို့၏နားများကို ထိုစကားများမှ သန့်ရှင်းအောင်ထားကြကုန်။ ထိုစကားမျိုးကို နားထောင်သူသည် ပြောဆိုသူနှင့် ဒုစရိုက်မှုတွင် ဖက်စပ်ပါဝင်သူဖြစ်သည်။ လူ့အန္တက မိမိဦးနှောက်ထဲမှ အဆိုးရွားဆုံးစကားလုံးကို ရှာဖွေရွေးချယ်ပြီး သင်တို့၏ဦးနှောက်ထဲသို့ သွန်ထည့်ရန်အလိုထားသည်။ ထိုစကားလုံးမျိုးကို ပြောသူသည် တက္ကဒီရ်ဆိုးသလောက် ထိုစကားလုံးကို နားထဲမသွင်းဘဲ နေသူသည် တက္ကဒီရ်ကောင်းပေ၏'ဟု ပြောဆိုခဲ့သည်။ တစ်ကြိမ်တွင်လည်း အိမာမ်ရှာဖအီ ်သခင်က ပြောပြသည်မှာ 'ပညာရှိတစ်ဦးက အခြားပညာရှိတစ်ဦးထံသို့ စာရေးခဲ့သည်မှာ 'အသင့်ကို အလ္လာဟ်အရှင်က ပညာချီးမြှင့်ထားပါသည်။ ပြစ်မှုဒုစရိုက်၏မှောင်မဲမှုဖြင့် အသင်၏ပညာကို မညစ်ပေပါစေနှင့်။ ညစ်ပေခဲ့မည်ဆိုလျှင် ပညာရှင်တို့ မိမိတို့ပညာ၏အလင်းရောင်ဖြင့် လမ်းသွားရမည့်နေ့တွင် အသင်သည် အမှောင်ထဲ၌ ရှိနေလိမ့်မည်'။

အိမာမ်ရှာဖအီ ်သခင်၏ဖွဟ်ဒ်ခေါ် ဒွန္နယာကို ရှောင်ဖယ်ခြင်း၊ တစ်နည်း ဒွန္နယာကို အချစ်မထားခြင်းနှင့် ပတ်သက်၍ ဖေါ်ပြရဦးမည်။

သခင်က 'ပုဂ္ဂိုလ်တစ်ဦးက သူ့နှလုံးသားတွင် ဒွန္နယာကို ချစ်သောအချစ်နှင့် ဒွန္နယာ့ဖန်ဆင်းရှင်အလ္လာဟ်ကို ချစ်သောအချစ်နှစ်ခုတို့ အတူတကွရှိနေသည်ဟု ပြောဆိုခဲ့လျှင် ထိုသူ လိမ်ခြင်းဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။ ဟိုမိုင်ဒီ

သခင်က ပြောပြသည်မှာ 'အိမာမ်ရှာဖအီ ( ) သခင်သည် အုပ်ချုပ်ရေးမှူးအချို့နှင့်အတူ ယမန်သို့ ထွက်ခွါခဲ့သည်။ ထို့နောက် ငွေဒင်္ဂါးလေးထောင်နှင့်အတူ မက္ကာသို့ ပြန်လာသည်။ သခင့်ကို မက္ကာမြို့ပြင် တစ်နေရာတွင် ယာယီတဲတစ်လုံး ထိုးပေးကြသည်။ လူတို့သည် သခင့်ထံ ဝင်ထွက်သွားလာကြသည်။ သခင်သည် မိမိရှိငွေဒင်္ဂါးများ မကုန်မချင်း ထိုနေရာမှာ နေခဲ့သည်။ သခင်သည် တစ်ကြိမ်မှာ ရေချိုးရုံမှ ထွက်လာစဉ် ရေချိုးရုံပိုင်ရှင်အား ငွေအများအပြားပေးပစ်ခဲ့သည်။ တစ်ကြိမ်တွင်လည်း သခင်၏လက်မှ နှင်တံလွတ်ကျသွားရာ လူတစ်ယောက်က ကောက်ပေးခဲ့သည်၊ သခင်က ထိုလူ့ကို ရွှေဒင်္ဂါးငါးဆယ် ဆုချခဲ့သည်။'

အိမာမ်ရှာဖအီ ( ) သခင် ရက်ရောသည့်အကြောင်းမှာ ကျော်ကြားနေပြီးဖြစ်၍ ဖော်ပြရန် မလိုလှပါ။ ဒုန္နယာကို အချစ်မထားခြင်း၏အရင်းခံအရာသည် ရက်ရောခြင်းပင်ဖြစ်သည်။ အဘယ်သို့ဆိုသော် ပုဂ္ဂိုလ်တစ်ဦးသည် မိမိချစ်ခင်မြတ်နိုးသည့်အရာကို သိမ်းဆည်းထားလေ့ရှိသည်။ သူသည် ထိုအရာနှင့် ဘယ်တော့မှမခွဲပေ။ သို့ဖြစ်ရာ ဒုန္နယာကို မိမိမျက်စေ့တွင် အသေးအသိမ်အဖြစ် မြင်ထားသူသာလျှင် ပစ္စည်းဥစ္စာကို ခွဲခွါစွန့်လွှတ်နိုင်လေသည်။ ဤသည်ပင် ဇွုဟ်ဒ်ဖြစ်၏။

သခင်၏ဇွုဟ်ဒ်အားကောင်းပုံ၊ အလ္လာဟ်အရှင်ကို လွန်စွာကြောက်ရွံ့ပုံနှင့် အာခိရတ်အတွက် ဖွဲခတ်လုံးပန်းပုံတို့ကို ဖော်ပြသော ဆင့်ပြန်မှုများ ရှိနေသေး၏။ တစ်ကြိမ် စွဖ်ယန်အိဗ်နေ့အိုယိုင်နာက သခင်၏ရှေ့မှောက်၌ စိတ်နှလုံးနူးညံ့သိမ်မွေ့မှုအကြောင်း ဟဒီစ်တစ်ပုဒ်ကို ဖတ်ကြားခဲ့သည်။ အိမာမ်ရှာဖအီ ( ) သခင်သည် ဤအကြောင်းအရာကို ကြားပြီး သတိလစ်သွားခဲ့သည်။ လူတို့က 'သခင်သေပြီ'ဟု ပြောကြသောအခါ ဆွဖ်ယန်အိဗ်နေ့အိုယိုင်နာက–

'သေပြီဆိုလျှင်လည်း အခုခေတ်လူတွေနဲ့ နေရခြင်းထက် သေတာက ပိုမြတ်ပါသည်'ဟု ပြောခဲ့လေသည်။

အဗ်ဒုလ္လာဟ်အိဗ်နေ့မုဟမ္မဒ်ဘလဝီက 'ကျွန်ုပ်သည် အိုမရ်အိဗ်နေ့နဘာတာနှင့် အတူထိုင်ပြီး အာဗိဒ်များနှင့်ဇာဟိဒ်သူတော်စင်များအကြောင်း ပြောဆိုနေခဲ့သည်။ ထိုအချိန်တွင် အိုမရ်အိဗ်နေ့နဘာတာက 'ကျွန်တော်တော့ မုဟမ္မဒ်အိဗ်နေ့အိဒ်ရီစ်(အိမာမ်ရှာဖအီ)သခင်လောက် ရှောင်ကျဉ်သူနှင့် ဝစနာလင်္ကာရထူးချွန်သူကို မတွေ့ဘူးခဲ့ပါ။ ကျွန်ုပ်သည် အိမာမ်ရှာဖအီ၊ ဟာရစ်အိဗ်နေ့လဘီဒ်တို့နှင့်အတူ ဆွဖါဘက်သို့ ထွက်ခဲ့သည်။ ဟာရစ်အိဗ်နေ့လဘီဒ်သည် ဆွာလဲဟ်အိဗ်နေ့မရီ ( )၏တပည့်ဖြစ်သည်။ ၎င်းက ကျမ်းမြတ်ကုရ်အာန်ကို ဖတ်ရွတ်ခဲ့သည်။ ၎င်းသည် အသံကောင်းသူဖြစ်သည်။ ၎င်းက ဖတ်ရွတ်သည်မှာ–

﴿هٰذَا يَوْمُ لَا يَنطِقُونَ ۞ وَلَا يُؤْذَنُ لَهُمْ فَيَعْتَذِرُونَ﴾

**'ဤသည်ကား ထိုနေ့ပင်။ ထိုနေ့တွင် စကားပြောကြရမည်လည်းမဟုတ်။ ထို့ပြင် ထိုနေ့တွင် ဆင်ခြေလဲအကြောင်းပြကြသည့်အပေါ်မှာ ၎င်းတို့ကို လက်ခံခွင့်ပြုမည်လည်းမဟုတ်ပေ။'**

(မုရာမုရ်စလာတ် ၊ ၃၅–၃၆။)

အာယတ်ဖြစ်သည်။ ကျွန်ုပ်က အိမာမ်ရှာဖအီကို ကြည့်လိုက်သောအခါ သူ့မျက်နှာ အရောင်ပြောင်းနေသည်ကို တွေ့ရသည်။ သခင်သည် ကြက်သီးမွေးညှင်းထနေပြီး ခန္ဓာကိုယ်မှာလည်း အပြင်းအထန်တုန်လှုပ်နေသည်။ ထို့နောက် သခင်သည် မေ့မျောသွားသည်။ သတိရလာသောအခါ နှုတ်မှ ဆုပန်သည်မှာ–

အို အရှင်၊ ကျွန်တော်မျိုးသည် လိမ်ညာ မုသားပြောဆိုသူတို့၏နေရာမှ၎င်း၊ အမေ့ဆိုက်သူတို့၏ကျောခိုင်းဥပက္ခာပြုမှုမှ၎င်း ကိုယ်တော်အရှင့်ထံတွင် ခိုလှုံပါ၏။ အို အလ္လာဟ်အရှင်၊ အာရီဖ်သူတော်စင်တို့၏နှလုံးသားသည် ကိုယ်တော့်ကို ကျိုးငဲ့ကြရပါ၏။ လိုလားမက်မောသူတို့၏လည်ကုပ်များသည် ကိုယ်တော့်ထံမှာသာလျှင် ကိုင်းညွှတ်ကြရပါသည်။ အို အရှင်၊ ကျွန်တော်မျိုးအား ကိုယ်တော်၏ရက်ရောမှုကို ချီးမြှင့်တော်မူပါ။ ကိုယ်တော်၏ကြင်နာမှုကို ကျွန်တော်မျိုးအား ဖုံးလွှမ်းတော်မူပါ။ ကိုယ်တော်၏ကြင်နာသနားမှု အကြောင်းခံဖြင့် ကျွန်တော်မျိုး၏အမှားများ

ကို ခွင့်လွှတ်တော်မူပါ။'

အစ်ဗ္ဒုလ္လာဟ်အီဗ်နေ့ဘာလဝီက ဆက်လက်ပြောပြသည်မှာ 'ထို့နောက်တွင်တော့ ထိုနေရာမှ ကျွန်ုပ်တို့ထွက်ခွါခဲ့ကြသည်။ သခင် အီရတ်တွင်ရှိနေစဉ် ကျွန်ုပ် ဘဂ္ဂဒက်သို့ ရောက်သွားခဲ့သည်။ ကျွန်ုပ်သည် မြစ်ကမ်းဘေး ထိုင်ပြီး နမာဇ်ဖတ်ရန် ဝုဇူပြုသည်။ ထိုအချိန်မှာ ပုဂ္ဂိုလ်တစ်ဦး ကျွန်ုပ်၏အနီးမှ ဖြတ်ရင်း ကျွန်ုပ်အား 'သား၊ ဝုဇူကို ကောင်းစွာပြုပါ။ အလ္လာဟ်အရှင်က သင့်အား ဒွန်ယာနှင့်အာခိရတ်မှာ ကောင်းစွာဆက်ဆံတော်မူမည်' ဟု ပြောဆိုပါသည်။ ကျွန်ုပ်လှည့်ကြည့်သောအခါ နောက်လိုက်နောက်ပါအများနှင့် ပုဂ္ဂိုလ်မြတ်တစ်ဦးကို တွေ့ရသည်။ ကျွန်ုပ်လည်း ဝုဇူကို အမြန်လုပ်ပြီး ထိုပုဂ္ဂိုလ်နောက်မှလိုက်ခဲ့သည်။ ထိုပုဂ္ဂိုလ်က ကျွန်ုပ်ဘက် လှည့်ကြည့်ပြီး 'အသင် လိုအပ်တာရှိသလား' ဟုမေး၏။ ကျွန်ုပ်က 'မှန်ပါသည်။ ခင်ဗျားကို အလ္လာဟ်အရှင် သင်ပေးထားသည့်အထဲက ကျွန်တော့်အား အနည်းငယ်သင်ပေးပါ။' ထိုအခါ ကျွန်ုပ်အား 'အကြင်သူ အလ္လာဟ်အရှင်ကို မှန်ကန်ကြောင်းဝန်ခံမည်ဆိုလျှင် ထိုသူ လွတ်မြောက်အောင်မြင်သူဖြစ်မည်။ အကြင်သူသည် မိမိ၏ သာသနာအတွက် စိုးရိမ်သောကထားလျှင် ပျက်စီးဆုံးရှုံးမှု ကာကွယ်ထိန်းသိမ်းမှုရမည်။ အကြင်သူ ဒွန်ယာကို အချစ်မထားလျှင် မနက်ဖန်ကိယာမတ်နေ့တွင် သူ့အား အလ္လာဟ်အရှင်ပေးမည့် စွဝါဗ်များကို မြင်တွေ့ရသည့်အခါ သူ၏မျက်စေ့များ အေးမြမည်။ အသင် နောက်ထပ်သင်ယူလိုသေးသလား' ဟု မေး၏။ ကျွန်ုပ်က 'ဟုတ်ကဲ့၊ အနည်းငယ်သင်ပေးပါဦး' ဟု ပြောသောအခါ–

'အကြင်သူ့တွင် သုံးခုသော အကျင့်စာရရှိလျှင် ထိုသူ အီမာန်ပြည့်ဝပြီဖြစ်သည်။ ထိုသုံးခုမှာ အခြားသူကို ကောင်းမှုကောင်းရာဘက်သို့ ညွှန်ပြခိုင်းစေပြီး ကိုယ်တိုင်လည်း ကျင့်ဆောက်တည်သည်။ ထို့နောက် အခြားသူများကို မကောင်းမှုဒုစရိုက်မှ ဆုံးမတားမြစ်ပြီး ကိုယ်တိုင်ကလည်း ရှောင်ကျဉ်သည်။ ထို့ပြင် အလ္လာဟ်အရှင်ချမှတ်ထားသော စည်းကမ်းဥပဒေများကို လိုက်နာစောင့်ထိန်းသည်။ နောက်ထပ် သင်ယူလိုသေးသလော' ဟု မေးပါသည်။ ထိုအခါ ကျွန်ုပ်က 'ဟုတ်ကဲ့၊ အနည်းငယ် အမိန့်ရှိပါဦး' ဟုဆိုရာ ပုဂ္ဂိုလ်က–

'သင်သည် ဒွန်ယာတွင် ဇာဟိဒ်အဖြစ်နေပါ။ အာခိရတ်ရေးအတွက် လိုလားမက်မောသူဖြစ်ပါ။ အသင်၏ အရေးကိစ္စဟူသမျှတွင် အလ္လာဟ်အရှင် မှန်ကန်တော်မူသည်ဟု ခံယူပါ။ ဤသို့ဆိုလျှင် လွတ်မြောက်အောင်မြင်သူများနှင့်အတူ သင်လည်း လွတ်မြောက်အောင်မြင်ပေပြီ။' ဤသို့ပြောပြီး ထိုပုဂ္ဂိုလ် ထွက်ခွါသွားသည်။ ကျွန်ုပ်က လူတို့အား 'ဤပုဂ္ဂိုလ်က ဘယ်သူလဲ' ဟု မေးကြည့်သောအခါ 'အိမာမ်ရှာဖအီဆိုတာ သူဘဲ' ဟု ပြောကြသည်။

အထက်တွင် သခင်၏ သတိလစ်မေ့မျောသွားခြင်းမှအစ ဆုံးမစကားပြောကြားသည်အထိ ကြည့်မည်ဆိုလျှင် သခင်၏ ဒွန်ယာစွန့်ခြင်းနှင့် အလ္လာဟ်ကြောက်ခြင်းကို ကောင်းစွာတွေ့ရမည်ဖြစ်သည်။ ဤသို့သော အကြောက်နှင့် စွန့်ခြင်းသည် အလ္လာဟ်အရှင်အား မအ်ရိဖတ် သိကျွမ်းခြင်းရှိသူများမှာသာ ရရှိနိုင်လေသည်။

﴿ إِنَّمَا يَخْشَى اللّٰهَ مِنْ عِبَادِهِ الْعُلَمَاءُ ﴾

**'အရှင့်ကျွန်များတွင် အလ္လာဟ်အရှင်ကို ကြောက်ရွံ့ရိုကျိုးသူများကား ဓမ္မပညာရှင်များပင်။'**

(စူရာဖါတွေရ် ၊ ၂၈)

အိမာမ်ရှာဖအီ သခင်သည် ဤအကြောက်နှင့် ဒွန်ယာစွန့်ခြင်းကို ကိတာဗွလ်ဆလ္လာမ်၊ ကိတာဗွလ်အိဂျာရာ အစရှိသော ဖိကဟ်ကျမ်းစာများမှ သင်ယူရရှိခြင်းမဟုတ်ပေ။ အမှန်မှာ ယင်းတို့ကို ကုရ်အာန်နှင့်ဟဒီစ်မှ ထုတ်နုတ်ချက်ဖြစ်သော အာခိရတ်ပညာရပ်များထဲ ရရှိခဲ့ခြင်းသာဖြစ်သည်။ ခေတ်တစ်လျှောက်အစမှအဆုံး ပေါ်ပေါက်ခဲ့သော ဉာဏ်ပညာရှင်တို့၏ ဟီက်မတ်မျှော်မြင်ဉာဏ်များသည် ကျမ်းတော်နှင့်ဟဒီစ်တော်များတွင် ပြည့်လျှမ်းပါဝင်လျက်ရှိပေသည်။

နှလုံးသား၏ အတွင်းရေးများနှင့် အာခိရတ်ပညာကို အိမာမ်ရှာဖအီ သခင် တတ်ကျွမ်းပုံကိုလည်း သခင်၏

ဟီကမ်မတ်ပါသောဆုံးမစကားများဖြင့် သိရပေသည်။ တစ်ခါတွင် ရိယာနှင့်ပတ်သက်၍ မေးမြန်းသောအခါ သခင်က မဆိုင်းမတွပင် 'ရိယာဆိုသည်မှာ စမ်းသပ်မှုတစ်ခုဖြစ်သည်။ အလိုဆန္ဒက ဓမ္မပညာရှင်များ၏နှလုံးသားရှေ့တွင် လာရပ်သည်။ ထိုအခါ ၎င်းတို့က ထိုမကောင်းမှုကို ရွေးချယ်ခဲ့သည်။ သို့ဖြင့် ၎င်းတို့၏ကျင့်ဆောက်တည်မှုများ ပျက်စီးရသည်'ဟုဖြေခဲ့သည်။ အိမာမ်ရှာဖအီကပင် 'အသင်၏ကျင့်ဆောင်မှုများအပေါ် အထင်ကြီးစိတ်ဝင်မည်ကို စိုးရိမ်သည်ဆိုလျှင်၊ ကြည့်ရမည်မှာ အသင်သည် မည်သူ၏ကျေနပ်မှုကို ရလိုသလဲ။ ဘယ်သို့သောစွဝါဗ်ကို အသင် လိုလားမက်မောသလဲ။ ဘယ်သို့သောပြစ်ဒဏ်မျိုးကို အသင်ကြောက်ရွံ့သလဲ။ အဘယ်သို့သော ချမ်းသာသုခမျိုးအပေါ် အသင်ကျေးဇူးတင်သလဲ။ အဘယ်သို့သောဘေးဒုက္ခဖြင့် အသင် သတိတရားရသလဲ။ ဤအရာများထဲမှ တစ်ခုခုကို အသင် ဆင်ခြင်ပွါးများနိုင်ပြီဆိုလျှင် သင်၏ကျင့်ကြံအားထုတ်မှုများသည် သင့်မျက်စေ့ထဲတွင် သေးသိမ်သွားမည်ဖြစ်သည်။'

ကြည့်ပါလေ။ ရိယာပြစားမှု၏အရင်းခံသဘောကိုင်း၊ မိမိကိုယ်ကို အထင်ကြီးမှုအတွက် ကုထုံးကိုင်း၊ သခင်က လေးနက်စွာထုတ်ဖော်ရှင်းပြခဲ့သည်။ စင်စစ်တွင် ဤပြစားမှုနှင့်အထင်ကြီးမှုသည် နှလုံးသား၏ကြီးမားလှသော ဘေးဒုက္ခကြီးနှစ်ခုပင်ဖြစ်သည်။ အိမာမ်ရှာဖအီသခင်က 'အကြင်သူသည် မိမိစိတ်ကို ထိန်းကွပ်နိုင်ခြင်းမရှိလျှင် သူ၏ပညာက သူ့ကို အကျိုးမပြုသေးပေ။ အကြင်သူသည် မိမိ၏ပညာဖြင့် အလ္လာဟ်အရှင်၏အမိန့်ကို နာခံခဲ့ပြီဆိုလျှင် ထိုသူ၏အတွင်းမနောက သူ့ကို အကျိုးပြုပြီဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့ပြင် သခင်က 'လူတိုင်းတွင် ချစ်သူနှင့်မုန်းသူဟူ၍ မလွဲမသွေရှိကြသည်။ ဤအတိုင်းမှန်လျှင် အသင်သည် အလ္လာဟ်အရှင့်အား အမိန့်နာခံသူတို့နှင့် အတူနေပါလေ'ဟု မိန့်ဆိုခဲ့သည်။

အဗ်ဒုလ်ကာဟိရ်အိဗ်နေ့အဗ်ဒုလ်အဇီဇ်သခင်သည် မှန်မြတ်သောပုဂ္ဂိုလ်တစ်ဦး ၎င်း တက္ကဝါရှင်ဖြစ်သည်။ ၎င်းသည် အိမာမ်ရှာဖအီသခင်ထံမှ ကျဉ်ရှောင်မှုအကြောင်း မေးမြန်းလေ့ရှိခဲ့သည်။ သခင်ကလည်း ဤပုဂ္ဂိုလ်အား သူ၏တက္ကဝါကို အကြောင်းခံပြီး ကြိုဆိုလက်ခံခဲ့ခြင်းဖြစ်သည်။ တစ်ရက်တွင် ၎င်းက သခင်အား 'သည်းခံမှု၊ စမ်းသပ်မှုနှင့်တန်ခိုးအာဏာ-သုံးခုတွင် မည်သည်က ပိုမြတ်သလဲ'ဟု မေးခဲ့သည်။ ထိုမေးခွန်းကို အိမာမ်ရှာဖအီသခင် ဖြေသည်မှာ 'တန်ခိုးအာဏာသည် နဗီတမန်တော်များ ﷺ၏အဆင့်အတန်းဖြစ်သည်။ ရာထူးဌာနန္တရကို သူ့အလိုအလျှောက်မရဘဲ စမ်းသပ်ပြီးမှ ရသည်။ စမ်းသပ်နေသောအချိန်တွင် သည်းခံရသည်။ ထိုသို့ သည်းခံနိုင်ပြီဆိုမှသာ တန်ခိုးအာဏာဌာနန္တရကို ရခြင်းဖြစ်သည်။

အလ္လာဟ်အရှင်က တမန်တော်အိဗ်ရာဟီမ် ﷺအား စမ်းသပ်ခဲ့သည်ကို ကြည့်ပါ။ ထိုတမန်တော်ကြီးသည် အစမ်းသပ်ခံပြီးမှ ဂုဏ်တန်ခိုးကို ချီးမြှင့်ခံခဲ့သည်။ ထို့ပြင် တမန်တော်မူဆာ ﷺသခင်အား စမ်းသပ်တော်မူခဲ့သည်ကိုလည်း ကြည့်ပါ။ အစမ်းသပ်ခံပြီးနောက်မှ တမန်တော်မူဆာ ﷺသခင်သည် တန်ခိုးအာဏာကို ရရှိခဲ့သည်။ ထို့ပြင် တမန်တော်အိုင်ယုဗ် ﷺသခင်ကိုလည်း စမ်းသပ်တော်မူခဲ့သည်။ ထို့နောက်မှ ဂုဏ်တန်ခိုးကို ချီးမြှင့်တော်မူခဲ့သည်။ တမန်တော်ဆုလိုင်မာန် ﷺကိုလည်း ပထမစမ်းသပ်တော်မူခဲ့သည်။ ထို့နောက်မှ တန်ခိုးအာဏာကို ချီးမြှင့်ခဲ့သည်။ တိုင်းပြည်တစ်ခုကိုပင် ပေးအပ်ခဲ့သည်။ တန်ခိုးအာဏာသည် အဆင့်အတန်းအားလုံးတွင် အထွတ်မြတ်ဆုံးဖြစ်သည်။ အလ္လာဟ်အရှင်က- ﴿ وَكَذَٰلِكَ مَكَّنَّا لِيُوسُفَ فِي الْأَرْضِ ﴾

**'ဤနည်းအလားတူ ငါအရှင်က တမန်တော်ယူစွဖ်အား ထိုမြေပထဝီတွင် တန်ခိုးအာဏာကို ချီးမြှင့်တော်မူခဲ့၏။'** (စူရာယူစွဖ် ၊ ၅၆။)

ဟု မိန့်ကြားခဲ့သည်။ တမန်တော်အိုင်ယုဗ် ﷺသခင်သည်လည်း အကြီးအကျယ်စမ်းသပ်ခြင်း ခံရပြီးမှ ဂုဏ်တန်ခိုးကို ရရှိခံစားခဲ့ရသည်။ ဤတမန်တော်ကြီးနှင့်ပတ်သက်၍ အလ္လာဟ်အရှင်က-

﴿وَآتَيْنَاهُ أَهْلَهُ وَمِثْلَهُم مَّعَهُمْ﴾

**'ငါအရှင်သည် ၎င်းနှင့် ၎င်း၏မိသားစုအား ၎င်းတို့ထံ မူလရှိခဲ့သည့်အတိုင်း ချီးမြှင့်တော်မူခဲ့၏။'**

(စူရာအန်ဘီယာ ၊ ၈၄)

ဟု မိန့်ကြားတော်မူခဲ့သည်။'

ဤပြောဆိုမှုက အိမာမ်ရှာဖအီ ﷺသခင်သည် ကျမ်းမြတ်ကုရ်အာန်၏အတွင်းသဘောများအပေါ် ကျွမ်းကျင်ပိုင်နိုင်မှု ရှိကြောင်း ဖော်ပြနေသည်။ ထို့ပြင် သခင်သည် အလ္လာဟ့်တမန်တော်များနှင့် ဝလီသူတော်စင်များ၏လမ်းတွင် လျှောက်လှမ်းသူများ၏အဆင့်အတန်းများကို သိသူဖြစ်ကြောင်း ဖော်ပြလျက်ရှိသည်။ ဤအသိပညာအားလုံးသည် အာခိရတ်ပညာရပ်များသာဖြစ်ပေသည်။ အိမာမ်ရှာဖအီ ﷺသခင့်အား 'လူသားသည် ဘယ်အချိန်မှာ ပညာရှင် ဖြစ်ပါသလဲ'ဟု မေးခဲ့သည်။ ထိုမေးခွန်းကို အိမာမ်ရှာဖအီ ﷺသခင်က ဖြေသည်မှာ 'သမားတော်ကြီးဂျာလီနူစ်အား လူတို့က 'ခင်ဗျားသည် ရောဂါတစ်ခုတည်းအတွက် ဆေးအမျိုးများစွာ ညွှန်ကြားနေသည်'ဟု ပြောဆိုမေးမြန်းကြသည်။ ထိုအခါ သမားတော်ကြီးက 'အဓိကဆေးမှာ တစ်ခုသာဖြစ်သည်။ အခြားဆေးများက ထိုဆေး၏အာနိသင်ကို ထိန်းရန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဆေးဝါးတစ်မျိုးတည်းဖြင့် ကုသခြင်းကြောင့် အသက်ကို သေစေသည်'ဟု ရှင်းပြခဲ့လေသည်။

အိမာမ်ရှာဖအီ ﷺသခင်၏အထက်ပါပြောဆိုမှုနှင့် အခြားအလားတူ မရေမတွက်နိုင်သော စကားရပ်များက အလ္လာဟ်အရှင်အား သိကျွမ်းသော မအ်ရိဖတ်အသိထူးနှင့် အာခိရတ်ပညာရပ်များတွင် သခင်၏အဆင့်မြင့်မားခြင်းကို ထုတ်ဖော်ပြသလျက်ရှိသည်။

သခင်က ဖိကဟ်ပညာကို အဓိကထား၍ ထိုပညာအပေါ် မုနာဇရာပြုမှုများဖြင့် အလ္လာဟ်အရှင့်ထံ မျက်နှာရရန်အလိုထားပုံကိုလည်း သခင်၏ပြောစကားအချို့က ညွှန်ပြလျက်ရှိပါသည်။ သခင်က ပြောဆိုခဲ့သည်မှာ 'ကျွန်ုပ်သည် ဤပညာဖြင့် လူတို့အကျိုးခံစားကြရန် အလိုရှိပါသည်။ တဖန် ထိုကိစ္စတွင် ကျွန်ုပ်၏အမည် မပေါ်လွင်ရန်လည်း လိုလားပါသည်။' ဤပြောဆိုမှုဖြင့် သခင်သည် ပညာကြောင့် ရရှိခံစားတတ်သည့်ဒုက္ခများနှင့် ထင်ပေါ်ကျော်ကြားလိုမှု၏ဆိုးရွားပုံကို အစင်းသိဖြစ်ကြောင်းတွေ့ရပါသည်။ ထို့ပြင် သခင်၏နှလုံးသားသည် ကျော်ကြားလိုမှု လုံးဝကင်းစင်ပြီး အလ္လာဟ်အရှင်၏ကျေနပ်နှစ်သက်မှုရရန်သက်သက် ရည်သန်သူဖြစ်ကြောင်းကိုလည်း သခင်၏ပြောဆိုမှုက ညွှန်ပြလျက်ရှိသည်။

အိမာမ်ရှာဖအီ ﷺသခင်က– 'ကျွန်ုပ်သည် သူတစ်ပါး၏အပြစ်ကို ထောက်ပြရန် ရည်ရွယ်ချက်ဖြင့် မုနာဇရာအချေအတင်ပြောခြင်း လုံးဝမပြုပါ'ဟု မိန့်ဆိုခဲ့သည်။ ထို့ပြင် သခင်က 'ကျွန်ုပ်သည် တစ်ဦးတစ်ယောက်ကို ကျင့်သုံးနိုင်စွမ်းရရန်၊ ဖြောင့်မှန်ရန်၊ အထောက်အကူဖြစ်ရန်နှင့် ထိုသူ့အပေါ်မှာ အလ္လာဟ်အရှင်က ထောက်ထားရန်၊ ထိုသူ့ကို ထိန်းသိမ်းတော်မူရန် လိုလားမှုမှလွဲ၍ အခြားရည်ရွယ်ချက်ဖြင့် စကားစစ်ထိုးခြင်း လုံးဝမပြုပါ'ဟု ပြောဆိုခဲ့သည်။ တဖန် သခင်က 'ကျွန်ုပ်သည် တစ်စုံတစ်ဦးနှင့် အချေအတင်ပြောသည့်အခါ အလ္လာဟ်အရှင်က အမှန်တရားကို ကျွန်ုပ်၏နှုတ်လျှာမှ ထွက်ပေါ်စေသည်၊ သို့မဟုတ် တစ်ဖက်ပုဂ္ဂိုလ်၏နှုတ်လျှာမှ ထွက်ပေါ်စေသည်ကို အရေးမထားပါ'ဟုဆိုဖူးသည်။ ထို့ပြင် သခင်က 'ကျွန်ုပ်သည် တစ်ဦးတစ်ယောက်အား အမှန်တရားနှင့်အထောက်အထားကို တင်ပြခဲ့ရာ ထိုသူက ကျွန်ုပ်၏တင်ပြမှုကို လက်ခံသည်ဆိုလျှင် သူ့ကို လေးစားသည်။ ထို့ပြင် စိတ်ထဲမှ သူ့ကို ချစ်ခင်သည်။ ထိုသို့မဟုတ်ဘဲ တစ်ဦးတစ်ယောက်သည် အမှန်အပေါ် ရှိနေသောအထောက်အထားကို ဆန့်ကျင်ဘဲ့တိုက်ပြီး ကျွန်ုပ်အား ဖွတ်ငြင်းလာလျှင် ထိုသူမျိုးကို ကျွန်ုပ်လှည့်မကြည့်တော့ပါ'ဟု မိန့်ဆိုခဲ့သည်။

ဤစကားရပ်များက သခင်သည် မိမိ၏ဖိကဟ်ပညာ၊ မုနာဇရာပညာတို့ကိုအကြောင်းခံပြီး အလ္လာဟ်အရှင်၏

ကျေနပ်နှစ်သက်မှုကို အလိုထားကြောင်း ညွှန်ပြနေသည်။ ကြည့်ပါ။ ယခုအခါမှာတော့ လူတို့သည် အထက်ဖော်ပြပါ အကျင့်စာရင်းခုအနက် တစ်ခုတည်းကိုသာ လိုက်နေကြသည်။ တဖန် ထိုတစ်ခုတည်းကိုပင် ဗီလာဆန့်ကျင်ပြုနေကြသည်ကို တွေ့ရမည်ဖြစ်သည်။

ထို့ကြောင့်ပင် အဗူစောရ်-သခင်က 'အိမာမ်ရှာဖအီ-သခင်လို ပုဂ္ဂိုလ်မျိုး ကျွန်ုပ်လည်း မတွေ့ဘူးပါ။ အခြားရှာဖွေကြည့်ရှုသူများလည်း မတွေ့ဘူးပါ'ဟု ဝန်ခံပြောကြားခဲ့ခြင်းဖြစ်သည်။ အဟ်မဒ်အီဗ်နေ့ဟန်ဘလ်-သခင်က– 'ကျွန်ုပ်သည် နှစ်ပေါင်းလေးဆယ်တိုင်တိုင် နမာဇ်ပြီးလျှင် အိမာမ်ရှာဖအီ-သခင့်အတွက် ဒိုအာတောင်းပေးခဲ့သည်'ဟု ဆိုခဲ့သည်။ ဤပြောဆိုမှုတွင် ဒိုအာတောင်းပေးသူ၏သိတတ်သောစိတ်ထားကိုင်း၊ ဒိုအာတောင်းပေးခြင်းခံရသူ၏အဆင့်အတန်းကိုင်း တွေ့ရသည်။ ဤအချက်ကို ယနေ့ခေတ်အိုလမာပညာရှင်ဆိုသူများ၏အခြေအနေနှင့် နှိုင်းယှဉ်ကြည့်နိုင်သည်။ ၎င်းတို့သည် အချင်းချင်း ရန်ညှိုးများထားနေကြသည်။ တစ်ဦးနှင့်တစ်ဦး အမုန်းပွါးနေကြသည်။ မိမိတို့ကိုယ်ကို အိမာမ်ကြီးများ၏နောက်လိုက် မဇ်ဟဗ်ဝင်များဖြစ်သည်ဟု ပြောဆိုကြပြီး လက်တွေ့တွင် မိမိတို့၏ပြောဆိုမှုကို ဆန့်ကျင်ဘက်ပြုနေကြသည်။

အိမာမ်အဟ်မဒ်-က အိမာမ်ရှာဖအီ-သခင့်အတွက် ဒိုအာတောင်းပေးလွန်းသဖြင့် သားဖြစ်သူက– 'အိမာမ်ရှာဖအီဆိုသူသည် မည်သို့သောပုဂ္ဂိုလ်ဖြစ်သဖြင့် ဖခင်က ဤမျှလောက် ဒိုအာပြုပေးနေပါသနည်း'ဟု မေးပါသည်။ ထိုအခါ အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်-သခင်က 'ငါ့သား။ အိမာမ်ရှာဖအီ-ဆိုသူကား ဒွန်ယာလောကအတွက် နေမင်းကြီးက အရေးကြီးသလို၊ လူသားအတွက် ကျန်းမာခြင်းက အရေးကြီးသလို အရေးကြီးသည့်ပုဂ္ဂိုလ်ဖြစ်သည်။ စဉ်းစားကြည့်စမ်းပါ။ ဤအရာနှစ်ခုကို အစားထိုးနိုင်သည့်အရာ ရှိသလား'ဟု ရှင်းပြခဲ့သည်။

အိမာမ်အဟ်မဒ်-သခင်က 'လက်တွင် မင်ထိသူ* အားလုံးအပေါ်မှာ အိမာမ်ရှာဖအီ-၏ကျေးဇူးရှိသည်'ဟု ဆိုခဲ့သည်။ ယဟ်ယာအီဗ်နေ့ကွတ်တွာန်က ပြောဆိုသည်မှာ 'ကျွန်ုပ်သည် နှစ်ပေါင်းလေးဆယ်ကတည်းက အိမာမ်ရှာဖအီ-သခင့်အတွက် ဒိုအာတောင်းမပေးဘဲ နမာဇ်ဖတ်ခဲ့သည်ဟူ၍ မရှိပါ။ ဤသို့တောင်းပေးရခြင်းမှာ အလ္လာဟ်အရှင်က သခင့်အပေါ်တွင် ပညာကို ဖွင့်ပေးတော်မူပြီး၊ ထိုပညာအားဖြင့် မှန်ကန်သောလမ်းစဉ်ကို ညွှန်ပြခဲ့သောကြောင့်ဖြစ်သည်။'

အိမာမ်ရှာဖအီ-သခင်၏ဘဝသရုပ်ကို ဤမျှဖြင့် အကျဉ်းချုပ်လိုက်ရပေသည်။ အနည်းငယ်မျှသာဖြစ်သော်လည်း အတော်ပင် ခြုံငုံမိပါသည်။ ဤအကြောင်းအရာများထဲမှ အများစုကို ရှိုက်ခ်နဆ္ဖ်ရ်အီဗ်နေ့အီဗ်ရာဟီမ်မက္ကဒဗ်စီသခင်- ပြုစုသည့် အိမာမ်ရှာဖအီ-သခင်၏အတ္ထုပ္ပတ္တိမှ ကိုးကားဖော်ပြပါသည်။

## အိမာမ်မာလိက်-သခင်

အိမာမ်မာလိက်-သခင်သည်လည်း ဖော်ပြပါအကျင့်စာရင်းခုဖြင့် ပြည့်ဝသူဖြစ်သည်။ တစ်ကြိမ်တွင် သခင့်အား 'အို အိမာမ်မာလိက်၊ ပညာရှာဖွေခြင်းအပေါ်မှာ သခင်မည်သို့ အမိန့်ရှိလိုပါသနည်း'ဟုမေးခဲ့သည်။ သခင်က 'အလွန်ကောင်းမွန်သောအလုပ်ဖြစ်သည်။ သို့သော် နံနက်မှ ညနေအထိ အသင်နှင့် မခွဲမခွါနေသူ† ဖြင့်သာ အသင်ကလည်း နေပါလေ'ဟု ဆိုဆုံးမသည်။ အိမာမ်မာလိက်-သခင်သည် ဓမ္မပညာကို လွန်စွာပင် လေးစားရိုသေသူဖြစ်သည်။ ဟဒီစ်တော်တစ်ပုဒ်ကို သင်ပြတော့မည်ဆိုသည့်အခါ ပထမဆုံးဝုဇူပြုသည်။ ထို့နောက် မိမိအတွက် ခင်းထား

* 'လက်တွင် မင်ထိသူ'ဆိုသည်မှာ ပညာရှာဖွေသူများနှင့် ပညာရှင်များကိုဆိုလိုခြင်းသည်။

† 'နံနက်မှ ညနေအထိ အသင်နှင့်မခွဲမခွါနေသူ'– ပညာကို သဲသဲမဲမဲ ရှာဖွေနေသူ။

**သော**အခင်း၏ခေါင်းရင်းတွင် ထိုင်သည်။ မုတ်ဆိတ်ကို ဖြီးသင်ပြီး ရေမွှေး စွတ်သေးသည်။ ထို့နောက် အိန္ဒြေသမ္ပတိ**ကြီး**စွာဖြင့်ထိုင်ပြီးမှ ဟဒီစ်ကို ပို့ချသည်။ ဤသို့ပြုရသည့်အကြောင်းကို လူတို့က မေးသောအခါ 'ငါသည် ရစူလ်**ကိုယ်**တော်မြတ်ﷺ၏ဟဒီစ်တော်ကို အလေးအမြတ်ပြုရန် လိုလားသည်'ဟု ဆိုမိန့်လေသည်။

သခင်က 'ပညာသည် နူရ်အလင်းရောင်ဖြစ်သည်။ အလ္လာဟ်အရှင် အလိုရှိသူကို အလင်းပေးတော်မူသည်။ **သို့ဖြစ်**ရာ ဤသို့အလင်းရခြင်းသည် ရိဝါယတ်ဆင့်ပြန်မှု အများအပြားရှိသောကြောင့် မဟုတ်ပေ'ဟု မိန့်ဆိုခဲ့သည်။ **ယ**ခုလို ပညာကို အမြတ်တနိုး တန်ဘိုးထားလေးစားမှုက သခင့်တွင် အလ္လာဟ်အရှင်၏တန်ခိုးဂုဏ်တေဇော်ကို သိ**နား**လည်သော မအ်ရိဖတ်အသိထူး အားကောင်းပုံကို ပြသလျက်ရှိသည်။

သခင်သည် မိမိ၏ပညာဖြင့် အလ္လာဟ်အရှင် ကျေနပ်နှစ်သက်မှုကို လိုလားခဲ့သည်။ ထိုအချက်ကို သခင်၏ဆိုမိန့်မှုဖြင့် သိနိုင်သည်။ 'သာသနာနှင့်ပတ်သက်ပြီး အငြင်းပွါး ရန်ဖြစ်ရသည်ဆိုခြင်းသည် အခြေအမြစ်မရှိသောကိစ္စဖြစ်သည်'ဟု သခင်က ဆိုခဲ့သည်။ အိမာမ်ရှာဖအီသခင်၏ပြောဆိုချက်အရ ဤအချက်ကို ကောင်းစွာ သိနိုင်သည်။ အိမာမ်ရှာဖအီသခင်က 'ကျွန်ုပ်သည် အိမာမ်မာလိက်သခင်ထံတွင် ကိုယ်တွေ့တစ်ခုကြုံခဲ့ဘူးသည်။ လူတို့က သခင့်အား မေးခွန်းလေးဆယ့်ရှစ်ခု မေးရာ သခင်က မေးခွန်းသုံးဆယ်နှစ်ခုကို 'ကျွန်ုပ်မသိပါ'ဟု ဖြေခဲ့ခြင်းဖြစ်သည်။ တစ်စုံတစ်ဦးသည် မိမိ၏ပညာဖြင့် အလ္လာဟ်အရှင်၏ကျေနပ်မှုအပြင် အခြားအရာတစ်ခုခုကို အလိုထားမည်ဆိုလျှင် 'သူ မသိပါ'ဟု ဝန်ခံပြောဆိုရန် သူ့စိတ်က ရှောရှောရှူရှူ ရှိလိမ့်မည်မဟုတ်ပါ။ ထိုအတွက်ကြောင့် ရှာဖအီသခင်က 'ဓမ္မပညာရှင်များအကြောင်း ပြောကြပြီဆိုလျှင် အိမာမ်မာလိက်ကတော့ ထိန်လင်းသောကြယ်ပြောင်ကြီးဖြစ်ပါပေသည်။ အိမာမ်မာလိက်ထက် ပိုပြီး ကျွန်ုပ်အပေါ် ကျေးဇူးကြီးမားသူမရှိပါ'ဟု ပြောဆိုခဲ့သည်။

အဗ္ဗူဂျအ်ဖရ်မန်ဆူရ်ဘုရင်က သခင့်အား မက္ကရူဖြစ်သည့် တွလာက်အကြောင်း ဖေါ်ပြသောဟဒီစ်ကို ဆင့်ပြန်ပြောဆိုခြင်းမပြုရန် တားမြစ်ခဲ့သည်။ ထို့နောက် သခင် မသိအောင် လူလွှတ်၍ ထိုအကြောင်း မေးမြန်းခိုင်းခဲ့သည်။ ထိုသို့မေးသည်ကို သခင်က လူပုံအလယ်မှာပင် 'အတင်းအဓမ္မ အပေးခိုင်းသဖြင့် ပေးရသည့် တွလာက်သည် အထမမြောက်ပါ'*ဟု ဖြေကြားခဲ့သည်။ ထိုအတွက် ဘုရင်က သခင့်ကို ကြိမ်ဒဏ်ရိုက်ခဲ့သည်။ သို့နှင့်တိုင် သခင်သည် ထိုဟဒီစ်ကို ဆင့်ပြန်ပို့ချခြင်းမှ မစွန့်လွှတ်ခဲ့ပါ။ အိမာမ်မာလိက်သခင်က 'အကြင်သူသည် ဟဒီစ်ကို ဆင့်ပြန်ရာတွင် သစ္စာရှိမည်။ ထို့ပြင် ထိုဆင့်ပြန်မှုတွင် မုသားမပါလျှင် သူသည် မိမိအသိဉာဏ်ဖြင့် အကျိုးဖြစ်ထွန်းမည်ဖြစ်သည်။ ထိုသူ အသက်အရွယ်ကြီးရင့်သည့်အခါ ဒုက္ခကြုံတွေ့ရမည်မဟုတ်၊ မှတ်ဉာဏ်လည်း ချို့ယွင်းမည်မဟုတ်'ဟု မိန့်ဆိုခဲ့သည်။

သခင်၏ဇွဟ်ဒ် ခေါ် ဒွန္နယာကို အချစ်မထားသည့်အကြောင်း ဖေါ်ပြရမည်ဆိုလျှင်၊ အမီရွလ်မုအ်မီနီန်မဟ်ဒီဘုရင်က တစ်ကြိမ်တွင် သခင့်အား 'သခင့်မှာ ကိုယ်ပိုင်အိမ်ရှိသလား'ဟု မေးခဲ့သည်။ သခင်က 'မရှိပါ။ သို့သော်ဟဒီစ်တစ်ပုဒ် ကျွန်ုပ်ပြောပြမည်။ ကျွန်ုပ်သည် ရာဘီအာအိဗ်နေ့အဗီအဗ်ဒွရ်ရဟ်မာန်ထံမှ 'လူတစ်ဦး၏စပ်လျဉ်းစရာသည် သူ၏အိမ်ပင်ဖြစ်သည်'ဟူသော ဆိုမိန့်မှုကို ကြားနာခဲ့ရသည်'ဟု ပြောဆိုခဲ့သည်။ ဟာရွန်ရရှီဒ်ဘုရင်ကလည်းသခင့်အား တစ်ကြိမ်တွင် 'သခင်မှာ အိမ်ပိုင်ရှိသလား'ဟု မေးခဲ့သည်။ သခင်က 'မရှိပါ'ဟု ဆိုသောအခါ ရွှေဒင်္ဂါးသုံးထောင်ပေးပြီး 'ဒီရွှေများနဲ့ အိမ်တစ်လုံးဝယ်ပါ'ဟု ပြောသည်။ သခင်က ထိုရွှေဒင်္ဂါးများကို ယူထားလိုက်သည်။ သို့သော် ထိုရွှေဒင်္ဂါးများကို သုံးစွဲခြင်းမပြုခဲ့ပါ။

ဟာရွန်ရရှီဒ်ဘုရင်သည် မဒီနာမြို့တော်မှ ထွက်ခွါရန် ရည်ရွယ်သောအခါ အိမာမ်မာလိက်သခင်အား 'ကျွန်ုပ်တို့နှင့်အတူ သခင်လည်း လိုက်ခဲ့စေလိုပါသည်။ သခင်ပြုစုသည့် မုအတ်တွာကျမ်းကို လူတို့ စိတ်ဝင်စားလာရေး

*ဟနဖီတို့ထံ၌ အတင်းအဓမ္မပေးခိုင်းသဖြင့် ပေးသောတွလာက်သည် မက္ကရူအဖြစ် အထမြောက်သည်။ – ဘာသာပြန်သူ။

အတွက် ဆောင်ရွက်ရန် ကျွန်ုပ်ဆုံးဖြတ်ထားသည်။ အွစ္စမာန်ﷺသခင်က ကျမ်းမြတ်ကုရ်အာန်အရေးကို ဆောင်ရွက်ခဲ့သကဲ့သို့ဖြစ်ပါသည်'။ ထိုအခါ အီမာမ်မာလိက်~သခင်က ဟာရူန်ရရှီဒ်အား 'လူတို့အား မုအတ်တွာကျမ်းအတွက် ဆော်သြရန်မလိုအပ်ပါ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺမရှိသည့်နောက် ဆွဟာဗဟ်သခင်များ ﷺသည် မြို့ရွာနိုင်ငံအများအပြားသို့ ရောက်ရှိသွားခဲ့ကြသည်။ ထိုသခင်တို့သည် မိမိတို့ရောက်ရှိရာ မြို့ရွာများတွင် ဟဒီစ်တော်များကို ဆင့်ပြန်ပို့ချကြသည်။ ဤနည်းဖြင့် မြို့ရွာဒေသတိုင်းသို့ ဟဒီစ်ပညာရောက်ရှိသွားခဲ့ပြီဖြစ်သည်။ တမန်တော်မြတ်ﷺက-

اختلاف أمتي رحمة . (سنن تعليقا)

'ငါ၏အွမ္မတ်သားတို့ ကွဲလွဲစွာရှိခြင်းသည် အလ္လာဟ်အရှင်၏အသနားတော်ဖြစ်သည်'

ဟု မိန့်ဆိုသွားခဲ့သည်။ သို့ဖြစ်ရာ သင်နှင့်အတူ လိုက်ပါရန် အကြောင်းမရှိတော့ပါ။ ထို့ပြင် တမန်တော်မြတ်ﷺက-

المدينة خير لهم لو كانوا يعلمون . (خ.س)

'မဒီနာမြို့သည် ထိုမြို့တွင် ရှိသူများအတွက် အကောင်းဆုံးဖြစ်သည်။ ၎င်းတို့သိကြလျှင် ကောင်းပေစွ'

ဟု မိန့်ဆိုခဲ့သေးသည်။ ထို့ပြင် တမန်တော်မြတ်ﷺက-

المدينة ينفي خبثها كما ينفي الكير حيث الحديد . (خ.م)

'သံတွင် ကပ်ညိနေသောသံချေးကို မီးက ချွတ်ပေးသကဲ့သို့ မဒီနာမြို့သည် မိမိ၏ချေးညှော်ကို ချွတ်ပေးသည်'ဟု မိန့်ဆိုခဲ့သည်။

အီမာမ်မာလိက်~က ဆက်ပြီး 'ဤရွှေဒင်္ဂါးများသည် အသင်တို့ပေးခဲ့သည့်အတိုင်းပင် ရှိနေသည်။ အသင်တို့ ဆန္ဒရှိက ယူသွားကြ။ သို့မဟုတ် ထားလိုက ထားခဲ့ကြ'ဟု ပြောဆိုခဲ့သည်။ ဤစကားရပ်၏အဓိပ္ပါယ်မှာ 'သင်တို့က ကျွန်ုပ်ကို ရွှေဒင်္ဂါးများပေးမည်ဆိုပါက ဤသည် အသင်တို့၏ကျေးဇူးပြုမှုပင်ဖြစ်သည်။ သို့သော် ကျွန်ုပ်ကတော့ ရွှေဒင်္ဂါးများကို တမန်တော်မြတ်ﷺ၏မြို့ထက် ပိုပြီး အသာမပေးနိုင်ပါ'ဟု ဖြစ်သည်။

ဤသည်မှာ အီမာမ်မာလိက်~သခင်၏ဒွန္နယာကို အချစ်မထားပုံဖြစ်သည်။ သခင်၏ပညာရေးလုပ်ငန်းနှင့် မိမိ၏တပည့်များအတွက် အသုံးပြုရန် အနယ်နယ်အရပ်ရပ်မှ များပြားလှသောပစ္စည်းဥစ္စာများ ရောက်ရှိခဲ့ပြီး သခင်က ထိုပစ္စည်းများကို ကောင်းကျိုးကောင်းရာများ၌ ပေးကမ်းလိုက်သည်။ သခင်၏ဤရက်ရောမှုက သခင်၏ဇွုဟ်ဒ်ကိုငင်း ဒွန္နယာချစ်စိတ်နည်းပါးမှုကိုငင်း ညွှန်ပြလျက်ရှိသည်။ ပစ္စည်းဥစ္စာမရှိခြင်းကို ဇွုဟ်ဒ်ဟု မခေါ်ပါ။ ဇွုဟ်ဒ်ဆိုသည်မှာ ပစ္စည်းဥစ္စာကို နှလုံးသားက ဂရုမစိုက်ခြင်းကို ခေါ်သည်။ တမန်တော်ဆုလိုင်မာန်ﷺသခင်သည် မိမိအုပ်ချုပ်မင်းလုပ်နေသော တိုင်းပြည်နှင့်ပတ်သက်၍ ဇွုဟ်ဒ်လုပ်ခဲ့သူဖြစ်သည်။

အီမာမ်မာလိက်~သခင်က ဒွန္နယာကို အသေးအသိမ် မှတ်ယူပုံကို အီမာမ်ရှာဖအီ~သခင်၏ဆင့်ပြန်ပြောပြမှုဖြင့် သိရသည်။ သခင်က 'ကျွန်ုပ်သည် အီမာမ်မာလိက်၏အိမ်ပေါက်တွင် ခိုရာစာန်မြင်း (အချို့အပြောအရ အီဂျစ်မြင်း)အုပ်တစ်အုပ်ကို တွေ့ခဲ့ရသည်။ ကျွန်ုပ်သည် ထိုနေ့က မြင်ခဲ့ရသောမြင်းများထက် လှပသောမြင်းကို မမြင်ဘူးခဲ့ပေ။ သို့ဖြစ်ရာ ကျွန်ုပ်က အီမာမ်မာလိက်သခင်~အား 'မြင်းတွေကတော့ ချောပါပေ့ဗျာ'ဟု ပြောလိုက်မိသည်။ ထိုအခါ သခင်က 'အို အဗူအဗ်ဒုလ္လာဟ် ဒီမြင်းကတော့ ကျွန်ုပ်ဘက်က သင့်အတွက် လက်ဆောင်ဘဲ'ဟု ပြောပါ၏။ ထိုတွင် ကျွန်ုပ်က 'တစ်ကောင်တော့ ခင်ဗျားစီးဖို့ ထားပါဦး'ဟု ပြောသောအခါ သခင်က 'ကျွန်ုပ်သည် တမန်တော်မြတ်ﷺရှိနေသောမြေပေါ်တွင် ကျွန်ုပ်စီးနင်းသော မြင်း၏ခွါက ကျော်နင်းသွားလာရမည်ကို အလ္လာဟ်အရှင့်ထံတွင် ရှက်မိပါသည်'ဟု ရှင်းပြလေသည်။ အီမာမ်မာလိက်~သခင်၏ရက်ရောမှုကြီးကို ကြည့်ပါဦး။ ဤမျှ အဖိုးတန်သော အရာများကို တစ်ထိုင်တည်းနှင့် အပြီးပေးကမ်းလိုက်သည်။ ဤသို့ပေးခြင်းမှာလည်း မဒီနာမြို့၏မြေကြီးကို အလေးအမြတ်ပြုသောအားဖြင့် ဖြစ်နေသည်။

အိမာမ်မာလိက်ဂ်သခင်က မိမိ၏ပညာကို အကြောင်းပြုပြီး အလ္လာဟ်အရှင်၏မျက်နှာသာရမှု လိုလားခဲ့ပုံ၊ ထို့ပြင် ဒွန္နယာကို အသေးအသိမ်သဘောထားပုံကို ညွှန်ပြနေသည့်ဖြစ်ရပ်တစ်ခု လာရှိသေး၏။ သခင်က ပြောပြခဲ့သည်မှာ 'ကျွန်ုပ်သည် ဟာရူန်ရရှိဒ်ဘုရင်ထံ ရောက်ရှိသွားစဉ် ဘုရင်က ကျွန်ုပ်အား– 'အို အဗူအဗ်ဒွလ္လာဟ်၊ အသင်ကျွန်ုပ်တို့ဆီကို လာရောက်စေချင်သည်။ ကျွန်ုပ်၏ကလေးငယ်များ အသင့်ထံမှာ မုအတ်တွာကျမ်း ဆည်းပူးရန်ဖြစ်ပါသည်။' အိမာမ်မာလိက်ဂ်က ပြန်ပြောလိုက်သည့်စကားမှာ 'အလ္လာဟ်အရှင်သည် ဘုရင်မင်းမြတ်ကို ဂုဏ်ရှိန်ကြီးမြင့်အောင် ပြုတော်မူပါစေ။ ဤပညာသည် အသင်တို့ကုရိုက်ရှ်အထဲမှ ထွက်ပေါ်ခဲ့ခြင်းဖြစ်သည်။ အကယ်၍ အသင်တို့က ဤပညာကို ဂုဏ်ပေးလေးစားလျှင် ဤပညာ ဂုဏ်ရှိမည်။ အသင်တို့က ဤပညာကို သေးသိမ်အောင်လုပ်လျှင် ဤပညာ သေးသိမ်မည်။ ပညာဆိုသည်မှာ တကူးတကကန့် သွားယူရသောအရာဖြစ်သည်။ လိုချင်သူ့ထံ ရောက်လာသောအရာမဟုတ်ပါ။'

သခင်၏ပြောဆိုမှုကို ကြားလိုက်ရသောအခါ ဟာရူန်ရရှိဒ်ဘုရင်က 'သခင်၏စကားသည် မှန်ကန်ပေစွ'ဟု ဆိုခဲ့သည်။ ထို့နောက် ကလေးများဘက်သို့ လှည့်၍ 'မင်းတို့ ဗလီကို သွားပြီး မုအတ်တွာကျမ်းကို အခြားလူတို့နှင့်အတူ သင်ယူကြချေ'ဟု အမိန့်ပေးလေသည်။

## အိမာမ်အဗူဟာနီဖဟ်ဂ်သခင်

ဤသခင်ကြီးသည်လည်း ဒွန္နယာ အချစ်မထားသူ၊ အလ္လာဟ်အရှင်ကို များစွာအိဗာဒတ်ပြုသူဖြစ်လေသည်။ ထို့ပြင် အလ္လာဟ်အရှင်အား ကြောက်ရွံ့ခန့်ငြားသူ၊ ၎င်းမိမိ၏ပညာဖြင့် အလ္လာဟ်အရှင်ထံ မျက်နှာသာရမှုကို အလိုထားသူဖြစ်သည်။ သခင်၏အိဗာဒတ်များပြားခြင်းကို အီဗ်နေ့မုဘာရတ်က်ဂ်သခင်၏ဆင့်ပြန်မှုတစ်ခုအရ သိရသည်။ ၎င်းက 'အိမာမ်အဗူဟာနီဖဟ်ဂ်သခင်သည် ညာတာထောက်ထားပြီး လူသားစိတ်ရှိသူ၊ နမာဇ်ကို အမြောက်အမြားဖတ်ရွတ်သူဖြစ်သည်'ဟု ပြောပြသည်။ တဖန် ဟမ္မာဒ်အီဗ်နေ့အဗီဆုလိုင်မာန်ဂ်သခင်က 'သခင်သည် တစ်ညလုံးနိုးထပြီး အိဗာဒတ်တွင် ရှိနေသူဖြစ်သည်'ဟုပြောပြသည်။ အဆိုရှိသည်မှာ သခင်သည် ပထမပိုင်းတွင် ညဉ့်တစ်ဝက်သာနိုးထခဲ့သည်။ တစ်နေ့၌ လူတစ်ဦးက အခြားတစ်ဦးအား လမ်းလျှောက်နေသောသခင့်ဘက်သို့ ညွှန်ပြပြီး 'ဤပုဂ္ဂိုလ်သည် တစ်ညလုံး မအိပ်ဘဲနေသူဖြစ်သည်'ဟု ပြောဆိုခဲ့သည်။ ထိုစကားကြားပြီးနောက် သခင်သည် အမြဲပင် တစ်ညလုံး မအိပ်ဘဲနေခဲ့တော့သည်။ သခင်က 'ကျွန်ုပ်အပေါ် လူတို့ ဂုဏ်ပေးပြောဆိုနေကြသလောက် အိဗာဒတ်ပြုသူမဖြစ်မှာကို ကျွန်ုပ် အလ္လာဟ့်ထံတွင် ရှက်လှပါသည်'ဟု ပြောဆိုခဲ့သည်။

သခင်၏ဒွန္နယာ အချစ်မထားပုံကို ရာဘီအ်အီဗ်နေ့အာဆွင်မ်၏ပြောပြချက်ဖြင့် သိနိုင်သည်။ ၎င်းက 'ကျွန်ုပ်အား ယဇီဒ်အီဗ်နေ့အိုမရ်အီဗ်နေ့ဟုဘိုင်ရာက အခေါ်လွှတ်သဖြင့် အိမာမ်အဗူဟာနီဖဟ်သခင့်ဂ်ကို ခေါ်ပေးခဲ့ရသည်။ ယဇီဒ်က သခင့်ကို ဗိုင်တွလ်မလ်–အစ္စလာမ့်ဘဏ္ဍာတိုက်၏အုပ်ချုပ်ရေးမှူးအဖြစ် ထမ်းရွက်ရန် လိုလားနေခဲ့သည်။ သို့သော် သခင်က ငြင်းဆန်ခဲ့သည်။ ထိုအတွက် ယဇီဒ်က အိမာမ်အဗူဟာနီဖဟ်သခင့်ဂ်ကို ကြိမ်ဒဏ်အချက်နှစ်ဆယ် ရိုက်ခဲ့သည်'ဟု ပြောပြသည်။

ကြည့်ပါလေ။ အိမာမ်သခင်ဂ်သည် ပြစ်ဒဏ်ခံရဖို့ရှိမှန်း သိပါလျက် အုပ်ချုပ်ရေးမှူးတို့ထံ သွားရောက်ရင်ဆိုင်ခဲ့သည်။ ဟကမ်အီဗ်နေ့ဟိရှာမ်စကဖီဂ်က ပြောဆိုသည်မှာ 'ကျွန်ုပ်အား ရှာမ်နိုင်ငံတွင် ပုဂ္ဂိုလ်တစ်ဦးက အိမာမ်အဗူဟာနီဖဟ်သခင်ဂ်၏အကြောင်းကို ပြောပြခဲ့ပါသည်။ သခင်သည် လူတို့တွင် ယုံကြည်အပ်နှံမှုကို အလေးစားဆုံးပုဂ္ဂိုလ်ဖြစ်သည်။ ဘုရင်က သခင့်ကို မိမိဘဏ္ဍာတိုက်၏သော့များနှင့်ကြိမ်ဒဏ် ကြိုက်ရာရွေးစေရာ သခင်က ဘုရင်

**ပေးမည့်ပြစ်ဒဏ်ကို ရွေးခဲ့**သည်။ သခင်သည် အလ္လာဟ်အရှင်ပေးမည့် ပြစ်ဒဏ်ကို ပို၍ကြောက်သောကြောင့် ဤသို့ **ရွေးခဲ့ခြင်းဖြစ်သည်။** အခြားဆင့်ပြန်မှုတစ်ခုတွင် အီမာမ်အဗူဟနီဖဟ်သခင်(ရ)၏အကြောင်းကို အီဗ်နေ့မုဘာရပ်က်(ရ) **သခင်၏ရှေ့တွင် သွား**ပြောသောအခါ သူက 'အသင်တို့သည် ဒွန္နယာတစ်ခုလုံး၏ပစ္စည်းဥစ္စာများကို ပုံပေးခြင်းခံရ **ပြီး ထိုပစ္စည်းဥစ္စာများ**မှ ရှောင်ခွါထွက်ပြေးသူအကြောင်းကို ပြောဆိုနေကြသလော'ဟု ဆိုခဲ့သည်။

**မုဟာမ္မဒ်အီဗ်နေ့ရှိုဂျာအ်**က မိမိဆရာများထံမှတဆင့် ပြောပြသည်မှာ– 'လူတို့သည် အီမာမ်အဗူဟနီဖဟ်(ရ)ထံ **ရောက်လာကြပြီး** 'သခင့်အတွက် အမီရွလ်မုအ်မီနီန် အဗူဂျအ်ဖရ်မန်ဆူရ်က ငွေဒင်္ဂါးတစ်သောင်းပေးရန် အမိန့်ပေး လိုက်ပါသည်'ဟု တင်ပြကြသည်။ အီမာမ်သခင်က လက်မခံခဲ့ပါ။ ငွေဒင်္ဂါးများရောက်မည့်နေ့၌ သခင်သည် ဖဂျရ် **နမာဇ်ဖတ်**ပြီးနောက် ခေါင်းမြီးခြုံထားခဲ့သည်။ မည်သူနှင့်မှလည်း စကားမပြောတော့ချေ။ ဟစ်အီဗ်နေ့ကဟ်တွဘာ **၏အစေတော်**က ငွေထုပ်ဖြင့် ရောက်လာပြီး သခင့်ထံဝင်သည်။ သူ့ကိုလည်း စကားမပြောပါ။ အပါးတွင် ရှိနေသူ **များက** 'သခင်သည် ကျွန်ုပ်တို့ကိုလည်း စကားမပြောပါ။ တစ်ခွန်းပြောလျှင် တစ်ခွန်းသာ ပြန်ပြောပါသည်'ဟု ပြော **ပြကြ၏**။ ဆိုလိုသည်မှာ ဤသို့မပြောခြင်းသည် သခင်၏အကျင့်ဓလေ့ဖြစ်သည်။

သခင်က 'ငွေထုပ်ကို အိမ်၏ထောင့်တစ်နေရာမှာ ထားခဲ့ကြပါ'ဟု ပြောသည်။ အတန်ကြာပြီးနောက်တွင် အီမာမ်အဗူဟနီဖဟ်သခင်(ရ)က မိမိအိမ်တွင် ရှိနေသော ပစ္စည်းနှင့်ပတ်သက်၍ မိမိသားကို မှာတမ်းပြောဆိုခဲ့သည်။ သခင်က 'ငါသေလျှင် ငါ့ကို မြှုတ်နှံကြပြီးသည်နှင့် ထိုအထုပ်ကို ဟစ်အီဗ်နေ့ကဟ်တွဘာဆီကို သွားပေးပါ။ သူ့ကို ခင်ဗျား အဗူဟနီဖဟ့်ထံမှာ အပ်နှံထားသည့်အရာကို ပြန်ယူပါဟု ပြောပါ'ဟု မှာကြားခဲ့သည်။

နောင်တွင် အီမာမ်သခင်၏သားက ပြောပြသည်မှာ 'ကျွန်ုပ်သည် ဖခင်မှာသည့်အတိုင်းပြုလုပ်ခဲ့ပါသည်။ ထို အခါ ဟစ်အီဗ်နေ့ကဟ်တွဘာက 'သင်၏ဖခင်ကြီးအား အလ္လာဟ်အရှင် ရဟ်မတ်ပြုတော်မူပါစေ။ သူသည် မိမိ၏ သာသနာရေးကို အလွန်ထိန်းသိမ်းခဲ့သူဖြစ်သည်'ဟု ပြောဆိုခဲ့၏။

အီမာမ်အဗူဟနီဖဟ်(ရ)သခင်အား တရားသူကြီးအဖြစ် တာဝန်ယူရန် ဖိတ်ခေါ်ခဲ့သည့်အကြောင်း ဆင့်ပြန်မှု လာရှိသေးသည်။ ထိုအခါမှာ သခင်က '**ကျွန်ုပ်**သည် ဤရာထူးနှင့် မထိုက်တန်ပါ'ဟုပြောခဲ့သည်။ လူတို့က သခင့် **အား** 'ဘာကြောင့်ပါလဲ'ဟုမေးကြသည်။ **သခင်က** 'ကျွန်ုပ်က ဟုတ်တိုင်းမှန်ရာ ဆိုခဲ့လျှင်လည်း ထိုရာထူးနှင့် ထိုက် **တော့မည်**မဟုတ်။ ကျွန်ုပ်က မုသားဆိုခဲ့လျှင်လည်း မုသားဆိုသူသည် တရားသူကြီးဖြစ်ရန် မထိုက်တန်ပါ'ဟု ရှင်း **ပြသည်။**

**အီမာမ်အဗူဟနီဖဟ်**(ရ)၏အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခန့်ငြားမှုနှင့် **ဒွန္နယာကို** အချစ်မထားမှုများက သခင် **၏အာခိရတ်လမ်းဆိုင်ရာပညာ**နှင့်သာသနာရေးပညာများ တတ်ကျွမ်းပုံနှင့် အလ္လာဟ်အရှင်ကို သိသည့် မအ်ရိဖတ် **အသိထူးများ ပြည့်လျှမ်းပုံကို ညွှန်**ပြလျက်ရှိသည်။ အီဗ်နေ့အခ်ရီဂျ်က 'အသင်တို့ ကူဖါမြို့သားကြီးနအ်မာန်အီဗ်နေ့ ဆာဗစ်တ်(**အီမာမ်အဗူဟနီဖဟ်)သည်** အလ္လာဟ်အရှင်ကို အထူးကြောက်ရွံ့ခန့်ငြားသူဖြစ်ကြောင်း ကျွန်ုပ်ထံ သတင်း **စကား**ရောက်လာသိ**ရှိရသည်'ဟု ဆိုခဲ့**သည်။ ရှရီက်နခ်ရီကလည်း 'အဗူဟနီဖဟ်သခင်သည် ကြာရှည်စွာနှုတ်ဆိတ် နေတတ်သူ၊ အမြဲစဉ်း**စားတွေးတောနေသူ**၊ လူတို့နှင့် စကားအပြောအဆို နည်းသူဖြစ်သည်'ဟု ပြောပြခဲ့သည်။ ဤ **အချက်**များက သခင်၏**အတွင်းပညာနှင့် သာ**သနာကိုျုပမ်းဆောင်ရွက်မှုတွင် နစ်မွန်းနေသူဖြစ်ကြောင်း ရှင်းလင်းစွာ သိရသည်။ အကြင်သူ့အား **နှုတ်ဆိတ်၍နေနိုင်မှု**နှင့် ဒွန္နယာအချစ်မထားမှု ချီးမြှင့်ခြင်းခံရပြီဆိုလျှင် သူသည် ပညာ **ရပ်**အားလုံး ချီးမြှင့်ခံရခြင်းပင်ဖြစ်သည်။

ဤသည်တို့မှာ အီမာမ်ကြီးသုံးပါး၏ဘဝသနစ် အနည်းငယ်ဖြစ်သည်။

အထက်ပါသခင်များနှင့် နှိုင်းယှဉ်လျှင် အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘာလ်နှင့် ဆွဖ်ယန်စောရ်ရီသခင်နှစ်ပါး၏ နောက်လိုက်များမှာ နည်းပါသည်။ ဆွဖ်ယန်စောရ်ရီ၏ နောက်လိုက်မှာ အိမာမ်အဟ်မဒ်ထက်ပင် နည်းသေးသည်။ သို့နှင့်တိုင် ထိုသခင်နှစ်ပါး၏ အလ္လာဟ်အရှင့်ကို အကြောက်ထားမှုနှင့် ဒွန္နယာစွန့်မှုတို့မှာ ထင်ရှားပြီးဖြစ်ပေသည်။ တဖန် ဤကျမ်းတစ်စောင်လုံးသည် ထိုသခင်နှစ်ပါး၏ ဆောင်ရွက်ချက်များ၊ ပြောဆိုမှုများအကြောင်း ဖေါ်ပြချက်များဖြင့် ပြည့်နှက်နေပေသည်။ သို့ဖြစ်ရာ ထိုအကြောင်းအသေးစိတ်များကို ယခုဖေါ်ပြရန် မလိုတော့ချေ။

ယခု ဤအိမာမ်ကြီးသုံးပါး၏ အကြောင်းအရာ အတ္ထုပ္ပတ္တိများကို စဉ်းစားကြည့်ပါ။ ထို့နောက် အထက်တွင် ဖေါ်ပြထားသည့် ဤသခင်တို့၏ ဘဝအခြေအနေများ၊ ပြောဆိုမှုများနှင့် ဤသခင်တို့၏ ဆောင်ရွက်ချက်များကို သုံးသပ်စီစစ်ပါ။ ဤဖေါ်ပြချက်များဖြင့် ဤသခင်တို့၏ ဒွန္နယာကို ဥပက္ခာပြုခဲ့ကြခြင်းကိုငှ်း၊ အလ္လာဟ်အရှင့်အတွက် သီးသန့်ဖြစ်ခဲ့ကြခြင်းကိုငှ်း သိရှိနိုင်သည်။ သို့ဖြစ်ရာ ဤအရာများမှ ရရှိသည့်အသီးအပွင့်သည် ဖိကဟ်၏ အခွဲအလက်များကို သိရသည့်အသိပညာမျှသာဖြစ်သလော။ သို့မဟုတ် ဖိကဟ်၏ အခွဲအလက်များထက် ပို၍အဆင့်မြင့်ပြီး မြင့်မြတ်မှုရှိသည့် အခြားပညာရပ်တစ်ခုဖြစ်သလော။ ဖိကဟ်၏ အခွဲအလက်ဆိုရာမှာ ဥဒါဟရဏ်အားဖြင့် ဆလ္လာမ် ရောင်းဝယ်မှု၊ *အိဂျာရာ*၊ ဇွေဟာရ်ကျိမ်ဆိုခြင်း၊ *အိလာအ်ကွာရှင်းခြင်း*၊ *လေအာန်ကွာရှင်းခြင်း*တို့ဖြစ်သည်။

ထို့နောက် မိမိတို့ကိုယ်ကို 'ထိုသခင်ကြီးများ၏ နောက်လိုက်များ ဖြစ်ပါသည်' ဟု ကြွေးကြော်နေသူများကို လည်း ကြည့်ပါဦး။ ထိုသူတို့၏ ကြွေးကြော်ချက်သည် မှန်ပါ၏လော။ သို့မဟုတ် မှားနေသလော။



အခန်း သုံး

# လူတို့က ကောင်းမြတ်သောပညာဟု သတ်မှတ်ထားသော်လည်း မဟုတ်သည့်အကြောင်း

**ဤအခန်း၌ အချို့ပညာရပ်များ၏ဆိုးယုတ်ရသည့်အကြောင်းကိုင်း။ ဗိကာဟ်၊ အိလ်မ်၊ တောင်ဟီဒ်၊ တင်ကီရ်၊ ဟီကမ်တ်- စသည့် သိမှုဆိုင်ရာအမည်များ ပြောင်းလဲလာခြင်းအပေါ် ရှင်းပြချက်ကိုင်း။ ရှရီအတ်ပညာရပ်များ၏ကောင်းမြတ်မှုအတိုင်းအတာနှင့် ဆိုးယုတ်သောပညာရပ်များ၏ဆိုးယုတ်မှု အတိုင်းအတာတို့ကို ဖော်ပြထားသည်၊**

## ဆိုးယုတ်သောပညာ၏ဆိုးယုတ်ရခြင်းအကြောင်း

အသင်က 'ပညာဆိုသည်မှာ အရာတစ်ခုကို ရှိနေသည့်အတိုင်း သိခြင်းဖြစ်သည်။ ထိုသိခြင်းသည် အလ္လာဟ် အရှင်၏ဂုဏ်တော်များထဲမှလည်းဖြစ်သည်။ သို့ဖြစ်ရာ တစ်စုံတစ်ခုကို သိထားရုံဖြင့် အဘယ်ကြောင့် ဆိုးယုတ်သော ပညာဖြစ်ရပါသလဲ'ဟု ပြောကောင်းပြောလိမ့်မည်။ အသင်သိရမည်မှာ ပညာသည် သူ့ချည်းသက်သက်က ဆိုးယုတ် သည် မဟုတ်ချေ။ အမှန်မှာတွင် လူတို့တွင် ဖြစ်ပေါ်သည့် အကြောင်းသုံးခုအနက် တစ်ခုခုကြောင့် ဆိုးယုတ်ရခြင်း ဖြစ်သည်။

**ပထမအကြောင်း**– ပညာတတ်မြောက်သူကိုယ်တိုင်ကိုဖြစ်စေ အခြားတစ်ဦးဦးကိုဖြစ်စေ ဘေးအန္တရာယ်ဖြစ်စေသော ကြောင့် ပညာသည် ဆိုးယုတ်ရသည်။ ဥပမာ ပရောဂပညာနှင့် အင်းအိုင်လက်ဖွဲ့ပညာသည် တကယ်ရှိနေသောပညာ ဖြစ်သည်။ ဤအချက်ကို ကျမ်းမြတ်ကုရ်အာန်က ထောက်ခံထားသည်။ ဤပညာကို အကြောင်းပြုပြီး ဇနီးမောင် နှစ်ဦး ကွာရှင်းပြတ်စဲအောင် ပြုလုပ်ခဲ့သည့်အကြောင်း ကျမ်းတော်တွင် ဖော်ပြထားသည်။ တမန်တော်မြတ်ﷺသည် ပင် ပရောဂပြုခြင်းခံခဲ့ရပြီး ထိုပရောဂကြောင့် ကိုယ်တော်ﷺမကျန်းမမာဖြစ်ခဲ့သည်။ ပရောဂပြုထားသည့်အကြောင်း ဂျီဗ်ရီလ်ﷺသခင်က တမန်တော်မြတ်ﷺအား အသိပေးတင်ပြခဲ့သည်။ ထိုတွင် ပရောဂအစီအရင်ကို ရေတွင်းအရေး ရှိ ကျောက်တုံးတစ်တုံးအောက်မှ ထုတ်ယူရရှိခဲ့သည်။(၂၄)

ပရောဂသည် ပညာကို အသုံးချရသော လုပ်ရပ်တစ်ခုဖြစ်သည်။ ရုပ်ဝတ္ထုတို့၏ထူးခြားသော ဂုဏ်သတ္တိနှ ကြိုဟ်စီးကြိုဟ်နင်းကို တွက်ချက်ဖော်ထုတ်ရသောပညာဖြစ်သည်။ ပရောဂအစီအရင်ပြုမည့်ပုဂ္ဂိုလ်၏ပုံစံကို ထိုရုပ်ဝတ္ထု များဖြင့် ပုံဖော်ယူရသည်။ ထို့နောက် နက္ခတ်ပေါ်ထွက်မည့် သီးသန့်အချိန်ကို စောင့်ပြီး ကွဖ်ရ်မှုဖြစ်သော မန္တရားစ

သားများကို ရွတ်ဆိုရသည်။ ထိုစာသားများသည် ဆိုးရွားလှပြီး ရှရီအတ်နှင့်ဆန့်ကျင်ဘက်အရာများဖြစ်သည်။ ထို့ပြင် ရှိင်တွာန်များထံ အကူအညီတောင်းခံသည့်အစီအရင်များ ပြုလုပ်ရသည်။ အလ္လာဟ်အရှင်၏အဆုံးအဖြတ်ဓလေ့တော်အရ ဤလုပ်ရပ်များအားလုံးက ပရောဂပြုခံရမည့်ပုဂ္ဂိုလ်အပေါ် ထူးခြားသောအခြေအနေများ သက်ရောက်ဖြစ်ပေါ်စေသည်။

ဤအကြောင်းခံအသိများကို သိရှိခြင်းသည် အသိတစ်ခုအနေနှင့် ဆိုးယုတ်မှုမဟုတ်ပေ။ သို့သော် ဤအသိသည် အဖန်ဆင်းခံတို့အား ဒုက္ခအန္တရာယ်ပေးရန်အတွက်သာ အသုံးကျသောအရာဖြစ်သည်။ မကောင်းဆိုးယုတ်မှုကို အထောက်အကူပြုသည့်အရာသည် မကောင်းဆိုးယုတ်မှုပင်ဖြစ်သည်။ ဤအတွက်ကြောင့် ပရောဂပညာကို သိခြင်းသည် ဆိုးယုတ်သောအသိပညာဖြစ်ရသည်။

တစ်စုံတစ်ယောက်က သူတော်ကောင်းအသိုင်းအဝိုင်းထဲမှ ပုဂ္ဂိုလ်တစ်ဦးကို သတ်ရန်လိုက်သည်။ သူတော်ကောင်းက ထိုသူ၏ရန်မှ လုံခြုံသောနေရာတွင် ပုန်းအောင်းသည်။ ထိုအခါ သတ်မည့်သူက ပုန်းသည့်နေရာကို မေးလာလျှင် ပြောပြခွင့်မရှိချေ။ သို့မှုမက ထိုအခြေအနေတွင် လိမ်ပြောရန် ဝါဂျိဗ်တာဝန်ဖြစ်သည်။ ဤနေရာတွင် သူတော်ကောင်း၏နေရာကို ပြောပြလမ်းညွှန်ခြင်းသည် တစ်နည်းအားဖြင့် အမှန်အတိုင်း ထုတ်ဖော်အသိပေးခြင်းသာဖြစ်သည်။ သို့ရာတွင် ဤအသိပေးမှုကို အခြေခံပြီး ဒုက္ခအန္တရာယ်ပေးလာနိုင်ခြင်းသဖြင့် ဆိုးယုတ်သောအရာဖြစ်ရသည်။

**ဒုတိယအကြောင်း**– ထိုပညာက များသောအားဖြင့် တတ်ထားသူကို ဘေးဒုက္ခဖြစ်စေသည်။ ဥပမာ နက္ခတ်ပညာဖြစ်သည်။ ဤပညာသည် ပင်ကိုယ်အရ ဆိုးယုတ်သောအရာမဟုတ်ပေ။ တဖန် နက္ခတ်ပညာသည် နှစ်မျိုးနှစ်စားရှိနေလေသည်။

**ပထမတစ်မျိုး**သည် တွက်ချက်မှုဆိုင်ရာ နက္ခတ်ပညာဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်တွင် နေနှင့်လ၏သွားလမ်းသည် ချိန်ကိုက်တွက်ချက်မှုအရဖြစ်သည်ဟု ဖော်ပြထားသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿اَلشَّمْسُ وَ الْقَمَرُ بِحُسْبَانٍ﴾

**'နေနှင့်လတို့သည် ချိန်ကိုက်တွက်ချက်မှုတစ်ခုစီအရ ဖြစ်သည်။'** (စူရာရဟ်မာန် ၊ ၅)

ထို့ပြင် အလ္လာဟ်အရှင်က–﴿وَ الْقَمَرَ قَدَّرْنَاهُ مَنَازِلَ حَتّٰى عَادَ كَالْعُرْجُوْنِ الْقَدِيْمِ﴾

**'ထို့နောက် ငါအရှင်က လကို စခန်းစဉ်များ သတ်မှတ်ပေးထားတော်မူရာ ၎င်းသည် နောက်ဆုံးတွင် စွန်ပလွန်ကိုင်းခြောက်ကဲ့သို့ဖြစ်သွားရသည်။'** (စူရာယာစီန် ၊ ၃၉)

**ဒုတိယအမျိုး**မှာ ပြဋ္ဌာန်းမှုဆိုင်ရာနက္ခတ်ပညာဖြစ်သည်။ ယင်းသည် နိမိတ်လက္ခဏာများနှင့် အကြောင်းခံအချက်အလက်များကို အခြေခံပြီး ဖြစ်လာလတ္တံ့သောဖြစ်ရပ်အကြောင်းအရာများကို သိရှိခြင်းဖြစ်သည်။ ဆေးဆရာက သွေး၏အနေအထားညွှန်ပြချက်ကို စမ်းသပ်ပြီး ရောဂါဘယ်လိုရှိမည်ကို ကြိုတင်ပြောဆိုသကဲ့သို့ဖြစ်သည်။ ယင်းပညာကို သိခြင်းသည် အလ္လာဟ်အရှင်က မိမိ၏အဖန်ဆင်းခံလူသားတို့အပေါ် ပြုမြဲဓလေ့တော်ကို သိခြင်းဖြစ်သည်။ သို့သော် ဤပညာကို ရှရီအတ်က မကောင်းသောပညာဟု သတ်မှတ်ထားသည်။ တမန်တော်မြတ်ﷺက–

وإذا ذكر القدر فأمسكوا وإذا ذكرت النجوم فأمسكوا وإذا ذكر أصحابي فأمسكوا. (طب)

'တက္ကဒီရ်အကြောင်း ပြောဆိုသည့်အခါ နှုတ်ဆိတ်နေလိုက်ပါ။ ဂြိုလ်နက္ခတ်များအကြောင်း ပြောဆိုသည့်အခါ နှုတ်ပိတ်နေလိုက်ပါ။ ထို့ပြင် ငါ၏ဆွဟာဗဟ်များအကြောင်းကို ပြောဆိုသည့်အခါမှာလည်း နှုတ်ပိတ်နေပါလေ။'

ထို့ပြင် တမန်တော်မြတ်ﷺက–

أخاف على أمتي بعدي ثلاثًا : حيف الأئمة ، و الإيمان بالنجوم ، و التكذيب بالقدر . (بر)

'ငါ မရှိသည့်နောက် ငါ၏အုမ္မတ်အတွက် သုံးခုသောအရာကို စိုးရိမ်သည်။ ခေါင်းဆောင်များ၏ ညှင်းပန်းနှိပ်စက်ခြင်း၊ နက္ခတ်ကို အယုံအကြည်ထားခြင်းနှင့် တက္ကဒီရ်ကို ငြင်းပယ်ခြင်းတို့ဖြစ်သည်။'

**အိုမရ်အိဗ်နေ့ခတ္တာဗ်**ﷺသခင်က 'ကုန်းကြောင်းနှင့် ရေကြောင်းတွင် လမ်းရှာနိုင်သည်ခန့် နက္ခတ်ပညာကို သင်ယူကြ။ ထို့ထက်လွန်၍ကား တိတ်ဆိတ်စွာနေပါ။'

**နက္ခတ်ပညာကို မသင်ရန် တားမြစ်ခြင်းသည် အကြောင်းသုံးခုကြောင့်ဖြစ်သည်။**

**ပထမတားမြစ်ရခြင်းအကြောင်း–** နက္ခတ်ပညာသည် လူသားအများစုအတွက် အန္တရာယ်ရှိသောကြောင့်ဖြစ်သည်။ အန္တရာယ်ရှိပုံမှာ ကြယ်နက္ခတ်များ၏သွားလာမှုကြောင့် ဤအကျိုးဆက်များ ဖြစ်ပွါးသည်ဟု သိကြရသောအခါ လူတို့၏စိတ်တွင် 'ကြယ်နက္ခတ်များသည် ကောင်းကျိုးဆိုးကျိုးကို ဖြစ်စေသည်။ ၎င်းတို့သည် ကြိုးကိုင်စီမံနေသော ဘုရားများဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကြယ်နက္ခတ်တို့သည် မိုးကောင်းကင်မှ မြင့်မြတ်သောရုပ်အခြေခံများ ဖြစ်ကြသည်'ဟု အစွဲဝင်သွားတော့မည်ဖြစ်သည်။ ထို့ပြင် စိတ်နှလုံးတွင် စွဲနေသော ၎င်းကြယ်နက္ခတ်တို့ကို အလေးအမြတ်ပြုကြတော့မည်ဖြစ်သည်။ ထို့ပြင် စိတ်နှလုံးသည် ၎င်းတို့ဘက်သို့ မပြတ်မစဲအာရုံတွယ်နေမည်။ အကောင်းနှင့် အဆိုးသည် ထိုကြယ်နက္ခတ်တို့ဘက်မှ လာခြင်းဖြစ်သည်ဟု အသိထဲတွင် မြဲနေမည်။ ထိုအခါ အလ္လာဟ်အရှင်အား သတိရခြင်းသည် နှလုံးသားမှ ပျောက်ကွယ်သွားမည်ဖြစ်သည်။

အသိအားနည်းသူသည် အထောက်အကူအရာများကိုသာ မြင်နိုင်သည်။ စစ်မှန်သောပညာရှင်ကမူ နေ၊ လနှင့် ကြယ်နက္ခတ်များသည် အလ္လာဟ်အရှင်၏အမိန့်ကို နာခံသွားလာနေကြကြောင်း နားလည်သဘောပေါက်သည်။ သို့သော် အသိအားနည်းသူက နေရောင်ခြည်သည် နေလုံးထွက်ပေါ်မှုကြောင့် ဖြစ်လာသောအရာဟု နားလည်သည်။ ပမာအားဖြင့် ပုရွက်ဆိတ်တွင် စဉ်းစားဉာဏ်ရှိသည်ဆိုကြပါစို့။ ပုရွက်ဆိတ်သည် စက္ကူတစ်ရွက်ပေါ်တွင် ရှိနေပြီး ကလောင်၏မင်အနက်ကြောင့် မဲနက်သောစာကြောင်းပေါ်လာသည်ကို သူကမြင်သည်။ ထိုအခါ သူက မဲနက်သောစာကြောင်းသည် ကလောင်တန်၏လုပ်ရပ်ဖြစ်သည်ဟုယုံကြည်သွားသည်။ ပုရွက်ဆိတ်အဖို့ ကလောင်တန်ကို ကိုင်ကိုင်ထားသည့်လက်ချောင်းများကိုငှင်း၊ ထိုမှ လက်ဆီသို့ငှင်း၊ ထိုမှ လက်ကို လှုပ်ရှားစေသားရန် ဆန္ဒထားမှုသို့ငှင်း၊ ထိုမှ ဆန္ဒပြုအကောင်အထည်ဖော်နိုင်သော စာရေးသူကိုငှင်း၊ ထိုမှတဆင့် ထိုလက်ထိုအစွမ်းထိုဆန္ဒကို ဖန်ဆင်းစီမံတော်မူသောအရှင်အားငှင်း၊ အဆင့်ဆင့်တက်လှမ်း သိမြင်နိုင်ခြင်းမရှိပေ။ ဤနည်းအလားတူ လူသားအများစုသည် မိမိတို့၏အနီးကပ်တွင်ရှိသော အောက်အဆင့်အကြောင်းခံများကိုသာ အမြင်တိုတိုဖြင့် မြင်နိုင်ကြသည်။ ၎င်းတို့သည် အကြောင်းခံများကို အကြောင်းပြုရာဖြစ်တော်မူသောအရှင်ကို တက်လှမ်းသိမြင်နိုင်ခြင်းမရှိကြပေ။ ဤအချက်သည် ပင် နက္ခတ်ပညာကို တားမြစ်ရခြင်း၏အကြောင်းတစ်ချက်ဖြစ်သည်။

**ဒုတိယတားမြစ်ရခြင်းအကြောင်း–** နက္ခတ်များက ပြဋ္ဌာန်းစီရင်သည်ဆိုခြင်းမှာ မှန်းဆချက်သက်သက်ဖြစ်သည်။ ဤအချက်ကို မည်သူတစ်ဦးတစ်ယောက်မှ ကျိန်းသေတပ်အပ် မသိကြပေ။ ထင်မြင်ယူဆချက်သဘောလောက်ပင် မသိကြပေ။ ဤကဲ့သို့မရေမရာအသိကို အခြေခံပြီး အဆုံးအဖြတ်ပြုခြင်းသည် မသိမိုက်မဲမှုအပေါ်မှာ အဆုံးအဖြတ်ပြုခြင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ နက္ခတ်ပညာကို မကောင်းဆိုးယုတ်မှုအဖြစ် ပြစ်တင်ရှုံ့ချခြင်းသည် အသိပညာတစ်ခုအနေဖြင့် မဟုတ်ဘဲ၊ မသိမိုက်မဲမှုတစ်ခုအနေဖြင့် ပြစ်တင်ရှုံ့ချခြင်းဖြစ်သည်။

နက္ခတ်ပညာသည် တမန်တော်အိဒ်ရီစ်ﷺသခင်အတွက် မုအ်ဂျိဇာဖြစ်ခဲ့သည်။ ဤအတိုင်းပင် ဖော်ပြလာရှိသည်။ ထို့နောက် ဤပညာသည် တိမ်ကောပျောက်ကွယ်သွားခဲ့သည်။ အကယ်၍ နက္ခတ်ဆရာ ဟောသည့်အတိုင်း

ကြုံကြုံကြိုက်ကြိုက် ဖြစ်လာခဲ့မည်ဆိုလျှင်လည်း ဤသည်မှာ တိုက်ဆိုင်မှုသာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ၎င်းသည် ရံဖန်ရံခါ အချို့သောအကြောင်းခံများကို သိရှိနိုင်သောကြောင့်ဖြစ်သည်။ ဤသို့အကြောင်းခံကို သိရန်ဆိုသည်မှာလည်း များစွာသော စည်းကမ်းချက်များနှင့် ကိုက်ညီပြီးသည့်နောက်မှ ဖြစ်သည်။ ဤစည်းကမ်းချက်များကို အခြေအမြစ်မှ စ၍ သိရန်မှာ လူသား စွမ်းနိုင်သောကိစ္စမဟုတ်ပေ။ အကယ်၍ တိုက်ဆိုင်ခဲ့သည် ဆိုလျှင်လည်း အလ္လာဟ်အရှင်က လိုအပ်သည့်စည်းကမ်းချက်များနှင့် ကိုက်ညီအောင် တက္ကဒီရ်သတ်မှတ်တော်မူခဲ့သောကြောင့်ဖြစ်သည်။ ထိုအချိန်မျိုးတွင် နက္ခတ်ဆရာ၏ဟောကိန်း မှန်သွားခြင်းဖြစ်သည်။ တက္ကဒီရ်သတ်မှတ်ချက် မရှိသည့်အခါ နက္ခတ်ဆရာ၏ဟောကိန်းလည်း လွဲချော်ရသည်။

နက္ခတ်ဆရာ၏အပြုအမူသည် လူတစ်ဦးက တောင်များဘက်မှ မိုးတိမ်များ စုပြုံတက်လာသည်ကို မြင်ပြီး– ဒီနေ့ မိုးရွာမည်ဟု မှန်းဆပြောဆိုသကဲ့သို့ဖြစ်သည်။ ဤသို့တိမ်ထူပြီးနောက်မှာလည်း ကြိမ်ခါများစွာတွင် နေထွက်ပြီး မိုးတိမ်များ ပျောက်သွားတတ်သည်။ ထို့ပြင် ကြိမ်ခါများစွာတွင် ဤအဖြစ်နှင့် ဆန့်ကျင်ဘက်လည်း ဖြစ်သည်။ ကျန်ရှိနေသေးသည့် အကြောင်းခံများကို ပြည့်စုံစွာ မသိရမချင်း၊ မိုးတိမ်သက်သက်ကို ကြည့်ပြီး မိုးရွာတော့မည်ဟု ပြောဆိုရန် အကြောင်းလုံလောက်ခြင်းမရှိပေ။

**နောက်ဥပမာတစ်ခုမှာ မာလိန်မှူး၏ ခန့်မှန်းချက်ဖြစ်သည်။ လေတိုက်ခတ်မှု ပုံမှန်ရှိနေသည်ကို ထောက်ရှုပြီး သင်္ဘော၏အခြေအနေ ကောင်းမွန်မည်ဟု မာလိန်မှူးက ခန့်မှန်းသည်။ သို့နှင့်တိုင် ထိုလေတိုက်ခတ်မှုအထဲတွင် ဖုံးကွယ်နေသော အကြောင်းခံက ရှိနေပြီး ယင်းကို မာလိန်မှူးက မသိပေ။ သို့ဖြစ်ရာ သူ၏ခန့်မှန်းချက်သည် မှန်သည့်အခါ မှန်ပြီး** လွဲသည့်အခါ လွဲလေသည်။ ဤအတွက်ကြောင့်ပင် နက္ခတ်နှင့်ပတ်သက်၍ **ပြောဆိုမှုများကို** တားမြစ်ရခြင်းဖြစ်သည်။

**တတိယတားမြစ်ရခြင်းအကြောင်း**– နက္ခတ်ပညာတွင် အကျိုးတစ်စုံတစ်ရာ မရှိပေ။ **အဘယ်သို့ဆိုသော် အနိမ့်ဆုံးအဆင့်** အကျိုးမဲ့မှုသည် လိုအပ်ချက်မဟုတ်ဘဲနှင့် အချည်းနှီးဇွတ်လျှိုးလိုက်စားခြင်း**ဖြစ်သည်။ ထိုအတွက်** ဘဝသက်တမ်း၏အချိန်များ ပြုန်းတီးရသည်။ အချိန်သည် လူသား၏တန်ဘိုးအရှိဆုံး **အရင်းအနှီးဖြစ်သည်။ သို့ဖြစ်ရာ** အရင်းအနှီးကို အချည်းနှီးဖြုန်းတီးပစ်ခြင်းသည် အဆိုးဆုံးနစ်နာဆုံးရှုံးမှုဖြစ်သည်။

مرّ رسول الله ﷺ **برجل و الناس مجتمعون** عليه فقال : ما هذا ؟ فقالوا : رجل علامة . فقال : بماذا ؟ قالوا بالشعر و أنساب العرب . **فقال** : علم لا ينفع وجهل لا يضر . (أخرجه إبن عبد البر من حديث أبي هريرة)

တစ်ကြိမ်၌ 'တမန်တော်မြတ်ﷺသည် လူတစ်ဦး၏အနီးမှ **ဖြတ်သွားခဲ့သည်။ လူတို့သည်** ထိုလူ၏ဘေးတွင် ဝိုင်းအုံနေကြသည်။ တမန်တော်မြတ်ﷺက **'သူက ဘာလဲ'ဟု မေးသောအခါ** လူတို့က 'အလွန်ပညာရှိသောသူဖြစ်သည်'ဟု ဖြေကြ၏။ ထိုအခါ **တမန်တော်မြတ်ﷺက 'ဘာပညာရှိ**သလဲ'ဟု မေးသည်။ လူတို့က 'ကဗျာလင်္ကာနှင့် အရဗ်ဆွေစဉ်မျိုးဆက်ပညာ**ဖြစ်ပါသည်'ဟု ဖြေကြ**သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အကျိုးမရှိသော ပညာ၊ **မသိ၍ ဘာမှ ထိခိုက်နစ်နာမှုမရှိ**သောပညာ'ဟု မိန့်ဆိုခဲ့သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إنما العلم آية محكمة أو سنّة **قائمة أو فريضة** عادلة .(د . ق)

'ပညာဆိုသည်မှာ အမိန့်ပညတ်ဆိုင်ရာအာယတ်၊ စွဲမြဲကျင့်သုံးရသည့်စွန္နတ်နှင့်အမွေခွဲတမ်းပညာတို့ဖြစ်သည်။'

ဤမိန့်ဆိုမှုအရ နက္ခတ်ပညာနှင့် အလားတူပညာရပ်များ၌ လိုက်စားဇွတ်လျှိုးခြင်းသည် အစဉ်းစား အဆင်ခြင်ကင်းမဲ့မှုသို့ ကျရောက်ခြင်းဖြစ်သည်။ ထို့ပြင် အကျိုးမရှိသော မသိမိုက်မဲမှုတွင် နစ်မွန်းခြင်းဖြစ်သည်။ အဘယ်

ကြောင့်ဆိုသော် တက္ကဒီရ်တွင် သတ်မှတ်ထားလျှင် ထိုအတိုင်း ဖြစ်ရသည်။ ထိုတက္ကဒီရ်မှ ရှောင်လွှဲရန် မဖြစ်နိုင်ချေ

နက္ခတ်ပညာနှင့်ဆေးပညာ မတူသည့်အချက်မှာ ဆေးပညာသည် အထင်အရှား လိုအပ်ချက်ဖြစ်သည်။ ထ ပြင် ဆေးပညာ၏အထောက်အထားအများစုသည် ထင်သာမြင်သာ ပေါ်လွင်သောအရာများဖြစ်သည်။ တဖန် အိ မက်တိတ္တုံပညာသည် မှန်းဆမှုပင်ဖြစ်သော်လည်း နက္ခတ်ပညာနှင့်မတူသည့်အချက်မှာ ၎င်းပညာသည် တမန်တော် တော်မြတ်ﷺထံမှ ရရှိသောပညာ၏လေးဆယ့်ခြောက်ပုံတွင် တစ်ပုံဖြစ်သည်။ ထိုပညာတွင် အန္တရာယ်မရှိပါ။

**တတိယအကြောင်း–** ပညာရပ်တစ်ခုကို လိုက်စားသည့်အတွက် လိုက်စားသူမှာ ပညာ၏အကျိုးကျေးဇူးကို မခံစား ဟု ဆိုလျှင် ထိုသူ့အဖို့ ထိုပညာသည် မကောင်းသောအရာပင်ဖြစ်သည်။ ဥပမာ လွယ်ကူပေါ့ပါးသော အခြေခံပညာ များကို ပထမ မသင်ဘဲ ခက်ခဲနက်နဲသော အဆင့်မြင့်ပညာရပ်များကို ဦးစွာ သင်ယူခြင်းမျိုးဖြစ်သည်။ ကိုးကွယ်ရ အရှင်နှင့်သက်ဆိုင်ရာ အတွင်းကြောင်းလျှို့ဝှက်ချက်များကို စောကြောသုံးသပ်ခြင်းမျိုးဖြစ်သည်။ ဒဿနပညာရှင်နှ ကလာမ်ပညာရှင်တို့က ယင်းတို့အား 'ဤအတွင်းကြောင်းများသည် ယင်းတို့၏ခံနိုင်ရည်တွင် မနိုင်ဝန်ဖြစ်ကြောင်း အသိပေးရမည်။ ဤအတွင်းကြောင်းလျှို့ဝှက်ချက်များကို သိနိုင်သည့်နည်းလမ်းအချို့ကို နဗီတမန်တော်များနှင့်ဝလ သူတော်စင်များမှလွဲ၍ အခြားမည်သူမှ မသိကြပါ။ သို့နှင့်အမျှ ဤကိစ္စများအပေါ် လူတို့အား ဆွေးနွေးပြောဆိုခြင်း တားဆီးရန် တာဝန်ဖြစ်လာသည်။ ယင်းတို့အား ရှရီအတ်က ဖေါ်ပြထားသည့်ဘက်သို့ လှည့်ပေးရမည်။ တစ်နည် ဆိုသော် ရှရီအတ်ဖေါ်ပြချက်အတိုင်း ယုံကြည်လက်ခံစေရမည်။ ကျင့်သုံးနိုင်စွမ်း ချီးမြှင့်ခံရသူတစ်ဦးအတွက် ဤမျ ဆိုလျှင် လုံလောက်မှုရှိပြီဖြစ်သည်။

လူတစ်ယောက်သည် ပညာရပ်များကို လိုက်စားခဲ့ရာ ထိုပညာရပ်များကြောင့် သူ့မှာ ထိခိုက်မှုကြုံရသည် အကယ်၍ သူသည် ယခုလို မလိုက်စားခဲ့လျှင် သာသနာရေးတွင် သူ၏အခြေအနေသည် ပို၍ ကောင်းမွန်မည်ဖြ သည်။ သို့ဖြစ်ရာ အချို့သောလူများအတွက် ပညာသည် ဘေးအန္တရာယ်ဖြစ်ကြောင်း ငြင်းစရာမရှိချေ။ ငှက်သားနှ အိစိမ့်သောအချိုမုန့်သည် နို့စို့ကလေးအတွက် အန္တရာယ်ဖြစ်စေသကဲ့သို့ဖြစ်သည်။ သို့မျှမက မသိခြင်းသည် အန ပုဂ္ဂိုလ်များအတွက် အချို့ကိစ္စများတွင် အကျိုးရှိသည်။

ဖြစ်ရပ်တစ်ခုတွင် လူတစ်ယောက်က ဆေးဆရာထံသို့ မိမိ၏ဇနီး မြုံနေပြီး သားမဖွါးသည့်အကြောင်း တင် ခဲ့သည်။ ဆေးဆရာက အမျိုးသမီး၏သွေးကို စမ်းသပ်ကြည့်ပြီး 'ခင်ဗျားအတွက် သားသမီးရစေမည့် ဆေးဝါးမျ မလိုအပ်တော့ပါ။ ရက်လေးဆယ်ဆိုရင် ခင်ဗျား သေရတော့မှာမို့ပါ။ ခင်ဗျားရဲ့သွေးက ဒီအတိုင်းဘဲညွှန်ပြနေတယ် ဟု ပြောပြသည်။ အမျိုးသမီးသည် မနေနိုင်လောက်အောင် အကြောက်ကြီး ကြောက်သွားခဲ့သည်။ သူပိုင်ပစ္စည်းမျ ကို ထုတ်၍ အကုန်ဝေခြမ်းပစ်သည်။ သေတမ်းစကားများ မှာကြားသည်။ အစားအသောက်လည်း မဝင်တော့ပေ ဤသို့ဖြင့် အချိန်အနည်းငယ်ကြာသွားခဲ့ပြီး အမျိုးသမီးကမူ မသေခဲ့ချေ။ ထိုအခါ ယောကျ်ားလုပ်သူက ဆေးဆရ ထံသွားပြီး 'ကျွန်တော့်ရဲ့ဇနီး မသေသေးပါ'ဟုပြောပြသည်။ ထိုတွင် ဆေးဆရာက 'ဒါကို ကျွန်ုပ်သိပြီးသားကိစ္စဖြ တယ်။ ယခုခင်ဗျားရဲ့ဇနီးကို ပေါင်းသင်းပါ။ သူမွေးပါလိမ့်မည်'ဟု ပြောသည်။ ယောကျ်ားက 'ဘာကြောင့်ပါလဲ'ဟ မေးရာ 'ခင်ဗျားရဲ့ဇနီးကို တွေ့ရတော့ အလွန်ဝနေတယ်။ သားအိမ်ဝမှာ အဆီစုနေတယ်။ သူမကို ပိန်အောင်လုပ်နို တာ သေရမှာကြောက်တဲ့ အကြောက်ဘဲဆိုတာ ကျွန်ုပ်သိတယ်။ ဒါကြောင့် သူမကို ခြောက်လှန့်လိုက်ရတယ်။ အ တော့ ပိန်သွားပြီ။ သားသမီးမွေးဖွားမည့်ကိစ္စအတွက် အဟန့်အတားဖြစ်နေတာလဲ မရှိတော့ပါ'ဟု ရှင်းပြလေသည်

အဆိုပါဖြစ်ရပ်က အချို့အသိပညာများကို သိခြင်းသည် အန္တရာယ်ဖြစ်ကြောင်း သင့်ကို သတိပေးနေသည် တမန်တော်မြတ်ﷺ တောင်းဆိုခဲ့သည့်–(ဗု) . نعوذ بالله من علم لا ينفع

'ကျွန်တော်မျိုးတို့သည် အကျိုးမပြုသောအသိပညာမှ ကင်းရန် အလ္လာဟ့်ထံ ခိုလှုံခွင့်တောင်းပါ၏။'

-ဆိုသည့်ဆုပန်မှုကို အထက်ပါဖြစ်ရပ်ဖြင့် သင်နားလည်နိုင်မည်ဖြစ်သည်။ သို့ဖြစ်ရာ ဤဖြစ်ရပ်ဖြင့် အသင် တရား သဘောဆင်ခြင်ပါ။ ရှုရီအတ်က မကောင်းဆိုးယုတ်သောအရာဟု သတ်မှတ် တားမြစ်ထားသော အသိပညာများကို စူးစမ်းလေ့လာခြင်းမပြုပါနှင့်။ ဆွဟာဗဟ်များ ၏နောက်လိုက်ခြင်းကို စွဲမြဲပါစေ။ ထို့ပြင် တမန်တော်မြတ် ၏ စွန္နတ်ကို လိုက်နာခြင်းဖြင့် လုံလောက်မှုရှိပါစေ။ နာခံလိုက်နာခြင်းတွင် အေးချမ်းသာယာမှုရှိသည်။ အရာရာနောက် ကို လိုက်ပြီး စူးစမ်းလေ့လာနေမည်ဆိုလျှင် ဘေးအန္တရာယ်ရှိသည်။ အသင်သည် မိမိ၏အသိအမြင်၊ မိမိ၏သာဓက အထောက်အထား၊ မိမိ၏ထင်မြင်ချက်များအပေါ်မှာ 'ငါသည် အရာရာတို့၏ဖစ်မြစ်မူလကို ခရေစေ့တွင်းကျ သိရ တော့မည်'ဟု စွတ်စွတ်ရွတ်ရွတ် မထင်မှတ်လေနှင့်။ ထိုပညာနှင့်ပတ်သက်၍ စဉ်းစားတွေးခေါ်ရခြင်းကြောင့်ရရှိမည့် ဒုက္ခက အသင့်အတွက် ရရှိမည့်အကျိုးအမြတ်ထက် ပို၍များမည်။ ထိုအခါ သင်သည် များစွာသောအရာများကို သိ ထားပြီး ထိုအသိများက သင့်ကို ဒုက္ခပေးမည်ဖြစ်သည်။ အကယ်၍ အလ္လာဟ်အရှင်ကသာ မိမိဂရုဏာတော်ဖြင့် ထိန်း သိမ်းခြင်းမပြုလျှင် အသင်ပျက်စီးရမည်ဖြစ်သည်။

ကျွမ်းကျင်သောဆေးဆရာက ကုထုံးနည်းလမ်းများ၏ လျှို့ဝှက်ချက်များကို သိထားသည်။ သို့သော် ဤလျှို့ ဝှက်ချက်များကို မသိသူကမူ ကုထုံးနည်းလမ်းများသည် မဖြစ်နိုင်ဟု မှတ်ယူလိမ့်မည်။ ဤနည်းအလားတူ နဗီတမန် တော်များသည် နှလုံးသား၏သမားတော်နှင့် အာခိရတ်ရှင်နေမှုသက်တမ်း၏အကြောင်းရင်းများကို သိကျွမ်းသူများ ဖြစ်ကြသည်။ ထိုသခင်တို့၏လမ်းစဉ်ကို အသင်၏အသိဉာဏ်ဖြင့် အဆုံးအဖြတ်မပြုလေနှင့်။ ထိုသို့ပြုလျှင် အသင် သာ ပျက်စီးမည်။

လူတစ်ဦး၏လက်ချောင်းတွင် ဝေဒနာတစ်ခုခုခံစားရမည်ဆိုလျှင် သူ၏အသိဉာဏ်တွင် ထိုလက်ချောင်းကို ဆေးလိမ်းရန် အသိဝင်လိမ့်မည်။ သို့သော် တတ်ကျွမ်းသော ဆေးဆရာက ထိုဝေဒနာကို ကုသရန် ဝေဒနာမရှိသည့် အခြားလက်ဘဝါးတစ်ဘက်ကို ပွတ်လိမ်းရန် ညွှန်ကြားလိမ့်မည်။ ဤနည်းသည် အာရုံကြောများ ယှက်နွယ်နေပုံ၊ ယင်းတို့၏မြစ်ဖျားခံပုံနှင့် ကိုယ်ခန္ဓာတွင် ဖြန့်ကျက်နေပုံကို မသိသည့်အပေါ်မှာ သဘောပေါက်ရန် အလွန်ခဲယဉ်း လိမ့်မည်။ ဤနည်းအလားတူပင် အာခိရတ်လမ်း၏အခြေအနေ၊ တရားတော်မှလာရှိသည့် စွန္နတ်နှင့် မွတ်စ်တဟာဗ် များ၏နက်နဲသိမ်မွေ့မှုများ၊ ရှုရီအတ်က လူတို့ လိုက်နာစွဲမြဲရန် ဖော်ပြထားသော အကီဒဟ်ခံယူချက်များ၏ လျှို့ဝှက် ချက်များသည် သိရှိသဘောပေါက်ရန် အလွန်ပင် ခဲယဉ်းပါသည်။ ဤအချက်များကို အသိဉာဏ်က ဝင်ဆံ့နိုင်ခြင်း လည်းမရှိ၊ ဤအချက်များကို လွှမ်းခြုံသိရှိရန် အသိဉာဏ်တွင် အင်အားလည်းမရှိပေ။

ကျောက်တုံးများ၏ထူးခြားချက်များတွင် သက်ဆိုင်ရာပညာရှင်များပင် မသိနိုင်သည့် အံ့သြဖွယ်ကိစ္စများ ရှိ နေသည်။ သံလိုက်ကျောက်၏ဆွဲငင်ရသည့် အကြောင်းရင်းကို မည်သူမျှရှင်းမပြနိုင်ပါ။ ယခုဖော်ပြခဲ့သော ဆေးဝါး များနှင့် ဆေးဝါးဖော်စပ်မှုများတွင် ထူးခြားဆန်းကြယ်မှုများ ပါရှိသည်ထက် အစ္စလာမ်၏အကီဒဟ်နှင့် ကျင့်သုံးမှု များက ပို၍ ထူးခြားဆန်းကြယ်ပါသည်။ အစ္စလာမ့်အကီဒဟ်နှင့် ကျင့်သုံးမှုများက စိတ်နှလုံးကို ပြောင်စင်သန့်ပြန့် စေသည်။ မှန်ကန်ကောင်းမွန်စေသည်။ ဤပြောင်စင်သန့်ရှင်းမှုနှင့် မှန်ကန်ကောင်းမွန်မှုများက အလ္လာဟ်အရှင်၏ အပါးတော်သို့ တိုးတက်တက်လှမ်းမှုရရှိစေသည်။ ယင်းသည် ဆေးဝါးနှင့်ကျောက်တုံးများတွင် ရှိနေသောအာနိသင် ထက် ပို၍ကြီးမား ပို၍များပြားသည်။ အသိဉာဏ်သည် ဆေးဝါးများ၏အကျိုးထူးအာနိသင်များအားလုံးကို လွှမ်းခြုံ သိနိုင်ခြင်း မရှိသကဲ့သို့ အစ္စလာမ့်အကီဒဟ်နှင့်အစ္စလာမ့်ကျင့်ရန်ကျဉ်ရန်များကြောင့် အာခိရတ်သက်တမ်းတွင် ရရှိ မည့် အကျိုးထူးအာနိသင်များကို အလုံးစုံလွှမ်းခြုံသိရန် မဖြစ်နိုင်ပေ။

လူသား၏အသိဉာဏ်သည် ဆေးဝါးများ၏အကျိုးအာနိသင်များကို အလိုအလျှောက် သိရသည်မဟုတ်ပါ။ ဤအသိများကို ရဖို့အတွက် အတွေ့အကြုံသည် လမ်းစဖြစ်ခဲ့သည်။ သို့သော် အာခိရတ်၏သက်တမ်းတွင် အကျိုးရှိ

မည့်အရာများကို အသိဉာဏ်က အလုပ်မဖြစ်နိုင်ပါ။ တဖန် အတွေ့အကြုံကလည်း ဤအသိကိုရရန် လမ်းခင်း ပေး နိုင်ပါ။ အချို့သေပြီးသူများက ပြန်လာပြီး အရှင့်ထံပါး နီးကပ်ခွင့်ရရေးအတွက် အကျိုးပြုလက်ခံတော်မူခြင်းခံရ ကျင့်မှုရာများကိုင်း၊ အရှင်နှင့်ဝေးကွာစေမည့် ကျင့်မှုရာများကိုင်း၊ အရှင့်ထံပါး နီးကပ်ခွင့်ရရေးအတွက် အကျိုး လက်ခံတော်မူခြင်းခံရသော အကီဒဟ်ခံယူချက်များကိုင်း– ကျွန်ုပ်တို့အား ပြောပြကြမည်ဆိုမှသာ အတွေ့အကြုံ လမ်းခင်းပေးသည်ဟု ဆိုနိုင်မည်ဖြစ်သည်။ ဤသို့ဖြစ်ရန်မှာလည်း မျှော်လင့်ကောင်းသောကိစ္စမဟုတ်ပေ။ သို့ဖြ တမန်တော်မြတ်ﷺသည် အစစ်အမှန်ဖြစ်ကြောင်း အသင့်အား ညွှန်ပြမည့်အသိဉာဏ်ဆိုင်ရာအကျိုးခံစားမှုကို တမန်တော်မြတ်ﷺ၏ လမ်းညွှန်တရားများ၏ အလိုသဘောများကို အသင့်အား နားလည်စေမည့်အသိဉာဏ်ဆိုင် အကျိုးခံစားမှုရှင်း ရှိပြီဆိုလျှင် အသင့်အဖို့ လုံလောက်ပြီဖြစ်သည်။ ဤအဆင့်ကိုလွန်ပြီး သင်သည် အသိဉာဏ် အသုံးချခြင်းမပြုပါနှင့်။ အသင်၏ အဓိကတာဝန်မှာ အမိန့်နာခံမှုကို စွဲမြဲရန်ဖြစ်သည်။ ဤနာခံမှုမှလွဲ၍ အသင့် ချမ်းမြေ့သာယာမှု အခြားတွင် မရှိပါ။ တမန်တော်မြတ်ﷺမိန့်ဆိုမှုသည်မှာ–

إن من العلم جهلا و إن من القول عيا . (د)

'အချို့သောပညာသည် မသိမိုက်မဲမှုဖြစ်သည်။ အချို့သောစကားရပ်သည် နားမလည်နိုင်သည့်ကိစ္စဖြစ် သည်။'

ဤတွင် သိရသည်မှာ ပညာသည် မသိမိုက်မဲခြင်းမဟုတ်ပေ။ သို့သော် ထိုပညာ၏ ဒုက္ခပေးမှုကို မသိခြ သာ မိုက်မဲမှုဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ–

قليل من التوفيق خير من كثير من العلم . (مسند الفردوس)

'အနည်းငယ်မျှ ကျင့်သုံးနိုင်စွမ်းရရှိခြင်းသည် များစွာ ပညာရှိခြင်းထက် ပို၍ကောင်းသည်။'*

တမန်တော်အီစာ(အ)သခင်က ဆိုမိန့်ခဲ့သည်မှာ– 'သစ်ပင်အမျိုး များစွာရှိ၏။ သို့သော် သစ်ပင်တိုင် ပွင့်သည်မဟုတ်ပါ။ ပန်းမျိုး များစွာရှိ၏။ သို့သော် ပန်းတိုင်း မွှေးကြိုင်သည်မဟုတ်ပါ။ ပညာအမျိုး များစွာရှိ သို့သော် ပညာဟုဆိုတိုင်း အကျိုးမဖြစ်ထွန်းပါ။'

## ပြောင်းလဲသွားသော ပညာ၏အမည်စာလုံးများ

မကောင်းသောပညာများနှင့် ရှရီအတ်၏ပညာရပ်များ အရောရောအထွေးထွေးဖြစ်ရခြင်း၏အကြောင်း ကောင်းမွန်သော အမည်နာမများကို အပြောင်းအလဲ လုပ်ပစ်ခဲ့သောကြောင့်ဖြစ်သည်။ ထို့ပြင် ရှေးသူတော်စ များနှင့် အစ္စလာမ့်ခေတ်ဦးက ရည်ရွယ်မှည့်ခေါ်ခဲ့သောအဓိပ္ပါယ်ကို လူတို့က အဖျက်သဘောရည်ရွယ်ချက်မျ ကိုးကားသုံးစွဲခဲ့ကြသောကြောင့်ဖြစ်သည်။ ယင်းတို့မှာ ဖိကဟ်၊ အီလ်မ်၊ တောင်ဟီဒ်၊ တဇ်ကီရ်၊ ဟီကမတ်–ဆို အမည်စာလုံးငါးခုဖြစ်သည်။ ဤအမည်နာမများသည် ကောင်းမြတ်သောနာမများပင်ဖြစ်သည်။ ဤအမည်နာ ဖြင့် ဝိသေသထူးခဲ့သူများသည် သာသနာ့မဏ္ဍိုင်ပုဂ္ဂိုလ်ကြီးများ ဖြစ်ခဲ့ကြသည်။ သို့သော် ယခုအခါ ဤအမည များသည် မကောင်းသော အဓိပ္ပါယ်များသို့ ပြောင်းလဲသွားခဲ့ကြသည်။ သို့နှင့်အမျှ ဤပြောင်းသွားသော အမ အရ ရှိနေသူများအား ပြစ်တင်ရှုံ့ချခဲ့မည်ဆိုလျှင် လူတို့၏စိတ်သဘောက မနှစ်သက်နိုင်အောင်ရှိကြသည်။ အ ကြောင့်ဆိုသော် ဤစကားလုံးများကို ပထမခေတ်ဦးက ကောင်းမြတ်သောပုဂ္ဂိုလ်များအတွက် ရည်ညွှန်းသုံးစွဲ

* အီရာကီသခင်(ရ)က **'ဤဟဒီစ်၏ ရင်းမြစ်ကို ကျွန်ုပ်မတွေ့ဘူးပါ'** ဟုဆိုသည်။ သို့သော် အလ္လာမာဇုဗိုင်ဒီ(ရ)က ဤ သည် အဗူဒရ်ဒါအ်(ရ)သခင်၏ ဆင့်ပြန်ချက်ဖြစ်ပြီး မပ်စ်နဒ်ဖီရ်ဒေါက်စ်ကျမ်းတွင် ဖော်ပြပါရှိသည်ဟု ဆိုသည်။

ကြောင့်ဖြစ်သည်။

**ပထမစာလုံးမှာ–** 'ဖိကဟ်'**ဖြစ်သည်။ ဤ**စာလုံးကို မူရင်းအဓိပ္ပါယ်လည်း မဟုတ်၊ ၄ါးယူသုံးစွဲခြင်းလည်း မဟုတ်သော၊ သီးသန့်အဓိပ္ပါယ်သို့ **ပြောင်းလဲပစ်ခဲ့**ကြသည်။ သီးသန့်ဖြစ်အောင်ပြောင်းလဲပုံမှာ ဖတ္တဝါရေးရာတွင် ထူးခြားသောအဆွယ်အပွါးကိစ္စများကိုသိခြင်း၊ ထိုအဆွယ်အပွါးကိစ္စများ၏ သိမ်မွေ့သောအကြောင်းရင်းများကို သိခြင်း၊ ဤအကြောင်းအရာများကို များစွာပြောဆိုခြင်း၊ သက်ဆိုင်ရာအဆိုအမိန့်များကို မှတ်သားခြင်းတို့အား ဖိကဟ်ဟု ခေါ်လိုက်ကြသည်။ ဤကိစ္စများ၌ နက်နက်နဲနဲ စူးစိုက်ပြီး အများဆုံး နစ်မွန်းသူအား ကြီးကျယ်သောဖိကဟ်ရှင်ဟု ခေါ်လိုက်ကြသည်။

ပထမခေတ်ဦးတွင် ဖိကဟ်ဟူသောအမည်နာမသည် အာခိရတ်လမ်း၏ အသိပညာသက်သက်ကို ဆိုလိုခြင်းဖြစ်သည်။ ထို့ပြင် စိတ်စေတသိတ်တွင် ကျရောက်သည့်ဘေးဒုက္ခများ၏ အနုစိတ်များကိုငင်း၊ ကျင့်မှုရာများ၏ ပျက်စီးကြောင်းများကိုငင်း၊ ဒွန်ယာ၏ သေးသိမ်မှုအား သတိမြဲခြင်းကိုငင်း၊ အာခိရတ်တွင် ခံစားရမည့် စည်းစိမ်များအား အပ်ကျမပ်ကျသိသည့် အသိကိုငင်း၊ နှလုံးသားတွင် ကြောက်စိတ်လွှမ်းမိုးခြင်းကိုငင်း ထိုခေတ်က ဖိကဟ်ဟု ခေါ်ခဲ့ကြခြင်းဖြစ်သည်။ ဤအချက်ကို ရည်ညွှန်းပြီး အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴾لِيَتَفَقَّهُوا فِي الدِّيْنِ وَلِيُنْذِرُوْا قَوْمَهُمْ اِذَا رَجَعُوْا اِلَيْهِمْ﴿

**'မိမိတို့အမျိုးသားများထံ ပြန်သောအခါ ၄င်းတို့အား သတိပေးနှိုးဆော်နိုင်ရန်အလို့ငှါ သာသနာရေးသိနားလည်မှု-ဖိဟတ်ကို ဆည်းပူးကြကုန်လော့။'** (**စူရာတောင်ဗာ ၊၁၂၂**)

အထက်၌ရှင်းပြခဲ့သည့် ဖိကဟ်ဖြင့်သာ သတိတရားနှင့်အကြောက်တရား ရရှိနိုင်မည်**ဖြစ်သည်။** အခွဲအလက်ကိစ္စများဖြစ်သော တွလာက်၊ အိတာက်၊ လိအာန်၊ ဆလ္လာမ်နှင့် အိဂျာရာတို့ဖြင့် ဤသတိတရား**နှင့်အကြောက်**တရားကို မရနိုင်ပေ။ သို့သာမက ဤအခွဲအလက်ကိစ္စများတွင် အမြဲနစ်မွန်းနေမည်ဆိုလျှင် စိတ်နှလုံး**မာမြင်းလိမ့်မည်။** ထို့ပြင် နှလုံးသားထဲမှ အလ္လာဟ်အရှင်အား ကြောက်ရွံ့မှု ထွက်သွားလိမ့်မည်။ အခွဲအလက်ကိစ္စများတွင် တစ်ကြောင်းစွဲ တစ်ဖက်သတ် နစ်မွန်းလိုက်စားနေသူများအား ကျွန်ုပ်တို့ ယခုအခါ တွေ့မြင်နေရသည့်အတိုင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ– ﴾لَهُمْ قُلُوْبٌ لَا يَفْقَهُوْنَ بِهَا﴿

**'၄င်းတို့တွင် နှလုံးသားများရှိကြ၏။ ထိုနှလုံးသားများဖြင့် သိနားလည်ခြင်းကား မရှိကြပေ။'**

(**စူရာအအ်ရာဖ် ၊၁၇၉**)

ဤအမိန့်တော်သည် အီမာန်နှင့်သက်ဆိုင်ရာများအား သိနားလည်မှု မရှိခြင်းကို ဆိုလိုသည်။ ဖတ္တဝါရေးရာများကို ဆိုလိုခြင်း မဟုတ်ပေ။ ထို့ပြင် ကျွန်ုပ် ရဲရဲပြောဆိုနိုင်သောအချက်မှာ (**فقه**)ဖိကဟ်နှင့် (**فهم**)ဖဟ်မ် ဆိုသည့် စကားလုံးနှစ်လုံးကို အဘိဓာန်တွင် အဓိပ္ပါယ်တစ်ခုတည်း ဖေါ်ပြထားသည်။ ပြောဆိုသုံးနှုံးရာမှာလည်း ရှေးကရော ယခုပါ တစ်ခုတည်းသော ဤအဓိပ္ပါယ်ဖြင့်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်မှာ–

﴾لَاَنْتُمْ اَشَدُّ رَهْبَةً فِي صُدُوْرِهِمْ مِنَ اللهِ ذٰلِكَ بِاَنَّهُمْ قَوْمٌ لَايَفْقَهُوْنَ﴿

**'မုချ အသင်တို့၏ အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခြင်းက ၄င်းတို့၏ ရင်များထဲ၌ ရှိသည်ထက် ပို၍ပြင်းထန်သည်။ ဤသို့ရှိရခြင်းမှာ ၄င်းတို့သည် သိနားလည်မှု မရှိကြသောကြောင့်ပင်။'** (စူရာဟရှ်ရ် ၊၁၃)

အလ္လာဟ်အရှင်မြတ်က ဤအာယတ်တွင် ၄င်းတို့အနေနှင့် အလ္လာဟ်အရှင်အား အနည်းငယ်မျှသာ ကြောက်ရွံ့ကြပြီး အလ္လာဟ်အရှင်ထက် **လူသားချင်း**၏ ဂုဏ်ရှိသြဇာအပေါ် ပိုမို အလေးအမြတ်ပြုနေကြခြင်းသည် ဖိကဟ်အသိ နည်းသောကြောင့်ဖြစ်သည်**ဟု ထောက်ပြ**ထားတော်မူသည်။ စဉ်းစားကြည့်ပါ။ ဤနေရာတွင် ဖတ္တဝါရေးရာအခွဲအလက်

များကို သိရှိမှတ်သားခြင်းမပြုသောကြောင့်ဟုလည်း မဆိုထားပေ။ ထို့ပြင် အထက်က ကျွန်ုပ်တို့ပြဆိုခဲ့သော ပညာရပ်များ မတတ်ကျွမ်းသောကြောင့်ဟုလည်း မဆိုထားပေ။

တမန်တော်မြတ်ﷺက မိမိထံ ရောက်ရှိလာသော ကိုယ်စားလှယ်အုပ်စုအား–'علماء فقهاء'ဓမ္မပညာရှင်များ၊ ဖိကဟ်ရှင်များ'(၂၂) ဟု ခေါ်ဆိုခဲ့သည်။ သို့နှင့်တိုင် ထိုအုပ်စုသည် ဖတ္တဝါရေးအခွဲအလက်များကို တတ်ကျွမ်းသူများ မဟုတ်ခဲ့ပါ။ စအီဒ်အိဗ်နေ့အိဗ်ရာဟီမ်ဇုဟ်ရီ ႋသခင့်အား တစ်စုံတစ်ယောက်က 'မဒီနာမြို့သားများတွင် ဖိကဟ်ကို အတတ်ကျွမ်းဆုံး မည်သူပါလဲ'ဟု မေးမြန်းခဲ့ရာ သခင်က 'သူတို့အထဲမှ အလ္လာဟ်ကို အကြောက်ဆုံးသူဖြစ်သည်' ဟု ဖြေခဲ့သည်။ ဤပြောဆိုမှုသည် ဖိကဟ်၏ ရလဒ်အသီးအပွင့်ကို ညွှန်ပြနေသလိုပင်ဖြစ်သည်။ အလ္လာဟ်အရှင်ကို ကြောက်ခြင်းသည် အတွင်းပညာ၏ ရလဒ်အသီးအပွင့်သာဖြစ်ပြီး ဖတ္တဝါရေးနှင့် တရားတထုံးစီရင်ဆုံးဖြတ်ရေးကိစ္စများ၏ ရလဒ်မဟုတ်ပေ။ ဟဒီစ်ရှိသည်မှာ–

ألا أنبئكم بالفقيه كل الفقيه قالوا بلى ، قال : من لم يقنط الناس من رحمة الله ، ولم يؤمنهم من مكر الله ،ولم يؤيسهم من روح الله ، ولم يدع القرآن رغبة عنه إلى ما سواه.(၂၂)

တမန်တော်မြတ်ﷺက 'ငါအသင်တို့အား တကယ့်ဖိကဟ်ရှင်ကို ညွှန်ပြရမည်လား'ဟု မေးရာ ဆွဟာဗဟ်များ ႋက 'ညွှန်ပြတော်မူပါ'ဟု ပြောဆိုကြသည်။ တမန်တော်မြတ်ﷺက 'အလ္လာဟ်အရှင်၏ ရဟ်မတ်တော်မှ လူတို့အား မက်မကင်းစေသူဖြစ်သည်။ အလ္လာဟ်အရှင်၏ အရေးယူမှုမှ လူတို့အား ပေါ့ပေါ့တန်တန် မရှိစေသူဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်၏ ဝိညာဉ်ရေး အကျိုးဖြစ်ထွန်းမှုမှ မျှော်လင့်ချက် မမဲ့စေသူဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်၏ အပြင် အခြားအရာကို လိုလားမှုကြောင့် ကျမ်းမြတ်ကို စွန့်လွှတ်ခြင်းမရှိစေသူဖြစ်သည်'ဟု မိန့်ဆိုခဲ့၏။ ဆွဟာဗဟ်ကြီး အနပ်စ်အိဗ်နေ့မာလိက်ႋက တမန်တော်မြတ်ﷺမိန့်ဆိုမှုကို ပြောပြသည်မှာ–

لأن أقعد مع قوم يذكرون الله تعالى من غدوة إلى طلوع الشمس أحب إليّ من أن أعتق أربع رقاب . (ဒ)

'ငါသည် အလ္လာဟ်အရှင်ကို ဇိက်ရ်ပြုသူများနှင့်အတူ နံနက်အာရုံတက်မှ နေထွက်ချိန်အထိ ထိုင်နေရခြင်းကို ကျွန်လေးယောက် သူကောင်းပြုရသည်ထက် ပိုနှစ်သက်သည်။'

ဤသို့ပြောပြီးနောက် အနပ်စ်အိဗ်နေ့မာလိက်ႋသခင်က အသင့်ရှိနေသော ဇိုက်ဒ်ရိုကာရှီ ႋနှင့်ဇေယာဒ်နိုမိုင်ရီ ႋတို့အား 'ထိုဇိက်ရ်ပြုသောထိုင်ဝိုင်းများသည် အသင်တို့၏ ယခုလိုထိုင်ဝိုင်းများလို မဟုတ်ပါ။ အသင်တို့၏ထိုင်းဝိုင်းတွင်တော့ ပုံပြောသူက ပြောသည်။ ဟောသူက ဟောသည်။ ဟဒီစ်ရှင်းသူက ရှင်းသည်။ ငါတို့ကမူ ဝိုင်းထိုင်ကြပြီး အီမာန်အကြောင်းပြောကြသည်။ ကုရ်အာန်ကို စဉ်းစားကြသည်။ သာသနာရေးနှင့်ပတ်သက်၍ သိနားလည်မှုရအောင်လုပ်ကြသည်။ ငါတို့အပေါ်တွင်ရှိနေသော အလ္လာဟ်အရှင်၏ နဲအ်မတ်များကို ရေတွက်ပြီး အသိတရားရယူကြသည်။'

ဤဟဒီစ်တွင် ကုရ်အာန်ကိုစဉ်းစားခြင်းနှင့် နဲအ်မတ်ကို ရေတွက်ခြင်းအား 'ဖိကဟ်'စာလုံးဖြင့် 'تَفَقُّهًا' အသိတရားရယူသည်ဟု သုံးစွဲရှင်းလင်းခဲ့သည်။

တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ–

لا يفقه العبد كل الفقه حتى يمقت الناس في ذات الله ، حتى يرى للقرآن وجوها كثيرة . (၂၂)

'လူတို့က မိမိအား အလ္လာဟ်အရှင်နှင့်ပတ်သက်၍ ရှုံမုန်းခြင်းမဖြစ်သမျှကာလပတ်လုံး၊ ကုန်အာန်ကျမ်းမြတ်နှင့်ပတ်သက်၍ အကြောင်းရင်းအခြေခံအမြောက်အမြားကို ယုံကြည်ခြင်းမရှိသမျှကာလပတ်လုံး ထိုသူသည် ပြည့်ဝသောဖိကဟ်ရှင်မဖြစ်နိုင်ပေ။'

ဤဆင့်ပြန်မှုကို အဗူဒရ်ဒါအ် ﷺသခင့်ထံမှလည်း လာရှိသေးရာ ဝါကျတစ်ခု အပိုပါရှိသည်မှာ–

ثم يقبل على نفسه فيكون لها اشد مقتا .

'ထို့နောက် သူသည် မိမိ၏နဖ်စ်ဘက်သို့ လှည့်ခဲ့သည်။ ထိုတွင် သူသည် ထိုနဖ်စ်ကို အားလုံးတွင် အရှုံမုန်းဆုံး ဖြစ်သွားခဲ့သည်။'

ဖုရ်ကဒ်ဆဗခီ ကြ ဟစ်ဘစ္စရီ သခင့်အား ကိစ္စရပ်တစ်ခုနှင့်ပတ်သက်၍ မေးမြန်းသောအခါ သခင်က ဖြေကြားခဲ့သည်။ ထိုအခါ ဖုရ်ကဒ်ဆဗခီ က 'ဖိကဟ်ရှင်များက သခင့်ကို ဆန့်ကျင်ဘက်ပြုနေကြသည်'ဟု ပြောဆိုခဲ့သည်။ ထိုအခါ ဟစ်ဘစ္စရီ သခင်က 'ဖုရ်ကဒ်၊ သင်ကတော့ဒုက္ခဘဲ။ သင်က ဖိကဟ်ရှင် ဆိုသူကို မျက်စိဖြင့် တပ်အပ်မြင်ဘူးသလား။ ဖိကဟ်ရှင်ဆိုသည်မှာ ဒွန္နယာစွန့်သူ၊ အာခိရတ်ရေးမျှော်ကိုးသူ ဖြစ်သည်။ မိမိ၏သာသနာရေးတွင် သတိသမ္မဇဉ်ထားသူဖြစ်သည်။ အိဗာဒတ် စွဲမြဲသူ၊ ရှောင်ကျဉ်သူဖြစ်သည်။ မွတ်စလင်မ်တို့အား ထိပါးခြင်းမှ မိမိ၏နဖ်စ်ကို ထိန်းသိမ်းသူဖြစ်သည်။ မွတ်စလင်မ်တို့၏ပစ္စည်းဥစ္စာများဘက်သို့ မျက်စောင်းပင် မထိုးသူဖြစ်သည်။ မွတ်စလင်မ်အုပ်စုများအပေါ် စိတ်ကောင်းစေတနာထားသူဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ဟစ်ဘစ္စရီ သခင်က ဤသို့ ဖိကဟ်ရှင်၏ဝိသေသများကို ဖော်ပြရာ၌ 'ဖိကဟ်ရှင်ဆိုသည်မှာ ဖတ္တဝါရေးရာအခွဲအလက်များကို မှတ်မိသိရှိသူဖြစ်သည်'ဟု ထည့်သွင်းပြောဆိုခြင်း မပြုခဲ့ပေ။

ဖိကဟ်ဆိုသည့်စကားလုံးတွင် ကာယကံမြောက်ကျင့်ဆောင်ရသည့် အမိန့်ပညတ်ဆိုင်ရာဖတ္တဝါရေးကိစ္စများ အကျုံးမဝင်ဟု ကျွန်ုပ် မဆိုလိုပါ။ ကျွန်ုပ်အနေဖြင့် ဓမ္မဓိဋ္ဌာန်သဘောနှင့် ပဓာနဦးတည်ရမည့်သဘောကို ဆိုလိုခြင်းဖြစ်သည်။ များသောအားဖြင့် ရှေးသူဟောင်းတို့သည် ဖိကဟ်စာလုံးကို အာခိရတ်ပညာအတွက် ရည်ညွှန်းသုံးနှုန်းလေ့ရှိခဲ့ကြသည်။ ယခုအခါ ဤစာလုံးကို အမိန့်ပညတ်နှင့် ဖတ္တဝါရေးရာများအတွက် သီးသန့်ပြုလိုက်ရာ၊ ဤသီးသန့်သုံးနှုန်းမှုက အချို့လူတို့အတွက် ဖိကဟ်ဆိုသောစကားလုံးသည် အာခိရတ်ပညာနှင့် နှလုံးသား၏ပညတ်ချက်များနှင့် မသက်ဆိုင်ဘဲ အမိန့်ပညတ်ဖတ္တဝါရေးကိစ္စများအတွက် သီးသန့်ဖြစ်သည်ဟု ထင်ယောင်ထင်မှားဖြစ်ကုန်စေသည်။ ဤအပေါ်မှာ လူ့ဇီဇသဘာဝကလည်း အားပေးမှုရှိသည်။ အဘယ်ကြောင့်ဆိုသော် အတွင်းပညာသည် နက်နဲပြီး ထိုပညာအရ ကျင့်သုံးရန်ဆိုသည်မှာ ခက်ခဲလှသောကြောင့်ဖြစ်သည်။ ဤပညာကို အကြောင်းပြုပြီး အုပ်ချုပ်မှုအာဏာရရှိဖို့၊ တရားသူကြီးဖြစ်ဖို့၊ ကျော်ကြားမှုနှင့်ဥစ္စာပစ္စည်း ရရှိဖို့ဆိုသည်မှာလည်း ခဲယဉ်းသောကိစ္စဖြစ်သည်။ သို့ဖြစ်ရာ ရှိုင်တွာန်သည် တရားတော်တွင် ကောင်းမွန်သောပညာရပ်အမည်ဖြစ်သည့် ဖိကဟ်ဆိုသည်စကားလုံးကို ဗဟိဒ္ဓကျင့်ဆောင်မှုများအတွက် သီးသန့်အဓိပ္ပါယ်သတ်မှတ်မှုအပေါ် လူတို့၏စိတ်သဘောများ မနောရွေ့အကြိုက်တွေ့စေမည့် ပရိရာယ်လမ်းကို တွေ့သွားခဲ့လေတော့သည်။

**ဒုတိယစာလုံးမှာ–** 'အိလ်မ်'ဖြစ်သည်။ မူလက ဤစကားလုံးသည် အလ္လာဟ်အရှင်အားငှး၊ ထိုအရှင်၏အာယတ်များကိုငှး သိကျွမ်းခြင်းကို ဆိုလိုသည်။ ထို့ပြင် အလ္လာဟ်အရှင်၏အဖန်ဆင်းခံ ကျေးကျွန် လူသားများက အရှင်၏လုပ်ရပ်တော်များကို သိနားလည်ခြင်း၏အနက်အဓိပ္ပါယ်အတွက် သုံးစွဲခဲ့ကြသည်။ အိုမရ် ﷺသခင်ကွယ်လွန်သောအခါ အီဗ်နေ့မတ်စအုဒ် ﷺသခင်က 'အိလ်မ်၏ဆယ်ပုံတွင် ကိုးပုံဖြစ်သောပုဂ္ဂိုလ်ကွယ်လွန်ခဲ့ပြီ'ဟု ပြောဆိုခဲ့သည်။ ဤသို့ပြောဆိုရာ၌ 'အိလ်မ်'ဆိုသည့်ဝေါဟာရကို အရဗီသဒ္ဒါနည်းအရ တပ်အပ်သိပြုလုပ်၍ (العلم) ဟု သုံးနှုန်းကာ အလ္လာဟ်အရှင်အား သိကျွမ်းသောပညာဖြစ်သည်ဟု ဖွင့်ဆိုရှင်းပြခဲ့သည်။

လူတို့သည် ဤစကားလုံးကိုလည်း သီးသန့်အဓိပ္ပါယ်သို့ လွှဲပစ်ခဲ့ကြသည်။ သို့နှင့်အမျှ အများအားဖြင့် သိထားကြသည့်အိလ်မ်သည် ဖိကဟ်မတ်စ်အလာ အစရှိသည့်ကိစ္စများအပေါ် အတိုက်အခံတို့နှင့် စကားစစ်ထိုးသည့်ပညာဖြစ်သွားလေသည်။ သို့ဖြင့် 'တကယ့်အစစ်အမှန် အာလင်မ်ပညာရှင်ဆိုသည်မှာ ပညာရဲရှင် ပွဲလည်တင်သူဖြစ်

သည်'ဟု ပြောဆိုလာကြသည်။ မုနာဇရာ–စကားစစ်ထိုးမှုအတတ်ကို လေ့ကျက်လိုက်စားခြင်းမပြုသူအား ပညာရှိ
သူများဟု သတ်မှတ်ပြီး အာလင်မ်ပညာရှင်များစာရင်းတွင် ထည့်သွင်းရေတွက်ခြင်း မပြုတော့သည်အထိပင်ဖြစ်၏
ဤသည်လည်း သီးသန့်သုံးအဖြစ် ပြောင်းလဲပစ်ခြင်း၏ဥဒါဟရဏ်တစ်ခုဖြစ်သည်။

**စင်စစ်တွင် ပညာ၏** ထွတ်မြတ်မှုအကြောင်း ဖော်ပြလာရှိချက်အများစုသည် အလ္လာဟ်အရှင်ကိုင်း၊ အလ္လာဟ်
**အရှင်၏အမိန့်**တော်များကိုင်း၊ အလ္လာဟ်အရှင်၏လုပ်ရပ်တော်များနှင့် ဂုဏ်တော်များကိုင်း– သိကျွမ်းနားလည်
**ကြသောဓမ္မ**ပညာရှင်များနှင့်သာ သက်ဆိုင်လေသည်။ သို့သော် ယခုအခါတွင် ရှရီအတ်ပညာကို တစ်စုံတစ်ရာကျွမ်
ကျင်ပိုင်နိုင်မှုမရှိဘဲ၊ အကွဲအလွဲမတ်စ်အလာများတွင် အငြင်းအခုန်ပြုသည့်နည်းလမ်းသိသူကိုသာ ပညာရှင်ဟု ခေါ်
**ဆိုသုံးနှုန်း**လာကြပေသည်။ တဖ်စီရ်၊ ဟဒီစ်နှင့် မဇ်ဟဗ်ရေးရာ အစရှိသည်တို့တွင် နကန်းတလုံးမှ မသိသော်လည်း
**ထိုသူမျိုး**ကိုမှ တကယ့်ပညာကျော်ကဝိကြီးအဖြစ် သတ်မှတ်ရေတွက်လိုက်ကြလေသည်။ ဤသည်ပင် များစွာသော
**ပညာရှာဖွေဆည်းပူးသူ**တို့ ပျက်စီးကြရသည့်အကြောင်းခံဖြစ်လာတော့သည်။

**တတိယစာလုံးမှာ–** 'တောင်ဟီဒ်'ဖြစ်သည်။ ယခုအခါ ဤစကားလုံးကိုလည်း ကလာမ်အတတ်နှင့် မုနာဇရ
လုပ်နည်းကို သိခြင်းအတွက် သတ်မှတ်လိုက်ကြပြီဖြစ်သည်။ တစ်ဖက်သားအပေါ် ချေပထိုးနှက်ရန် နည်းလမ်းများ
ကို ပိုင်နိုင်တတ်ကျွမ်းခြင်းကိုင်း၊ ဤကိစ္စများတွင် အာဘောင်အာရင်းသန်သန်နှင့် မေးခွန်းများ တရစပ်ထုတ်ခြင်း
ကိုင်း၊ တစ်ဖက်လူကို ပြစ်တင်ရှုံ့ချခြင်းကိုင်း **တောင်ဟီဒ်**ဟု ပြောဆိုလာကြသည်။ ယင်းတို့အနက် အုပ်စုအတော်
များများတို့က မိမိတို့ကိုယ်ကို သမ္မာတရားရှိသူ **တောင်ဟီဒ်ဝါဒီများ**ဟု ဘွဲ့ခံလာကြသည်။ ထို့ပြင် ကလာမ်ပညာရှ
များကို တောင်ဟီဒ်ပညာရှင်များဟု အမည်ပေးလာကြသည်အထိဖြစ်၏။ သို့နှင့်တိုင် ဤပညာရပ်၏သီးသန့်အင
များအားလုံးသည် **တမန်တော်မြတ်**ﷺ**နှင့် ဆွဟာဗဟ်များ**ؓ**၏ဖွဲဆော်ဦးခေတ်**က တစ်စုံတစ်ရာ ကြားဖူးခဲ့ကြခြင်း
မရှိပေ။ သို့သာမက ထိုသခင်တို့သည် အတိုက်အခံငြင်းခုံမှု၏တံခါးပေါက် ဖွင့်သူကို ပြင်းထန်စွာ ရှုံ့ချခဲ့ကြသည်
ထိုသခင်တို့သည် ကုရ်အာန်ကျမ်းမြတ်တွင် ပေါ်လွင်ထင်ရှားစွာ ဖော်ပြပါရှိသည့် အထောက်အထားသာဓကများ
**ဥာဏ်မှီ** နားလည်သူများဖြစ်ကြသည်။ ထိုအထောက်အထားသာဓကများကို ပထမဆုံးအကြိမ် ကြားရသည့်အခါမှ
ပင် **လက်ခံခဲ့သူများဖြစ်ကြသည်။** ဤအကြောင်းကို **အားလုံး** သိထားကြပြီးဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်၏ပညာသည် အသိပညာအလုံးစုံပင်ဖြစ်သည်။ ခေတ်ဦးပိုင်းသခင်များထံတွင် ရှိခဲ့သော
**တောင်ဟီဒ်**ဆိုသည်မှာ ကလာမ်ပညာရှင်အများစုတို့ နားမလည်နိုင်သောအခြားကိစ္စတစ်ခုဖြစ်သည်။ နားလည်သည
**တိုင်အောင်** ကျင့်မှုကြသည်မဟုတ်ပေ။ ခေတ်ဦးသခင်တို့၏တောင်ဟီဒ်သည် အရာခပ်သိမ်းကို အလ္လာဟ်အရှင့်ဘက
**မှဖြစ်သည်ဟု** ယုံကြည်ရှုမြင်ခြင်းဖြစ်သည်။ ထိုသို့ရှုမြင်ရာတွင် အကြောင်းခံနှင့် ကြားခံကိစ္စများဘက်သို့ ငဲ့စောင်း
ပင် မကြည့်ပေ။ ဆိုလိုသည်မှာ အကောင်းအဆိုးအားလုံးကို ထိုအရှင့်ဘက်တော်မှသာဖြစ်သည်ဟု ရှုမြင်ခံယူကြ၏
ဤ**တောင်ဟီဒ်**ခံယူချက်သည် အဆင့်အတန်းမြင့်မားလှပြီး ယင်း၏အသီးအပွင့်တစ်ခုမှာ တဝပ်ကွလ်ခေါ် အလ္လာဟ်
အရှင့်အား လုံးဝယုံပုံလွှဲအပ်မှုဖြစ်သည်။ ဤအကြောင်းကို တဝပ်ကွလ်ကဏ္ဍတွင် အကျယ်ဖော်ပြမည်။

တောင်ဟီဒ်၏နောက် အသီးအပွင့်တစ်ခုမှာ လူသားတို့အပေါ် အပြစ်မတင်၊ ဒေါသလည်း မထွက်တော့ခြင်း
ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်၏အမိန့်ဆုံးဖြတ်ချက်အပေါ် ကျေနပ်လက်ခံခြင်းဖြစ်သည်။ ဤတောင်ဟီဒ်၏
အသီးအပွင့်တစ်ခုကို အဗူဗကရ်ؓသခင်၏မိန့်ဆိုမှုတွင် တွေ့နိုင်သည်။ အဗူဗကရ်ؓသခင် နေထိုင်မကောင်းဖြ
သောအခါ လူတို့က 'သခင့်အတွက် သမားတော် ပင့်ပေးရမလား'ဟု မေးမြန်းကြသည်။ ထိုအခါ သခင်က 'သမ
တော်*ကပင် ငါ့ကို မကျန်းမမာဖြစ်စေခြင်းဖြစ်သည်'ဟု ပြောဆိုခဲ့၏။ အခြားဆင့်ပြန်ချက်တစ်ခု၌ သခင်နေမကော

---

* အဗူဗကရ်ؓသခင်၏စကားတွင် 'သမားတော်'ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်ကို တင်စားပြောဆိုခြင်းဖြစ်သည်၊

သောအခါ လူတို့က 'သခင့်ရောဂါနှင့် ပတ်သက်၍ သမားတော်က မည်သို့ပြောဆိုပါသလဲ'ဟု မေးမြန်းကြသည်။ ထိုအခါ သခင်က 'ကျွန်ုပ်အား သမားတော်က 'ငါသည် အလိုရှိရာကို ပြုတော်မူသည်'ဟု မိန့်ဆိုသည်'ဟု ဖြေကြားခဲ့သည်။ တဝပ်ကွလ်ကဏ္ဍနှင့် တောင်ဟီဒ်ကဏ္ဍတို့တွင် ဤအကြောင်း သက်သေသာဓကများ ဖေါ်ပြမည်။

တောင်ဟီဒ်သည် အဖိုးအနဂ္ဃထိုက်တန်သောရတနာဖြစ်ပြီး ၎င်းတွင် အခွံနှစ်ထပ် ပါရှိလေသည်။ အခွံတစ်ခုသည် အခြားအခွံတစ်ခုထက် အနှစ်သားမှ ပို၍ဝေးသည်။ လူတို့သည် တောင်ဟီဒ်၏အမည်ကို ပထမအခွံအတွက်၎င်း၊ ထိုအခွံကို ထိန်းသိမ်းစောင့်ရှောက်ရေးဘာသာရပ်အတွက်၎င်း သီးသန့်ထား၍ သုံးနှုန်းနေကြသည်။ အနှစ်သားကို လုံးဝ ဂရုမစိုက်ကြတော့ပေ။ တောင်ဟီဒ်၏ထို**ပထမအခွံ**သည် နှုတ်မှ (ﷲ، لا إله إلا الله)'အလ္လာဟ်မှအပ ကိုးကွယ်ရာအရှင်မရှိ'ဟု ဖတ်ရွတ်ခြင်းဖြစ်သည်။ ဤတောင်ဟီဒ်သည် (ثليث)ခေါ်'သုံးပါးတစ်ဆူ'အယူကို ဆန့်ကျင်မှည့်ခေါ်ထားခြင်းဖြစ်သည်။ 'သုံးပါးတစ်ဆူအယူ'သည် နဆ္ဆရာနီတို့၏ခံယူချက်ဖြစ်သည်။ သို့နှင့်တိုင် ဤတောင်ဟီဒ်သည် **အတွင်းတစ်မျိုး** အပြင်တစ်မျိုး ခံယူချက်ရှိကြသော မုနာဖီက်အရေခြုံတို့ထံမှလည်း ထွက်ပေါ်တတ်သေးသည်။

**ဒုတိယအခွံ**တွင် တောင်ဟီဒ်၏နှုတ်ထွက်အဓိပ္ပါယ်သည် နှလုံးသားရှိအရာနှင့် ဆန့်ကျင်သွေဖီမှု မဖြစ်ပေ။ သို့သာမက ထိုအယုံအကြည်၏ထွက်ပေါ်ရာသည် နှလုံးသားဖြစ်သည်။ ဤသည်မှာ လူသာမန်တို့၏တောင်ဟီဒ်ဖြစ်သည်။ တဖန် ကလာမ်ပညာရှင်တို့ကလည်း ဤတောင်ဟီဒ်ကိုပင် လက်ခံယုံကြည်ထားကြသည်။ အထက်၌ဖေါ်ပြခဲ့သကဲ့သို့ ကလာမ်ပညာရှင်တို့သည် ဗိဒအတ်သမားတို့၏ပွေနောက်ပွေလီလုပ်ရပ်များမှ ဤဒုတိယအခွံတောင်ဟီဒ်ကို ထိန်းသိမ်းစောင့်ရှောက်သူများဖြစ်သည်။

**တတိယ**မှာ တောင်ဟီဒ်အနှစ်သားဖြစ်သည်။ ဤတောင်ဟီဒ်သည် အရာခပ်သိမ်းကို အလ္လာဟ်အရှင့်ဘက်မှဖြစ်သည်ဟု ယုံကြည်ရှုမြင်ပြီး၊ အကြောင်းခံနှင့် ကြားခံကိစ္စများဘက်သို့ လှည့်စောင်း၍ပင် မကြည့်ခြင်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်တစ်ပါးတည်းကိုသာ အိဗာဒတ်ပြုပြီး အခြားမည်သည့်အရာကိုမှ အိဗာဒတ်မပြုခြင်းဖြစ်သည်။ ဤတောင်ဟီဒ်ထဲ၌ စိတ်အလိုဆန္ဒနောက်သို့ လိုက်ခြင်းလည်း မပါရှိပေ။ မည်သူမဆို မိမိစိတ်အလိုဆန္ဒ၏နောက်လိုက်နာခံလျှင် ထိုသူသည် မိမိ၏စိတ်အလိုဆန္ဒကို ကိုးကွယ်ရာအရှင်ပြုလုပ်သူသာဖြစ်သည်။ အလ္လာဟ်အရှင်က–

﴿اَفَرَ اَيۡتَ مَنِ اتَّخَذَ اِلٰهَهٗ هَوَاهُ﴾

**'အသင်သည် မိမိ၏စိတ်ဆန္ဒကို ကိုးကွယ်ရာအရှင်အဖြစ် တင်မြှောက်သူအား တွေ့ဘူးသလော။'**

**(ဖုရ်ကာန်ဆူရာ ၊၂၃)**

ထို့ပြင် တမန်တော်မြတ်ﷺကလည်း–

أبغض إله عبد في الأرض عندالله تعالى هو الهوى. (ط)

'ကမ္ဘာပေါ်ရှိ ကိုးကွယ်ခံအရာများအနက် အလ္လာဟ်အရှင် အမုန်းတီးဆုံးသည် စိတ်အလိုဆန္ဒဖြစ်၏'

ဟု ဆိုမိန့်ခဲ့သည်။ အမှန်စင်စစ် ရုပ်တုကိုးကွယ်သူသည် ရုပ်တုကို ကိုးကွယ်ခြင်းမဟုတ်ဘဲ မိမိ၏စိတ်အလိုဆန္ဒကို ကိုးကွယ်နေခြင်းဖြစ်သည်။ သူ၏စိတ်သည် သူ့ဘိုးဘေးတို့၏သာသနာဘက်သို့ တိမ်းညွတ်ပြီး သူသည် ထိုတိမ်းညွတ်မှုကို နာခံနေခြင်းဖြစ်သည်။ စိတ်သည် သူနှစ်သက်စွဲလန်းရာများဘက်သို့ ယိမ်းယိုင်မြဲဖြစ်ပြီး ထိုယိမ်းယိုင်မှုကို စိတ်အလိုဆန္ဒဟု ခေါ်ဆိုခြင်းဖြစ်သည်။

ဤအနှစ်သားတောင်ဟီဒ်တွင် အဖန်ဆင်းခံများအပေါ် ဒေါသအမျက်ထွက်ခြင်းနှင့် ၎င်းတို့ဘက်သို့ အာရုံကိုင်းညွတ်ခြင်းများ မရှိတော့ပါ။ အရာခပ်သိမ်းသည် အလ္လာဟ်အရှင့်ဘက်တော်မှသာ ဖြစ်ရကြောင်း ရှုမြင်ယုံကြည်သားသူတစ်ဦးအဖို့ အလ္လာဟ်မှအပ အခြားအရာအပေါ် ဒေါသအမျက်ထွက်ရန် အဘယ်မှာရှိပါသနည်း။ အချုပ်မှာ ဤအဆင့်နေရာကိုပင် တောင်ဟီဒ်ဟု ခေါ်ဆိုခြင်းဖြစ်သည်။ ထို့ပြင် ဤအဆင့်နေရာသည် ဆွဖ်ဒီက်သစ္စာရှင်တို့၏

**အဆင့်နေရာဖြစ်**သည်။ စဉ်းစားကြည့်ပါလေ။ လူတို့သည် အဘယ်သို့ပြောင်းလဲပစ်ကြသနည်း။ ထိုတောင်ဟီဒ်အန
**သာဒကို ခွန်၍** အပေါ်ခွံနှင့် ရောင့်ရဲတင်းတိမ်နေကြသည်။ သို့မှုမက ထိုအပေါ်ခွံဖြင့် ဂုဏ်ယူဝံ့ကြွားလျက်ရှိသည်
**စင်စစ်တွင်** ထိုဂုဏ်ယူဝံ့ကြွားမှုသည် စကားလုံးသက်သက်အရသာ ဖြစ်သည်။ ဤအဖြစ်သည် အရင်းမူလသဘော
**နှင့် အလွန်ပင်** ဝေးကွာလျက်ရှိသည်။ အမှန်တကယ် ချီးကျူးဂုဏ်ယူထိုက်သည်မှာ အရင်းမူလအရာဖြစ်သည်။ (
**အထွက်**ဥဒါဟရဏ်မှာ တစ်စုံတစ်ဦးသည် မနက်စောစောထကာ ကေဘလာဘက်သို့ မျက်နှာမူပြီး-

﴿اِنِّي وَجَّهْتُ وَجْهِيَ لِلَّذِيْ فَطَرَ السَّمٰوٰتِ وَالْاَرْضَ حَنِيْفًا﴾

**'ကျွန်ုပ်သည် မိုးများနှင့်မြေကမ္ဘာကို ဖန်ဆင်းသည့်အရှင့်ဘက်သို့ မျက်နှာမူပါ၏။'** (စူရာအန်အာမ်၊ ၇၉)

ဟု **ရွတ်**ဆိုသကဲ့သို့ဖြစ်လိမ့်မည်။ ထိုသို့ရွတ်ဆိုသော်လည်း သူ၏နှလုံးသားကမူ အလ္လာဟ်အရှင့်ဘက်သို့ **တစ်စိ
တစ်လက်**မလှည့်ပေ။ သို့ဖြစ်ရာ သူသည် နေ့စဉ်နေ့တိုင်း နေ့၏အစတွင် အလ္လာဟ်အရှင့်ကို လိမ်ညာပြောဆို**သူဖြ
လိမ့်မည်**။ မျက်နှာကို ကာယကံမြောက်လှည့်ခဲ့ပါသည် ဆိုလျှင်လည်း သူမျက်နှာမူသည်မှာ ကအ်ဘာဘက်သို့သ
**ဖြစ်သည်**။ သူသည် မျက်နှာကို အခြားအရာများဘက်မှ ကအ်ဘာဘက်သို့ လှည့်လိုက်ခြင်းသာဖြစ်သည်။ ကအ်ဘ
သည် မိုးများနှင့်မြေကမ္ဘာကို ဖန်ဆင်းတော်မူသည့်အရှင် ရှိတော်မူသည့်ဘက် မဟုတ်ပေ။ ထိုအရှင်သည် 'ဘက်'
သည်များ၊ နေရာဌာနဆိုများ၏ကန့်သတ်ဘောင်ခပ်မှုမှ ကင်းရှင်းတော်မူသည်။

ဤနေရာတွင် မျက်နှာဆိုသည်မှာ စိတ်နှလုံး၏မျက်နှာစာကို **ဆိုလိုခြင်း**ဖြစ်သည်ဟု ဆိုလျှင်လည်း **သူသ
လိမ်ညာပြောဆိုသူဖြစ်သည်**။ အဘယ်ကြောင့်ဆိုသော် သူ၏စိတ်နှလုံးက ဒွန္နယာရေးလိုလားချက်များထဲတွင် တ
လည်လည်ဖြစ်နေသည်။ ပစ္စည်းဥစ္စာစုဆောင်းရေး၊ ဂုဏ်တန်ခိုးရရှိရေးနှင့် အကြောင်းခံ များပြားမှုဘက်သို့ **ဝင်စ
နေသည်**။ နှလုံးသားက ထိုအရာများဘက်သို့ အပြည့်အဝ အာရုံစိုက်လျက်ရှိရာ 'မိုးနှင့်မြေကို ဖန်ဆင်းတော်မူသ
အရှင့်ဘက်သို့ လှည့်ပါသည်'ဆိုသော စကားသည် အဘယ်သို့ မှန်ကန်နိုင်ပါသနည်း။ တကယ်တန်းတွင် အဆို
အာယတ်သည် တောင်ဟီဒ်၏အရင်းမူလသဘောကို ရှင်းရှင်းလင်းလင်း ဖော်ပြလျက်ရှိသည်။

တောင်ဟီဒ်ဝါဒီဆိုသည်မှာ အလ္လာဟ်တစ်ပါးတည်းကိုသာ ကြည့်မြင်သူဖြစ်ပြီး အလ္လာဟ်အရှင်မှအပ **အခြ
အရာဘက်သို့ ကြည့်ရှုသူမဟုတ်ရပေ။ ဤတောင်ဟီဒ်သည် အလ္လာဟ်အရှင်မိန့်**တော်မူ**ထားသည့်-

﴿قُلِ اللّٰهُ ثُمَّ ذَرْهُمْ فِيْ خَوْضِهِمْ يَلْعَبُوْنَ﴾

**'အသင်က 'အလ္လာဟ်အရှင်ပင် (ကျမ်းဂန်ကို ချပေးတော်မူသည်)'ဟု ပြောလော့။ ထို့နောက် ၎င်းတို့အား ၎င်းတို့၏အပျော်အပါးများတွင် နစ်မွန်းနေသည့်အဖြစ်နှင့် စွန့်ထားလော့။'** (စူရာအန်အာမ်၊ ၉၁)

ဤနေရာတွင် နှုတ်လျှာဖြင့် ပြောဆိုသည်ကို ဆိုလိုခြင်းမဟုတ်ပေ။ နှုတ်လျှာဆိုသည်မှာ နှလုံးသား၏အ
အနေကို မြွက်ဟမှုသာဖြစ်သည်။ နှုတ်လျှာသည် အမှန်ပြောသည့်အခါ ပြောပြီး၊ မုသားပြောသည့်အခါ၌ ပြောသ
အလ္လာဟ်အရှင် ကြည့်တော်မူသည့်နေရာသည် အခြေအနေအမှန် ပေါ်ထွက်ရာ နှလုံးသားကို ဖြစ်သည်။ နှလုံးသ
သည် တောင်ဟီဒ်ရှိရာ သိုက်တွင်းနှင့် တောင်ဟီဒ် ထွက်ပေါ်ရာ စမ်းပေါက်ဝဖြစ်သည်။

**စတုတ္ထစာလုံးမှာ**- 'သတိတရား'ဟု အဓိပ္ပါယ်ရသည့် ဇိကိရ်နှင့် တဇ်ကီရ်ဖြစ်သည်။ အလ္လာဟ်အရှင် မိန့်တေ
သည်မှာ-

﴿وَذَكِّرْ فَاِنَّ الذِّكْرٰى تَنْفَعُ الْمُؤْمِنِيْنَ﴾

**'သင်သည် သတိတရားပေးပါလေ။ အဘယ်ကြောင့်ဆိုသော် သတိတရားသည် အီမာန်ရှင်များအား အကျိုးရှိစေသည်။'** (စူရာဇာရိယာတ်၊ ၅၅)

ဇိကိရ်၏ထိုင်ဝိုင်းများအကြောင်း ချီးမွမ်းပြောဆိုသော ဟဒီစ်အများအပြား လာရှိလေသည်။ ဥပမာအားဖြ

إذا مررتم برياض الجنة فارتعوا . قيل : وما رياض الجنة ؟ قال : مجالس الذكر . (ت)

တမန်တော်မြတ်ﷺက 'အသင်တို့ ဂျန္နတ်၏ဥယာဉ်များကို ဖြတ်သန်းသွားရသည့်အခါ ကျက်စားကြလေကုန်'ဟု မိန့်ဆိုသောအခါ တစ်စုံတစ်ဦးက 'ဂျန္နတ်၏ဥယာဉ်များက ဘာပါလဲ'ဟု မေးမြန်းခဲ့သည်။ **ထိုအခါ** တမန်တော်မြတ်ﷺက 'ဇိက်ရ်၏ထိုင်ဝိုင်းများဖြစ်သည်'ဟု ဖြေကြားခဲ့သည်။'

**နောက်ဟဒီစ်တစ်**ပုဒ်တွင် ဖော်ပြသည်မှာ–

إنّ لله تعالى ملائكة سياحين في الدنيا سوى ملائكة الخلق إذا رأوا مجالس الذكر ينادي **بعضهم** بعضًا ألا هلموا إلى بغيتكم فيأتونهم ويحفون بهم ويستمعون . ألا فاذكروا الله وذكروا أنفسكم . (ب.ခ)

'အဖန်ဆင်းခံများနှင့်သက်ဆိုင်ရာ ကောင်းကင်တမန်များအပြင်၊ အလ္လာဟ်အရှင့်ထံတွင် လှည့်လည်သွားလာနေသော ကောင်းကင်တမန်များ ရှိသေးသည်။ ၎င်းတို့က ဇိက်ရ်၏ထိုင်ဝိုင်းများကို တွေ့မြင်သည့်အခါ တစ်ဦးကို တစ်ဦး– 'အသင်တို့ တောင့်တနေသည့်အရာဆီသို့ သွားကြလော'ဟု ဟစ်ခေါ်ကြသည်။ ထိုအခါ ကောင်းကင်တမန်များ ရောက်လာပြီး ထိုင်ဝိုင်းများကို ဝိုင်းအုံလိုက်ကြသည်။ ထို့နောက် နားဆင်ကြသည်။ သတိမူလော့။ အလ္လာဟ်အရှင်ကို သတိရတသကြလော့။ မိမိတို့၏နဖ်စ်စိတ်များကို သတိသံဝေပေးကြလော့။'

ဤဇိက်ရ်နှင့် တဇ်ကီရ်ဆိုသည့် အမည်စာလုံးများကို ယူ၍ တရားဟောဆရာများက ယခုခေတ် တွေ့နေရသည့်အတိုင်း အပြောင်းအလဲများ လုပ်လိုက်ကြသည်။ ၎င်းတို့က ဇိက်ရ်နှင့် တဇ်ကီရ်ဆိုသည်မှာ ကွက်စိပ်ပုံပြင်များ၊ ကဗျာလင်္ကာများ၊ *ဥဒါန်းစကားများနှင့် ဥပါဒ်စကားများ** ဖြစ်သည်ဟု သတ်မှတ်ထားလိုက်ခြင်းဖြစ်သည်။

ကွက်စိပ်ဟောခြင်းကမူ ဗိဒအတ်ပင်ဖြစ်သည်။ ရှေးသူတော်စင်များက ကွက်စိပ်ဟောသည်ကို ဝင်ရောက်နားထောင်ခြင်းမပြုရန် တားမြစ်ကြသည်။ ထိုသခင်တို့က 'ဤအလုပ်သည် တမန်တော်မြတ်ﷺခေတ်ကလည်း မရှိခဲ့။ အဗူဗကရ်ﷺသခင်၏ခေတ်နှင့် အိုမရ်ﷺသခင်၏ခေတ်မှာလည်း မပေါ်ခဲ့။ ဖစ်တနာများ ပေါ်ထွက်လာသောအခါမှ ဤကွက်စိပ်ဟောသည့်လုပ်ငန်းလည်း ပေါ်လာခြင်းဖြစ်သည်'ဟု ရှင်းပြကြသည်။

အီဗ်နေ့အိုမရ်ﷺသခင်နှင့်ပတ်သက်၍ ဆင့်ပြန်လာရှိသည်မှာ၊ တစ်နေ့တွင် သခင်သည် ဗလီထဲမှ ထွက်လာပြီး 'ငါ့ကို ကွက်စိပ်ဆရာက ဗလီထဲမှ ထုတ်လိုက်ခြင်းဖြစ်သည်။ သူသာရှိမနေရင် ငါဗလီထဲမှ ထွက်မှာမဟုတ်'ဟု ပြောဆိုခဲ့သည်။ ဇွမ္မရာက ပြောပြသည်မှာ 'ကျွန်ုပ်က ဆွဖ်ယန်စောင်ရ်ရီသခင့်အား–' ကျွန်တော်တို့ ကွက်စိပ်ဆရာဘက်ကို မျက်နှာလည့်ရမလား'ဟု မေးခဲ့သည်။ ထိုအခါ သခင်က 'ဗိဒအတ်အလုပ်တွေကို ကျောခိုင်းပါ'ဟု မိန့်ဆိုခဲ့သည်။

---

* *ဥဒါန်းစကားများနှင့်ဥပါဒ်စကားများ*– 'الشطح'နှင့် 'الطامات' အရဗီဝေါဟာရနှစ်ခုကို ဖလှယ်ထားခြင်းဖြစ်သည်။ 'ဥဒါန်း'ကို မြန်မာအဘိဓါန်တွင် 'အစဉ်အလာပြောစမှတ်ပြုရမည့်စကား။ အလွန်ဝမ်းမြောက်ကြည်နူးမှုကြောင့် ထွက်ပေါ်လာသောစကား'ဟုဖော်ပြထား၏။ တဖန် 'الشطح'မှာ 'သတိမဆောင်နိုင်သည့်အခြေအနေတွင် အတွေ့၏လွှမ်းမိုးမှုကြောင့် ဗဟိဒ္ဓစည်းမျဉ်းပြဋ္ဌာန်းချက်များနှင့် ဆန့်ကျင် ထွက်ပေါ်လာသော စကားဖြစ်သည်။ ထိုစကားမျိုးသည် ပြောသူအပေါ်မှာ အပြစ်မရှိသလို၊ ထိုစကားကို လက်ခံနာယူခွင့်လည်း မရှိပါ'ဟု ဖွင့်ဆိုချက်ရှိသည်။ တဖန် 'ဥပဒ်'ကို မြန်မာအဘိဓါန်တွင်'သတ္တဝါကို ဒုက္ခဖြစ်စေတတ်သော ဘေးအန္တရာယ်'ဟုပြထားသည်။ **အရဗီအဘိဓာန်**တွင် 'الطامات' ကို 'အထွတ်အထိပ်ဘေးဒုက္ခ၊ ကြီးကျယ်သောဖြစ်ရပ်၊ ကိယာမတ်'ဟု ဖော်ပြထားသည်။ ဤဝေါဟာရဖလှယ်မှုများသည် အကောင်းဆုံး မဟုတ်သေးသော်လည်း ရိပ်စားနားလည်နိုင်လောက်အောင်တော့ **နီးစပ်မှုရှိသည်**ဟု ယူဆပါသည်။ – မြန်မာပြန်သူ။

**အိဗ်နေ့အော်န်က** ပြောသည်မှာ 'ကျွန်ုပ် အိဗ်နေ့စီရီန်ؓသခင့်ထံ ရောက်သွားသောအခါ သခင်က 'ဒီက **ဘာသတင်းထူးသလဲ**'ဟု မေးခဲ့သည်။ ကျွန်ုပ်က 'အုပ်ချုပ်ရေးမှူးက ကွက်စိပ်ဆရာများကို ကွက်စိပ်မဟောတော့ **တားမြစ်လိုက်ပါသည်**'ဟု တင်ပြသည်။ ထိုအခါ သခင်က 'အုပ်ချုပ်ရေးမှူးသည် အမှန်တရားကို ကျင့်သုံးနိုင်စွမ်း **ရှိပေပြီ**'ဟု ပြောဆိုလေသည်။

**တစ်ကြိမ်တွင်** အအ်မရှ်ؒသခင် ဘစွရာမြို့ ဗဟိုဗလီသို့ ဝင်သွားသောအခါ ကွက်စိပ်ဆရာတစ်ဦး ကွက် **ဟောနေသည်ကို** တွေ့ခဲ့ရ၏။ ကွက်စိပ်ဆရာက 'ကျွန်ုပ်ကို အအ်မရှ်သခင်က ဟဒီစ်ဆင့်ပြန်သည်မှာ-'ဟု ပြော **နေသည်ကို** ကြားသောအခါ အအ်မရှ်ؒသခင်က ပရိသတ်ကြားတွင် ဝင်ထိုင်လိုက်သည်။ ထို့နောက် သခင်က ချိ **မွေးနှုတ်နေခဲ့သည်**။ ဤသည်ကို မြင်သောအခါ ကွက်စိပ်ဆရာက 'အဘိုးကြီး ခင်ဗျားမရှက်ဘူးလား'ဟု မေး **သည်**။ ထိုတွင်သခင်က 'ဘာကြောင့်ရှက်ရမှာလဲ။ ငါက စွန္နတ်ကို ကျင့်သုံးသည်။ အသင်က မုသားပြောဆိုသ ယခု အသင်ပြောနေသည့် အအ်မရှ်ဆိုသူသည် ငါပင်ဖြစ်သည်။ အသင့်ကို ငါ ဟဒီစ် မပြောပြဘူးပါ'ဟု ပြောခဲ့ သည်။

အိမာမ်အဟ်မဒ်ؒသခင်ကမူ 'လူတို့တွင် လိမ်ညာမုသားအများဆုံးသည် ကွက်စိပ်ဆရာနှင့် တောင်းရမ်း **များဖြစ်သည်**'ဟု ပြောဆိုခဲ့၏။ အလီؓသခင်သည် ကွက်စိပ်ဆရာများကို ဘစွရာမြို့ဗဟိုဗလီမှ မောင်းထုတ်ခဲ့သ သို့သော် အလီؓသခင်သည် ဟစံဘစွရီؒသခင်၏ဟောကြားမှုများကို ကြားသောအခါတွင်မူ မောင်းထုတ်ခြင် ခဲ့ပေ။ ဟစံဘစွရီؒသခင် ဟောလေ့ရှိသည်မှာ အာခိရတ်ပညာ၏တရားဖြစ်သည်။ ထို့ပြင် သခင်သည် သေခြင် စဉ်းစားဆင်ခြင်ရန်၊ နဖ်စ်စိတ်၏ပြစ်ချက်များ၊ ဘေးဒုက္ခဖြစ်စေသည့်အကျင့်အမူများ၊ ရှိုင်တွာန်၏ဝိတက်ဝိစာ ထိုဝိတက်ဝိစာရများမှ ရှောင်ရှားနိုင်မည့်နည်းလမ်းများကို ဟောပြောလေ့ရှိသည်။ ထို့ပြင် အလ္လာဟ်အရှင်၏ကေ တော်များနှင့်အရှင်ချီးမြှင့်သည့်နဲအ်မတ်စည်းစိမ်များငင်း၊ ထိုအရှင်ကို ပြည့်ပြည့်ဝဝ ကျေးဇူးတင်ရန် လူသား၏ နိုင်မှုကိုငင်း သတိတရားရကြရန် ဟောလေ့ရှိသည်။ ထို့ပြင် ဒွန္နယာ၏သေးသိမ်မှု၊ ယင်း၏အပြစ်အနာအဆ ယင်း၏မခိုင်မာမှုနှင့်သစ္စာမဲ့မှုများ၊ အာခိရတ်၏စိုးရိမ်ထိပ်လန့်ဖွယ်-အကြောင်းအရာများကို ဟောပြောလေ့ရှိ ဤသည်မှာ ရှရီအတ်နှင့်ကိုက်ညီသော ကောင်းမြတ်သည့်သတိသံဝေဂတရားများပင်ဖြစ်သည်။ အဗူဇရ်ؓသ ဤတရားသဘောကို လှုံ့ဆော်ထားသည့် ဟဒီစ်တစ်ပုဒ်ကို ဆင့်ပြန်သည်မှာ-

حضور مجلس ذكر أفضل من ألف ركعة . وحضور مجلس علم أفضل من عيادة ألف مريض ، حضور مجلس علم أفضل من شهود ألف جنازة ، فقيل : يارسول الله ، ومن قراة القرآن ؟ فقالﷺ: هل تنفع القرآن إلا بالعلم ؟ . (ابن الجوزي في الموضوعات)

တမန်တော်မြတ်ﷺက 'ဇိက်ရ်၏ထိုင်ဝိုင်းတွင် ထိုင်ခြင်းသည် နမာဇ်ရကအတ်တစ်ထောင်ဖတ်ခြ ထက် ပို၍မြတ်သည်။ ၎င်းပြင် ပညာ၏ထိုင်ဝိုင်းတွင် ထိုင်ခြင်းသည် လူမမာတစ်ထောင်ကို မေးခြင်းထ ပို၍ မြတ်သည်။ ၎င်းပြင် ပညာ၏ထိုင်ဝိုင်းတွင် ထိုင်ခြင်းသည် ဂျနာဇာတစ်ထောင်သို့ သွားရောက်ခြ ထက် ပို၍မြတ်သည်'ဟု မိန့်ဆိုသောအခါ၊ တစ်ဦးက 'အို ရစူလ်ကိုယ်တော်၊ ကုရ်အာန်ကို ဖတ်ရွတ်ခြ ထက် ပိုမြတ်ပါသလား'ဟု မေးမြန်းခဲ့သည်။ ထိုအခါ ကိုယ်တော်က 'ပညာ မပါဘဲ ကုရ်အာန်က အက ပြုမည်လား'ဟု မေးမြန်းပြောဆိုခဲ့သည်။

အတ္တာؒသခင်က ဆိုမိန့်သည်မှာ 'ဇိက်ရ်၏ထိုင်ဝိုင်းတစ်ခုသည် အပျော်အပါး၏ထိုင်ဝိုင်းပေါင်း ခုနှ အတွက် ဖြေဆေး ကဖ်ဖာရဟ်ဖြစ်သည်။'

စကားလုသုံးသူများက ဤဟဒီစ်များကို မိမိတို့၏စိတ်သဘောများ သန့်ရှင်းကြောင်း အထောက်အထ

ဖြင့် ပြောဆိုတတ်ကြသည်။ ၎င်းတို့က မိမိတို့၏အပေါ်တစားပြောဆိုမှုများကို တဇ်ကီရ်-တရားသံဝေဂဟု အမည်တပ်လိုက်ကြသည်။ ထို့ပြင် ကောင်းမြတ်သောသတိတရား၏လမ်းကို မေ့လျော့သွားကြပြီး ကွက်စိပ်ပုံပြင်များတွင် မွေ့လျော်နေကြလေသည်။ ဤကွက်စိပ်ပုံပြင်များသည် ကျမ်းမြတ်ကုရ်အာန်တွင် လာရှိသောပုံဝတ္ထုများကို လိုတိုးပိုလျှော့ပြုလုပ်ထားကြခြင်းဖြစ်သည်။ ကုရ်အာန်တွင် ပါရှိသည်များကို ဖြုတ်ပယ်ပစ်သလို ကုရ်အာန်တွင် မပါရှိသည်များကို ထိုးဇာတ်ထွင်၍ အပို ထည့်သွင်းသည်များလည်းရှိသည်။ သို့ဖြစ်ရာ အချို့ကွက်စိပ်များက နားထောင်လျှင် အကျိုးရှိသည်။ တဖန် အချို့ကွက်စိပ်များက အကြောင်းအရာ မှန်သော်လည်း ဆိုးကျိုးအန္တရာယ်ရှိသည်။ သို့နှင့်အမျှ ကွက်စိပ်ဝါသနာပါသွားသူတစ်ဦးအဖို့ အမှန်နှင့်အမှား၊ အကျိုးရှိမှုနှင့်အပြစ်ဖြစ်မှုသည် အရောရောအထွေးထွေးဖြစ်လျက်ရှိတော့သည်။ ဤအတွက်ကြောင့်ပင် ကွက်စိပ်ဟောသည့်အလုပ်ကို တားမြစ်ရခြင်းဖြစ်သည်။

သို့ဖြစ်၍ အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ﷺသခင်က 'လူသားသည် မှန်မှန်ကန်ကန်ဟောပြောမည့်ကွက်စိပ်ဆရာကို အလွန်လိုအပ်ပေသည်'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ပုံဝတ္ထုသည် နဗီတမန်တော်များ၏ဖြစ်တော်စဉ်ထဲမှဖြစ်ပြီး ထိုတမန်တော်များ၏တရားဓမ္မနှင့်သက်ဆိုင်သော အကြောင်းကိစ္စများလည်းဖြစ်မည်၊ ပြောသူကလည်း မှန်ကန်သောဆင့်ပြန်ချက်များကို အမှန်အတိုင်း ဟောပြောမည်ဆိုလျှင် ကျွန်ုပ်အနေဖြင့် ဘေးအန္တရာယ်ကို မမြင်ချေ။

ကွက်စိပ်ဟောသူသည် မုသားကိုတော့ ရှောင်ရမည်။ ထို့ပြင် မရေမရာပြောဆိုမှုနှင့် ပေါ့ပျက်မှုများကို ဖော်ပြသည့် အကြောင်းချင်းရာများပါရှိသော ဖြစ်ရပ်ထုပ္ပတ်များကိုလည်း ရှောင်ရမည်။ ထို့ပြင် လူသာမန် နားမလည်နိုင်သည့် အကြောင်းအရာများကို ထည့်သွင်းပြောဆိုခြင်းမပြုသင့်ပေ။

လူသာမန်တို့သည် ၎င်း၏ပေါ့ပျက်မှုများနှင့် မရေမရာပြောဆိုမှုများကို အတည်ယူကြလိမ့်မည်။ ထို့ပြင် ထိုအကြောင်းအရာများကို သက်သေထူပြီး မိမိတို့အတွက် ခွင့်လွှတ်မှုရှိသည့်အကြောင်း အကြောင်းပြကြလိမ့်မည်။ ၎င်းက 'ကြီးကျယ်သော ပုဂ္ဂိုလ်ကြီးများသည် ဤနည်းအတိုင်း ရှိခဲ့ကြသည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့အားလုံး အပြစ်ကင်းကြသည်။ အကယ်၍ အလ္လာဟ်အရှင့်ထံတွင် ကျွန်ုပ်အပြစ်ရှိသည်ဆိုလျှင် ဤပြစ်မှုကို ကျွန်ုပ်ထက်ပိုမြင့်မြတ်သော ပုဂ္ဂိုလ်ကြီးကလည်း ကျူးလွန်ခဲ့ပါသည်'ဟု အထောက်အထားတင်လာလိမ့်မည်။ ဤနည်းဖြင့် ၎င်းသည် ကိုယ်တိုင်က မသိဘဲ အလ္လာဟ်အရှင်မြတ်အပေါ် ရဲတင်းလာလိမ့်မည်။

ကွက်စိပ်ဆရာသည် အထက်ပါအချက်နှစ်ခုကို ရှောင်ကျဉ်နိုင်မည်ဆိုလျှင် သူ၏ဟောပြောမှုတွင် ဆိုးကျိုးမရှိတော့ပေ။ သို့သာမက ကျမ်းမြတ်ကုရ်အာန်နှင့် မှန်ကန်သောဟဒီစ်ကျမ်းတော်များ၏ဖော်ပြချက်များဖြစ်သည့်ဤပုံစံတွင် ကောင်းမြတ်သောပုံဝတ္ထုဖြစ်လာပေလိမ့်မည်။

အချို့လူတို့က အမိန့်နာခံရေး ဦးတည်ချက်ဖြင့် စိတ်ဝင်စားဖွယ်ပုံဝတ္ထုများကို ကြံဆဖန်တီး၍ ပြောခွင့်ရှိသည်ဟု မှတ်ယူကြသည်။ ၎င်းတို့က မိမိတို့၏ရည်ရွယ်ချက်သည် လူသားတို့အား အမှန်တရားဘက်သို့ ဖိတ်ခေါ်ရန်ဖြစ်သည်ဟု ထင်မှတ်နေကြသည်။ စင်စစ်တွင် ဤထင်မြင်ချက်များသည် ရှိုင်တွာန်ဘက်မှ ယုတ္တိယုတ္တာများဖြစ်သည်။ အကြောင်းမှာ အမှန်တရားအတွက် မုသားမလိုသောကြောင့်ပင်။ အလ္လာဟ်အရှင်နှင့် အလ္လာဟ့်တမန်တော်တို့ ဖော်ပြထားသော အကြောင်းအရာများကို ဟောပြောရာတွင် ထွင်လုံးများ မလိုအပ်ပါ။ စကားပြောဆိုရာ၌ အသေအချာရည်ရွယ်ပြီး နဘေထပ်များ ညှပ်၍ပြောသည်ကိုပင် မနှစ်သက်ဖွယ်ကိစ္စဟု သတ်မှတ်ပြီး လုပ်ဇာတ်ခင်းမှုတွင် ထည့်သွင်းရေတွက်ထားလေသည်။

စအဒ်အီဗ်နေ့အဗီဝကပ်စ်ﷺသခင်သည် သားဖြစ်သူအိုမရ်က နဘေထပ်စကားပြောသည်ကို ကြားသောအခါ 'မင်းကို ရွံမုန်းတာ ဒါကြောင့်ဘဲ။ မင်းအနေနဲ့ တောင်ဗဟ်မပြုမချင်း မင်းရဲ့အလိုဆန္ဒ ပြည့်ဝမှာမဟုတ်'ဟု ပြောဆိုခဲ့သည်။ သားဖြစ်သူက သူ့ဖခင်ထံ ရောက်လာပြီး အလိုဆန္ဒတစ်ခုအတွက် နဘေထပ်စကားပြောဆိုခဲ့ခြင်းဖြစ်သည်။

စကားလုံးသုံးလုံးကို နဘောထပ်၍ ပြောဆိုမိသူ အဗ်ဒွလ္လာဟ်အိဗ်နေ့ရဝါဟာအား တမန်တော်မြတ်ﷺက–

إياك و السجع يا ابن رو احة .

'အို အိဗ်နေ့ရဝါဟာ၊ အသင် နဘောထပ်ဖြင့် စကားပြောကျင့်ကို ရှောင်ပါ'ဟု သတိပေးခဲ့သည်။*

ကာရံတူစကားလုံး နှစ်လုံးထက် ပိုသောပြောဆိုမှုကို လုပ်ကြံပြောဆိုမှုဟု သတ်မှတ်ထားသည်။ ထိုသို့ပြောဆိုခြင်းကိုလည်း တားမြစ်ထားသည်။ သို့ဖြစ်ရာ တမန်တော်မြတ်ﷺထံ လူတစ်ယောက်က သန္ဓေသား၏အသက်ဖိုးလျော်ကြေးနှင့်ပတ်သက်၍–

كيف ندى من لا شرب ولا أكل ، ولا صاح ولااستهل ، و مثل ذلك يطل

*'မသောက်သေး၊ မစားသေး၊ မအော်သေး၊ မဟစ်သေး ထိုကလေးအတွက် အသက်ဘိုး ဘယ်သို့လျော်ပါ့မယ်။ ထိုပုံစံမျိုးတွင် ခွင့်လွှတ်မှုရှိသင့်သည်။'*

ထိုအခါ တမန်တော်မြတ်ﷺက– أسجع كسجع الأعراب . (၂)

'အရပ်ကျေးတောသားနဘောထပ်သကဲ့သို့ နဘောထပ်နေသလော'ဟု မိန့်ဆိုခဲ့လေသည်။

ကဗျာလင်္ကာနှင့်ပတ်သက်၍ကား တရားဓမ္မဟောပြောပွဲများတွင် ကဗျာလင်္ကာရွတ်ဆိုမှုများ များပြားလျှင် မကောင်းသောကိစ္စဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَالشُّعَرَاءُ يَتَّبِعُهُمُ الْغَاوُونَ ۞ أَلَمْ تَرَ أَنَّهُمْ فِي كُلِّ وَادٍ يَهِيمُونَ﴾

**'လင်္ကာဆရာတို့၏နောက်သို့ လိုက်သူများကား လမ်းပျောက်သူများပင်။ သူတို့သည် ကွင်းပြင်ရှိသမျှ အားလုံးတွင် လှည့်ပတ်သွားလာနေကြသည်ကို အသင် မတွေ့သလော။'** (စူရာရှုအ်ရာအ် ၊ ၂၂၄-၂၂၅)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَمَا عَلَّمْنَاهُ الشِّعْرَ وَمَا يَنْبَغِي لَهُ﴾

**'ငါအရှင်သည် ၎င်း(တမန်တော်မြတ်)အား ကဗျာလင်္ကာသင်ကြား မပေးခဲ့ချေ။ ထို့ပြင် ကဗျာလင်္ကာသည် ၎င်းအဖို့ အပ်စပ်လျော်ကန်သည်လည်း မဟုတ်ချေ။'** (စူရာယာစင်န် ၊ ၆၉)

ကဗျာလင်္ကာနှင့်ပတ်သက်၍ တရားဟောဆရာတို့ အများဆုံး အလေ့အထရှိသည်မှာ အချစ်ရေးဖွဲ့ဆိုမှုများ၊ ချစ်သူ၏အလှအပ၊ တူနှစ်ကိုယ်ကြည်ဖြူရခြင်း၏ကြည်နူးဖွယ်ကိစ္စ၊ ခွဲခွါရခြင်း၏နာကြင်မှုများသာဖြစ်သည်။ ထို့ပြင် တရားနားပရိသတ်ဆိုသည်မှာလည်း သာမန်လူပြိန်းများက အများဆုံးဖြစ်သည်။ ၎င်းတို့၏အတွင်းပိုင်းသည် အလိုရမ္မက်များဖြင့် ပြည့်နှက်နေသူများဖြစ်သည်။ ၎င်းတို့၏နှလုံးသားများကလည်း အလှအပစွဲမက်ဖွယ်တို့ဘက်သို့ တဝဲလည်လည်ရှိနေကြသည်။ ကဗျာလင်္ကာက ထိုနှလုံးသားထဲတွင် ရှိနေသော မီးပွါးကို မီးတောက်ကြီးဖြစ်လာအောင် နှိုးဆွပေးလေသည်။ သို့နှင့် ပရိသတ်သည် အော်ဟစ်ကြ၊ ပီတိဆိုက်ကြလေသည်။ ကဗျာလင်္ကာ၏အများသို့မဟုတ် အကုန်လုံးလိုလိုသည် ပျက်စီးမှုဘက်သို့သာ ဦးတည်လျက်ရှိသည်။ သို့ဖြစ်ရာ တရားသံဝေဂနှင့် ပညာဉာဏ်အမျှော်အမြင်အတွက် အထောက်အထားဖော်ပြမှုနှင့် ယင်းဘက်သို့ စိတ်ညွှတ်ပြောင်းယိမ်းယိုင်စေသည့်စပ်ဆိုမှုလွဲ၍ အခြားကဗျာလင်္ကာများကို အသုံးပြုရန်မသင့်ပေ။

* အလ္လာမာအိရာကီ ^ သခင်က 'ဟဒီစ်ကို ဤစာသားဖြင့် မတွေ့ဘူးပါ'ဟုဆိုသည်။ သို့သော် ၎င်းက မုအပ်တွာအဟ်မ အဗူယအ်လာ၊ အိဗ်နေ့စွန္နီ၊ အဗူနအိုင်မ် ^ တို့၏ကျမ်းများတွင် အာအိရှာ ^ သခင်မထံမှ ဆွဟီစနဒ်ဖြင့် လာရှိသောဟဒီစ် –إياك و السجع فان النبي ﷺ و اصحابه كانو ا لا يسجعون.(၁) ('ကာရန်နဘောဖြင့် စကားပြောခြင်းကို ရှောင်ပါ။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺသည်၎င်း၊ တမန်တော်၏ဆွဟာဗဟ်များ ^ သည်၎င်း နဘောထပ်၍ စကားမပြောကြပါ')–ကို ဖော်ပြခဲ့၏။ ဗုခါရီကျမ်းတွင် အိဗ်နေ့အဗ္ဗာစ် ^ ထံမှ အလားတူဆင့်ပြန်ချက်မျိုး ဖော်ပြထားသည်။

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ- (ဂ). أن من الشعر لحكمة
'မုချကေန် ကဗျာလင်္ကာထဲ၌ ဟိကမ်မတ်ရှိပေသည်'ဟု ဖြစ်သည်။

အကယ်၍ ပရိသတ်သည် အလ္လာဟ်အရှင်မြတ်၏အချစ်တွင် နစ်မွန်းနေသူများ အများစုပါဝင်သည့် သီးသန့်ပုဂ္ဂိုလ်များချည်းဖြစ်ပြီး အခြားမည်သူမှမပါလျှင်၊ သက်ရှိလူသားများကို သင်္ကေတပြုတင်စားဖွဲ့ဆိုထားသောစာသားဖြင့် ကဗျာလင်္ကာများ ဖတ်ရွတ်ခြင်းသည် အန္တရာယ်မရှိပေ။ အဘယ်ကြောင့်ဆိုသော် နားထောင်သူများသည် မိမိတို့ကြားလိုက်ရသောအရာကို မိမိတို့နှလုံးသားတွင် လွှမ်းမိုးနေသည့်အရာဖြင့် ထပ်တူပြုလိုက်ကြသောကြောင့်ဖြစ်သည်။ ဤအကြောင်းအရာအပေါ် သုံးသပ်စူးစမ်းချက်များကို စေမအ်နားဆင်ခြင်းကဏ္ဍတွင် ဖော်ပြမည်။

ဤအတွက်ကြောင့်ပင် ရှိုးနိုက်ဒ်ဘဂ္ဂဒါဒီ~သခင်သည် လူလေး ငါး ဆယ်ယောက်ရှိလျှင် ဟောပြောသည်။ ထို့ထက် ပိုလျှင် စကားမပြောတော့ပေ။ သခင်၏ထိုင်ဝိုင်းတွင် လူနှစ်ဆယ်ပြည့်သည်အခါဟူ၍ မရှိဘူးပေ။ တစ်ကြိမ်၌ အီဗ်နေ့ဆာလင်မ်~သခင်၏အိမ်ပေါက်သို့ လူတစ်စုရောက်လာခဲ့သည်။ လူတို့က သခင့်အား 'ဟောပါဦး။ သခင့်ရဲ့ပရိသတ် ရောက်နေပါတယ်'ဟု ပြောဆိုကြသည်။ ထိုအခါ သခင်က 'သူတို့ဟာ ငါ့ရဲ့ပရိသတ် မဟုတ်ပါ။ တရားပွဲရဲ့ပရိသတ်သာဖြစ်တယ်။ ငါ့ရဲ့ပရိသတ်က သီးသန့်ပုဂ္ဂိုလ်များဖြစ်တယ်'ဟု ပြောဆိုခဲ့သည်။

**ဥဒါန်းစကား-** ဆိုသည်မှာ **အချို့သောဆူဖီသူတော်စင်များ** ပြောဆိုကြသော စကားနှစ်မျိုးကို ကျွန်ုပ်တို့ ဆိုလိုခြင်းဖြစ်သည်။

**ဥဒါန်းစကားတစ်မျိုးမှာ-** အလ္လာဟ်အရှင့်ကို စွဲလန်းချစ်ခင်ခြင်း၊ အရှင်နှင့်အတူ ရှိခြင်းတို့အား ဗဟိဒ္ဓကျင့်မှုရာများ **မလိုတော့သည့်အဖြစ်** ရောက်အောင် စကားကြီးစကားကျယ်များ ထုတ်ဖော်ပြောဆိုခြင်းဖြစ်သည်။ အချို့ဆိုလျှင် **အလ္လာဟ်**အရှင်နှင့်မိမိ တစ်သွေးတစ်သားတည်းဖြစ်သွားပြီဟုငင်း၊ မိမိနှင့် အလ္လာဟ်အရှင့်အကြားတွင် အကာအဆီးများ **မရှိ**တော့ပါဟုငင်း၊ အရှင့်ကို တပ်အပ်ဖူးမြင်ရသည်ဟုငင်း၊ အရှင်နှင့်အပြန်အလှန် စကားပြောဆိုရသည်ဟုငင်း ထုတ်ဖော်ကြေညာကြသည်အထိဖြစ်သည်။ ငင်းတို့က 'ကျွန်ုပ်တို့အား ဤသို့ အမိန့်ရှိတော်မူသည်'၊ ထို့ပြင် 'ကျွန်ုပ်တို့က အရှင့်အား ဤသို့ပြောဆိုလျှောက်ထားလိုက်သည်'ဟု ပြောတတ်ကြသည်။ ငင်းတို့သည် ဤစကားများပြော၍ မိမိတို့ကိုယ်ကို ဟုစိုင်န်အီဗ်နေ့မန်ဆူရ်ဟလ်လဂျ်~သခင်နှင့် ခြေရာတိုင်းနေကြပေသည်။ မန်ဆူရ်ဟလ်လဂျ်~သခင်သည် အလားတူစကားမျိုး ပြောဆိုသဖြင့် စက်တိုင်တင်ခံခဲ့ရသူဖြစ်သည်။ ထိုသခင် ပြောဆိုခဲ့သော 'ငါသည် အလ်ဟပ်က်အရှင်ဖြစ်သည်'*ဆိုသည့် စကားကို ငင်းတို့က အကိုးအကားအထောက်အထားပြုလျက်ရှိကြသည်။

---

* မန်ဆူရ်ဟလ်လဂျ်သခင်~က 'أنا الحق'(ငါသည် အလ်ဟပ်က်အရှင်ဖြစ်သည်)ဟုပြောဆိုခဲ့သည်။ 'الحق'(အလ်ဟပ်က်)သည် အလ္လာဟ်အရှင်၏ဂုဏ်နာမတော်များထဲမှ နာမတော်တစ်ခုဖြစ်သည်။ သို့ဖြစ်ရာ မန်ဆူရ်ဟလ်လဂျ်~သခင်၏စကားသည် တစ်နည်းအားဖြင့် မိမိကိုယ်ကို အလ္လာဟ်အရှင်ဖြစ်သည်ဟု ကြေညာလိုက်ခြင်းဖြစ်သည်။ ထိုစကားကြောင့် သခင့်ကို သေဒဏ်ပေးခဲ့ခြင်းဖြစ်သည်။ ယခုအခါ ဤစကားရပ်များသည် မြန်မာစာပေဖြင့်လည်း ပေါ်ထွက်လျက်ရှိသည်။ ထိုအထဲမှ ဟလ်လဂျ်သခင်~ပြောဆိုခဲ့သည်ဆိုသော စကားတစ်ခွန်းမှာ လူသာမန်တို့၏အကီဒဟ်ခံယူချက်အတွက် ပို၍ စိုးရိမ်စရာဖြစ်သည်။ ယင်းမှာ-'كَفَرْتُ بِدِيْنِ اللهِ وَ الْكُفْرُ وَاجِبٌ لَدَيَّ وَعِنْدَ الْمُسْلِمِيْنَ قَبِيْحٌ'
(ငါသည် အလ္လာဟ်၏သာသနာကို ငြင်းပယ်ပါသည်။ ယင်းသို့ငြင်းပယ်ရန် ငါ့အတွက် ဝါဂျိဗ်ဖြစ်သည်။ ယင်းသည် မွတ်စ်လင်မ်များအတွက် မကောင်းသောအရာဖြစ်သည်။)

စာဖတ်သူတစ်ဦးသည် ဤစာမျိုးကိုဖတ်ပြီး 'အစ္စလာမ်ကို ငြင်းပယ်သူကလည်း ထိပ်သီးဝလီသူတော်စင်ကြီးဖြစ်နိုင်သည်၊ အချို့ဝလီသူတော်စင်များထံတွင် ကာဖိရ်လုပ်ခြင်း ဝါဂျိဗ်ဖြစ်သည်'ဟု မှတ်ယူပေတော့မည်။ သို့ဖြစ်ရာ ဤစာမျိုးကို ဖော်ထုတ်သဖြင့် အကျိုးရှိမှုထက် အန္တရာယ်ဖြစ်မှုက ပိုများကြောင်း သိသာထင်ရှားပေသည်။ - မြန်မာပြန်သူ။

ထို့ပြင် **အဗူယဇီဒ်ဘွစ္စတာနိမီ**သခင်ႆ ပြောခဲ့သည်ဆိုသော 'ငါသည် ဆွဗ်ဟာန်အရှင်ဖြစ်သည်။ ငါသည် အပြစ်ချို့တဲ့မှုအပေါင်းမှ **ကင်းရှင်းတော်မူအရှင်ဖြစ်သည်**' ဆိုသည့် စကားကိုလည်း ထောက်ပြသက်သေထူကြသည်။ ဤ**အပြောအဆိုများသည်** လူထုတို့အတွက် ဓမ္မန္တရာယ်ကြီးဖြစ်လျက်ရှိသည်။ အချို့သော တောင်သူလယ်လုပ်တို့သည် **မိမိတို့လုပ်ငန်းကို စွန့်ခွါပြီး** အလားတူစကားများ ထုတ်ဖေါ်ပြောဆိုနေကြသည်အထိဖြစ်၏။ လက်တွေ့ကျင့်ကြံအား**ထုတ်မှုများလည်း**မလို၊ ဉာဏ်စဉ်စခန်းအဆင့်ဆင့်ကို ကျော်ဖြတ်ရန်လည်း မလို၊ နဖ်စ်ကို ပြုပြင်ရန်နှင့် နှလုံးသားကို **သန့်ရှင်းရန်လည်း** မလိုတော့သဖြင့် ဤအပြောအဆိုများကို ဗီဇသဘာဝက အရသာတွေ့ ခြိုက်မြိုက်ကြလေသည်။ **သို့ဖြစ်ရာ ဉာဏ်နည်းသူ** လူပြိန်းများအဖို့ ဤသို့သော မမြင်ကန်းစမ်း ပရန်းပတာစကားများ ပြောဆိုရန် ဝန်မလေး**ကြတော့ချေ**။ ၎င်းတို့၏စကားများကို ငြင်းပယ်သည့်အခါ ၎င်းတို့က–

'ဤသို့ငြင်းပယ်ခြင်း၏အရင်းခံသည် ပညာနှင့်မုနာဇရာကြောင့်ဖြစ်သည်။ ပညာသည် အမှန်တရားအတွက် **အကာအဆီး**ဖြစ်နေသည်။ ထိုမုနာဇရာအတတ်သည် အတ္တနောမတိက ဖေါ်ထုတ်လိုက်သောလုပ်ရပ်ဖြစ်သည်။ ယခု**ကျွန်ုပ်တို့**ပြောဆိုသော စကားရပ်များသည် သစ္စာတရား၏အလင်းရောင်တွင် ပွင့်ပေါ်သိရှိရသော အတွင်းတရားများဖြစ်သည်' ဟု မဆိုင်းမတွ ဖြေရှင်းတတ်ကြသည်။

ဤစကားရပ်နှင့် အလားတူပြောဆိုမှုများသည် တိုင်းနိုင်ငံတွင် ပြန့်နှံ့လျက်ရှိသည်။ ဤစကားရပ်များကြောင့် ဖြစ်ပွါးရသည့် ဓမ္မန္တရာယ်သည်လည်း လူသာမန်တို့ကြားတွင် ကြီးထွားလျက်ရှိသည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်၏ သာသနာတွင် ဤစကားမျိုးပြောဆိုသူကို သုတ်သင်ပစ်ခြင်းသည် လူဆယ်ယောက်၏အသက်ကို ကယ်ဆယ်ခြင်းထက် ပို၍မြတ်သည်အထိပင်ဖြစ်လာသည်။

အထက်က အဗူယဇီဒ်ဘွစ္စတာနိမီႆသခင် ပြောခဲ့ပါသည်ဆိုသော စကားရပ်သည် အမှန်မဟုတ်နိုင်ချေ။ ဤအတိုင်း ပြောဆိုသည်ကို ကြားခဲ့ရပါသည်ဆိုလျှင်လည်း သခင်အနေဖြင့် မိမိစိတ်ထဲတွင် ထပ်ဖန်တလဲပေါ်နေသော အလ္လာဟ်အရှင့်ဘက်တော်မှ မိန့်ကြားမှုကို ပြန်ပြောပြခြင်းသာဖြစ်နိုင်ပေသည်။ ဥဒါဟရုဏ်အားဖြင့် အလ္လာဟ်အရှင်၏မိန့်ကြားတော်မူချက်– ﴿إِنَّنِيٓ أَنَا ٱللَّهُ لَآ إِلَٰهَ إِلَّآ أَنَا۠ فَٱعۡبُدۡنِي﴾

**'မုချစင်စစ် ငါအရှင်သည် အလ္လာဟ်ဖြစ်၏။ ငါမှတစ်ပါး အခြားကိုးကွယ်ရာအရှင်မရှိပြီ။ သို့ဖြစ်ရာ ငါ့အား ဆည်းကပ်ကိုးကွယ်ကြကုန်။'** (စူရာတွာဟာ ၊၁၄)

အာယတ်အား သခင်နှုတ်လျှာမှ ရွတ်ဆိုနေသည်ကို ကြားရသကဲ့သို့ဖြစ်သည်။ ဤသို့ရွတ်ဆိုခဲ့သည့်အပေါ်မှာ သခင်သည် မိမိကိုယ်ကို အလ္လာဟ်ဖြစ်ကြောင်း ကြွေးကြော်နေသည်ဟု မမှတ်ယူသင့်ဘဲ၊ သခင်ဘက်မှ အဖြစ်တစ်ခုကို ပြန်ပြောပြနေသည့်သဘောမျိုးသာ မှတ်ယူသင့်ပေသည်။

**ဒုတိယအမျိုးအစား ဥဒါန်းစကား–** ဤအမျိုးအစားသည် နားလည်ရသော စကားမျိုးမဟုတ်ပေ။ အပေါ်ယံစာသားက ကောင်းမွန်သည်။ သို့သော် အဓိပ္ပါယ်က ကြောက်စရာဖြစ်သည်။ ဤစကားနှင့်ပတ်သက်၍ အကျိုးရလဒ်တစ်စုံတစ်ရာလည်းမရှိပေ။ ပြောသူကိုယ်တိုင်ပင် နားမလည်သည့်အရာဖြစ်သည်။ ဤစကားမျိုးသည် အသိဉာဏ်ဖေါက်ပြန်မှုနှင့် အတွေးအခေါ်ကစဉ့်ကလျားဖြစ်မှုမှ ထွက်ပေါ်လာခြင်းဖြစ်သည်။ အဆိုးဆုံးမှာ ကာယကံရှင်ကိုယ်တိုင်က အကြားအာရုံတွင် ပေါ်လာသောစကားရပ်ကို အပြည့်အဝနားမလည်ခြင်းဖြစ်သည်။

ရံဖန်ရံခါ ထိုစကားမျိုးကို ပြောသူကိုယ်တိုင်က နားလည်သည်။ သို့သော် ၎င်းသည် အခြားသူကို နားလည်အောင် ရှင်းမပြနိုင်။ အမှန်တကယ်ဆိုလိုသည့် အဓိပ္ပါယ်ကို ဖေါ်ဆောင်မည့် စကားရပ်ကို စီကုံးပြောဆိုခြင်းမပြုနိုင်ပေ။ ဤသည်မှာ ပညာနှင့် အထိအတွေ့ နည်းသောကြောင့်ဖြစ်သည်။ အဓိပ္ပါယ်ကို ဆီလျော်ထိုက်တန်ရာ စကားလုံးဖြင့် ဖေါ်ပြနိုင်မည့်နည်းလမ်းကို သင်ယူထားခြင်းမရှိသောကြောင့်ဖြစ်သည်။ ဤစကားအမျိုးအစားသည် တစ်စုံတစ်

ရာ အကျိုးပြုမှုမရှိပေ။ သို့သော် နှလုံးသားများကို ရှုပ်ထွေးညစ်ကျူစေသည်။ အသိတရားကို အထိပ်တလန့်ဖြစ်စေသည်။ မှတ်ဉာဏ်ကို တွေဝေစေသည်။ သို့တည်းမဟုတ် ပြောဆိုရာတွင် ရည်ရွယ်ချက်မဟုတ်သော အဓိပ္ပါယ်အလို့သဘောကို နားလည်သွားချင်သွားမည်။ သို့နှင့်အမျှ လူတိုင်းလူတိုင်းသည် မိမိတို့၏စိတ်ဆန္ဒနှင့်ဗီဇသဘာဝများက လိုလားသည့်အတိုင်း နားလည်ကုန်ကြလိမ့်မည်။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

ما حدّث أحدكم قوما بحديث لا يفقهونه إلا كان فتنة عليهم . (ابن سنى . نع)

'အသင်တို့အနက် တစ်ဦးတစ်ဦးသည် လူထုအား ၎င်းတို့နားမလည်သည့်စကားဖြင့် ပြောဆိုမည်ဆိုလျှင်၊ ဤသည်မှာ လူထုအဖို့ ပြဿနာဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺက–

كلموا الناس بما يعرفون ودعوا ما ينكرون أتريدون أن يكذب الله ورسوله . (خ)

'လူတို့အား ၎င်းတို့နားလည်သည့်အရာကို ပြောဆိုကုန်။ ၎င်းတို့နားမလည်သည့်အရာမှ ရှောင်ကုန်။ အသင်တို့သည် အလ္လာဟ်အရှင်နှင့် ထိုအရှင်၏ရစူလ်တမန်တော်အား မုသားပြောဆိုသည်ဟု ဖြစ်စေချင်ကြသလော'ဟု မိန့်ဆိုတော်မူခဲ့၏။

ဤမိန့်ဆိုချက်များသည် ပြောသူကိုယ်တိုင်က မိမိ၏စကားကို နားလည်ပြီး၊ ကြားရသူ ဉာဏ်မမှီ နားမလည်နိုင်သည့်ကိစ္စမျိုးအတွက်ဖြစ်သည်။ ပြောဆိုသူကိုယ်တိုင်က မိမိစကားကို မိမိနားမလည်သော ကိစ္စမျိုးအတွက်ကား ဖေါ်ပြနေရန်ပင် မလိုတော့ပေ။

တမန်တော်အီစာ(အ)သခင်က 'အသင်တို့သည် မထိုက်တန်သူများအား ဟီကမ်တ်စကားကို ပြောဆိုခြင်းမပြုကြနှင့်။ ထိုသို့ပြောဆိုခြင်းသည် အသင်တို့က ဟီကမ်တ်အပေါ် ကျူးလွန်ခြင်းဖြစ်သည်။ တဖန် အသင်တို့သည် ထိုက်တန်သူများထံမှ ဟီကမ်တ်ကို ပိတ်ပင်တားဆီးခြင်းမပြုကြနှင့်။ ထိုသို့ပြုခဲ့လျှင် အသင်တို့က ထိုက်တန်သူများကို မတရားပြုခြင်းဖြစ်သည်။ အသင်တို့သည် ဆေးဆရာတို့ကဲ့သို့ ကျင့်မူကြ။ ဆေးဆရာသည် ဆေးကို ရောဂါရှိသည့်နေရာတွင် ထည့်သည်'ဟု ဆိုမိန့်ခဲ့သည်။ ဤအဆိုအမိန့်ပင် စာသားတစ်မျိုးဖြင့် ဖေါ်ပြလာရှိသည်မှာ–

'ဟီကမ်တ်ကို မထိုက်တန်သူများထံ ရှင်းလင်းပြောဆိုသူသည် ဉာဏ်ပညာမဲ့သူဖြစ်၏။ တဖန် ဟီကမ်တ်ကို ထိုက်တန်သူများထံ မရောက်အောင် ပိတ်ပင်တားဆီးသူသည် ၎င်းတို့အပေါ် မတရားလုပ်သူဖြစ်သည်။ ဟီကမ်တ်သည် ထိုက်တန်သူများအတွက် အခွင့်အရေး တစ်ရပ်မှုဖြစ်သည်။ အခွင့်အရေး ရထိုက်သူအား သူ၏အခွင့်အရေး ပေးကြကုန်။'

လူတို့က တရားဓမ္မအဖြစ် သတ်မှတ်ထားသော စကားအမျိုးအစားတစ်ခုမှာ **ဥပဒ်စကား**ဖြစ်သည်။ အရဗီလို တွမ်မတ်(طامات)ဖြစ်ပြီး အဓိပ္ပါယ်မှာ 'ဘေးဥပဒ်'ဖြစ်သည်။ ဤဥပဒ်စကားတွင်လည်း အထက်တွင် ဖေါ်ပြခဲ့သည့် ဥဒါန်းစကား၏အမိန့်ပညတ်တွင် အကျုံးဝင်လျက်ရှိသည်။ ထို့ပြင် ဥပဒ်စကားတွင် ရှင်းလင်းပေါ်လွင်ပြီး နားလည်လွယ်သော ရှရီအတ်၏စကားလုံးများကို အတွင်းရေးကိစ္စများအဖြစ် ပြောင်းပစ်မှုများပါဝင်သည်။ ထိုပြောင်းပစ်မှုထဲတွင် အသိဉာဏ်အရ နားလည်နိုင်သည့် အကျိုးကျေးဇူး တစ်စုံတစ်ရာမပါရှိပေ။ ဥပမာအားဖြင့် ဘာတွေနီဂိုဏ်းက ကျမ်းမြတ်ကုရ်အာန်၏အာယတ်များအပေါ် လိုရာစွဲအနက်ကောက်ယူခြင်းမျိုးဖြစ်သည်။ ဤဥပဒ်စကားများ ပြောဆိုနားထောင်ခြင်းသည်လည်း ဟရာမ်ပင်ဖြစ်သည်။

ဥပဒ်စကား၏ဘေးအန္တရာယ်သည် ကြီးမားလှပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺထံမှ အာဂမယုတ္တိလည်း မလာရှိ၊ ထို့ပြင် သဘာဝယုတ္တိအရ အရေးကြီးလိုအပ်ခြင်းလည်း မရှိဘဲနှင့် ရှရီအတ်မှစကားလုံးများ၏ဗဟိဒ္ဓအဓိပ္ပါယ်ကို စွန့်လွှတ်မည်ဆိုလျှင်၊ ဤအတွက်ကြောင့် စကားလုံးများအပေါ် အားကိုးအားထားပြုနိုင်မှု

ပျက်ပြယ်စေသည်။ ထို့ပြင် အလ္လာဟ်အရှင်၏ မိန့်ကြားချက်များနှင့် တမန်တော်မြတ်ﷺ၏ ဆိုမိန့်ချက်များ၏ အကျိုးဖြစ်ထွန်းမှုများလည်း ပျက်ပြားစေသည်။ ဤသို့ရှိရသည်မှာ စကားလုံးများမှ ပေါ်လွင်နားလည်ရသည့် အဓိပ္ပါယ်ကို အားကိုးအားထား မပြုသောကြောင့်ဖြစ်သည်။ တဖန် ၎င်းတို့ကောက်ယူသည့် ဘာတွေနီအဓိပ္ပါယ်ဆိုသည်ကလည်း တစ်မျိုးတစ်စားတည်း မဟုတ်ပေ။ ၎င်းတို့၏ သဘောထားသည် တစ်ယောက်တစ်ပေါက်ဆိုသလို အမျိုးမျိုးကွဲပြားလျက်ရှိသည်။ သို့ဖြစ်ရာ စကားလုံးများကို ပုံစံအမျိုးမျိုးဖြင့် လိုရာဆွဲယူနိုင်သည်။ ဤသည်မှာလည်း လူတို့ထံတွင် ပြန့်နှံ့နေသည့် အန္တရာယ်ကြီးမားလှသော ဗိဒအတ်များဖြစ်သည်။ ဤစကားရပ်များကို ပြောဆိုခြင်း၏ ရည်ရွယ်ချက်တစ်ခုသည် လူတို့ကို တအံ့တသြဖြစ်စေရန်ဖြစ်သည်။ အကြောင်းမှာ စိတ်သဘာဝသည် ထူးထူးခြားခြားအရာများဘက်သို့ အာရုံစိုက် အကြိုက်တွေ့စမြဲ ဖြစ်သောကြောင့်ပင်။

ဤနည်းဖြင့် ဘာတွေနီဂိုဏ်းသည် ရှရီအတ်တစ်ခုလုံးကို ဖြိုဖျက်ရန် လမ်းစ ရသွားခဲ့သည်။ ရှရီအတ်တရားတော်တွင် ပေါ်လွင်စွာရှိနေသော ဇဟိဒ္ဓအဓိပ္ပါယ်များကို ၎င်းတို့၏ အယူအဆနှင့် အကိုက်အညီဖြစ်အောင် လိုရာဆွဲကောက်ယူခဲ့ကြသည်။ ၎င်းတို့၏ လမ်းစဉ်မှာ 'အလ်မွတ်စ်တဇ္ဇဟီရ်ကျမ်း' တွင် ဖော်ပြထားသည့်အတိုင်းဖြစ်သည်။ ထိုကျမ်းသည် ဘာတွေနီဂိုဏ်းအပေါ် ကျွန်ုပ်ချေပရေးသားခဲ့သော ကျမ်းဖြစ်သည်။

ဥပဒ်စကားပြောဆိုသူများ၏ လိုရာစွဲအနက်ကောက်ကြပုံ နမူနာများကို ဖော်ပြမည်။ ၎င်းတို့အနက် **အချို့က** အလ္လာဟ်အရှင်မိန့်ကြားတော်မူသော– ﴿اِذْهَبْ اِلٰى فِرْعَوْنَ اِنَّهٗ طَغٰى﴾

**'ဖိရ်အောင်ထံသို့ သွားလော့။ ၎င်းကား ဗီဆန်လျက်ရှိ၏။'** (စူရာတွာဟာ ၊၂၄)

အာယတ်သည် စိတ်နှလုံးကို ရည်ညွှန်းခြင်းဖြစ်သည်ဟု ကောက်ယူကြ၏။ ဖိရ်အောင်ဟုဆိုရာတွင် ထိုစိတ်နှလုံး၏ ဗီဆန်မှုကို ဆိုခြင်းဖြစ်သည်၊ လူသားအားလုံး၏ ဗီဆန်မှုသည်လည်း ထိုစိတ်နှလုံးပင်ဖြစ်သည်ဟု ပြောဆိုကြသည်။ တဖန် အလ္လာဟ်အရှင်က မူဆာﷺသခင်အား– ﴿وَاَنْ اَلْقِ عَصَاكَ﴾

**'ထို့ပြင် အသင်၏ တုတ်ကို ပစ်ချလိုက်ပါလေ။'** (စူရာကစွာဆ် ၊၃၁)

ဟု မိန့်ကြားတော်မူခဲ့ခြင်းသည် အလ္လာဟ်အရှင်မှအပ အခြားအရာများအပေါ် အားကိုးအားထားပြု မှီခိုနေခြင်းများကို စွန့်လွှတ်ရန်ဖြစ်သည်ဟု ကြံဆကောက်ယူကြသည်။ ထို့ပြင် တမန်တော်မြတ်ﷺ၏–

تسحّروا فإن في السحور بركة . (ဗုခ,မု)

'စဲဟ်ရီ စားသုံးကြကုန်။ စဲဟ်ရီတွင် ဘရ်ကတ်ရှိသည်။'

ဆိုသော မိန့်ဆိုမှု၏ ရည်ရွယ်ချက်သည် နံနက်စဲဟ်ရီအချိန်၌ အလ္လာဟ်အရှင့်ထံမှ ခွင့်လွှတ်မှုတောင်းခံရန်ဖြစ်သည်–စသဖြင့် ကြံဆကောက်ယူခဲ့ကြသည်။ ၎င်းတို့သည် ကျမ်းမြတ်ကုရ်အာန်၏ ဇဟိဒ္ဓအဓိပ္ပါယ်များကို အစမှ အဆုံးထိ ကပြောင်းကပြန်လုပ်ပစ်ခဲ့ကြသည်။ ဆွဟာဗဟ်များထဲမှ တဖ်စီရ်ပညာရှင်ကြီးအဖြစ် ထင်ရှားသည့် အီဗ်နေ့အဗ္ဗာစ်ﷺ သခင် အပါအဝင်နှင့် ပညာရှင်အားလုံးထံမှ လာရှိသော တဖ်စီရ်ဖွင့်ဆိုချက်များကိုလည်း ပြောင်းလဲပြင်ဆင်ပစ်ခဲ့ကြသည်။

၎င်းတို့၏ အချို့သော ကောက်ယူကြံဆချက်များသည် အမှားအယွင်းဖြစ်ကြောင်း သေချာအပ်ချသိနိုင်သည်။ ဥပမာ ဖိရ်အောင်ကို စိတ်နှလုံးဟု ဆိုခြင်းမျိုးဖြစ်သည်။ စင်စစ်တွင် ဖိရ်အောင်ဆိုသည်မှာ ကိုယ်ကာယဖြင့် ရှိခဲ့သော လူတစ်ဦးဖြစ်သည်။ ဖိရ်အောင်ဆိုသော လူတစ်ဦး အသက်ရှင်းထင်ရှားရှိခဲ့ဖူးခြင်းနှင့် ၎င်းအား တမန်တော်မူဆာﷺ သခင်က အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်ခဲ့ခြင်းတို့အား တဝါတိရ်ဆင့်ပြန်မှုများဖြင့် ကျွန်ုပ်တို့ သိကြရသည်။ ဤနည်းအတူ အဗူဂျာဟီလ်နှင့်အဗူလဟဗ်တို့နှစ်ဦးသည် မြင်တွေ့ထိကိုင်၍မရနိုင်သောရှိုင်တွာန်များလည်း မဟုတ်၊ ကောင်းကင်တမန်များလည်းမဟုတ်ဘဲ၊ ကာဖိရ်ခေါင်းဆောင်များသာဖြစ်ကြောင်း ကျွန်ုပ်တို့ အခိုင်အမာသိရှိထားကြသည်။

ဤစကားလုံးများကို အခြားအဓိပ္ပါယ်အလိုသဘောတစ်ခုသို့ ကောက်ယူကြံဆရန်လမ်းမရှိပေ။ ဤနည်းအတူ ဗဟ်ရ် ဆိုသောစကားလုံးကို ခွင့်လွှတ်မှုတောင်းခံခြင်းဟု အနက်ကောက်ရန် မဖြစ်နိုင်ချေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺသည် ထိုအချိန်တွင် အစားအစာ စားသုံးခဲ့သည်။ ထို့ပြင် တမန်တော်မြတ်ﷺက–

هلموا إلى الغذاء المبارك . (د.س.حب)

'မင်္ဂလာရှိသော နံနက်စာဆီသို့ လာကြကုန်။'

ဟု မိန့်ဆိုခဲ့သည်။ သို့ဖြစ်ရာ အထက်ကကြံဆကောက်ယူချက်များ မှားယွင်းကြောင်းကို တဝါတိရ်ဆင့်ပြန်ချက်များ ဖြင့်၎င်း၊ အာရုံငါးပါးထိတွေ့မှုဖြင့်၎င်း မုချသိနိုင်သည်။ ထို့ပြင် အချို့သောကြံဆကောက်ယူမှုများ၏ မှားယွင်းကြောင်း ကို အားသာအထင်ဖြင့် သိနိုင်သည်။ မြင်ခြင်းကြားခြင်းအစရှိသည့် အာရုံသိနှင့်မသက်ဆိုင်သောကိစ္စများ၌ အားသာ အထင်ကို အသုံးပြုရသည်။

ဤနည်းဖြင့် ကြံဆကောက်ယူချက်များ အားလုံးသည် ဟရာမ်ဖြစ်သည်။ လမ်းမှားခြင်းဖြစ်သည်။ လူတို့၏ သာသနာကို ဖျက်လိုဖျက်ဆီးပြုခြင်းဖြစ်သည်။ ဤကြံဆကောက်ယူချက်များအနက် မည်သည့်အရာတစ်ခုမှ ဆွဟာ ဗဟ်ﷺသခင်များနှင့် တာဘိအီသခင်များ ထံမှ ဆင့်ပြန်လာရှိခြင်းမဟုတ်ပေ။ တာဘိအီသခင်တစ်ပါးဖြစ်သူ ဟစ် ဘစ္စရီ သခင်သည် လူသားများကို အစွလာမ့်ဘက်သို့ ဖိတ်ခေါ်ရန်နှင့်ဟောပြောဆုံးမရန် အလွန်စိတ်အားထက်သန် သူဖြစ်သည်။ သို့နှင့်တိုင် သခင့်ထံမှ အထက်ပါကြံဆကောက်ယူမှုများ ဆင့်ပြန်လာရှိခြင်းမရှိခဲ့ပေ။ ဤကဲ့သို့သော ကြံဆကောက်ယူချက်မျိုးကို ရည်ရွယ်ပြီး တမန်တော်မြတ်ﷺက–

مَنْ فسَّر برأيه فليتبوأ مقعده من النار . (ت)

'အကြင်သူသည် မိမိ၏အတွေးအမြင်သက်သက်ဖြင့် ကုရ်အာန်ကို တဖ်စီရ်ဖွင့်ဆိုခဲ့မည်လျှင် ဂျဟန္နမ် တွင် သူ့အတွက်နေရာထိုင်ခင်း ပြင်ဆင်ပေတော့'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။

ဤနည်းအရ ကြံဆကောက်ယူသူ၏ရည်ရွယ်ချက်နှင့်အတွေးအခေါ်သည် မိမိလက်ခံထားသောကိစ္စရပ်တစ်ခု ကို အတည်ပြုရန်ဖြစ်သည်။ ၎င်းသည် ထိုကိစ္စရပ်ကို အတည်ပြုရန်နှင့် ရည်ရွယ်ချက်ဖေါ်ဆောင်ရေးအတွက် ကျမ်း မြတ်ကုရ်အာန်ကို သက်သေထူခြင်းဖြစ်သည်။ ကျမ်းမြတ်၏စကားလုံးများထဲမှ မိမိ၏ရည်ရွယ်ချက်ကို ထုတ်ယူရန် ဖြစ်သည်။ သို့နှင့်တိုင် စကားလုံးအသုံးအနှုန်းအရသော်၎င်း၊ သဘာဝယုတ္တိအရသော်၎င်း ကျမ်းမြတ်ကုရ်အာန်ထဲတွင် ထိုအရာကို သက်သေခံမည့်အထောက်အထား တစ်စုံတစ်ရာ မပါဝင်ချေ။

အထက်မှ ဖေါ်ပြချက်ကို ကြည့်ပြီး အီစ္စတင်ဘာတ်နည်းအရ ထုတ်ယူမှုနှင့် တွေးခေါ်စဉ်းစားမှုများဖြင့် ကျမ်း မြတ်ကုရ်အာန်ကို တဖ်စီရ်ဖွင့်ဆိုခြင်း မပြုပိုင်ဟု မမှတ်ယူသင့်ချေ။ ဆွဟာဗဟ်များﷺနှင့် တဖ်စီရ်ပညာရှင်ကြီးများ သည် အာယတ်တော်အသီးသီးမှ အနက်အဓိပ္ပါယ် ငါးခု၊ သို့မဟုတ် ခြောက်ခု၊ သို့မဟုတ် ခုနစ်ခုစီ ထုတ်ဖေါ်ခဲ့ကြ သည်။ ထိုအနက်အဓိပ္ပါယ်များအားလုံးသည် တမန်တော်မြတ်ﷺထံမှ ကြားသိရသော အရာများဖြစ်ကြောင်း ကျွန်ုပ် တို့သိကြရသည်။ အဘယ်ကြောင့်ဆိုသော် ရံဖန်ရံခါ ထိုအနက်အဓိပ္ပါယ်များသည် အလိုသဘောကိုက်ညီ၍ မရနိုင် အောင် တစ်ခုနှင့်တစ်ခု ဆန့်ကျင်ဘက်ဖြစ်နေခဲ့သည်။ သို့ဖြစ်ရာ ကောင်းစွာနားလည်သဘောပေါက်ပြီး ကြာရှည်စွာ စဉ်းစားတွေးခေါ်ခဲ့ရာမှ ထိုအနက်အဓိပ္ပါယ်များကို ထုတ်ဖေါ်ခဲ့ခြင်းဖြစ်ကြောင်း သိရသည်။ ဤအတွက်ကြောင့်ပင် တမန်တော်မြတ်ﷺက အိဗ်နေ့အဗ္ဗာစ်ﷺသခင်အတွက်–

اللهم تفقهه في الدين وعلمه التأويل . (خ)

'အိုအလ္လာဟ်အရှင်၊ ဤသူ့ကို သာသနာရေးသိနားလည်မှု ချီးမြှင့်တော်မူပါ။ ထို့ပြင် အနက်ကောက် ယူကြံဆမှုအတတ်ကို သင်ပေးတော်မူပါ'ဟု ဒိုအာပြုပေးခဲ့ခြင်းဖြစ်သည်။

**တစ်ခုတစ်ဦးက** ဥပဒ်စကားပြောဆိုသူများ၏အထက်ပါကြံဆကောက်ယူချက်များကို ပြုပိုင်သည်ဟု လက် **ရည်။ သို့နှင့်တိုင်** ထိုသူက စကားလုံးများ၏အလိုသဘောသည် ၎င်းတို့ကောက်ယူသည့်အတိုင်း မဟုတ်ကြောင်း **သည်။ ထို့ပြင်** ဤသို့ပြောဆိုရခြင်း၏ရည်ရွယ်ချက်သည် လူသားများကို အလ္လာဟ်အရှင့်ဘက်သို့ ဖွဲ့ဆောင်ခေါ်ယူ **ဖြစ်သည်ဟု** အထင်ရောက်နေဦးမည်ဆိုလျှင် ထိုသူမျိုး၏အလားသဏ္ဍာန်သည် ဤသို့ဖြစ်၏။ ကိစ္စရပ်တစ်ခုသ **လက်တွေ့အားဖြင့်** မှန်ကန်သည်။ သို့ရာတွင် ထိုကိစ္စရပ်ကို ရှရီအတ်က ဖော်ပြထားခြင်းမရှိပေ။ သို့ဖြစ်ရာ ထိုအ **ကို တမန်တော်မြတ်ﷺက** မိန့်ဆိုခဲ့ပါသည်ဟု ဟဒီစ်တစ်ခု လုပ်ကြံဖန်တီးလိုက်သည်။ သို့မဟုတ် မိမိက မှန်သ **ဟုထင်သော** မတ်စ်အလာတိုင်းအတွက် တမန်တော်မြတ်ﷺဘက်မှ ဟဒီစ်များ လုပ်ကြံဖန်တီးသူ၏အလားသဏ္ဍာ **ဖြစ်သည်။** ဤလုပ်ရပ်သည် တရားမဲ့မှုနှင့် လမ်းမှားမှုပင်ဖြစ်သည်။ ထို့ပြင် ဤလုပ်ရပ်သည် တမန်တော်မြတ်ﷺ၏

مَن كذب عليَّ متعمداً فليتبوأ مقعده من النار . (خ.م)

'အကြင်သူသည် သိလျက်နှင့် ငါ့အပေါ် မုသားစွပ်စွဲခဲ့လျှင် ထိုသူသည် ဂျဟန္နမ်တွင် မိမိအတွက် နေရာထိုင်ခင်း ပြင်ဆင်ထားလော့'ဆိုသည့် မိန့်ဆိုမှုတွင် အကျုံးဝင်နေပေသည်။

**အမှန်**မှာ ကျမ်းမြတ်ကုရ်အာန်၏စကားလုံးများကို လိုရာဆွဲအနက်ကောက်ခြင်းက ဟဒီစ် လုပ်ကြံပြောဆိုခြ **ထက်ပို၍ ဆိုး**ဥပဒ်ကြီးမားလေသည်။ အဘယ်ကြောင့်ဆိုသော် စကားလုံးများ၏မြစ်ခြေခိုင်မာမှု ပျက်ယွင်းသွာ **သောကြောင့်ဖြစ်**သည်။ ထို့ပြင် ကုရ်အာန်ကျမ်းမြတ်ကို သိနားလည်ရေးနှင့် အကျိုးခံစားရေး၏လမ်းစသည်လ လုံးဝပြတ်တောက်သွားသောကြောင့်ဖြစ်သည်။

ရှိုင်တွာန်က လူသားတို့၏ဦးတည်ချက်များကို ကောင်းမြတ်သောပညာရပ်များဘက်မှ ဆိုးယုတ်သောပ ရပ်များဘက်သို့ မည်သို့လှည့်ပစ်ခဲ့ကြောင်း စာရှုသူ သိခဲ့ရပြီးဖြစ်သည်။ ဤအရာအားလုံးသည် ပညာရှင်ဆိုးများ အမည်နာမများကို ပြောင်းလဲပစ်ခဲ့ခြင်း၏**အကျိုးဆက်**ပင်ဖြစ်သည်။ အကယ်၍ သင်က ပထမခေတ်ဦးမှာ ရှိခဲ့သ အဓိပ္ပါယ်ရင်းများဘက် မလှည့်တော့ဘဲ၊ နာမည်ကျော်ကြားမှုကို ကြည့်ပြီး ထိုပညာရှင်ဆိုးများ၏နောက်သို့ လို ပါခဲ့မည်ဆိုလျှင်၊ အသင်သည် ဟိက်မတ်ပညာကို ရယူရန်အတွက် ဟကီမ်းဟု အမည်ခံထားသူ၏နောက်သို့ လို သည်နှင့် တူလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ယခုအခါတွင် ဟကီမ်းဆိုသော အမည်ကို ဆေးဆရာ၊ ကဗျာဆ နှင့်နက္ခတ်ဆရာ ဆိုသည့်အဓိပ္ပါယ်များအတွက်လည်း သုံးနှုန်းလျက်ရှိသောကြောင့်ဖြစ်သည်။ ဤသို့ရှိခြင်းမှာ စ လုံးများ၏ပြောင်းလဲသုံးစွဲနေမှုကို ဂရုမမူ မေ့ပျောက်ထားခဲ့သောကြောင့်ဖြစ်သည်။

**ပဉ္စမစကားလုံး–** သည် 'ဟိက်မတ်'ဖြစ်၏။ 'ဟကီမ်း'ဆိုသောအမည်ကို ဆေးဆရာ၊ ကဗျာဆရာနှင့် နက္ခတ်ဆ ဆိုသည့်အဓိပ္ပါယ်များအတွက် သုံးနှုန်းလျက်ရှိသည်။ လမ်းလေးခွတွင်ထိုင်ခါ လူအများကို လက်ဖြန့်ခိုင်းပြီး အ ကောက်နေသူကိုပင် 'ဟကီမ်း'ဟု ခေါ်လျက်ရှိသည်။ စင်စစ်တွင် ဟိက်မတ်သည် အလ္လာဟ်အရှင်ကိုယ်တိုင် ချီး ထားတော်မူသောအရာဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားသည်မှာ–

﴿ يُؤتِي الحِكْمَةَ مَنْ يَشَاءُ وَمَنْ يُؤتَ الحِكْمَةَ فَقَدْ أُوتِيَ خَيْرًا كَثِيرًا ﴾

**'အလ္လာဟ်အရှင်သည် မိမိအလိုရှိသူအား ဟိက်မတ်ချီးမြှင့်တော်မူသည်။ အကြင်သူ ဟိက်မတ်ချီးမြှင့် ခြင်းခံရပြီဆိုလျှင် များစွာသောကောင်းမွန်မှုများ ရရှိခြင်းပင်ဖြစ်ပေသည်။'** (စူရာဗကရာ၊ ၂၆၉)

တဖန် တမန်တော်မြတ်ﷺက မိန့်ဆိုခဲ့သည်မှာ–

كلمة من الحكمة يتعلمها الرجل خير له من الدنيا وما فيها . (س)

'လူတစ်ဦးသည် ဟိက်မတ်၏စကားတစ်ခွန်းကို သင်ယူရရှိခဲ့ပါက ဤသည်မှာ ၎င်းအဖို့ ဒွန္နယာနှင့် **ဒွန္နယာရှိ** အရာအားလုံးကို ရရှိခြင်းပင်ဖြစ်သည်။'

သို့ရှိရာ ပထမဦးစွာ ဟီက်မတ်ဆိုသည်မှာ ဘာကိုဆိုသည်ကို ကြည့်သင့်သည်။ ထို့နောက်တွင်မှ လက်တွေ့အားဖြင့် ဤစကားလုံးကို မည်သို့ပြောင်းလဲသုံးနှုန်းနေသည်ကို ကြည့်ရှုသင့်သည်။ တဖန် ဤပြောင်းလဲမှုအပေါ် အခြားစကားလုံးများကို စဉ်းစားဆင်ခြင်ခြင်းဖြင့် အိုလမာပညာရှင်ဆိုးတို့၏ လှည့်စားမှု ဖျားယောင်းမှုများမှ ရှောင်ရှားကြရမည်။ ထိုပညာရှင်ဆိုးတို့၏ ဆိုးယုတ်မှုသည် ရှိင်တွာန်တို့၏ ဆိုးယုတ်မှုထက် ပို၍ကြီးကျယ်သည်။ ရှိင်တွာန်တို့က ထိုပညာရှင်ဆိုးတို့ကို ခုတုံးလုပ် ကြားခံပြု၍ လူတို့၏ စိတ်နှလုံးများထဲမှ သာသနာကို ဆွဲထုတ်ယူကြခြင်းဖြစ်သည်။

သို့ဖြစ်၍ပင် ဆွဟာဗဟ်များ ﵃ က တမန်တော်မြတ် ﷺ အား 'အဖန်ဆင်းခံများတွင် **အဆိုးယုတ်ဆုံး** မည်သူပါလဲ' ဟု မေးလျှောက်သောအခါ တမန်တော် ﷺ က အဖြေပေးရန်ငြင်းခဲ့ပြီး– ' اللهم اغفر '(**အိုအလ္လာဟ်**၊ ခွင့်လွှတ်တော်မူပါ)ဟု မိန့်ဆိုနေခဲ့သည်။ အကြိမ်ကြိမ်မေးလျှောက်သောအခါတွင်မှ–

هم علماء السوء . (مى)

'ကမ္ဘာလောကတွင် အဆိုးယုတ်ဆုံးသည် အိုလမာပညာရှင်ဆိုးများဖြစ်သည်'ဟု မိန့်ဆိုခဲ့ပေသည်။

ယခုစာရှုသူသည် ကောင်းမြတ်သောပညာ**ကိုငှ်**၊ ဆိုးယုတ်သောပညာကိုငှ်း၊ ဤပညာနှစ်ခု တစ်ခုနှင့်တစ်ခု မည်သို့ ထွေးရောယှက်တင်ဖြစ်ရသည်ကိုငှ်း **သိရပြီဖြစ်သည်**။ သို့ဖြစ်ရာ သင်သည် မိမိ၏ နဖ်စ်အတွက် အကောင်းလိုလားသည့်ဆိုလျှင် ရှေးသူဟောင်းသူတော်ကောင်းတို့၏ နောက်သို့ လိုက်ရမည်ဖြစ်သည်။ ဤသို့မဟုတ်သေးဘဲ ဖျားယောင်းခံရမှု၏ကြိုးစကို ဆွဲပြီး အောက်သို့ ဆင်းချင်သည်ဆိုလျှင်လည်း **နောက်ပေါ်**လူတို့နှင့် တူဆင်အောင်နေရန်သာဖြစ်သည်။

ရှေးသူတော်စင်များ နှစ်ခြိုက်အကြိုက်တွေ့ခဲ့သော ပညာရပ်များအားလုံးသည် တစ်စတစ်စနှင့် တိမ်ကောသွားခဲ့ပြီဖြစ်သည်။ ယခုခေတ် လူတို့ အသဲအသန်လိုက်နေသော ပညာရပ်အများစုသည် ဗိဒအတ်နှင့်အသစ်အဆန်းကိစ္စများဖြစ်သည်။ ဆွဟီဆင့်ပြန်မှုတွင် တမန်တော်မြတ် ﷺ မိန့်ဆိုထားသည်မှာ–

بدأ **الإسلام** غريبًا وسيعود غريبًا كما بدأ ، فطوبى للغرباء . (م)

'အစ္စလာမ်သည် မူလက ထီးတည်းကြီး စတင်ခဲ့ရသည်။ မကြာမီ ဤ**သာသနာ**သည် ထီးတည်း**ကြီး**ပင် ပြန်သွားလိမ့်မည်။ သို့ရှိရာ ထီးထီးမားမားရှိသူတို့အဖို့ကား ကောင်းပေစွ။'

ထိုအခါ ဆွဟာဗဟ်များ ﵃ က 'ကိုယ်တော်၊ ထီးထီးမားမားရှိသူများသည် မည်သူများပါလဲ'ဟု မေးလျှောက်ခဲ့သည်။ ထိုအခါ တမန်တော်မြတ် ﷺ က–

الذين يصلحون ما أفسده الناس من سنتي و الذين تحيون ما أماتوه من سنتي . (م)

'ထီးထီးမားမားရှိသူ ဆိုသည်မှာ ငါ၏စွန္နတ်တွင် **လူတို့ဖျက်ဆီးထား**သည်ကို ပြုပြင်သူများဖြစ်၏။ ထို့ပြင် ငါ၏စွန္နတ်တွင် လူတို့က အသက်နှုတ် အဆုံး**စီရင်ထားသည်များကို** ပြည်လည်အသက်ရှင်စေသူများဖြစ်၏။'

အခြားဟ**ဒီစ်တစ်ပုဒ်တွင်** တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ –

هم المتمسكون بما أنتم عليه اليوم . (م)

'**အသင်တို့ ယနေ့**စွဲကိုင်ထားသော အရာအပေါ် ဆက်လက်စွဲကိုင်ရပ်တည်မည့်သူများဖြစ်သည်။'*

အခြားဟဒီစ်တစ်ပုဒ်တွင် တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ–

الغرباء ناس قليل صالحون بين ناس كثير ، من يبغضهم في الخلق **أكثر ممن** يحبهم . (ا)

* အီရာကီ သခင်က 'ဤမိန့်ဆိုချက်၏ ရင်းမြစ်အခြေခံကို မတွေ့ရပါ'ဟု ဆိုသည်။

'ထီးထီးမားမားဆိုရမည့်သူများကား လူအမြောက်အများအကြား၌ရှိသော သူတော်ကောင်းလူနည်းစု ဖြစ်သည်။ လူတို့အထဲတွင် ၎င်းတို့ကို ချစ်သူထက် မုန်းသူက ပိုများသူများဖြစ်သည်။'

သို့ဖြစ်ရာ ထိုပညာရပ်များကို ထုတ်ဖော်ပြောဆိုသူများ မုန်းတီးခြင်းခံရသည်နှင့်အမျှ ထိုပညာရပ်များသည်လည်း အစိမ်းသက်သက်ဖြစ်လိမ့်မည်။ ဤအတွက်ကြောင့် ဆွဖ်ယန်စော်ရ်ရီ သခင်က ဆိုမိန့်သည်မှာ– 'သင်သည် မိတ်ဆွေအပေါင်းအသင်းများသော ပညာရှင်တစ်ဦးကို မြင်တွေ့ခဲ့မည်ဆိုအံ့။ ၎င်းပညာရှင်သည် အမှားနှင့်အမှန်ကို အရောရောအနှောနှောလုပ်သူ ရောကျော်တစ်ဦးသာဖြစ်ကြောင်း မှတ်လိုက်ပေတော့။' အဘယ်ကြောင့်ဆိုသော် ၎င်းပညာရှင်က အမှန်ပြောမည်ဆိုလျှင် သူ့ကို မုန်းသူ ပိုများရမည်ဖြစ်သောကြောင့်ပင်။'

## ကောင်းမြတ်သောပညာရပ်များ၏ကောင်းမြတ်မှုအတိုင်းအတာ

ဤအချက်ကို အခြေခံ၍ဆိုရလျှင် ပညာသည် သုံးမျိုးသုံးစားရှိသည်။ ပထမအမျိုးအစားသည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ဆိုးယုတ်သောပညာဖြစ်သည်။ ဒုတိယအမျိုးအစားသည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ကောင်းမြတ်သောပညာဖြစ်သည်။ ဤအမျိုးအစားသည် များများရှိလေ ကောင်းမြတ်လေဖြစ်သည်။ တတိယအမျိုးအစားမှာ လုံလောက်ရုံဆိုလျှင် ကောင်းမွန်သည်။ ထို့ထက် ပိုလျှင်မူ မကောင်းတော့ပေ။ ဤသုံးမျိုးစလုံးအတွက် သာဓကပြစရာသည် လူ့ခန္ဓာကိုယ်ဖြစ်သည်။ ခန္ဓာကိုယ်အတွက် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ကောင်းမွန်သောအရာသည် ကျန်းမာခြင်းနှင့် ရုပ်ရည်ချောမောလှပခြင်းဖြစ်သည်။ ထို့ပြင် လူ့ခန္ဓာကိုယ်အတွက် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ မကောင်းသောအရာသည် အရုပ်ဆိုးခြင်းနှင့်အကျင့်စာရိတ္တမကောင်းခြင်းဖြစ်သည်။ ထို့ပြင် လူသားအတွက် အလယ်အလတ်မျှရှိလျှင် ကောင်းမွန်သောအရာသည် ပစ္စည်းဥစ္စာသုံးစွဲခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အပိုသုံးစွဲခြင်းသည် သုံးစွဲခြင်း၏အမျိုးမှပင်ဖြစ်သော်လည်း မကောင်းသောအရာဖြစ်သည်။ ဥပမာနောက်တစ်ခုမှာ ရဲစွမ်းသတ္တိဖြစ်၏။ ရဲစွမ်းသတ္တိသည် ကောင်းမွန်သောအရာဖြစ်သည်။ မိုက်ရူးရဲလုပ်ခြင်းကသာ မကောင်းခြင်းဖြစ်၏။ သို့နှင့်တိုင် မိုက်ရူးရဲလုပ်ခြင်းသည် ရဲစွမ်းသတ္တိ၏အမျိုးအစားထဲမှပင်ဖြစ်သည်။ ပညာကိုလည်း ဤနည်းအတိုင်းမှတ်လေ။

**ပထမအမျိုးအစား**ဖြစ်သည့် ဆိုးယုတ်သောပညာသည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ဤပညာကြောင့် ဒွန္နယာရေးအတွက် အကျိုးမရှိသလို၊ သာသနာရေးအတွက်လည်း အကျိုးမရှိပေ။ ဤပညာ၏ဆိုးကျိုးက ကောင်းကျိုးရှိမှုကို ဖုံးလွှမ်းထားသည်။ ဥပမာအားဖြင့် ပရောဂပညာ၊ အင်းအိုင်လက်ဖွဲ့ပညာနှင့် နက္ခတ်ပညာတို့ဖြစ်သည်။ ဤအမျိုးအစားထဲက အချို့ပညာရပ်များဆိုလျှင် ကောင်းကျိုးဟူ၍လုံးဝမရှိပေ။ ဤပညာမျိုးအတွက် သက်တမ်းကို သုံးစွဲခြင်းသည် အကျိုးမဲ့ပြုန်းတီးပစ်မှုသာဖြစ်၏။ ဘဝသက်တမ်းသည် လူသားပိုင်ဆိုင်သည့်အရာများထဲတွင် အဖိုးအထိုက်တန်ဆုံးဖြစ်သည်။ သို့ဖြစ်ရာ ဤသက်တမ်းကို အလဟဿပြုန်းတီးပစ်ခြင်းသည် မကောင်းသောကိစ္စပင်ဖြစ်သည်။ အချို့ပညာက ထိုပညာဖြင့် ရရှိနိုင်မည်ဟု ရည်ရွယ်မျှော်မှန်းထားသော ဒွန္နယာရေးလိုအပ်ချက်များထက် ရမည့် ဒုက္ခအန္တရာယ်က ပို၍ကြီးမားသည်။ သို့မှမက ရရှိမည့်အကျိုးရလဒ်သည် ဒုက္ခအန္တရာယ်နှင့်စာလျှင် မပြောပလောက်ချေ။

**ဒုတိယအမျိုးအစား**ဖြစ်သည့် ကောင်းမြတ်သောပညာသည် အဆုံးစွန်အားဖြင့် မည်မျှများပြားသည်ဖြစ်စေ ကောင်းမွန်လေသည်။ ယင်းမှာ အလ္လာဟ်အရှင်ကို သိခြင်း၊ အရှင်၏ဂုဏ်တော်များနှင့်လုပ်ဆောင်မှုများကို သိခြင်း၊ မိမိ၏အဖန်ဆင်းခံများအပေါ် အလ္လာဟ်အရှင်၏အလေ့အထတော်များ၊ အာခိရတ်ကို ဒွန္နယာ၏အထက်၌ ထားခြင်း၏ဟီကမတ်များကို– သိနားလည်ခြင်းတို့ဖြစ်သည်။ ဤအသိပညာသည် ပင်ကိုယ်က လိုလားအပ်သည့်အရာဖြစ်၍

အာဓိရတ်ကောင်းစားရေးအတွက် အထောက်အကူပြုမည့်အရာဖြစ်သည်။ ဤပညာအတွက် မည်မျှပင် အစွမ်းကုန် အောင် ကြိုးပမ်းအားထုတ်သည်ဖြစ်စေ ကျေပွန်သည့်အဆင့် မရောက်သေးဟု ဆိုရမည်ဖြစ်သည်။

ဤပညာသည် အတိုင်းမသိအောင် နက်ရှိုင်းသောပင်လယ်ကဲ့သို့ဖြစ်သည်။ ကူးခပ်သူတို့သည် မိမိတို့အတွက် လွယ်ကူမှုရှိရာ ထိုပင်လယ်ကမ်းခြေ၏အနီးအနားတစ်ဝိုက်တွင်သာ လှည့်ပတ်ကူးခပ်နေကြခြင်းဖြစ်သည်။ နဗီတမန် တော်များ၊ ဝလီသူတော်စင်များနှင့် ပညာအရာ၌ မြစ်ခြေခိုင်မာသူများသာလျှင် ထိုပင်လယ်၏အောက်ခြေသို့ ငုတ်လျှိုး ကြလေသည်။ ထိုပုဂ္ဂိုလ်ကြီးများသည်လည်း ၎င်းတို့အား အလ္လာဟ်အရှင် ချီးမြှင့်ထားသော အဆင့်အတန်းနှင့် စွမ်း ရည်ကွဲပြားခြားနားသည့်အလျောက် ငုတ်လျှိုးနိုင်မှု အတိမ်အနက် ကွဲပြားခြားနားကြလေသည်။

ဤပညာသည် ဖုံးကွယ်ထားသောအရာဖြစ်ပြီး ကျမ်းစာများတွင် ရေးသားဖော်ပြထားခြင်း မရှိပေ။ ဤပညာ ကို သတိမူမိရန်အတွက် ပညာရှာဖွေဆည်းပူးခြင်းနှင့် အာဓိရတ်ပညာရှင်များ၏အခြေအနေကို မျက်မြင်ကြည့်ရှုခြင်း တို့က အထောက်အကူပြုလေသည်။ အာဓိရတ်ပညာရှင်များ၏အချင်းလက္ခဏာများကို ရှေ့တွင် ဖော်ပြမည်။

ဤသို့ ပညာဆည်းပူးခြင်း၊ အာဓိရတ်ပညာရှင်များထံ ဆည်းကပ်ခြင်းတို့သည် လုပ်ငန်းအစသာ ရှိသေး၏။ အာဓိရတ်ကောင်းစားရေးအတွက်ကား ဖွဲ့ခတ်ကြိုးပမ်းခြင်း၊ အထပ်ထပ်လေ့ကျင့်ခြင်း၊ နှလုံးသားကို စင်ကြယ်အောင် လုပ်ခြင်း၊ ထိုနှလုံးသားကို ဒွန်ယာ့ပတ်ဝန်းကျင်နှင့် ခွဲခွါထားခြင်း၊ ဒွန်ယာတွင် နေထိုင်ရာမှာ နဗီတမန်တော်များနှင့် ဝလီသူတော်စင်များ၏အသွင်သဏ္ဌာန်နှင့် တူဆင်အောင်နေထိုင်ခြင်းများ ပြုလုပ်ရမည်ဖြစ်သည်။ ဤပညာရပ်သည် ကြိုးပမ်းရှာဖွေသလောက် ရရှိမည်မဟုတ်ဘဲ၊ တက္ကဒီရ်တွင် သတ်မှတ်ထားသလောက်သာ ရရှိနိုင်ဖြစ်သည်။ သို့နှင့် တိုင် ကြိုးပမ်းရှာဖွေမှုကတော့ မရှိမဖြစ်လိုအပ်ပေသည်။ ဖွဲ့ခတ်ကြိုးပမ်းမှုသည် တရားလမ်းမှန် ရရန်အတွက် သော့ တန်ဖြစ်သည်။ ဖွဲ့ခတ်ကြိုးပမ်းမှုမှလွဲ၍ တရားလမ်းမှန်ရရန် အခြားလမ်းမရှိချေ။

**တတိယအမျိုးအစား–** အကန့်အသတ်ဖြင့်သာ ကောင်းမြတ်မှုရှိသော ပညာရပ်များမှာ ကျွန်ုပ်တို့က ဖရာဇ် ကိဖာယာအဖြစ် ဖော်ပြခဲ့သောပညာရပ်များဖြစ်သည်။ ဤပညာရပ်အသီးသီးကို သင်ယူဆည်းပူးသင့်သော အတိုင်း အတာသည် အဆင့် သုံးဆင့်ရှိသည်။ ပထမအဆင့်မှာ လိုအပ်သည့် အတိုင်းအတာခန့် သင်ယူခြင်းဖြစ်သည်။ ဤ အဆင့်သည် အနိမ့်ဆုံးအဆင့်ဖြစ်သည်။ ဒုတိယအဆင့်သည် မယုတ်မလွန် အလယ်အလတ်သင်ယူခြင်းဖြစ်သည်။ တတိယအဆင့်သည် အလယ်အလတ်အဆင့်ကို လွန်ပြီး ပညာရပ်၏အဆုံးစွန်အထိအောင် သင်ယူဆည်းပူးခြင်းဖြစ် သည်။ သက်ဆုံးတိုင် သင်ယူနေရန်ဖြစ်သည်။

ဤပညာများကို သင်ယူဆည်းပူးရာ၌ လူနှစ်ဦးအနက် တစ်ဦးကဲ့သို့ ဖြစ်သင့်သည်။ တစ်ဦးက မိမိကိုယ်တိုင် အတွက် သင်ယူဆည်းပူးသူဖြစ်သည်။ နောက်တစ်ဦးမှာ မိမိကိုယ်တိုင်အတွက် ဆုံးခန်းတိုင်အောင် သင်ယူဆည်းပူး ပြီးနောက် အခြားသူများအတွက် ဆက်လက်ဆည်းပူးသူဖြစ်သည်။ ဤနေရာတွင် အသင်သည် မိမိကိုယ်တိုင်အတွက် ပြုပြင်မှုမရသေးမီ အခြားသူများကို ပြုပြင်ရန် အားထုတ်လုံးပန်းခြင်း မပြုသင့်ကြောင်း အထူးသတိထားရမည်။ သင် သည် မိမိကိုယ်တိုင်အတွက် လုံးပန်းနေသူဖြစ်လျှင် မိမိ၏အခြေအနေလိုအပ်ချက်အရ၊ မိမိအတွက် ဖရာဇ်ဖြစ်သော ပညာရပ်ကို ဦးစားပေးသင်ယူပါ။ ထိုပညာရပ်သည် နမာဇ်၊ တွဟာရတ်၊ ရိုဇာ ကဲ့သို့သော ဗဟိဒ္ဓကျင့်မှုရာနှင့် သက် ဆိုင်သည့် အသိပညာသော်လည်းကောင်းဖြစ်မည်။ သို့နှင့်တိုင် အလွန်အရေးကြီးပြီး လူအားလုံးတို့က စွန့်လွှတ်ထား သောပညာရပ်ရှိသေးသည်။ ယင်းမှာ နှလုံးသား၏ဂုဏ်သတ္တိများ၊ ထိုဂုဏ်သတ္တိများ၏ကောင်းမြတ်မှုနှင့်ဆိုးယုတ်မှု ဆိုင်ရာ အသိပညာဖြစ်သည်။

တဖန် လူသားသည် ဆိုးယုတ်သောဂုဏ်သတ္တိများနှင့် အမြဲဒွန်တွဲနေရသည်။ ဥပမာ လောဘ၊ မနာလိုခြင်း၊ ငြူစူခြင်း၊ မာန၊ မိမိကိုယ်ကို အထင်ကြီးခြင်း စသည်တို့ဖြစ်သည်။ ဤအရာအားလုံးသည် လူသားကို ဖျက်ဆီး

မည့်အရာများဖြစ်သည်။ ၎င်းတို့ကို စွန့်ပယ်ရန်ကလည်း ဗဟိဒ္ဓကျင့်မှုရာများကို ပြုကျင့်ရန် အရေးကြီးသလောက်ပင် အရေးကြီးသည်။

လူတစ်ဦးသည် ဝဲနာ ယားနာ ဝေဒနာခံစားရသည့်အခါ ခန္ဓာကိုယ်အပြင်ပိုင်းကို ဆေးဝါးလိမ်းကျံပြီး အတွင်းပိုင်း သွေးသားသန့်စင်အောင်ပြုလုပ်ရန် ပေါ့ဆပျက်ကွက်သည်နှင့် အလားတူသည်။ လမ်းဘေးမှ ဆေးဆရာများက ခန္ဓာကိုယ်အပြင်ပိုင်းကို ဆေးလိမ်းရန်သာ ညွှန်ကြားနေကြသလို၊ အမည်ခံဓမ္မပညာရှင်များကလည်း ဗဟိဒ္ဓကျင့်မှုရာများဘက်သို့သာ ညွှန်ကြားနေကြသည်။ အာခိရတ်ပညာရှင်များကမူ အတွင်းပိုင်း သန့်ရှင်းရန်နှင့် ဆိုးကျိုးပြုမည့်အရာများကို ဖြတ်တောက်ရန်မှလွဲ၍ အခြားညွှန်ကြားခြင်းမပြုချေ။ ၎င်းတို့က ညွှန်ကြားသည်မှာ နှလုံးသားတွင် ဆိုးကျိုးပြုအရာများ ပေါက်ပွါးနိုင်ချေရှိသည့် လမ်းစကို ပိတ်ပင်ဖျက်စီးပြီး ထိုအရာများကို အမြစ်မှ နုတ်ပယ်ပစ်ရန်ဖြစ်သည်။

လူအများစုသည် အပြင်ပိုင်းကျင့်မှုရာများတွင်သာ စွဲမြဲကြပြီး နှလုံးသားကိုကား သန့်ရှင်းခြင်း မလုပ်ကြပေ။ ဤသို့ရှိခြင်းမှာ ကိုယ်ကာယဖြင့် ပြုကျင့်ရသော ကျင့်မှုရာများက လွယ်ကူပြီး နှလုံးသား၏ကျင့်မှုရာများက ခက်ခဲသည်ဟု မှတ်ယူသောကြောင့်ဖြစ်သည်။ ဆေးခါးကို သောက်ရန် ခက်ခဲနေပြီး ခန္ဓာကိုယ်အပြင်ပိုင်းကိုမူ ပုံမှန်ဆေးလိမ်းသူကဲ့သို့ဖြစ်သည်။ ဆေးကို စွဲစွဲမြဲမြဲ ပွတ်လိမ်းလေလေ ရောဂါ၏အကြောင်းခံ တိုးလေဖြစ်မည်သာဖြစ်သည်။ အသင်သည် အာခိရတ်ကို အလိုရှိပြီး လွတ်မြောက်မှုကို ရှာဖွေသူ၊ ထာဝရပျက်စီးမှုမှ ရှောင်လွဲလိုသူဖြစ်မူ အတွင်းပိုင်းအကြောင်းခံများကို သိမှုနှင့်ကုစားမှု၏ပညာကို သင်ယူပါလေ။ ဤအကြောင်းကို ပျက်စီးဆုံးရှုံးမှုများအပိုင်းတွင် အကျယ်ဖေါ်ပြမည်။ ဤအရာများက လွတ်မြောက်အောင်မြင်စေသောအရာများအပိုင်းတွင် ဖေါ်ပြထားသည့်ကောင်းမြတ်သောအဆင့်နေရာများသို့ အသင့်အား မလွဲမသွေ ဆွဲဆောင်ခေါ်ယူသွားလိမ့်မည်။

စိတ်နှလုံးသည် ဆိုးယုတ်မှုများမှ ကင်းရှင်းသောအခါ ကောင်းမြတ်မှုများဖြင့် ပြည့်လျှမ်းလာရသည်။ ပေါင်းမြက်များကို ဖယ်ရှင်းလိုက်ခြင်းဖြင့် မြေကြီးမှ ကောက်ပဲသီးနှံနှင့်ပန်းမလ်များ ပေါက်လာသကဲ့သို့ဖြစ်သည်။ ပေါင်းမြက်ကို မဖယ်ရှားလျှင် ထိုသီးပင်စားပင်များ ပေါက်ရောက်လိမ့်မည်မဟုတ်ပေ။

မိမိအတွက် ဖရာဇ်အိုင်န်ဖြစ်သောအရာများ မကျေပွန်သေးဘဲ ဖရာဇ်ကိဖာယာဘက်သို့ မကူးသင့်ပေ။ အထူးသဖြင့် အခြားသူကောင်းမွန်ဖို့အတွက် မိမိကိုယ်ကို ဖျက်ဆီးသူကား အသိဉာဏ်ကင်းမဲ့သူပင်ဖြစ်သည်။ မြွေကင်းများက လူတစ်ဦး၏အဝတ်အောက်ဝင်ပြီး ၎င်းကို ကိုက်သတ်ရန် ပြင်ဆင်နေသည်။ ၎င်းကိုယ်တိုင်က ယပ်တောင်တစ်ချောင်းဖြင့် အခြားသူအား ယင်ကောင် မောင်းပေးလျက်ရှိသည်။ သို့ဖြစ်ရာ မြွေကင်းတို့၏ဘေးရန်မှ မိမိကိုယ်တိုင်လွတ်ကင်းအောင် မလုပ်သူထက် ဉာဏ်တုံးသူ မရှိနိုင်တော့ပေ။

အသင်သည် မိမိ၏နဖ်စ်ကို သန့်ရှင်းအောင် လုပ်ပြီးပြီဆိုသောအခါ အပြင်အတွင်းဂိုနာများကို ရှောင်နိုင်စွမ်းရရှိလာမည်။ အသင်သည် အပြစ်ဒုစရိုက်များကို ရှောင်ရှားသည့် အကျင့်ဖြစ်လာပြီဆိုသောအခါ (ဤသည်မှာလည်း သင့်အဖို့ ခက်ခဲသောအလုပ် မဟုတ်ပါ။) ဖရာဇ်ကိဖာယာပညာများကို တစ်ဆင့်ပြီးတစ်ဆင့် သင်ယူဆည်းပူးနိုင်ပြီဖြစ်သည်။ ပထမဦးစွာ အလ္လာဟ့်ကျမ်းတော်ကို သင်ယူရမည်။ ထို့နောက် တမန်တော်မြတ်ﷺ၏ဟဒီစ်တော်များကို သင်ယူရမည်။ ထို့နောက် တဖ်စီရ်ပညာနှင့် အာယတ်များ၏ပလပ်ခံဖြစ်ခြင်း၊ ပလပ်အမိန့်ဖြစ်ခြင်း၊ ရှင်းလင်းချက်အာယတ်ဖြစ်ခြင်း၊ အခြေပြုအာယတ်ဖြစ်ခြင်း၊ ပညတ်ချအာယတ်ဖြစ်ခြင်း၊ မုတရှာဗဟ် ခေါ် ဥပစာအာယတ်ဖြစ်ခြင်း စသည်ဖြင့် ကုရ်အာန်ဗေဒဆိုင်ရာအလုံးစုံကို သင်ယူသင့်သည်။ ဟဒီစ်ကို သင်ယူရာတွင်လည်း ဤနည်းအတိုင်းဖြစ်သည်။

ကုန်အာန်နှင့်ဟဒီစ်ကို သင်ယူပြီးနောက် မတ်စအလာရေးရာ အသေးစိတ်များကို သင်ယူရမည်။ ယင်းသည်

ဖိကဟ်ပညာထဲမှ မဓ်ဟဗ်တစ်ခုခုနှင့်သက်ဆိုင်ရာ အသိများဖြစ်သည်။ သို့သော် အကွဲအလွဲကိစ္စများကို သင်ယူရန် မဟုတ်သေးပေ။ ထို့နောက် ဖိကဟ်သဘောတရားကို သင်ယူရမည်။ ဤနည်းအလားတူ ကျန်ပညာရပ်များကို ဘဝ သက်တမ်း၏ အဆင်ပြေမှုနှင့် အချိန်အားလပ်မှုအပေါ် မူတည်ပြီး သင်ယူရမည်။

ပညာရပ်တစ်ခုထဲ၏ နောက်သို့ ရေဆုံးရေဖျားလိုက်ရင်း **ဘဝသက်တမ်းကုန်ဆုံးရန်ကား** မဟုတ်ပေ။ ပညာ ရပ်များက များပြားပြီး ဘဝသက်တမ်းက တိုတောင်းသည်။ ထိုပညာရပ်များသည် လက်နက်ကိရိယာနှင့် ရှေးဦးသင် အဆင့်မျှ ရှိသေးသည်။ ထိုပညာရပ်များကိုယ်တိုင်သည် တိုက်ရိုက်လိုအပ်ချက် မဟုတ်ဘဲ တစ်ဆင့်ခံလိုအပ်ချက်မျှ ဖြစ်သည်။ တဆင့်ခံလိုအပ်ချက်ဖြစ်သော ပညာရပ်များကို များစွာလိုက်စားပြီး တိုက်ရိုက်လိုအပ်ချက်ဖြစ်သော ပညာ ရပ်ကို မေ့လျော့ထားရန် **မသင့်ပေ**။

စာပေပညာနှင့်ပတ်သက်၍လည်း အရဗီစာပေကို နားလည်ပြီး ပြောဆိုနိုင်ရုံဆိုလျှင် လုံလောက်သည်။ အသုံး နည်းသောပေါရာဏများနှင့်ပတ်သက်၍မူ ကုရ်အာန်နှင့်ဟဒီစ်တွင် သုံးနှုန်းထားသောစကားစုများကို နားလည်လျှင် လုံလောက်သည်။ အဘိဓာန်ပညာနှင့်ပတ်သက်၍ ထို့ထက်ပိုပြီး နက်နက်နဲနဲ **စူးစားရန်**မလိုအပ်ပေ။ သဒ္ဒါပညာရပ် ကိုလည်း ကုရ်အာန်ဟဒီစ်နှင့်သက်ဆိုင်သလောက်သာ **သင်ယူရမည်**။ ပညာရပ်တစ်ခုတွင် အခြေခံအဆင့်၊ အလယ် အလတ်အဆင့်နှင့် အဆင့်မြင့်ဟူ၍ ရှိရာ၊ ကျွန်ုပ်တို့သည် **ဟဒီစ်**ပညာ၊ တဖ်စီရ်ပညာ၊ ဖိကဟ်ပညာနှင့် ကလာမ်ပညာ များနှင့်သက်ဆိုင်ရာ အဆိုပါအဆင့်သုံးဆင့်ကို **ဖော်ပြပါမည်။ ဤဖော်ပြချက်ကိုအခြေခံပြီး** အခြားပညာရပ်များကို ဆင်ခြင်ယူပါလေ။

တဖ်စီရ်ပညာ၏ အခြေခံအဆင့်တွင် တဖ်စီရ်ဖွင့်ဆိုမှုပမာဏသည် ကျမ်းမြတ်ကုရ်အာန်၏ နှစ်ဆ ရှိရမည်ဖြစ် သည်။ ဥပမာ အလီဝါဟိဒီနိုင်စာပူရီ^{ရ}သခင် ပြုစုခဲ့သည့် တဖ်စီရ် **'ဝဂျီဇ်'** ကျမ်း၏ပမာဏဖြစ်သည်။ **တဖ်စီရ်**ပညာ ၏ အလယ်အလတ်အဆင့်တွင် **ဖွင့်ဆိုမှု**ပမာဏသည် ကျမ်းမြတ်ကုရ်အာန်၏ သုံးဆရှိရမည်။ ဥပမာ အလီဝါဟိဒီနိုင် စာပူရီ^{ရ}ပင် ပြုစုခဲ့သည့် **တဖ်စီရ်'ဝဆီတ်'**ကျမ်း၏ပမာဏဖြစ်သည်။ ဤအဆင့်ကိုလွန်လျှင် အဆင့်မြင့်ဖြစ်သည်။ ဤအဆင့်မှာ **တဖ်စီရ်**ပညာကို မချွင်းမချန်လေ့လာသည့်အဆင့်ဖြစ်သည်။ ဤအဆင့်မြင့်လေ့လာမှုတွင် အသက်ကုန် သော်လည်း ပညာမကုန်နိုင်ပေ။

ဟဒီစ်ပညာ၏ အခြေခံအဆင့်သည် **'ဆွဟီကျမ်းတော်နှစ်စောင်'**ဟု ခေါ်သောဗုခါရီနှင့်မွတ်စလင်မ်ကျမ်းတော် နှစ်စောင်ကို လေ့လာရန်ဖြစ်သည်။ ဤသို့လေ့လာရာ၌ ဟဒီစ်တော်စာကိုယ်ကို တတ်မြောက်သည့် ပညာရှင်ထံတွင် မူကောင်းမူသန့်ကျမ်းစာအုပ်ဖြင့် ဖတ်ရှုလေ့လာရမည်။ ဤသို့လေ့လာရာ၌ ဟဒီစ်ဆင့်ပြန်သူများ၏ အမည်နာမများ ကို အလွတ်ကျက်မှတ်ရန် မလိုအပ်ပေ။ အဘယ်ကြောင့်ဆိုသော် အသင်၏ရှေ့က ပေါ်ထွန်းခဲ့သော ဟဒီစ်ပညာရှင် ကြီးများက ဤတာဝန်ကို ဆောင်ရွက်ကျေပြွန် သွားခဲ့ကြပြီးဖြစ်သောကြောင့်ဖြစ်သည်။ သင်၏တာဝန်မှာ ထိုပုဂ္ဂိုလ် ကြီးတို့၏ ကျမ်းဂန်များကို အခိုင်အမာဖြစ်ကြောင်း လက်ခံထားရန်သာဖြစ်သည်။ ထို့ပြင် သင့်အဖို့ ဆွဟီကျမ်းတော် နှစ်စောင်၏ ဟဒီစ်စာသားများကို အလွတ်ကျက်မှတ်ထားရန်လည်း အရေးမကြီးလှပေ။ သို့သော် လိုအပ်သည့်အခါ လိုအပ်သလို ရှာတတ်ဖွေတတ်အောင်တော့ သင်ယူထားရမည်။ ထို့နောက် ဟဒီစ်ပညာ၏ အလယ်အလတ်အဆင့် သည် **ဆွဟီကျမ်းတော်နှစ်စောင်တွင်** ဖော်ပြမထားသောအရာများကို ခိုင်မာမှန်ကန်သော ဟဒီစ်ကျမ်းများထဲမှ တိုး ချဲ့သင်ယူရန်ဖြစ်သည်။ ထို့နောက် အဆင့်မြင့်ဟဒီစ်ပညာမှာ ဆင့်ပြန်လာရှိသော ဟဒီစ်များအားလုံး၏ အားနည်းမှု၊ အားကောင်းမှု၊ အမှန်အကန်ဖြစ်မှု၊ အနာအဆာရှိမှုများကို ကျွမ်းကျင်ပိုင်နိုင်အောင် လေ့လာဆည်းပူးခြင်းဖြစ်သည်။ ဤသို့လေ့လာရာ၌ ဆင့်ပြန်မှု စနစ်နည်းလမ်းများစွာနှင့် ဆင့်ပြန်သူများ၏ ဘဝအခြေအနေများ၊ အမည်နာမများနှင့် ဂုဏ်ပုဒ်များကိုလည်း သိကျွမ်းထားရမည်ဖြစ်သည်။

ထို့နောက် ဖိကဟ်ပညာ၏အခြေခံအဆင့်သည် မုဇနီ^(၁)သခင်၏ 'မွခ်တဆွရ်ကျမ်း'တွင် ပါရှိသည်မှုကို သိနားလည်ထားရန်ဖြစ်သည်။ ထိုကျမ်းကို ကျွန်ုပ်က 'မွခ်တဆွရ်ကျမ်းအနှစ်ချုပ်'အဖြစ်လည်း ပြုစုထားပါသည်။ ထို့ပြင် **ဖိကဟ်ပညာ၏**အလယ်အလတ်အဆင့်သည် 'မွခ်တဆွရ်ကျမ်း'၏သုံးဆခန့် ရှိရမည်ဖြစ်သည်။ ၎င်း၏ပမာဏသည် **ကျွန်ုပ်ပြုစုသည့်** ရှာဖအီမဇ်ဟဗ်ဆိုင်ရာ 'ဝဆီတ်ကျမ်း'ခန့်ဖြစ်သည်။ တဖန် ဖိကဟ်ပညာ၏အဆင့်မြင့်သည် ကျွန်ုပ်**ပြုစုသည့်** 'ဘဆီတ်ကျမ်း'တွင် ပါရှိသည်ခန့်နှင့် နောက်ထပ်အခြား ကျယ်ဝန်းသော ကျမ်းဂန်များဖြစ်သည်။*

ကလာမ်ပညာနှင့်ပတ်သက်၍ကား ဤပညာ၏ရည်ရွယ်ချက်သည် ရှေးသူဟောင်းအဟ်လေ့စွန္နတ်ဝင်များထံမှရရှိသည့် အကီဒဟ်ခံယူချက်များကို ထိန်းသိမ်းစောင့်ရှောက်ရန်ဖြစ်သည်။ ဤရည်ရွယ်ချက်အပြင် အခြားမရှိပေ။ အကယ်၍ ရှိသည်ဆိုလျှင်လည်း လောကဖန်ဆင်းမှုနှင့် ပြုစုပျိုးထောင်မှု၏အရင်းခံအတွင်းသဘောကို တစ်နည်းတစ်ဖုံ ထုတ်ဖော်ပြသရန်ဖြစ်သည်။ အဟ်လေ့စွန္နတ်၏အကီဒဟ်ကို ထိန်းသိမ်းရန် ရည်ရွယ်ချက်အတွက်ကား အခြေခံအဆင့်၌ ဖော်ပြပါရှိသည့် အကီဒဟ်ခံယူချက်အချုပ်ဖြင့် လုံလောက်မှုရှိသည်။ ယင်းသည် ဤအဲဟ်ယာအွလ်အိုလူမ်ကျမ်းတွင် ကျွန်ုပ်ရေးသားသည့် အကီဒဟ်အခြေခံကဏ္ဍ၏အတိုင်းအတာပမာဏမျှဖြစ်သည်။

ကလာမ်ပညာ၏အလယ်အလတ်အဆင့်သည် စာရွက်ရေတစ်ရာခန့် ပမာဏဖြစ်သည်။ ထိုပမာဏသည် ကျွန်ုပ်ရေးသားသည့် 'အလ်အီကတ်တိဆွာဒ် ဖီလ် အဲအ်တိကာဒ်ကျမ်း'ခန့် ဖြစ်သည်။ ဤပညာရပ်၏လိုအပ်ခြင်းသည် ဗိဒအတ်သမားနှင့် မုနာဇရာလုပ်ရန်အတွက်ဖြစ်၏။ ထို့ပြင် ၎င်းတို့၏ဗိဒအတ်လုပ်ငန်းကို တိုက်ဖျက်ချေမှုန်းပြီး ထိုဗိဒအတ်ကို လူသာမန်တို့၏နှလုံးသားထဲမှ ဆွဲထုတ်ရန်ဖြစ်သည်။ ဤသို့လုပ်ရန်မှာလည်း လူသာမန်တို့ ထိုဗိဒအတ်အား တစ်ဖက်သတ်တစ်ယူသန် မဖြစ်သေးခင်သာ အကျိုးရှိနိုင်သည်။ ဗိဒအတ်သမားက အနည်းငယ် အငြင်းအခုန်လုပ်တတ်သွားပြီဆိုလျှင် ထိုဗိဒအတ်သမားနှင့် စကားပြောဆိုရာမှာ အကျိုးဖြစ်ရှိမှု နည်းသွားသည်။ သို့နှင့်အမျှ ထိုဗိဒအတ်သမားကို သင်က ပါးစပ်မဟအောင် လုပ်နိုင်မည်ဆိုလျှင်ပင်၊ ၎င်းကတော့ မိမိ၏လမ်းစဉ်ကို စွန့်လွှတ်လိမ့်မည်တော့မဟုတ်ပေ။

၎င်းက မိမိ၏အားနည်းချက်ကို 'ဤကိစ္စနှင့်ပတ်သက်၍ အဖြေသည် အခြားသူတစ်ဦးထံတွင် ရှိပါသည်။ သို့သော် ထိုအဖြေကို မိမိက မသိခြင်းသာဖြစ်သည်'ဟု လွှဲချလိမ့်မည်။ ထို့ပြင် အသင်က မုနာဇရာပညာစွမ်းဖြင့် အတတ်ရောကျောက်ရောဖြစ်အောင် လုပ်ထားခြင်းသာဖြစ်သည်ဟုလည်း စွပ်စွဲလိမ့်ဦးမည်။ သို့ဖြစ်ရာ သာမာန်လူပြိန်းတစ်ဦး အမှန်တရားမှ လွဲချော်ခဲ့လျှင် ထိုလွဲချော်မှုကို မုနာဇရာနည်းလမ်းတစ်ခုခုဖြင့် အမှန်ဘက်ပြန်လှည့်ပေးရန် ဖြစ်နိုင်သေး

---

* ဤနေရာတွင် အိမာမ်ဂဇာလီသခင်^(၁)ညွှန်းထားသော ကျမ်းများသည် ရှာဖအီဖိကဟ်ကျမ်းများဖြစ်ပါသည်။ ရှာဖအီမဇ်ဟဗ်ဝင်များအတွက် ရည်ရွယ်ညွှန်းဆိုခဲ့ခြင်းဖြစ်သည်။ ဟနဖီမဇ်ဟဗ်ဝင်များအတွက် ဖိကဟ်ကျမ်းစာရင်းမှာ တစ်ခြားဖြစ်သည်။ ဟနဖီများမဇ်ဟဗ်ဝင်များသည် အခြေခံအဆင့်တွင် မွခ်တဆွရ်ဘိဒါယာကျမ်း(ဟိဒါယာကျမ်း၏စာကိုယ်)၊ နာဖဲအ်ကျမ်း၊ မွခ်တဆွရ်ဖတ္တဝါကျမ်းနှင့် မွခ်တဆွရ်ကူဒူရီကျမ်းများကို လေ့လာရမည်။ အလယ်အလတ်အဆင့်တွင် 'ဟိဒါယာကျမ်း'ကို လေ့လာရမည်။ အဆင့်မြင့်တွင် မုဟီတ္တ်ကျမ်း၊ မဗ်ဆူတ္တ်ကျမ်းနှင့်တဟ်ရီရွလ်အိုစူလ်ကျမ်းများကို လေ့လာရမည်။ ဤအညွှန်းသည် အလ္လာမာဇုဗိုင်ဒီ^(၁)၏အလိုအရဖြစ်သည်။ အလ္လာမာဇုဗိုင်ဒီ^(၁)က အဲဟ်ယာကျမ်းမှီကာတွင် မဇ်ဟဗ်အသီးသီးအတွက် လေ့လာရမည့်ကျမ်းများကို ညွှန်းဆိုပြီးနောက်–

'ပထဝီဒေသကွဲလွဲသည့်အလျောက် မဇ်ဟဗ်အသီးသီးနှင့်ပတ်သက်၍ လေ့လာရမည့်ကျမ်းများလည်း ကွဲလွဲနိုင်သည်။ ဖိကဟ်ကျမ်းအများအပြားသည် နိုင်ငံတစ်နိုင်ငံတွင် လူသုံးများ ကျော်ကြားပြီး အခြားတစ်နိုင်ငံတွင် လူမသိသူမသိဖြစ်နေသည်လည်း ရှိနိုင်သည်'ဟု ရေးခဲ့သည်။ (အလ္လာမာဇုဗိုင်ဒီ^(၁)၏အီတ္တိဟာဖွစ္စအာတိလ်မွတ္တကီန်ကျမ်း၊ ပထမတွဲ၊ စာ၂ရ၃-၄)

လေ့ခေါ်းထစ်မဆိုဘဲ၊ လေ့လာရမည့်ကျမ်းစာများသည် ကာလံဒေသံအလျောက် ကွဲပြားခြားနားနိုင်ကြောင်း အမျှော်အမြင်ကြီးစွာဖြင့် ရေးသားခဲ့ခြင်းဖြစ်ပါသည်။ – ဘာသာပြန်သူ။

သည်။ ဤသို့ဖြစ်နိုင်ခြင်းသည် **တစ်ယူသန်တစ်ကြောင်းစွဲ** မဖြစ်သေးခင်သာဖြစ်သည်။ ဗိဒအတ်သမားများ **တစ်ယူ သန် တစ်ကြောင်းစွဲဖြစ်လာပြီဆိုလျှင်မူ** **မျှော်လင့်ချက်မဲ့သွားပေပြီ**။

တစ်ယူသန်ခြင်းသည် **အကီဒဟ်ခံယူချက်များ စိတ်နှလုံးတွင် စွဲမြဲစေရန် အကြောင်းခံဖြစ်သည်**။ ထို့ပြင် တစ် ယူသန်ခြင်းသည် ပညာရှင်ဆိုးတို့တွင် ရှိနေသော ဘေးဒုက္ခဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် အမှန် အတွက် အလွန်အကျွံ တစ်ယူသန်ကြသည်။ မိမိတို့၏ဆန့်ကျင်ဘက်**လူများကို** အထင်သေးနှိမ့်ချသည့် မျက်စိများ ဖြင့် ကြည့်ကြသည်။ ဤသို့ကြည့်ခြင်းဖြင့် အကြည့်ခံရသူဘက်ကလည်း **အလားတူတုန့်ပြန်** ရင်ဆိုင်လာစေသည်။ လမ်းမှားတရားကို **အားပေးအားမြှောက်ပြုလာစေသည်**။ ၎င်းတို့အပေါ် **စွပ်စွဲထားသောခံယူချက်များကို** အခိုင်အမာ ဖက်တွယ်လာစေသည်။ အကယ်၍သာ ပညာရှင်များက တစ်ယူသန်မှု **အထင်သေးမှုများ** မပါဘဲ၊ ၎င်းတို့ဆီသွားပြီး မေတ္တာဂရုဏာ ရှေ့ထား နှစ်ကိုယ်ကြားသွန်သင်ပဲ့ပြင်မည်ဆိုပါက မုချ**အောင်မြင်မှုရှိမည်**ဖြစ်သည်။

သို့နှင့်တိုင် ဂုဏ်သိန်ကြီးမြင့်မှုဟူသည် လူတို့အား နောက်လိုက်**နောက်ပါမပြုဘဲ** မဖြစ်နိုင်ပေ။ ထိုတွင် တစ် ယူသန်ခြင်း၊ ပြိုင်ဘက်ပုဂ္ဂိုလ်အား ပြစ်တင်ရှုံ့ချခြင်းများ မပြုဘဲ နောက်လိုက်**နောက်ပါ** ဆွဲဆောင်ရန်လည်းမဖြစ်နိုင် ပေ။ **သို့ဖြစ်ရာ** ပညာရှင်ဆိုးတို့သည် တစ်ယူသန်မှုကို မိမိတို့၏အကျင့်ဝသီနှင့် **လက်နက်ကိရိယာ**အဖြစ် ဆွဲကိုင်ကြ လေသည်။ ထို့ပြင် ထိုတစ်ယူသန်မှုကို သာသနာ**အား** ကာကွယ်ထိန်းသိမ်းမှုဟု၎င်း၊ **မွတ်စလင်မ်တို့**ဘက်မှ ရပ်တည် ၍ ခုခံတိုက်ခိုက်မှုဟု၎င်း အမည်ပေးကြသည်။ **စင်စစ်တွင်ကား ထိုပုံစံအရ အကျင့်စာရပျက်ပြားမှုနှင့် စိတ်သဘော** ထားများတွင် ဗိဒအတ်ကို တန်းတန်းစွဲဖြစ်မှုသာ ဖြစ်ရန်ရှိလေသည်။

ဗိဝါဒအကွဲအလွဲများကိုကား နောက်ပိုင်းခေတ်များတွင်မှ ဖေါ်ထုတ်လာခြင်းဖြစ်သည်။ **ထိုနောက်ပိုင်းခေတ် များတွင် ဗိဝါဒများနှင့်ပတ်သက်၍** ရေးသားပြုစုမှုများ၊ အပြန်အလှန်ငြင်းခုံမှုများ အထူးသဖြင့်ပေါ်ထွက်လာသည်။ ထိုအရာများသည် ရှေးသူဟောင်းတို့၏ခေတ်အခါက ရှိခဲ့သည်မဟုတ်ပါ။ သို့ဖြစ်ရာ အသင်သည် **ထိုအရာများ၏** အနီးသို့ မကပ်သင့်ပါ။ အသက်သေစေသော အဆိပ်ကို ရှောင်သလို ရှောင်သင့်ပါသည်။ **အဘယ်ကြောင့်ဆိုသော်** ထိုအရာများသည် ကုရာနတ္တိဆေးမရှိသော ရောဂါများဖြစ်သည်။ ထိုအရာများကပင် ဖိကဟ်ပညာရှင်အားလုံးအား အောင်ခြေလွတ် ဘဝင်မြင့်သွားစေပြီး၊ တစ်ဦးနှင့်တစ်ဦး ဂုဏ်တံခိုးပြိုင်မှုများတွင် နစ်မွန်းစေခြင်းဖြစ်သည်။ မကြာမီ ထိုအရာများ၏ဘေးဘယာနှင့် ဒုက္ခအန္တရာယ်များအကြောင်း အသေးစိတ်ကို ဖေါ်ပြမည်။

ယခုကဲ့သို့ ရှင်းလင်းဖေါ်ထုတ်မှုကို ကြားရသည့်အခါ ထိုပညာရှင်ဆိုးက 'လူတွေဟာ **ကိုယ်မသိတဲ့ကိစ္စများ** မှာ ရန်ရှာကြတယ်'ဟု ပြောဆိုလိမ့်မည်။ သို့သော် သူပြောသလို ထင်မှတ်မမှားသင့်ပါ။ **ထိုကိစ္စရပ်များ၌** နှစ်ကာလ ချီ၍ သက်တမ်းကုန်ဆုံးခဲ့သူ၏ယခုလို ကောင်းကျိုးလိုလားပြောဆိုမှုကို အသင် လက်ခံစေလိုသည်။ ယခုပြောဆိုနေ သူသည် ပထမပုဂ္ဂိုလ်များထက် အရေးအသားတွင်၎င်း၊ သုံးသပ်စောကြောမှုတွင်၎င်း၊ ချေပရှင်းလင်းမှုတွင်၎င်း ပို၍ များခဲ့သူဖြစ်သည်။ ထို့နောက်တွင် အလ္လာဟ်အရှင်က သူ့အား အသိပေး ညွှန်ပြတော်မူခဲ့သည်။ ထိုကိစ္စရပ်များ၏ အပြစ်အနာများကို အသိပေးတော်မူခဲ့သည်။ သို့ဖြစ်ရာ သူသည် ၎င်းကိစ္စရပ်များမှ ရှောင်ခွါခဲ့ပြီး မိမိ၏နဖ်စ်အတွက် အားထုတ်နေခဲ့သည်။*

တစ်စုံတစ်ယောက်က သင့်အား 'ဖတ္တဝါသည် ရှရီအတ်၏မဏ္ဍိုင်ဖြစ်သည်။ ဗိဝါဒကွဲမှုများကို မသိရှိဘဲ ထို

* ဤနေရာတွင် 'သူ'ဆိုသည်မှာ အိမာမ်ဂဇာလီသခင်ကိုယ်တိုင်ဖြစ်သည်။ အိမာမ်ဂဇာလီသခင်သည် မိမိ၏အတွေး အခေါ်နှင့် နာမ်ဝိဉာဉ်ရေးအဆင့်ဆင့် ပြောင်းလဲလာပုံကို 'အလ်မွန်ကီဒ်မင်နပ်ဇွလာလ်'ကျမ်းတွင် ကိုယ်ရေးအတ္ထုပ္ပတ္တိ အဖြစ်ရေးသားခဲ့ရာ၊ ထိုကျမ်းတွင် မိမိနစဉ်က တရားဓမ္မရေး အချေအတင်အငြင်းအခုံကိစ္စများ၌ ခုံမင်ခဲ့ပုံ၊ ထို့နောက်မှ ထိုကိစ္စများကို စွန့်လွှတ်ခဲ့ပြီး တဆောင်ဝုဖ်လမ်းသို့ ခြေစုံပစ်လိုက်ခဲ့ပုံများကို ဖေါ်ပြခဲ့သည်။

**ဖတ္တဝါ၏အကြောင်း**အကျိုးကို မသိကျွမ်းနိုင်ပါ'ဟု ပြောဆိုလာခဲ့လျှင်၊ ထိုစကားကြောင့် သင်သည် ထင်ယောင်ထင်**မှားမဖြစ်လေနှင့်**။ အမှန်မှာ မဇ်ဟဗ်၏ကြောင်းကျိုးပြမှုများသည် မဇ်ဟဗ်ထဲတွင် ဖေါ်ပြပါရှိပြီးဖြစ်သည်။ ထို့ထက်**ကျော်လွန်၍** အပိုပါရှိသမျှသည် အငြင်းပွါးမှုများသာဖြစ်ပြီး၊ ထိုအရာများကို ခေတ်ဦးပိုင်းပုဂ္ဂိုလ်များ မသိခဲ့ကြသလို **ဆွဟာဗဟ်သခင်များ**ﷺလည်းမသိခဲ့ကြပါ။ ဤသခင်တို့သည် ဖတ္တဝါရေးကြောင်းကျိုးပြချက်များကို အခြားသူများ**ထက် ပို၍အသိဆုံး**ဖြစ်ခဲ့ကြသည်။ စင်စစ်မှာ မဇ်ဟဗ်၏အသိပညာတွင် ဤဝိဝါဒကွဲမှုများသည် အကျိုးမဲ့အရာများ**ဖြစ်သည်**။ သို့သာမက ဆိုးကျိုးဖြစ်ပြီး ဖိကဟ်၏အရသာကို ဖျက်ဆီးသောအရာများဖြစ်သည်။

ဤအချက်ကို **မုဖ်တီ၏တွေးခေါ်မျှော်မြင်မှု**က သက်သေခံလျက်ရှိသည်။ မုဖ်တီတစ်ဦးသည် ဖိကဟ်ကို မှန်**မှန်ကန်ကန် လိုလားမက်မောမှုရှိမည်ဆိုလျှင်** များသောအားဖြင့် သူသည် စကားစစ်ထိုးမှုဘက်သို့ ခြေဦးမလှည့်ပေ။ **ဇိဧသဘာဝက** ငြင်းခုံမှု**တွင် ခုံမင်ပြီး ဉာဏ်**ရည်ဉာဏ်သွေး အငြင်းအခုံကိစ္စဘက်သို့ တိမ်းညွှတ်မှုရှိနေသူအဖို့ကား၊ **ဖိကဟ်**ကို လိုလားမက်မော**မှုသည် သူ့**ထံမှ ရှောင်ခွါထွက်သွားမည်သာဖြစ်သည်။

ဤအချေအတင်ငြင်းခုံမှုကို ကျော်ကြားမှုနှင့်ဂုဏ်ကြီးမှုကို ရှာဖွေသူကသာ လိုက်စားသည်။ ထို့နောက် သူက **ဆင်ခြေပေးသည်မှာ** 'ဤသို့လိုက်စားရခြင်းသည် မဇ်ဟဗ်တစ်ခု၏ကြောင်းကျိုးပြမှုများကို သိရှိနိုင်ရန်ဖြစ်သည်'ဟု **ဖြစ်၏**။ သို့နှင့်တိုင် သူ၏ဘဝသက်တမ်းသာ ကုန်ဆုံးသွားသော်လည်း သူသည် မဇ်ဟဗ်ကို သိရှိမှုဘက်သို့ မလှည့်**တော့ချေ**။ သို့ဖြစ်ရာ သင်သည် ဂျင်န်ရှိင်တွာန်များမှလည်း လွတ်အောင် ရှောင်ပါ။ လူရှိင်တွာန်များမှလည်း ကင်း**အောင်ရှောင်ရှား**ပါ။ အကြောင်းမှာ ထိုလူရှိင်တွာန်တည်းဟူသော အိုလမာဆိုးတို့သည် ဂျင်ရှိင်တွာန်များကို လူသား**များအား** မှားယွင်းတိမ်းချော်စေသည့်အလုပ်တာဝန် ပင်ပမ်းညောင်းညာမှုမှ **အနားရသက်သာအောင်** လူစားဝင်ဆောင်ရွက်လျက်ရှိကြသည်။

အချုပ်ဆိုရသော် ဉာဏ်ရှင်တို့၏အကြိုက်လမ်းစဉ်မှာ အသင်သည် မိမိကိုယ်ကို ကမ္ဘာလောကတွင် အလ္လာဟ်**အရှင်နှင့်အတူ** ကိုယ်တစ်ဦးတည်း ရှိနေသည်ဟု မှတ်ယူပြီး၊ သေခြင်းတရား၊ အရှင်၏ရှေ့တော်မှောက် ခစားရမည့်**အရေး**၊ စာရင်းစစ်ဆေးမည့်အရေး၊ ဂျန္နတ်နှင့် ဂျဟန္နမ်အရေးကိစ္စများကို သင်၏ရှေ့တွင် ထားပါ။ ထို့နောက် မိမိ၏ရှေ့တွင်ရှိနေသော မိမိကို အကျိုးပြုမည့်အရာများကို စဉ်းစားတွေးတောပါ။ ဤအပြင် အခြားအရာများကို စွန့်လွှတ်လိုက်ပါ။ သို့ဆိုလျှင် အသင်ချမ်းမြေ့ရမည်။

သူတော်စင်တစ်ပါးသည် ပညာရှင်တစ်ဦးကို အိပ်မက်၌ မြင်တွေ့ခဲ့၏။ ထိုအခါ သူတော်စင်က 'သင်သည် ဒွန္နယာတွင်ရှိစဉ် **ဝေဖန်တိုက်ခိုက်မှုများ**၊ မုနာဇရာလုပ်ငန်းများ ပြုလုပ်လေ့ရှိခဲ့သည်။ ထိုပညာရပ်များ၏အကြောင်း ပြောပြပါဦး'ဟု မေးခဲ့သည်။ ထိုအခါ ပညာရှင်က မိမိ၏လက်ကို ဖြန့်ကာ လက်ဖဝါးပေါ် တစ်ချက်မှုတ်လိုက်ပြီး– '**အားလုံး** သဲထဲရေသွန်ဖြစ်သွားပါပြီ။ ကျွန်ုပ်အား အကျိုးပြုခဲ့သည်မှာ ညဥ့်သန်းကောင်တွင် ဖတ်ရွတ်ခဲ့သည့်နမာဇ်**နှစ်ရကအတ်**ဖြစ်သည်'ဟု ပြောခဲ့လေသည်။ ဟဒီစ်တစ်ပုဒ်တွင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ما ضل قوم بعد هدي كانوا عليه إلا أوتوا الجدل . (ت.ق)

'လူထုသည် တရားလမ်းမှန် ရရှိပြီးနောက် လမ်းမှားကြတော့မည်မဟုတ်ပေ။ သို့သော် ၎င်းတို့သည် လမ်းမှားစရာရှိလျှင် အငြင်းအခုံများ ပေါ်ပေါက်သဖြင့်သာ လမ်းမှားကြလိမ့်မည်။'

ဤသို့မိန့်ဆိုပြီးနောက် တမန်တော်မြတ်ﷺက အောက်ပါအာယတ်ကို ဖတ်ရွတ်ခဲ့သည်။

﴿مَا ضَرَبُوهُ لَكَ إِلَّا جَدَلًا بَلْ هُمْ قَوْمٌ خَصِمُونَ﴾

**'သင့်အား ၎င်းတို့က ဥပမာပေးခဲ့ကြသောအရာသည် ငြင်းခုံမှုသာဖြစ်၏။ သို့သာမက ၎င်းတို့သည် ပြဿနာရှာသူများဖြစ်ကြသည်။'** (ဇုခ်ရုဖ်ရှဖ် ၊ ၅၈)

ထို့ပြင် အခြားဟဒီစ်တစ်ပုဒ်တွင် အလ္လာဟ်အရှင်၏မိန့်ကြားချက်–

﴿فَأَمَّا الَّذِينَ فِي قُلُوبِهِمْ زَيْغٌ﴾

**'သို့ဖြစ်ရာ ၎င်းတို့၏နှလုံးသားများတွင် တိမ်းစောင်းမှုရှိသူများသည်–'** (အာယတ်အဆုံးထိ)

**(စူရာအာလေ့အင်မ်ရာန် ၊၇)**

တွင် **'နှလုံးသားများတွင် တိမ်းစောင်းမှုရှိသူများ'**၏အလိုသဘောကို တမန်တော်မြတ်ﷺက 'ထိုသူတို့သည် အငြင်းအခုံသမားများဖြစ်ကြပြီး၊ အလ္လာဟ်အရှင်မြတ်က **'﴿فَاحْذَرْهُمْ﴾ 'ထိုသူတို့မှ ရှောင်ရှားကြကုန်'** ဟု မိန့်ကြားတော်မူထားကြောင်း' ရှင်းပြခဲ့သည်။

ရှေးသူတော်စင်အချို့က 'နှောင်းခေတ်အခါတွင် **လူသားအုပ်စုတစ်ခု** ရှိလာလိမ့်မည်။ ၎င်းတို့အတွက် လက်တွေ့ကျင့်သုံးမှု၏တံခါးကို ပိတ်လိုက်ပြီး အငြင်းအခုံ၏တံခါးကို **ဖွင့်ပေးလိမ့်မည်**'ဟု ဆိုမိန့်ခဲ့ကြသည်။ ထို့ပြင် အချို့ဟဒီစ်တွင်– 'အသင်တို့သည် ကျင့်သုံးရန် အသိထည့်ပေးခြင်းခံရသော **ခေတ်တွင် ရှိနေကြသည်**။ ထို့နောက် မကြာမီ စိတ်နှလုံးများထဲ၌ အငြင်းအခုံလုပ်ရန် ထည့်ပေးခြင်းခံရသောလူသားအုပ်စုတစ်ခု ရောက်ရှိလာလိမ့်မည်'* ဟု ဖေါ်ပြလာရှိသည်။ ထို့ပြင် ကျော်ကြားသော ဟဒီစ်တစ်ပုဒ်တွင် တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ–

ابغض الخلق الى الله تعالى الألد الخصم. (خ،م)

'အလ္လာဟ်အရှင် အရွံမုန်းဆုံးလူသားသည် ပြဿနာရှာငြင်းခုံတတ်သူဖြစ်သည်။'

တဖန် ဟဒီစ်တစ်ပုဒ် လာရှိသည်မှာ– ما أتى قوم المنطق إلا منعوا العمل.

'အကြင်လူသားအုပ်စုတစ်ခုသည် စကားပြောအတတ်ကို ရရှိမည်ဆိုလျှင် **၎င်းတို့သည်** ကျင့်သုံးမှုမှ တားမြစ်ခံခဲ့ရပြီဖြစ်သည်။'†

---

* အီရာကီသခင်ꨵက 'ကျွန်ုပ် ဤဟဒီစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။

† အီရာကီသခင်ꨵက 'ဤဟဒီစ်၏ရင်းမြစ်အခြေခံကို ကျွန်ုပ် မတွေ့ရပါ'ဟု ဆိုသည်။

## အခန်း လေး

# လူတို့က ဝိဝါဒကွဲမှုအသိကို အာရုံစိုက်လာကြသည့်အကြောင်းရင်း။ မှန်ာဇရာနှင့် အငြင်းအခုံပြုခြင်းကြောင့် ဖြစ်ရသည့် ဆိုးကျိုးဒုက္ခများ၏အသေးစိတ် နှင့် မှန်ာဇရာပြုလုပ်ခွင့်အတွက် စည်းကမ်းချက်များ

တမန်တော်မြတ်ﷺ၏နောက် ခေလာဖတ်အရိုက်အရာကို ခလီဖဟ်သမ္မတကြီးများက ဆက်ခံတာဝန်ယူခဲ့ကြသည်။ ထိုသခင်ကြီးများသည် လမ်းမှန်ရကြသော တရားလမ်းညွှန်ပုဂ္ဂိုလ်များဖြစ်ကြသည်။ ထို့ပြင် အလ္လာဟ်အရှင်ကို သိကျွမ်းသောပညာရှင်များ၏ဦးစီးရှေ့ဆောင်ကြီးများဖြစ်ကြသည်။ ထို့ပြင် အလ္လာဟ်အရှင်၏အမိန့်တော်များကို တတ်သိနားလည်သူများဖြစ်ကြသည်။ ထို့ပြင် တရားတထုံးစီရင်မှုနှင့်သက်ဆိုင်ရာ ဓမ္မသတ်အဆုံးအဖြတ်တွင် တစ်ဖက်ကမ်းခပ် ကျွမ်းကျင်သူများဖြစ်ကြသည်။ ဆွေးနွေးတိုင်ပင်ရန် လိုသော ရှားရှားပါးပါးကိစ္စမျိုးမှလွဲ၍ ထိုပုဂ္ဂိုလ်ကြီးများသည် ဖိကဟ်ပညာရှင်များထံမှ အကူအညီမလိုအပ်ခဲ့ကြပေ။

သို့ဖြစ်ရာ ထိုပညာရှင်ကြီးများသည် အခြားကိစ္စများမှ လွတ်ကင်းမှုရယူပြီး အာခိရတ်ပညာအတွက် သီးသန့်ဖြစ်ခဲ့ကြသည်။ ထိုသခင်တို့သည် ဖတ္တဝါရေးကိစ္စ၊ လူသားတို့၏ဒွန္ဒယာနှင့်သက်ဆိုင်ရာကိစ္စများကို ဖြေရှင်းရမည်ဆိုလျှင် တစ်ဦးကိုတစ်ဦး လွှဲချလေ့ရှိကြသည်။ ၎င်းတို့၏ဘဝဖြစ်စဉ်များမှာ လာရှိသည့်အတိုင်းပင် အလ္လာဟ်အရှင့်ဘက်သို့ ဦးတည်ရေးရှု၍ ဖွဲ့ခတ်ကြိုးပမ်းခဲ့ကြသည်။ ၎င်းတို့၏နောက်တွင် ခေလာဖတ်တာဝန်သည် မထိုက်တန်သူများထံသို့ ရောက်ရှိသွားခဲ့သည်။ ထိုသူတို့သည် ဖတ္တဝါပညာနှင့် အမိန့်ပညတ်ဆိုင်ရာတွင်လည်း ကျွမ်းကျင်မှုမရှိကြပေ။ သို့ဖြစ်ရာ ၎င်းတို့သည် ဖိကဟ်ပညာရှင်များထံမှ အကူအညီကို မယူမဖြစ် ယူကြရသည်။ ၎င်းတို့၏အရေးကိစ္စအဝဝအတွက် ဖတ္တဝါများ လိုအပ်သလိုတောင်းခံယူရန် ထိုဖိကဟ်ပညာရှင်များကို အခြေအနေတိုင်း အချိန်အခါတိုင်းတွင် အနီးကပ်ပူးတွဲထားကြရသည်။

ထိုအချိန်တွင် ခေတ်ဦးပုဂ္ဂိုလ်များ၏စည်းစနစ်ကို စွဲစွဲမြဲမြဲလိုက်နာသော တာဘိအီပညာရှင်များ ကျန်နေသေးသည်။ ထိုပညာရှင်များသည် သန့်တော်စင်သာသနာကို စွဲယူပြီး ရှေးသူဟောင်း ပညာရှင်ကြီးများကို ဖဝါးခြေထပ်လိုက်သူများဖြစ်ခဲ့ကြသည်။ သို့ဖြစ်၍ပင် ထိုပညာရှင်တို့သည် မိမိတို့ထံမှာ အဆုံးအဖြတ်ခံယူလာသည့်အခါ ရှောင်ထွက်ကြ၊ ဘေးဖယ်ကြခြင်းဖြစ်သည်။ ထိုတွင် အုပ်ချုပ်ရေးမှူးတို့က တရားစီရင်ရေးနှင့် အုပ်ချုပ်ရေးတာဝန်များကို ကြီးကြပ်ပေးရန် ထိုပညာရှင်တို့အား မဖြစ်မနေ တောင်းဆိုကြရသည်။ သို့ဖြစ်ရာ ထိုထိုခေတ်များဆီက လူတို့သည် ပညာရှင်တို့၏ဂုဏ်သိက္ခာကိုင်း၊ ပညာရှင်များက ၎င်းတို့အား ဥပက္ခာပြုထားသည့်ကြားက ဦးစီးရှေ့ဆောင်များနှင့် အုပ်ချုပ်ရေးပိုင်းပုဂ္ဂိုလ်တို့သည် ထိုပညာရှင်များအပေါ် အာရုံစိုက်ခဲ့ကြသည်ကိုင်း မြင်တွေ့ခဲ့ကြရသည်။

ထိုအခါ လူတို့သည် အုပ်ချုပ်ရေးမှူးများထံမှ ဂုဏ်သိက္ခာနှင့်ကျော်စောမှုကို ရရှိရန်အလို့ငှါ ပညာသင်ယူခြင်းဘက်သို့ လှည့်ကုန်ကြသည်။ သို့ဖြင့် ဖတ္တဝါပညာကို အသည်းအသန်သင်ယူကြပြီးနောက် မိမိတို့ကိုယ်ကို အုပ်ချုပ်ရေးမှူးများထံ ထိုးအပ်ခဲ့ကြသည်။ အုပ်ချုပ်ရေးမှူးများနှင့် သိကျွမ်းအောင် မိမိတို့ကိုယ်ကို မိတ်ဆက်လိုက်ကြသည်။ ထို့နောက် ရာထူးဌာနန္တရများနှင့် ပေးစာကမ်းစာများကို တောင်းခံကြသည်။ သို့ရှိရာ ၎င်းတို့အနက်အချို့မှာ မအောင်မမြင်ဖြစ်ခဲ့ကြသည်။ အချို့မှာ အောင်မြင်မှု ရခဲ့ကြသည်။ အောင်မြင်သူအဖို့မှာလည်း တောင်းခံရခြင်း၏ သေးသိမ်အောက်ကျမှုနှင့် ဂုဏ်အသရေညှိုးနွမ်းမှုတို့မှ မလွတ်ကင်းခဲ့ပေ။ ထိုတွင် ဖိကဟ်ပညာရှင်တို့သည် ခယဝပ်တွားခြင်းခံရသူများအဖြစ်မှ သူတပါးကို ခယဝပ်တွားရသူများ ဖြစ်ကုန်ကြသည်။ အာဏာပိုင်များအား အောက်မကျို့ဘဲနေခဲ့သဖြင့် ဂုဏ်သိက္ခာရှိခဲ့သည့်အဖြစ်မှ အာဏာပိုင်များထံ ချဉ်းကပ်သွားလာရသဖြင့် အောက်ကျနောက်ကျဖြစ်ကုန်ကြရသည်။ သို့နှင့်တိုင် အလ္လာဟ်အရှင်က ကျင့်သုံးနိုင်စွမ်းချီးမြှင့်တော်မူသဖြင့် ခေတ်တိုင်းခေတ်တိုင်း၌ အလ္လာဟ့်သာသနာတော်၏ ပညာရှင်များထဲတွင် အထက်ပါအဖြစ်များမှ ကင်းရှင်းသူများလည်း ရှိနေခဲ့ပေသည်။

ထိုခေတ်များတွင် ဖတ္တဝါပညာနှင့် တရားစီရင်ရေးကို အများအပြား အာရုံစိုက်ခဲ့ကြခြင်းမှာ တာဝန်ခံများနှင့် အုပ်ချုပ်ရေးပိုင်းက ထိုပညာများကို အလွန်လိုအပ်လျက်ရှိသောကြောင့်ဖြစ်သည်။ ထို့နောက်တွင်မူ အကီဒဟ်ရေးရာအခြေခံများနှင့်ပတ်သက်သော လူတို့၏ ပြောဆိုမှုများကို နားထောင်သော ခေါင်းဆောင်များနှင့်အကြီးအမှူးများ ပေါ်ထွက်လာသည်။ ၎င်းတို့သည် ထိုကိစ္စ၌ အထောက်အထားများ တင်ပြပြောဆိုသည်ကို နားထောင်ရန် စိတ်အားထက်သန်ကြလေသည်။ ထိုသို့ အာဏာပိုင်တို့က ကလာမ်ပညာဆိုင်ရာ အချေအတင်အငြင်းအခုံပြုမှုများဘက်တွင် စိတ်ဝင်စားနေကြောင်း သိသောအခါတွင်လည်း လူတို့သည် ကလာမ်ပညာဘက်ကို အသည်းအသန်လိုက်ကြပြန်လေသည်။ ဤပညာရပ်နှင့်သက်ဆိုင်ရာကျမ်းစာများ အများအပြားရေးသားကြပြန်သည်။ အငြင်းအခုံနည်းလမ်းနိသယများကို စီမံလာကြပြန်သည်။

တစ်ဘက်ပုဂ္ဂိုလ်၏ ပြောဆိုမှုအပေါ် ချေဖျက်သည့်အတတ်များ ဖေါ်ထုတ်လာကြသည်။ ၎င်းတို့က မိမိတို့၏ ဦးတည်ချက်သည် အလ္လာဟ်အရှင်၏ သာသနာကို ကာကွယ်စောင့်ရှောက်ရန်၊ စွန္နတ်ဘက်က ရပ်တည်တိုက်ခိုက်ရန်နှင့်ဗိဒအတ်ကို အမြစ်ဖြုတ်ရန်ဖြစ်သည်ဟု ထင်မှတ်နေကြသည်။ ဤနည်းနှင်နှင် ၎င်းတို့အထက် ဖိကဟ်ရှင်များက– 'မိမိတို့ ယခုလို ဖတ္တဝါဓမ္မသတ်ကို လိုက်စားခြင်းနှင့် မွတ်စလင်မ်တို့၏ တရားဓမ္မကိစ္စကို တာဝန်ယူခြင်းများသည် အလ္လာဟ်အရှင်၏ အဖန်ဆင်းခံလူသားများအပေါ် သနားကြင်နာမှုနှင့် ၎င်းတို့အတွက် ကောင်းကျိုးလိုလားမှုကို ဦးတည်ရည်ရွယ်သောကြောင့်ဖြစ်ပါသည်'ဟု ထင်မြင်ခဲ့ကြသကဲ့သို့ဖြစ်သည်။

ထို့နောက်တဖန် ကလာမ်ပညာကို စူးစားလေ့လာနေခြင်းနှင့် မုနာဇရာ၏ တံခါးကို ဖွင့်မိခြင်းတို့အား မမှန်ကန်ဟု ယူဆသော ခေါင်းဆောင်များ ပေါ်ထွက်လာခဲ့သည်။ ထိုသို့ရှိခြင်းမှာ မုနာဇရာ၏ တံခါးကို ဖွင့်လိုက်သည့်အတွက် ဆိုးရွားသော တစ်ယူသန်တစ်ဇွတ်ထိုးပြုမူပြောဆိုမှုများနှင့် အတိုက်အခံကိစ္စများ ဖြစ်ပေါ်ခဲ့ပြီး ထိုမှတဆင့် သွေးထွက်သံယိုမှုများနှင့် မြို့ရွာပျက်စီးမှုများအထိ ဖြစ်ပွါးခဲ့သောကြောင့်ဖြစ်သည်။ ထိုအခါ ဖိကဟ်နှင့်သက်ဆိုင်ရာ မုနာဇရာလုပ်ခြင်းဘက်သို့ လှည့်၍ စိတ်ဝင်စားကြပြန်သည်။

အထူးသဖြင့် အိမာမ်ရှာဖအီ၏ မဇ်ဟဗ်နှင့် အိမာမ်အဗူဟနီဖဟ်၏ မဇ်ဟဗ်နှစ်ခုတွင် 'အလေးသာမှု'ကို သိနိုင်ရန် လေ့လာရှာဖွေကြသည်။ ဤသို့ဖြင့် လူတို့သည် ကလာမ်ပညာနှင့် အခြားဘာသာရပ်များကို စွန့်လွှတ်ပစ်ခဲ့ကြပြန်သည်။ အိမာမ်ရှာဖအီသခင်နှင့် အိမာမ်အဗူဟနီဖဟ်သခင်နှစ်ပါးအကြားမှ မတ်စအလာအကွဲအလွဲများကို ဘစ်သီးတစ်သန့် စေ့ငုတူးဖေါ်ကြသည်။ အိမာမ်မာလိက်သခင်၊ အိမာမ်ဆွဖ်ယန်စော်ရီသခင်၊ အိမာမ်အဟ်မဒ်သခင်တို့၏ အကွဲအလွဲများကို ပေါ့ပေါ့တန်တန်သဘောထားကြသည်။ ဤနေရာမှာလည်း ၎င်းတို့က 'မိမိတို့၏ ဦး

တည်ချက်သည် ရှုရီအတ်တရားတော်၏နက်နဲမှုများကို ဖေါ်ထုတ်ရန်၊ မစ်ဟဗ်၏အကြောင်းထွက်ပေါ်မှုကို အတည်ပြုရန်နှင့် ဖတ္တဝါစည်းမျဉ်းများကို ချမှတ်ရန်ဖြစ်သည်'ဟု ထင်မှတ်ခံယူခဲ့ကြပြန်လေသည်။ ဤအကြောင်းအရာများနှင့်ပတ်သက်၍ များစွာသောရေးသားပြုစုမှုများ၊ စေ့စေ့ဖေါ်ထုတ်မှုများ ပေါ်ထွက်လာခဲ့သည်။ ထို့ပြင် အမျိုးမျိုးသော အငြင်းအခုံများနှင့် အရေးအသားများ စီစဉ်လာကြသည်။ ထိုအစဉ်အလာသည် ယခုထက်တိုင် တည်ရှိနေဆဲဖြစ်သည်။ ကျွန်ုပ်တို့၏နောက်ခေတ်များတွင် အလ္လာဟ်အရှင် မည်သို့ဖြစ်စေမည်ကိုမူ ကျွန်ုပ်မသိနိုင်ပေ။

ဤသည်မှာ ဝိဝါဒကွဲလွဲမှုများနှင့် မုနာဇရာရေးများကို လိုက်စားမှု၌ အသည်းအသန်ဖြစ်ခဲ့ရသည့်အကြောင်းတရားများဖြစ်ပေသည်။ ဤအကြောင်းများအပြင် နောက်ထပ်အခြားမရှိပေ။ အကယ်၍ ဒွန္နယာရေးအကြီးအကဲများ၏စိတ်သဘောထားများက အိမာမ်ကြီးများအနက်မှ အိမာမ်တစ်ပါးပါးနှင့် ဆန့်ကျင်သည့်ဘက်သို့ ယိမ်းယိုင်မည်၊ သို့မဟုတ် အခြားသောပညာရပ်တစ်ခုခုဘက်သို့ စိတ်ဝင်စားခဲ့မည်ဆိုလျှင် ထိုပညာရှင်များသည် ထိုအရာများဘက်သို့ပင် မုချစိတ်ဝင်စား ယိမ်းယိုင်ကြမည်ဖြစ်သည်။ တဖန် ထိုပညာရှင်များက 'ယခု မိမိတို့ စိတ်ဝင်တစား လိုက်စားနေသော ပညာကသာလျှင် သာသနာ့ပညာဖြစ်သည်။ ဤသို့လိုက်စားရာကြ၌လည်း လောကအပေါင်း၏ရှစ်အရှင်ထံ နီးကပ်မှုရရန် မှလွဲ၍ အခြားဘာကိုမှ လိုလားခြင်းမရှိပါ'ဟု အကြောင်းပြပြောဆိုရန် တုန့်ဆိုင်းကြလိမ့် မဟုတ်ပါချေ။

## ဤမုနာဇရာများကို ဆွဟာဗဟ်များ၏နီးနှောမှုများ၊ ရှေးသူတော်စင်များ၏တိုင်ပင်မှုများနှင့် ဆင်တူရိုးမှားဖြစ်စေမှုအား ရှင်းပြခြင်း

ထိုပညာရှင်တို့က လူတို့အား 'ကျွန်ုပ်တို့၏ရည်ရွယ်ချက်မှာ မုနာဇရာပြုမှု ဆန်းစစ်အဖြေရှာမှုများဖြင့် အမှန်တရားကို ပေါ်လွင်ထင်ရှားရန်ဖြစ်သည်'ဟု ထင်ယောင်ထင်မှားဖြစ်အောင်လုပ်ကြလေသည်။ သို့ရှိရာ အမှန်တရားကမူ လိုလားအပ်သော အရာပင်ဖြစ်သည်။ ထို့ပြင် အသိပညာနှင့်ပတ်သက်၍ တစ်ဦးကိုတစ်ဦး ကူညီပံ့ပိုးခြင်းသည်၎င်း၊ သဘောထားအမြင်များ ညီညွတ်မျှတခြင်းသည်၎င်း အကျိုးဖြစ်ထွန်းမှုရှိသောကိစ္စများဖြစ်သည်။

ဤနည်းအတိုင်းပင် ဆွဟာဗဟ်သခင်များသည် တိုင်ပင်နီးနှောသည့် အလေ့အထရှိခဲ့ကြ၏။ ဥပမာအားဖြင့် အဘိုးရှိနေလျှင် သေဆုံးသူ၏ညီအစ်ကိုများ အမွေရထိုက်မရထိုက်၊ အရက်သောက်ခြင်းအတွက် ပြစ်ဒဏ်စီရင်မှု၊ ခေါင်းဆောင်က မှားယွင်းသည့်အခါ ၎င်းအပေါ်ဒဏ်ကြေးထိုက်မှု-ကဲ့သို့သောကိစ္စများတွင် ဆွဟာဗဟ်များတိုင်ပင်နီးနှောခဲ့ကြသည်။ ထို့ပြင် အမျိုးသမီးတစ်ယောက်က အိုမရ်သခင်ကို ကြောက်သဖြင့် သားလျှောခဲ့ရသည့်ဖြစ်ရပ်မျိုးတွင် ဆွဟာဗဟ်များတိုင်ပင်နီးနှောခဲ့ကြသည်။ ထို့ပြင် အမွေခွဲတမ်းမတ်စအလာလို ကိစ္စမျိုးတွင် ဆွဟာဗဟ်များတိုင်ပင်နီးနှောခဲ့ကြသည်။ အိမာမ်ရှာဖအီသခင်၊ အိမာမ်မုဟမ္မဒ်အီဗ်နေ့ဟစ်သခင်၊ အိမာမ်မာလိက်သခင်၊ အိမာမ်အဗူယူစွဖ်သခင် အစရှိသည့် ဖိကဟ်ပညာရှင်ကြီးများ ကွဲလွဲခဲ့သည်မှာ ဤကဲ့သို့မတ်စ်အလာမျိုးတွင်ဖြစ်သည်။

အထက်က ထင်ယောင်ထင်မှားဖြစ်အောင်လုပ်မှုကို ကျွန်ုပ်ကပင် ရှင်းလင်းဖေါ်ပြမည်။ အမှန်တရားကို ရှာဖွေရာတွင် တစ်ဦးကတစ်ဦးကို ကူညီပံ့ပိုးခြင်းသည် သာသနာရေးလုပ်ငန်းရပ်ပင်ဖြစ်ပါသည်။ သို့သော် ဤလုပ်ငန်းအတွက် စည်းကမ်းချက်နှင့် ဝိသေသလက္ခဏာ ရှစ်ခုရှိလေသည်။

**ပထမစည်းကမ်းချက်** – ဤလုပ်ငန်းသည် ဖရာဇ်ကိဖာယာတာဝန်ဖြစ်သည်။ သို့ဖြစ်ရာ ဖရာဇ်အိုင်န်တာဝန်များကို မကျေပွန်သေးသူသည် ဤလုပ်ငန်းကို မလုပ်ရပါ။ ဖရာဇ်အိုင်န်တာဝန်ကို မကျေပွန်သေးဘဲ ဖရာဇ်ကိဖာယာအ

လုပ်ကို လုပ်သူက၊ သူ၏ရည်ရွယ်ချက်သည် အမှန်တရားကို ရှာဖွေရန်ဖြစ်သည်ဟု ထင်နေသော်လည်း စင်စစ်တွင် သူသည် လူလိမ်ဖြစ်သည်။ သူ၏ပုံပမာသည် ကိုယ်တိုင်က နမာဇ်ကို လက်လွှတ်လျက် အဝတ်အထည်များ ယက်လုပ်မှုတွင် လုံးပန်းနေပြီး 'ကျွန်တော်၏ရည်ရွယ်ချက်သည် အဝတ်အထည်မရှိသဖြင့် ကိုယ်လုံးတီးနမာဇ်ဖတ်နေရသူကို အရှက်လုံအောင် ဖုံးအုပ်ပေးရန်ဖြစ်သည်'ဟု ပြောဆိုသူနှင့် အလားတူလေသည်။ ထိုသူပြောသည့် အကြောင်းပြချက်မျိုးသည် တိုက်ဆိုင်ကြုံကြိုက်မှုအရ ဖြစ်မည်ဆိုက ဖြစ်နိုင်သည်။ ဖိကဟ်ပညာရှင်က အကွဲအလွဲကိစ္စများကို ပြောဆိုရာတွင် ပါရှိတတ်သော လက်တွေ့ဖြစ်ပွါးမှုနည်းလှသော ကြုံတောင်ကြုံခဲကိစ္စရပ်မျိုးသာဖြစ်သည်။

မုနာဇရာတွင် နစ်မွန်းနေပြီး ဖရာဇ်အိုင်န်ဟု အညီအညွတ်သတ်မှတ်ထားသော အရာများကို စွန့်လွှတ်ထားသူများရှိသည်။ ထိုသူများ၏ဥပမာသည် အပ်နှံပစ္စည်းအား လက်ငင်းပြန်ပေးရမည်ကို မပေးသေးဘဲ အလ္လာဟ်အရှင်နှင့် နီးကပ်မှုအရှိဆုံး ကျင့်ဆောက်တည်မှုဟုဆိုပြီး နမာဇ်ဖတ်ရန်ထ၍ နိယတ်ပြုသူလိုဖြစ်သည်။ စင်စစ်တွင် ထိုသူသည် အလ္လာဟ်အရှင်ကို ဗီဆန်သူဖြစ်သည်။ ပုဂ္ဂိုလ်တစ်ဦးသည် အမိန့်နာခံမှု၏အမျိုးအစားထဲမှ ကျင့်သုံးမှုတစ်ခုအား အချိန်ကာလကိုငှင်း၊ စည်းကမ်းချက်များကိုငှင်း၊ ရှေ့နောက်အစီအစဉ်များကိုငှင်း ထောက်ရှုခြင်းမပြုလျှင် ထိုသူသည် အမိန့်နာခံသူဖြစ်ရန် မလုံလောက်သေးချေ။

**ဒုတိယစည်းကမ်းချက်**– မုနာဇရာကို ဖရာဇ်ကိဖာယာထက် ပိုပြီး အရေးကြီးသည်ဟု မမှတ်ယူရပါ။ အကယ်၍ ဖရာဇ်ကိဖာယာက ပိုပြီးအရေးကြီးသည်ဟု သိထားပြီးနောက်မှာ မုနာဇရာတွင် နစ်မွန်းနေဦးမည်ဆိုလျှင်၊ ဤအပြုအမူသည် အမိန့်ဗီဆန်မှုသာဖြစ်သည်။ ဤအတွက်ဥပမာမှာ ရေငတ်နေသောလူတစ်စုကို တွေ့မြင်ရသူကဲ့သို့ဖြစ်သည်။ သေလုမျောပါးဖြစ်နေသူများကို လူတို့က ဥပက္ခာပြုထားကြသည်။ တွေ့မြင်ရသူသည် ရေငတ်နေသူများကို ရေတိုက်ပြီး သေဘေးမှ ကယ်တင်ရန် စွမ်းနိုင်သူဖြစ်သည်။ သို့နှင့်တိုင် ထိုသူသည် ဆတ္တာသည်အတတ်ကို သင်ယူခြင်းတွင် မွေ့လျော်နေခဲ့သည်။ ထို့ပြင် သူက 'ဤအတတ်သည် ဖရာဇ်ကိဖာယာတာဝန်ဖြစ်သည်။ အကယ်၍ မြို့ပေါ်တွင် ဤအတတ်ကို တတ်ကျွမ်းသူ မရှိလျှင် လူတို့ ဒုက္ခရောက်ရလိမ့်မည်'ဟု ခံယူထားသည်။ ထိုတွင် သူ့အား 'မြို့ပေါ်မှာ ဆတ္တာသည်များ အဖွဲ့လိုက် လုံလုံလောက်လောက်ရှိနေကြောင်း' အသိပေးသောအခါတွင်လည်း၊ သူက 'ထိုသို့ရှိသော်လည်း ဤအလုပ်သည် ဖရာဇ်ကိဖာယာအဖြစ်မှ ထွက်မသွားသေးပါ'ဟု ပြောဆိုလေသည်။

မြို့ပေါ်မှာ ဖရာဇ်ကိဖာယာတာဝန်များကို ထမ်းဆောင်သူမရှိသည့်အဖြစ်အား လျစ်လျူရှု၍ မုနာဇရာလုပ်ငန်းတွင် မွေ့လျော်နေသူ၏ဥပမာသည် မွတ်စလင်မ်များ အုပ်စုလိုက် ရေငတ်ပြီး အတိဒုက္ခရောက်နေခြင်းကဲ့သို့ အရေးပေါ်ကိစ္စကို လျစ်လျူရှုပြီး ဆတ္တာသည်အတတ်ကို သင်ယူသူကဲ့သို့ဖြစ်သည်။ ဖတ္တဝါရေးရာ ဆောင်ရွက်သူများမှာ အုပ်လိုက်သင်းလိုက်ရှိနေပြီဖြစ်သည်။ ဖရာဇ်ကိဖာယာများ အနက်တစ်ခုခုကို စွန့်လွှတ်ထားပြီး ထိုဘက်သို့ ဖိကဟ်ပညာရှင်များက အာရုံမစိုက်ဘဲထားသော မြို့ဟူ၍ မရှိမဟုတ်၊ ရှိနေသည်။ ထိုအတွက် အနီးစပ်ဆုံးဥပမာသည် ဆေးပညာဖြစ်သည်။ အဘယ်သို့ဆိုသော် ရှရီအတ်က မွတ်စလင်မ်ဆေးပညာရှင်၏ထွက်ဆိုမှုကိုသာ အထောက်အထားအဖြစ် လက်ခံထားသည်။ သို့သော် များစွာသောမြို့များတွင် မွတ်စလင်မ်ဆေးပညာရှင်ကို ရှာမတွေ့နိုင်အောင်ဖြစ်နေသည်။ သို့နှင့်တိုင် ဖိကဟ်ပညာရှင်တစ်ဦးတစ်ယောက်ကမှ ဤကိစ္စအပေါ်မှာ လုံးပန်းအားထုတ်ခြင်းမရှိပေ။

ဤနည်းအတူ မကောင်းမြစ်ထာ ကောင်းရာညွှန်လတ် အလုပ်သည်လည်း ဖရာဇ်ကိဖာယာတာဝန်တစ်ရပ်ပင်ဖြစ်သည်။ မုနာဇရာလုပ်သူသည် မကြာခဏဆိုသလို သူ၏မုနာဇရာစုဝေးမှုတွင် ပိုးထည် ဝတ်ထားသူ၊ သို့မဟုတ် ခင်းထိုင်နေသူကို တွေ့မြင်နေရသည်။ ထိုသို့တွေ့သော်လည်း မုနာဇရာလုပ်သူသည် တားမြစ်ခြင်းမပြုပေ။ ထိုအစားသူသည် ဘယ်သောအခါမှ ကြုံကြိုက်ဖြစ်ပွါးရန် မရှိသည့်ကိစ္စရပ်အပေါ်မှာ မုနာဇရာလုပ်နေလေသည်။ အကယ်၍ ထိုကိစ္စရပ်သည် ကြုံကြိုက်ဖြစ်ပွါးခဲ့မည်ဆိုလျှင်လည်း ဖြေရှင်းပေးမည့် ဖိကဟ်ပညာရှင် အုပ်စုတစ်ခုကတော့ရှိနေ

မည်သာဖြစ်သည်။ ထိုသို့သောကိစ္စရပ်မျိုး၌ မုနာဇရာလုပ်ရင်း ၎င်းက ဖရာဇ်ကိဖာယာကို အကြောင်းပြုပြီး အလွှာဟ် အရှင်နှင့် နီးကပ်မှုရယူမည်ဟု ပြောဆိုနေပေသေးသည်။

**အနာဇ်**သခင်က တမန်တော်မြတ်အား 'အို ရစူလ်ကိုယ်တော်၊ ကောင်းရာညွှန်ပြမကောင်းမြစ်ထားအလုပ် **ကို လူတို့**ဘယ်အခါမှာ စွန့်လွှတ်ကြပါမည်လဲ'ဟု မေးမြန်းခဲ့သည်။ ထိုအခါ တမန်တော်မြတ်မိန့်သည်မှာ–

**إذاظهرت المداهنة في خياركم و الفاحشة في شراركم وتحول الملك في صغاركم و الفقه في أراذلكم.** (ق)

'သင်တို့အထဲမှ လူကောင်းသူကောင်းများအတွင်း မြှောက်ထိုးမြှောက်ပင့်လုပ်မှု များပြားလာသောအခါ၊ အသင်တို့အထဲမှ ဆိုးသွမ်းသူများအတွင်း အရှက်မဲ့မှုများ ထူပြောလာသောအခါ၊ အသင်တို့အထဲမှ ငယ်ရွယ်သူများလက်သို့ အုပ်ချုပ်ရေးအာဏာရောက်သွားသောအခါ၊ အသင်တို့အထဲမှ သေးသိမ်ယုတ်ညံ့သူများထံသို့ ဖိကဟ်ပညာရောက်သွားသောအခါ– လူတို့သည် ကောင်းရာညွှန်ပြ မကောင်းမြစ်တားအလုပ် ကို စွန့်လွှတ်ကြလိမ့်မည်။'

**တတိယစည်းကမ်းချက်**– မုနာဇရာပြုလုပ်မည့်သူသည် မွဂျ်တဟိဒ်ဖြစ်ရမည်။ **အိမာမ်ရှာဖအီ**သခင်၊ **အိမာမ်အဗူ** ဟနီဖဟ်သခင်နှင့် အခြားအိမာမ်ကြီးများ၏မဇ်ဟဗ်တစ်ခုခုအရ မဟုတ်ဘဲ၊ မိမိ၏အမြင်ရှုဒေါင့်ဖြင့် ဖတ္တဝါပေးသူ ဖြစ်ရမည်။ အကြောင်းအရာတစ်ခုသည် အိမာမ်အဗူဟနီဖဟ်သခင်၏မဇ်ဟဗ်တွင် မှန်ကန်နေသည်ဟု သိလိုက်ရလျှင် အိမာမ်ရှာဖအီသခင်၏အမြင်ရှုဒေါင့်အရ ရှိနေသည်ကို စွန့်လွှတ်ရမည်။ ဆွဟာဗဟ်သခင်များနှင့်အိမာမ်ကြီးများ ဆောင်ရွက်ခဲ့ကြသကဲ့သို့ မိမိ၏စေ့ငုဖေါ်ထုတ်မှုအရ ပေါ်ပေါက်သည့်အတိုင်း ဖတ္တဝါပေးရမည်။

မျက်မှောက်ခေတ်ရှိ လူအားလုံးတို့မှာ မွဂျ်တဟိဒ်၏အဆင့်အတန်းတွင် မရှိသူများသာဖြစ်သည်။ သို့ဖြစ်ရာ မွဂျ်တဟိဒ်၏အဆင့်တွင် မရှိသူသည် မိမိထံ တစ်စုံတစ်ရာ မေးလာခဲ့သော် မိမိ၏မဇ်ဟဗ်ရှင်ကို အကိုးအကားပြု၍ ဖတ္တဝါပေးရမည်။ မိမိ၏မဇ်ဟဗ်မှ အကြောင်းအချက်တစ်ခုသည် အားနည်းမှုရှိကြောင်း ပေါ်လွင်သိရှိရသော်လည်း ၎င်းအဖို့ စွန့်လွှတ်ခွင့်မရှိပေ။ သို့ဖြစ်ရာ မုနာဇရာပြုလုပ်ခြင်းဖြင့် ထိုသူ့တွင် မည်သည့်အကျိုးရလဒ်ရရန် ရှိသနည်း။ ထိုသူ့တွင် မဇ်ဟဗ်တစ်ခု တိတိကျကျရှိထားပြီးဖြစ်၍ အခြားမဇ်ဟဗ်အရ ဖတ္တဝါပေးခွင့် မရှိတော့ပေ။ ရှုပ်ထွေးခက်ခဲသောအကြောင်းအရာနှင့် ကြုံတွေ့ရလျှင်လည်း၊ သူ့အဖို့ 'ကျွန်ုပ်၏မဇ်ဟဗ်ရှင်ထံတွင် ဤအကြောင်းအရာအတွက် အဖြေရှိပါလိမ့်မည်။ ကျွန်ုပ်ကမူ ရှရီအတ်၏ရင်းမြစ်အခြေခံအပေါ်မှာ ကိုယ်ပိုင်ရပ်တည်ချက်ဖြင့် အီဂျ်တဟာဒ်ပြုနိုင်သူ မဟုတ်ပါ'ဟု ဖြေဆိုရန်သာဖြစ်သည်။

အကယ်၍ သူ့ဘက်က စိစစ်သုံးသပ်သော မတ်စအလာများသည် သူ၏မဇ်ဟဗ်ရှင်ထံတွင် နည်းလမ်းနှစ်ခု သို့မဟုတ် အဆိုနှစ်ခု ရှိမည်ဆိုလျှင် ဆီလျော်အပ်စပ်မှုရှိသေးသည်။ အကြောင်းမှာ ထိုနှစ်ခုထဲမှ တစ်ခုနှင့် ကိုက်ညီအောင် ဖတ္တဝါပေးခဲ့မည်ဆိုလျှင်၊ ဤစိစစ်သုံးသပ်မှုဖြင့် အဆိုနှစ်ခုအနက် အားကောင်းသည်ဟု ယူဆရာဘက်သို့ တိမ်းညွတ်သည့် အကျိုးရဦးမည်ဖြစ်သည်။ သို့နှင့်တိုင် ဤသို့သောမတ်စအလာမျိုးတွင် မုနာဇရာလုပ်သည့်အစဉ် အလာလုံးဝမ[illegible]ရပေ။ သို့သာမက နည်းလမ်းနှစ်ခု သို့မဟုတ် အဆိုနှစ်ခုရှိသော မတ်စအလာကို စွန့်ပြီး၊ အိမာမ် နှစ်ဦးစလုံးနှင့် ထိပ်တိုက်ဆန့်ကျင်သော မတ်စအလာကို ရှာဖွေသည်သာ တွေ့နေရသည်။

**စတုတ္ထစည်းကမ်းချက်**– မုနာဇရာပြုလုပ်မည့် အကြောင်းအရာသည် ဖြစ်ဖူးကြုံစ မရှိသည့်အရာ၊ သို့မဟုတ် ဖြစ်[illegible] [illegible]ခဲ့ မိုးစပ်မှု မရှိသည့်အရာမျိုး မဖြစ်ရပါ။ ဆွဟာဗဟ်သခင်များသည် အသစ်ဖြစ်ပေါ်မှုများနှင့်ပတ်သက်၍၎င်း[illegible] [illegible]မွှခန်းကဲ့သို့ အဖြစ်များသော ကိစ္စများတွင် ညှိနှိုင်းတိုင်ပင်ခဲ့ကြသည်။ မုနာဇရာလုပ်သူများသည် လူတို့ကြုံတွေ့[illegible] [illegible]သည့်ကိစ္စရပ်များနှင့် ဖတ္တဝါပေးရန်လိုအပ်ချက်ရှိနေသော ကိစ္စရပ်များအပေါ် အများအားဖြင့် အလေးအနက်ထား[illegible]

သည်ကို ကျွန်ုပ်တို့မမြင်တွေ့ရပေ။ **ထိုအစား** ၎င်းတို့အာရုံစိုက်သည်မှာ လူတို့စိတ်ဝင်တစား **နားထောင်မည့်** ဗုံတီးမောင်းတီးကိစ္စများနှင့် ငြင်းခုံတိုက်ခိုက်မှုများ ကျယ်ကျယ်ပြန့်ပြန့် လုပ်၍ရနိုင်မည့် ကြိုးဝိုင်းစင်မြင့်သာဖြစ်သည်။

အများအပြားဖြစ်ပေါ်ကြုံကြိုက်သည့်ကိစ္စမျိုးကို ၎င်းတို့က 'ဤကိစ္စသည် ဟဒီစ်ရေးရာကိစ္စဖြစ်နေသည်၊ သို့မဟုတ် ကျယ်ကျယ်လောင်လောင် ဗုံမောင်းတီးရမည့်ကိစ္စမဟုတ်သဖြင့် ဘေးဖယ်ထားရမည့်ကိစ္စဖြစ်သည်'ဟု ဆိုတတ်ကြသည်။ အံ့သြစရာမှာ ဦးတည်ရှာဖွေနေသည်က အမှန်တရားဖြစ်သည်။ သို့နှင့်တိုင် အမှန်တရားနှင့်သက်ဆိုင်ရာမေးခွန်းကိုမူ ဟဒီစ်ရေးရာကိစ္စဖြစ်သောကြောင့်ဟု အကြောင်းပြပြီး ပယ်လိုက်ကြသည်။ စင်စစ်တွင် အမှန်တရားကို သိနိုင်သည့်နေရာသည် ဟဒီစ်တော်များထဲမှာသာဖြစ်သည်။ **ထို့ပြင် ကိစ္စ**ရပ်တစ်ခုကို ၎င်းတို့က **ရှည်ရှည်** ဝေးဝေး ပြောဆိုဆွေးနွေးရမည့်ကိစ္စ မဟုတ်သောကြောင့်ဟု အကြောင်းပြ၍လည်း ပယ်တတ်ကြသည်။ **စင်စစ်တွင်** အဓိကဦးတည်ချက်သည် အမှန်ဆီသို့ **စကားတိုတိုနှင့်** မြန်မြန်ရောက်ရန်ဖြစ်သည်။ **စကားကို** မရှည်လျားရှည်လျားအောင် ပုံကြီးချဲ့ရန်မဟုတ်ပေ။

**ပဉ္စမစည်းကမ်းချက်–** အကြီးအကဲများ **အာဏာ**ပိုင်များရှေ့မှောက်၌ **အခမ်းအနား**ဖြင့် မုနာဇရာလုပ်ရသည့်ထက် တစ်ဦးချင်းစီ တိုးတိုးတိတ်တိတ် **မုနာဇရာလုပ်ရသည်ကို ပို၍** နှစ်သက်**ရမည်။ ပို၍** ဦးစားပေးရမည်။ **တစ်ဦးချင်းစီ သီးသန့်**မုနာဇရာလုပ်ရခြင်းက **နားလည်သဘောပေါက်ရန်အတွက် စိတ်ကို ပို၍စုစည်းတည်ငြိမ်**စေသည်။ အမှန်သို့**ရောက်**ရန်အတွက် အတွေးအခေါ်နှင့်မှတ်ဉာဏ်ကို **ပို၍ကြည်ကြည်လင်လင်ရှိစေသည်။ ပရိသတ်ရှေ့**တွင် **မုနာဇရာ**လုပ်ရသည်မှာ လူသူလေးပါး သိစေချင်မြင်စေချင်မှု ပါဝင်နေသည်။ **မုနာဇရာလုပ်သူအသီးသီးသည် မှန်သူကဖြစ်စေ** မှားသူကဖြစ်စေ ကိုယ့်ဘက်ကို အသာစီးရဖို့ လိုလားကြသည်သာဖြစ်၏။ ၎င်းတို့က **အခမ်းအနား**ဖြင့် **ပရိသတ်ကြီး**ဖြင့် ပြုလုပ်ရန်လိုလားနေကြသည်ကို ကြည့်ရုံဖြင့် ၎င်းတို့၏မုနာဇရာသည် အလ္လာဟ်အရှင့်အတွက် **သီးသန့်မဟုတ်**နိုင်ကြောင်း သိသာလှပါသည်။ အဘယ်ကြောင့်ဆိုသော် မုနာဇရာလုပ်သူအသီး**သီး**သည် မိမိ၏ပြိုင်ဘက်နှင့် **အချိန်**အတန်ကြာ တစ်ဦးချင်းသီးသန့် တွေ့နေခဲ့ကြသော်လည်း ထိုအကြောင်းကို စပ်၍မှ စကားမဟခဲ့**ကြသောကြောင့်ပင်။** အပြင်တွင် နှစ်ကိုယ်ချင်း အစ်ထုတ်လို့မှ အဖြေမထွက်သူတို့သည် အကြီး**အမှူး**တစ်ဦးဦး ရှေ့သို့ရောက်သည်နှင့်၊ သို့မဟုတ် အခမ်းအနားအစီအစဉ် စပြီဆိုသည်နှင့် စကားအရာတွင် ပြိုင်ဘက်မရှိအောင် ဥပယ်တံမျဉ်၏မှူးတံများကို မချွင်းမချန် တရစပ်ပစ်လွှတ်ကြလေတော့သည်။

**ဆဋ္ဌမစည်းကမ်းချက်–** အမှန်တရားကို ရှာဖွေရာတွင် ပစ္စည်းပျောက်ရှာသူကဲ့သို့ဖြစ်ရမည်။ ပစ္စည်းကို ပြန်တွေ့ရာ**တွင်** မိမိကိုယ်တိုင် ရှာတွေ့သည်ဖြစ်စေ၊ အခြားသူတစ်ဦးဦး၏အကူအညီဖြင့် ရှာတွေ့သည်ဖြစ်စေ ဘာမှမကွာ အတူတူ**သာဖြစ်**သည်ဟု ခံယူရမည်။ မိမိနှင့် မုနာဇရာပြုလုပ်မည့်သူကို ယှဉ်ပြိုင်ဘက်ဟု၎င်း အတိုက်အခံဟု၎င်း မမြင်ရပေ။ **တစ်ဖက်က** မိမိ၏အမှားကို ထောက်ပြမည်ဆိုလျှင်၊ သို့မဟုတ် အမှန်တရားကို သိအောင်လုပ်ပေးမည်ဆိုလျှင် ၎င်းကို ကျေးဇူးတင်ရမည်။ **မိမိပျောက်**နေသောပစ္စည်းကို လမ်းတစ်ခုတွင် ရှာနေစဉ် ပုဂ္ဂိုလ်တစ်ဦးက ထိုပစ္စည်းသည် အခြားလမ်းတစ်ခုတွင်**ရှိကြောင်း အသိပေး**ညွှန်ပြသကဲ့သို့ မှတ်ယူရမည်။ ထိုသို့အသိပေးလာသူကို အပြစ်တင်မည်မဟုတ်ဘဲ ကျေးဇူးတင်မည်**သာဖြစ်သည်။** ထို့ပြင် ဝမ်းမြောက်ဝမ်းသာ ဂုဏ်ပြုဦးမည်ဖြစ်သည်။

ဆွဟာဗဟ်သခင်ကြီးများ ؓ ၏ **ဆွေးနွေး**တိုင်ပင်မှုသည် ဤအတိုင်းသာရှိခဲ့သည်။ တစ်ကြိမ်တွင် အိုမရ် ؓ သခင် တရားဟောနေစဉ် အမျိုးသမီးတစ်ဦးက လူဗိုလ်ပုံအလယ်တွင် အမှန်ကို ထောက်ပြအသိပေးခဲ့သည်။ ထိုသို့ထောက်ပြသည့်အပေါ် သခင်က 'မိန်းမက မှန်ပြီး ယောကျ်ားက မှားနေသည်'ဟု ပြောဆိုဝန်ခံခဲ့သည်။ ထို့ပြင် တစ်ကြိမ်တွင် လူတစ်ဦးက အလီ ؓ သခင့်အား မေးမြန်းလာသဖြင့် သခင်က အဖြေပေးခဲ့သည်။ ထိုအခါ ထိုပုဂ္ဂိုလ်က 'အို အီမာန်ရှင်တို့၏ခေါင်းဆောင်။ သခင် ဖြေသလို မဟုတ်ပါ။ အမှန်မှာ ဤသို့ဖြစ်သည်'ဟု ပြောဆိုခဲ့သည်။ ထို

အခါတွင် အလီသခင်ﷺက 'အသင်မှန်သည်။ ကျွန်ုပ်မှားသွားသည်။ ပညာရှင်အားလုံး၏အထက်တွင် သူ့ထက်သူ ပညာရှိသူများ ရှိနေပေသည်'ဟု ဝန်ခံပြောဆိုခဲ့သည်။

အီဗ်နေ့မတ်စအုဒ်ﷺသခင်သည်လည်း အဗူမူဆာအရှ်အရီﷺသခင့်ကို ထောက်ပြပြင်ဆင်ပေးခဲ့ရဖူးသည်။ ထိုအခါတွင် အဗူမူဆာﷺသခင်က 'အသင်တို့ထံမှာ ဤကဝိမွန် ရှိနေသမျှကာလပတ်လုံး ကျွန်ုပ်ဆီက ဘာမှလာပြီး မမေးကြနှင့်'ဟု ပြောဆိုခဲ့သည်။ ဖြစ်ပုံမှာ အဗူမူဆာﷺသခင်အား 'အလ္လာဟ့်လမ်းတွင် တိုက်ခိုက်စဉ် အသတ်ခံရသူနှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ရာ သခင်က 'ထိုသူ ဂျန္နတ်ရမှာ မုချဘဲ'ဟု ဖြေခဲ့သည်။ အဗူမူဆာအရှ်အရီﷺသခင်သည် ထိုအချိန်က ကူဖါမြို့၏အုပ်ချုပ်ရေးမှူးဖြစ်သည်။ သခင်က ထိုသို့ဖြေသောအခါ အီဗ်နေ့မတ်စအုဒ်ﷺသခင်က ထ၍ 'အုပ်ချုပ်ရေးမှူးကို တစ်ခါထပ်ပြီးမေးပါဦး။ မေးခွန်းကို သူနားမလည်တာဖြစ်ချင်ဖြစ်မည်'ဟု ပြောခဲ့သည်။ ထိုတွင် မေးခွန်းကို ပြန်မေးခဲ့ရာ ပထမအဖြေအတိုင်း ဖြေခဲ့သည်။ ထိုအခါ အီဗ်နေ့မတ်စအုဒ်ﷺသခင်က 'ကျွန်ုပ်သာ ဖြေရမည်ဆိုလျှင် ထိုသူအသတ်ခံရပြီး သူက မှန်မည်ဆိုလျှင် သူဂျန္နတ်ရမည်'ဟု ပြောဆိုခဲ့သည်။ ထိုတွင် အဗူမူဆာﷺသခင်က 'ယခုပြောတာ အမှန်ဖြစ်သည်'ဟု ဝန်ခံခဲ့၏။

အမှန်တရားရှာဖွေသူ ဆိုသည်ကား အထက်ပါသခင်များကဲ့သို့ သမ္မာတရားရှိရပေမည်။

ယခုခေတ်မှာတော့ အထက်ပါအကြောင်းအရာမျိုး မဆိုစလောက်ကလေး ဖိကဟ်ပညာရှိသူကို သွားပြောခဲ့မည်ဆိုလျှင် သူနားမလည်ဉာဏ်မမီသည့်အပေါ်မှာ 'မှန်ရမည်ဆိုသည့် စည်းကမ်းချက်ကို ထည့်စရာမလိုပါ။ ဒါက လူတိုင်းသိပြီးသားပါ'ဟု ပြောလွှတ်မည်ဖြစ်သည်။ တဖန် သင်၏ခေတ်အခါမှာရှိနေသည့် မုနာဇရာများကို ကြည့်လိုက်ပါ။ တစ်ဖက်လူ၏ပါးစပ်မှ အမှန်ထွက်လာပြီဆိုလျှင် ထိုသူ့ကို မျက်နှာအိုးမဲသုတ်ချင်ကြသည်။ အမှန်ပြောရသူခမျာမှာ ဘက်လောက်ရှက်မလဲ။ ထိုအမှန်တရားကို အကြောက်အကန်ငြင်းပယ်ရာမှာလည်း ကမ်းကုန်လမ်းကုန် အစွမ်းကုန်ပင်ဖြစ်သည်။ ထို့ပြင် အမှန်ပြောသူကို တစ်သက်လုံး ခေါင်းမပြူနိုင်အောင် ပြစ်တင်ချိုးဖဲ့တတ်ကြသည်။ ဤသို့ရှိသည့်ကြားက မိမိသည် အမှန်တရားအတွက် မုနာဇရာလုပ်ရာတွင် ဆွဟာဗဟ်သခင်များﷺကို စံမှီးနည်းယူပါသည်ဟု အရှက်ကင်းမဲ့စွာ ပြောဆိုကြပေသေးသည်။

**သတ္တမစည်းကမ်းချက်**– မုနာဇရာပြုလုပ်ရာ၌ မိမိနှင့် မုနာဇရာလုပ်နေသူက အထောက်အထားတစ်ခုမှ နောက်အထောက်အထားတစ်ခုသို့၊ စာဒကတစ်ခုမှ အခြားစာဒကတစ်ခုသို့ ကူးပြောင်းမည်ဆိုလျှင် မတားရပါ။ အကြောင်းမှာ ရှေးသူဟောင်းတို့၏မုနာဇရာများသည် ဤသို့ကူးပြောင်းခဲ့ကြသောကြောင့်ဖြစ်သည်။

မုနာဇရာတွင် သင်က 'ဤအရာကို ဖော်ပြပေးရန် ကျွန်ုပ်တွင် တာဝန်မရှိပါ'ဟု ပြောဆိုခြင်း၊ 'သင်၏ယခင်စကားနှင့် ဆန့်ကျင်နေသဖြင့် ယခုတင်ပြချက်ကို လက်မခံနိုင်'ဟု ပြောဆိုခြင်းများ မပြုရပေ။ ဤသို့ပြောမည်ဆိုက သင်မူလပြောဆိုခဲ့သည့်('အမှန်တရားကို ရှာဖွေရန်'ဆိုသော)စကားနှင့် ဆန့်ကျင်သွားလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် အမှန်ဘက်သို့ ပြန်လှည့်ခြင်းသည် အမြဲတစေ အမှားနှင့် ဆန့်ကျင်နေမည်ဖြစ်သည်။ သို့နှင့်တိုင် ထိုအမှန်ကို လက်ခံရမည်သာဖြစ်သည်။ မုနာဇရာ၏စုဝေးမှုများအားလုံးကို ကြည့်လိုက်မည်ဆိုလျှင် တစ်ဦးကိုတစ်ဦးက ခုခံငြင်းဆန်ခြင်း၊ တိုက်ခိုက်ထိုးနှက်ခြင်းများက လွှမ်းမိုးနေကြောင်းတွေ့ရလိမ့်မည်။

တစ်စုံတစ်ဦးက မိမိ၏ယူဆသုံးသပ်ချက်ဖြင့် အခြေခံတစ်ခုအပေါ်မှာ အကြောင်းပြချက်ပေးပြီး အထောက်အထားတောင်းဆိုခဲ့သည်။ ထိုအခါ သူ့အား 'အထောက်အထား ဘာလိုသလဲ။ ဒီအကြောင်းပြချက်ကိုဘဲ အခြေခံပြီး ဥပဒေသထုတ်တာ'ဟုပြန်ပြောသည်။ ထိုအခါ အထောက်အထားတောင်းသူက 'ကျွန်တော် သိတာကတော့ ဒါဘဲ။ အကယ်၍ ခင်ဗျားမှာ ဒီထက်ရှင်းလင်းပြီး ပိုကောင်းတဲ့ အထောက်အထားများရှိရင် အဲဒါကို ပြပါဦး။ ကျွန်တော် ကြည့်ပါရစေ'ဟု ပြောဆိုလေသည်။ ထို၌ စာဒနာသူက 'ခင်ဗျား ဖော်ပြတဲ့အပြင် ကျွန်တော့်မှာ နောက်ထပ်ပြစရာ

ရှိသေးတယ်။ အဲဒီအကြောင်းကို ကျွန်တော်သိတယ်။ ဒါပေမဲ့ ကျွန်တော် မပြောဘူး။ အဲဒါကို ဖော်ပြဖို့ ကျွန်တော့်မှာ တာဝန်မရှိလို့ဘဲ'ဟု တုန့်ပြန်ခဲ့သည်။ ထိုအခါ အထောက်အထားတောင်းသူက 'ခင်ဗျား ထွက်ဆိုတဲ့အပေါ်မှာ ခင်ဗျားဘဲ အကြောင်းပြရမယ်'ဟု ပြောပါသည်။ စောဒနာသူကလည်း 'ကျွန်တော့်မှ တာဝန်မရှိပါ'ဟုသာ ငြင်းဆန်လေသည်။ မုနာဇရာဝိုင်းများသည် ဤအမျိုးအစားမေးခွန်းများ၊ အလားတူပြောဆိုမှုများဖြင့် ပွက်လောရိုက်နေတတ်သည်။

'ကျွန်တော်သိတော့သိသည်။ ကျွန်တော်မှာ တာဝန်မရှိတဲ့အတွက် ထုတ်ဖော်ပြောပြခြင်း မပြုနိုင်ပါ'ဟု ဆိုသူသည် မိမိစကားကြောင့် တရားတော်ကို မုသားစွပ်စွဲရာ ရောက်နေမှန်း မသိချေ။ အကယ်၍ သူသည် အမှန်တကယ်မသိဘဲ တစ်ဖက်သားကို အနိုင်ယူရန် ယခုလိုပြောဆိုခြင်းဖြစ်လျှင် မသမာသူ၊ လူလိမ်၊ အလ္လာဟ်အရှင့်ကို ဖီဆန်သူ၊ ကိုယ်မသိသောအရာကို သိသည်ဟုမြွက်ဟသဖြင့် အရှင့်၏အမျက်တော်နှင့် ထိုက်တန်သူဖြစ်သည်။ တဖန် သူသည်သိလျက်နှင့် မပြောခဲ့လျှင် မိမိသိထားသောတရားတော်၏အကြောင်းအရာတစ်ခုကို ဖုံးကွယ်ခြင်းဖြစ်ရာ မသမာမှုပင်ဖြစ်သည်။ မိမိ၏ညီနောင်မွတ်စလင်မ်တစ်ဦးက နားလည်သဘောပေါက်ပြီး စဉ်းစားဆင်ခြင်နိုင်ရန် မေးမြန်းခဲ့ခြင်းဖြစ်သည်။ မိမိ၏အကြောင်းပြချက်သည် ခိုင်မာအားကောင်းလျှင် တစ်ဖက်က လက်ခံလိမ့်မည်။ အားနည်းလျှင်လည်း အားနည်းချက်ကို ထောက်ပြပြီး မိမိအား မသိမိုက်မဲမှုအမှောင်တိုက်မှ ပညာ၏အလင်းရောင်ဘက်သို့ ခေါ်ထုတ်ခံရဖို့သာဖြစ်သည်။

သာသနာ၏အသိပညာများထဲမှ မိမိသိထားသောအရာတစ်ခုကို မိမိအား မေးလာလျှင် ထုတ်ဖော်ဖြေကြားရန် ဝါဂျိဗ်တာဝန်ဖြစ်သည်။ ဤပြဿနာချက်တွင် အကွဲအလွဲမရှိပေ။

'ကျွန်တော့်မှာ တာဝန်မရှိ'ဟု ပြောဆိုခြင်း၏အဓိပ္ပါယ်သည် 'ပရိယာယ်ဝေဝုစ်သုံးပြီး တစ်ဖက်ပုဂ္ဂိုလ်အပေါ်စကားဖြင့် နာလန်မထူနိုင်အောင် အငြင်းအခုံပြုလုပ်သည့် နည်းလမ်းပြဌာန်းချက်များကို ကျွန်ုပ်တို့က ကိုယ့်သဘောနှင့်ကို စိတ်ကြိုက် တီထွင်ဖော်ထုတ်ထားခြင်းဖြစ်သည်။ ထိုနည်းလမ်းများအရ 'ကျွန်တော့်မှာ ထုတ်ဖော်ပြောပြန်ရန်တာဝန်မရှိပါ'–ဟုဖြစ်သည်။ သို့နှင့်တိုင် တရားတော်အရမူ ထုတ်ဖော်ပြောဆိုရန် တာဝန်ရှိသည်။ ထိုသို့ရှိပါလျက်ထုတ်ဖော်ပြောဆိုခြင်းမပြုဘဲ ထိန်ချန်ထားမည်ဆိုပါက သူသည် လူလိမ်ဖြစ်လျှင်ဖြစ်မည်၊ သို့မဟုတ် လူဆိုးလူသွမ်းမသမာသူဖြစ်ရပေမည်။

စာရှုသူသည် ဆွဟာဗဟ်သခင်တို့၏ဆွေးနွေးတိုင်ပင်မှုများနှင့် ရှေးသူတော်စင်တို့၏ညှိနှိုင်းအဖြေရှာမှုများထဲတွင် ဤကဲ့သို့အလားတူကိစ္စများကို ကြားဘူးနားဝရှိမရှိ စူးစမ်းရှာဖွေကြည့်ပါလေ။ ထိုသခင်တို့သည် တစ်စုံတစ်ဦးအား အထောက်အထားတစ်ခုမှ တစ်ခုသို့၊ ဆင်ခြင်သုံးသပ်မှုမှ ဆွဟာဗဟ်၏ဩဝါဒသို့၊ ဟဒီးစ်ကို ကိုးကားနေရာမှ အာယတ်ဘက်သို့ ရွှေ့လျားကိုးကားသည့်အပေါ်မှာ တားမြစ်ပိတ်ပင်ခြင်း မပြုခဲ့ကြပါ။ သို့သာမက ထိုသခင်တို့၏မုနာဇရာများအားလုံးသည် ဤနည်းအတိုင်းပင်၊ မိမိတို့စိတ်တွင် ပေါ်ပေါက်သည့်အတိုင်း ထုတ်ဖော်ပြောဆိုလေ့ရှိကြပြီး ထိုအရာကိုပင် အားလုံးက စုပေါင်းဆင်ခြင်သုံးသပ်လေ့ရှိခဲ့ကြသည်။

**အဋ္ဌမစည်းကမ်းချက်**– အကျိုးရလဒ် ထွက်ပေါ်မည်ဟု မျှော်လင့်ရသည့် အသိပညာတွင် မွေ့လျော်နေသူဖြင့်သာ မုနာဇရာပြုလုပ်ရမည်။ သို့သော် အများဆုံးကြုံတွေ့ရသည်မှာ အဓိပတိပညာရှင်အကြီးအကဲများနှင့် မုနာဇရာမလုပ်ဘဲ ရှောင်တိမ်းကြသည်။ ထိုပုဂ္ဂိုလ်ကြီးတို့၏နှုတ်လျှာမှ အမှန်တရား ပေါ်ထွက်လာမည်ကို ကြောက်ရွံ့၍ ဖြစ်သည်။ မုနာဇရာသမားတို့သည် မိမိတို့ထက် ပညာအသိနိမ့်သူများနှင့် မုနာဇရာလုပ်ရန် လိုလားကြသည်။ ဤနည်းဖြင့် ထိုသူတို့အတွင်း အမှားအယွင်းများ ထိုးထည့်နိုင်ရန်ဖြစ်သည်။

မုနာဇရာပြုလုပ်ရာတွင် နောက်ထပ်လည်း သိမ်မွေ့သောစည်းကမ်းချက် အများအပြားရှိသေးသည်။ သို့သော်

ယခုဖေါ်ပြထားသော စည်းကမ်းချက် **ရှစ်ခုဖြင့်** မုနာဇရာလုပ်သူတစ်ဦးအား ၎င်းသည် အလ္လာဟ်အရှင့်အတွက် မုနာဇရာလုပ်နေသလား၊ သို့မဟုတ် အခြားရည်ရွယ်ချက်တစ်ခုခုအတွက် မုနာဇရာလုပ်နေသလား–ဆိုသည်ကို ခွဲခြားသိရှိနိုင်ပြီဖြစ်သည်။

**အချုပ်ဆိုရလျှင်** မုနာဇရာလုပ်လိုသူသည် မုနာဇရာလုပ်ရန် အမှန်တကယ်ထိုက်တန်သောရှိုင်တွာန်နှင့်မှ **မုနာဇရာ မလုပ်ပေ။** ရှိုင်တွာန်သည် **သူ၏နှလုံးသားကို** ကြီးစိုးထားသူဖြစ်သည်။ ထို့ပြင် သူ၏ရန်သူများတွင် **အကြီးဆုံးရန်သူဖြစ်**သည်။ ထို့ပြင် **သူ၏ပျက်စီးရာပျက်စီးကြောင်း**အတွက် အမြဲလှုံ့ဆော်နေသည်။ ထိုရှိုင်တွာန်နှင့်မှ မုနာဇရာမလုပ်ဘဲ အခြားသူနှင့် **တရားဝင်ကွဲလွဲခွင့်ရှိသော** မတ်စအလာများအပေါ် မုနာဇရာလုပ်လေသည်။ ထိုမတ်စအလာ**များကို ကျိုးပမ်းဖေါ်ထုတ်ခဲ့သူ မွဂျ်တဟိဒ်သည်** သူကိုယ်တိုင်က အမှန်ဖြစ်လျှင်ဖြစ်၊ သို့မဟုတ် မှန်သူနှင့် ဆုဝါဗ်ကို **ပူးတွဲရရှိမည့်သူဖြစ်**သည်။ ထိုမုနာဇရာမျိုးမှာ ရှိုင်တွာန်အတွက် ပျော်ရွှင်ကြေနပ်စရာဖြစ်ပြီး သာသနာရေးတွင် စိတ်**စေတနာ**ဖြူစင်သူများအတွက်မူ တရားသံဝေဂရစရာဖြစ်စေပေသည်။ ထိုသူ၏လုပ်ရပ်ကို ရှိုင်တွာန်က ကျေနပ်သွားပြီး **သူ့ကို** ဘေးဒုက္ခ၏အမှောင်အမိုက်ထဲသို့ ထိုးနှစ်ပစ်ချခဲ့လေတော့သည်။ ထိုဘေးဒုက္ခများ၏အရေအတွက်နှင့် အသေးစိတ်ကို ရှေ့တစ်နေရာတွင် ကျွန်ုပ်တို့ ဖေါ်ပြမည်။ *ထိုသို့ဖေါ်ပြနိုင်ရန်အတွက် ကျွန်ုပ်သည် အလ္လာဟ်အရှင့်ထံတွင် အကူအညီနှင့် စွမ်းအားကို တောင်းခံပါ၏။*

## မုနာဇရာ၏ဘေးဒုက္ခများနှင့်မုနာဇရာမှ ပေါက်ဖွါးသည့် စာရိတ္တဆိုးများ

**စင်စစ်၌** ယခုခေတ်တွင် ရှိနေသောမုနာဇရာသည် မိမိအနိုင်ရရန်၊ တစ်ဘက်လူကို နှုတ်ပိတ်ရန်၊ မိမိ၏တော်ကြောင်းတတ်ကြောင်းပြရန်နှင့် လူထုပရိသတ်ရှေ့တွင် မိမိ၏စကားကြွယ်မှုကို အာဘောင်အာရင်းသန်သန် ထုတ်ဖေါ်ရန်သာဖြစ်နေသည်။ ထို့ပြင် ဂုဏ်ယူမော်ကြွားရန်နှင့် လူအများကို ကိုယ်ဘက်ပါအောင် စည်းရုံးဆွဲဆောင်ရန် ရည်ရွယ်ချက်များလည်း ပါရှိနေသည်။ ထိုအကျင့်အကြံများသည် အလ္လာဟ်အရှင့်ထံတွင် မကောင်းသောအကျင့်စာရိတ္တများဖြစ်သည်။ အလ္လာဟ်အရှင်၏ရန်သူ အိဗ်လီစ်ထံတွင် ချီးကျူးဖွယ်အကျင့်များဖြစ်သည်။ ဤအရာအားလုံးသည် မုနာဇရာမှ ပေါ်ထွက်လာခြင်းဖြစ်၏။ ထို့ပြင် အတွင်းပိုင်းပျက်ပြားမှုများဖြစ်သော မာန၊ မိမိကိုယ်ကို အထင်ကြီးမှု၊ မနာလိုမှု၊ ဂုဏ်တုဂုဏ်ပြိုင်လုပ်မှု၊ မိမိ၏နှလုံးသား သန့်ရှင်းကြောင်း ပြလိုမှု၊ ကြီးကျယ်လိုမှုများနှင့် မုနာဇရာတို့၏ ဆက်စပ်ပုံသည် အရက်သောက်ခြင်းနှင့် အပြင်ပိုင်းပျက်ပြားမှုများဖြစ်သည့် ဇေနာ၊ မတော်မတရား တိုင်းထွာစွပ်စွဲမှု၊ လူသတ်မှု၊ ခိုးမှု စသည်တို့၏ဆက်စပ်ပုံအတိုင်းပင်ဖြစ်သည်။

အရက်သောက်ခြင်းနှင့် အပြင်ပိုင်းပျက်ပြားမှုများတွင် တစ်ခုကို ရွေးချယ်ခိုင်းရာ၊ အားလုံးသောအကျင့်ပျက်ပြားမှုအားလုံးနှင့် နှိုင်းယှဉ်လျှင် အရက်သည် အသေးအဖွဲမျှဖြစ်သည်ဟု မှတ်ယူပြီး သောက်လိုက်သည်။ ၎င်းသည် မူးပြီဆိုသည်နှင့် ကျန်အကျင့်ပျက်ပြားမှုများကို ကျူးလွန်လေတော့သည်။ ဤနည်းနှင်နှင် မုနာဇရာတွင် တစ်ဖက်သားကို နှုတ်ပိတ်ပြီး အနိုင်ရလိုမှု၊ ကျော်ကြားမှုနှင့် ဂုဏ်ပြိုင်မှုများကို ဆန္ဒပြမက်ထားခြင်းက သူ၏စေတသိတ်တွင် အလုံးစုံသော ညစ်ညမ်းဆိုးဝါးမှုများကို သန္ဓေတည်လာစေပါသည်။ တဖန် ထိုအရာများက ဆိုးယုတ်သည့်အကျင့်စာရိတ္တများအားလုံးကို ကျူးလွန်လာအောင် လှုံ့ဆော်သည်။ ထိုအကျင့်စာရိတ္တများ၏ဆိုးယုတ်မှုကို ဟဒီစ်တော်များနှင့် အာယတ်တော်များကို အထောက်အထားပြု၍ ပျက်စီးဆုံးရှုံးစေသောအရာများ၏အပိုင်းကဏ္ဍတွင် ဖေါ်ပြမည်ဖြစ်သည်။ **ယခုဤ**နေရာတွင်ကား မုနာဇရာကြောင့် ဖြစ်ရသည့် အကျင့်ပျက်ပြားမှုအလုံးစုံကို ဖေါ်ပြမည်။

**မုနာဇရာ**ကြောင့် ဖြစ်ပွါးရသည့်အကျင့်ပျက်ပြားမှုတစ်ခုသည် မနာလိုမှုဖြစ်သည်။ တမန်တော်မြတ် ﷺ မိန့်၍

သည်မှာ- الحسد يأكل الحسنات كما تأكل النار الحطب. (ဒ)

'မီးက ထင်းကို လောင်မြိုက်ဝါးမြိုသကဲ့သို့ မနာလိုဝန်တိုခြင်းက ကောင်းမှုများကို ဝါးမြိုပေသည်။'

မုနာဇရာသမားသည် **မနာလိုမှုနှင့်** ဘယ်သောအခါမှ မကင်းနိုင်ပေ။ သူသည် ရံဖန်ရံခါ အရေးသာပြီး **ရံဖန်ရံခါ အရေးနိမ့်သည်။** ရံဖန်ရံခါ သူ၏စကားက ချီးကျူးခံရပြီး ရံဖန်ရံခါ အခြားသူ၏စကားက ချီးကျူးခံရသည်။ **ဒွန္နယာလောကတွင်** ဉာဏ်ပညာအင်အား ကြီးမားပြီး **မုနာဇရာတွင်** အစွမ်းထက်သည်ဟု ကျော်ကြားသူတစ်ဦးရှိပြီး၊ ၎င်းသည် မိမိထက်ပို၍ အပြောအဆိုကောင်း၊ ပို၍မုနာဇရာကျွမ်းကျင်သည်ဟု ထင်မှတ်ရရုံဖြင့် မုနာဇရာသမားသည် မုချဧကန် ထိုပုဂ္ဂိုလ်အပေါ် မနာလိုမရှုဆိတ်ဖြစ်နေလိမ့်မည်။ ထို့ပြင် ထိုပုဂ္ဂိုလ်ရရှိထားသော ကောင်းကျိုးချမ်းသာများ ပျက်ပြုန်းရန်၎င်း လူတို့၏စိတ်အာရုံများနှင့်မျက်နှာများ ထိုပုဂ္ဂိုလ်ဘက်လှည့်နေရာမှ မိမိဘက်လှည့်လာရန်၎င်း လိုလားဆန္ဒဖြစ်လိမ့်မည်။

မနာလိုမှုဟူသည် တစ်ငွေ့ငွေ့လောင်နေသော မီးဖြစ်သည်။ အကြင်သူ ထိုမီးတွင် နစ်မွန်းရပြီဆိုလျှင် ဒွန္နယာတွင်ပင် အဇာဗ်ပြစ်ဒဏ်ခံရခြင်းဖြစ်သည်။ ထို့ပြင် သူသည် အာခိရတ်တွင်လည်း ထို့ထက် ပြင်းထန်ကြီးလေးသည့် ပြစ်ဒဏ်ကို ခံရဦးမည်ဖြစ်သည်။ ထိုအတွက်ကြောင့် အိဗ်နေ့အဗ္ဗာစ်ﷺသခင်က 'အသင်တို့ ပညာကို တွေ့ရာနေရာမှာ သင်ယူကြ။ သို့သော် ဖိကဟ်ပညာရှင်များက တစ်ဦးအပေါ်တစ်ဦး ပြောဆိုသောစကားများကိုတော့ မယူကြနှင့်။ ၎င်းတို့သည် လှောင်ခြံအတွင်းမှ ဆိတ်များ တစ်ကောင်တစ်ကောင် မာန်ဖီသလို တစ်ဦးနှင့်တစ်ဦး မာန်ဖီဘဝင်ကိုင်နေကြသည်'ဟု ပြောဆိုခဲ့သည်။

မုနာဇရာကြောင့် ဖြစ်ပေါ်ရသည့် ပျက်ပြားမှုတစ်ခုသည် မာနဖြစ်သည်။ မိမိသည် လူတို့၏အထက်က သာမြတ်သည်ဟု ယူဆခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ-

مَنْ تكبّر وضعه الله ومن تواضع رفعه الله. (ဌ)

'အကြင်သူ မာနတက်လျှင် အလ္လာဟ်အရှင်သည် ထိုသူ့ကို နိမ့်ချတော်မူမည်။ အကြင်သူ ကျိုးငြံနိမ့်ချလျှင် အလ္လာဟ်အရှင်သည် ထိုသူ့ကို မြှင့်တင်တော်မူမည်။'

တဖန် ဟဒီစ်ကုဒ်စီတွင် အလ္လာဟ်အရှင်၏မိန့်ကြားချက်ကို တမန်တော်မြတ်ﷺဆင့်ပြောသည်မှာ –

العظمة إزاري والكبرياء ردائي فمن نازعني فيهما قصمته. (ဍ)

'ကြီးကျယ်ခြင်းသည် ငါ၏ဝတ်လုံတော်ဖြစ်၏။ ဂုဏ်ယူဝံ့ကြွားခြင်းသည် ငါ၏ဝတ်ရုံတော်ဖြစ်၏။ အကြင်သူ ဤနှစ်ခုကို ငါ့ထံမှ လုယူမည်ဆိုလျှင် ငါသည် ထိုသူ့ကို ချိုးဖဲ့ပစ်တော်မူမည်။'

မုနာဇရာသမားသည် မာနနှင့် ဘယ်လိုမှမကင်းနိုင်ပေ။ သူသည် မိမိနှင့်ခေတ်ပြိုင်များ၊ တန်းတူရည်တူများအပေါ် မာနထားသည်။ မိမိနှင့် ထိုက်တန်သောနေရာထက် ပို၍ ကြီးကျယ်မြင့်မားသောနေရာကို လိုလားသည်။ သို့နှင့်အမျှ အကြီးအမှူး၏နေရာသည် အမြင့်မှာရှိသည်ဖြစ်စေ၊ အနိမ့်မှာရှိသည်ဖြစ်စေ၊ အနီးမှာရှိသည်ဖြစ်စေ၊ အဝေးမှာရှိသည်ဖြစ်စေ ထိုနေရာတွင် ဝင်ထိုင်နိုင်ရန်တွက် တစ်ဦးကိုတစ်ဦး အပြိုင်အဆိုင်လုယက်ကြတော့သည်။ ဝင်ရမည့်လမ်းသည် ကျဉ်းနေမည်ဆိုလျှင် ကိုယ်က ရှေ့ရောက်နိုင်ရန် တွန်းထိုးတိုက်ခိုက်ကြလေတော့သည်။

မကြာခဏဆိုသလို မုနာဇရာသမားများထဲမှ အသိဉာဏ်မရှိသူ၊ လှည့်ဖျားရာတွင်သာ ပရိယာယ်ကြွယ်သူက 'သူ့အနေနှင့် ပညာ၏ဂုဏ်တန်ခိုးကို ထိန်းသိမ်းရန်ရည်ရွယ်ချက်ဖြင့် ယခုလို လုပ်ရခြင်းဖြစ်သည်'ဟု အကြောင်းပြတတ်သည်။ ထို့ပြင် ၎င်းက တမန်တော်မြတ်ﷺ၏-

وأن المؤمن منهى عن الإذلال لنفسه. (ဏ)

'အီမာန်ရှင်အား မိမိကိုယ်ကို သေးသိမ်အောင် မပြုရန် တားမြစ်ထားသည်'

ဆိုသော မိန့်ဆိုမှုကို ကိုးကားတတ်သေးသည်။ ဤနည်းအားဖြင့် အလ္လာဟ်အရှင်နှင့် အလ္လာဟ်အရှင်၏တမန်တော်အားလုံးတို့က အမွှမ်းတင်ချီးကျူးထားကြသော 'ရိုကျိုးနှိမ့်ချမှု'ကို မုနာဖရာသမားက 'သေးသိမ်မှု'အဖြစ် သတ်မှတ်လိုက်သည်။ တဖန် အလ္လာဟ်အရှင် ရွံရှာမုန်းတီးလှသော 'မာန'ကို ၎င်းက 'သာသနာ၏ဂုဏ်သိက္ခာ'ဟု အမည်ပြောင်းပြီး လူသားတို့ကို အမှောက်မှောက်အမှားမှားဖြစ်အောင် လုပ်လိုက်တော့သည်။ ၎င်း၏လုပ်ရပ်သည် 'ဟီက်မတ်' 'အီလ်မ်'ဆိုသည့် အမည်များတုန်းက လုပ်ခဲ့သည့်အတိုင်းပင်ဖြစ်သည်။

မုနာဖရာကြောင့်ဖြစ်ရသည့် ပျက်ပြားမှုတစ်ခုသည် အာဃာတဖြစ်သည်။ အာဃာတနှင့်ကင်းသော မုနာဖရာသမားသည် အလွန်နည်းသည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

المؤمن ليس بحقود.

'အီမာန်ရှင်သည် အာဃာတထားသူ မဖြစ်ရပေ။'*

အာဃာတ၏ဆိုးရွားပုံကား ဖော်ပြစရာမလိုအောင်ပင် ထင်ရှားပြီးဖြစ်သည်။ သို့ဖြစ်ရာ မိမိ၏ငြင်းခုံဖက်က ပြောဆိုလိုက်သောစကားကြောင့် ပရိသတ် ခေါင်းတစ်ညိတ်ညိတ်ဖြစ်သွားသည့်အခါတွင်၎င်း၊ မိမိ၏စကားကို တုံ့ဆိုင်းစေပြီး ဂရုတစိုက်နားထောင်ခြင်း မရှိသောအခါမျိုးတွင်၎င်း ရန်ငြိုးမသိုသောမုနာဖရာသမားဟူ၍ အသင်တွေ့ရလိမ့်မည် မဟုတ်ပေ။ သို့သာမက ထိုကိစ္စမျိုး ကြုံတွေ့ရသည့်အခါ မုနာဖရာသမားသည် စိတ်တွင် ကြိတ်၍ ရန်ငြိုးအာဃာတကို မွေးထားသည်။ တဖန် ထိုရန်ငြိုးကို သူသည် ဟန်ဆောင်မှုဖြင့် ဖုံးကွယ်ထားလိုက်သည်။ သို့သော် ထိုရန်ငြိုး၏ အစအနသည် အများအားဖြင့် အပြင်သို့ စိမ့်ထွက်လာသည်သာဖြစ်၏။

အခြေအတင်ပြောဆိုမှု တစ်လျှောက်လုံးတွင် မုနာဖရာသမားတစ်ဦးတည်း၏ပြောဆိုမှုနှင့် သူ့ဘက်က ထွက်ပေါ်လာသမျှကို အကောင်းချည်းဖြစ်သည်ဟု ပရိသတ်က အညီအညွတ်လက်ခံရန် မဖြစ်နိုင်ပါ။ သို့နှင့်အမျှ မိမိ၏ငြင်းခုံဖက်ထံမှ အနည်းငယ်အသာစီးရနိုင်မည့် အကြောင်းခံကလေးတစ်ခု ပေါ်ထွက်လာပြီဆိုလျှင် မုနာဖရာသမား၏ ရင်ထဲတွင် အာဃာတ၏အညှောက်သည် ပြူထွက်လာတော့သည်။ သို့နှင့်ပင် သူသည် သက်တမ်းတစ်လျှောက်လုံး ထိုအာဃာတမစ္ဆရိယ၏အပင်ကို မနှုတ်ပယ်နိုင်တော့ချေ။ ဤအတွက်ကြောင့်ပင် မုနာဖရာသမားသည် အာဃာတနှင့်ကင်း၍ မရခြင်းဖြစ်သည်။

မုနာဖရာကြောင့်ဖြစ်ပေါ်ရသည့်ပျက်ပြားမှုတစ်ခုသည် နောက်ကွယ်အတင်းဖြစ်သည်။ အလ္လာဟ်အရှင်က ထိုအတင်းပြောခြင်းကို အသေကောင်၏အသားကို စားခြင်းနှင့် ပုံခိုင်းနှိုင်းယှဉ်ထားတော်မူသည်။ မုနာဖရာသမားသည် မိမိနှင့် ငြင်းခုံဖက်၏စကားကို ကိုးကားပြီး အပြစ်ရှာထောက်ပြမှုများ အမြဲလုပ်နေရသည့်အပေါ်မှာ သူသည် အသေကောင်အသားကို စားကျင့်ပါနေသူပင်ဖြစ်သည်။ ဤအဖြစ်မှ အတတ်နိုင်ဆုံးထိန်းသိမ်းမှုနည်းလမ်းသည် တစ်ဘက်သား၏စကားကို ကိုးကားပြောဆိုသည့်အခါ အလိမ်အညာမပါစေဘဲ အမှန်အတိုင်းပြောဆိုရန်ဖြစ်သည်။ သို့နှင့်တိုင် ဤသို့ပြောဆိုရာ၌ တစ်ဘက်လူ၏ပြောစကားထဲမှ ချွတ်ယွင်းချက်များ၊ အားနည်းချက်များကို ဖော်ထုတ်ညွှန်ပြပြီး တစ်ဖက်လူ၏အားသာချက်ကို လျှော့ပေါ့ထိန်ချန်ထားမှုများ မလွဲမသွေပါနေဦးမည်သာဖြစ်သည်။ ဤသည်လည်း အတင်းပင်ဖြစ်သည်။

တဖန် မုနာဖရာကြောင့် မုသားစကားနှင့် မဟုတ်မတရားစွပ်စွဲမှုများလည်း ဖြစ်ရသည်။ တစ်စုံတစ်ယောက်က မိမိကို ကျော်ခိုင်းပြီး အတိုက်အခံ၏စကားကို နားထောင်မည်၊ အာရုံစိုက်မည်ဆိုလျှင် မိမိ၏နှုတ်က ထိုသူ့အား

* အီရာကီသခင်~က 'ကျွန်ုပ် ဤ[illegible] တွေ့ဘူးပါ'ဟု ဆိုသည်။

ထိခိုက်စေမည့်စကားကို မပြောဘဲနေနိုင်လိမ့်မည်မဟုတ်ပေ။ ထိုသူ့ကို ပညာမဲ့သူ၊ မိုက်မဲသူ၊ အသိဉာဏ်မရှိသူ၊ တော့ အေ-စသည်ဖြင့် စွပ်စွဲပြောဆိုမည်သာဖြစ်သည်။

မုနာဇရာကြောင့် ဖြစ်ပေါ်သည့်အရာတစ်ခုသည် မိမိကိုယ်ကို သန့်ရှင်းကြောင်းမြွက်ဟပြောဆိုခြင်းဖြစ်သည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ-﴾فَلَا تُزَكُّوٓا أَنفُسَكُمْ هُوَ أَعْلَمُ بِمَنِ اتَّقَىٰٓ﴿

**'သို့ဖြင့် အသင်တို့သည် မိမိတို့ကိုယ်ကို သန့်စင်ကြောင်း ထုတ်ဖော်ခြင်းမပြုကြနှင့်။ အလ္လာဟ်အရှင်မြတ်သည် မည်သူရှောင်ကျဉ်မှု ရှိသည်ကို အသိဆုံးဖြစ်တော်မူသည်။'** (စူရာနဂျ်မ် ၊ ၃၂)

သုခမိန်တစ်ပါးထံ 'မည်သူသည် မကောင်းသောမှန်ကန်သူဖြစ်ပါသလဲ'ဟု မေးမြန်းခဲ့သည်။ သုခမိန်က 'မိမိကိုယ်ကို ချီးကျူးသောလူသားဖြစ်သည်'ဟု ဖြေခဲ့၏။ မုနာဇရာသမားသည် မိမိ၏အစွမ်းရှိပုံ၊ လွှမ်းမိုးအနိုင်ယူပုံနှင့် မိမိ၏ခေတ်ပြိုင်များထက် ရှေ့က ကျော်နေပုံများဖြင့် ကိုယ့်ကိုယ်ကို ချီးကျူးပြောဆိုမြဲဖြစ်ပါသည်။ ထို့ပြင် မုနာဇရာသမားသည် မုနာဇရာပြုလုပ်နေစဉ်မှာ 'ကျုပ်သည် ဒီကိစ္စမျိုးကို မသိသူမဟုတ်ပါ'ဟုငင်း၊ 'ကျုပ်သည် ဘာသာရပ်အစုံ ကျွမ်းကျင်တတ်မြောက်သူဖြစ်သည်'ဟုငင်း၊ 'ကျုပ်သည် သဘောတရားအရာတွင် ပြိုင်ဘက်ကင်းဖြစ်သည်၊ ဟဒီစ်တော်များကို ထိန်းသိမ်းကျက်မှတ်ထားသူဖြစ်သည်'စသဖြင့် ပြောဆိုလေ့ရှိသည်။ ဤကဲ့သို့သောစကားများကို ရံဖန်ရံခါ သက်သက်ကြွားလုံးထုတ်သည့်အနေဖြင့် ပြောပြီး၊ ရံဖန်ရံခါ မိမိ၏တင်ပြချက်များကို လက်ခံရန်အတွက် ပြောဆိုခြင်းဖြစ်သည်။ ဂုဏ်ဖော်ကြွားဝါခြင်းသည် တရားတော်အရရော အသိဉာဏ်အရပါ မကောင်းသော အကျင့်စာရိတ္တဖြစ်ကြောင်း ထင်ရှားပေသည်။

မုနာဇရာကြောင့်ဖြစ်ရသည့် ပျက်ပြားမှုတစ်ခုသည် မကောင်းသတင်းစုံစမ်းခြင်းနှင့် လူတို့၏ကိုယ်ရေးကိုယ်တာများကို စပ်စုရှာဖွေခြင်းဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားထားသည်မှာ-

﴾وَلَا تَجَسَّسُوا۟﴿

**'ထို့ပြင် အသင်တို့သည် စုံစမ်းထောက်လှမ်းခြင်း မပြုကြနှင့်။'** (စူရာဟုဂျုရာတ် ၊ ၁၂)

မုနာဇရာသမားသည် မိမိနှင့်ခေတ်ပြိုင်ပုဂ္ဂိုလ်များ၏အတွင်းသတင်းများ၊ ၎င်းတို့၏ကိုယ်ရေးကိုယ်တာများကို စုံစမ်းရှာဖွေစမြဲဖြစ်သည်။ မိမိမြို့သို့ မုနာဇရာသမားတစ်ဦး ရောက်ရှိလာသည်ဟု ကြားသည်နှင့် ထိုပုဂ္ဂိုလ်၏အတွင်းရေးများအား ပြောပြနိုင်မည့်လူကို ရှာဖွေလေ့ရှိသည်။ တွေ့လျှင် ထိုပုဂ္ဂိုလ်၏မကောင်းသတင်းများကို မေးမြန်းဖော်ထုတ်သည်။ ဤသို့ဖြင့် လိုအပ်သည့်အခါ ထုတ်ဖော်ပြီး ထိုပုဂ္ဂိုလ်ကို သိက္ခာချအရှက်ရရန်အတွက် အသင့်စုဆောင်းထားလေသည်။ ထိုသို့ စုံစမ်းရှာဖွေရာ၌ ထိုပုဂ္ဂိုလ်၏ငယ်စဉ်ကလေးဘဝနှင့် ခန္ဓာကိုယ်ရှိ ပြစ်ချက်ကိုပါ မချန်တော့ချေ။ သို့မှသာ ချို့ယွင်းချက် အပြစ်အနာအဆာများ တစ်ခုမဟုတ်တစ်ခု ပေါ်လာလိုပေါ်လာငြားဖြစ်သည်။ မုနာဇရာပြုလုပ်သည့်အခါ တစ်ဖက်မှ အနည်းငယ် အသာစီးရပြီဆိုသည်နှင့် မိမိစုံစမ်းသိရှိထားသော အတွင်းရေးများကို ဖွင့်ချအထုပ်ဖြေပြတော့သည်။ လူတို့သည် ဤသို့ အထုပ်ဖြေသည်ကို အကြိုက်တွေ့ကြသည်။

မုနာဇရာသမားက ဤနည်းလမ်းကို နိုင်ကွက်အဖြစ်သတ်မှတ်ပြီး ဖဲဖဲအဖြစ် သိုသိုသိပ်သိပ်ထားသည်။ သို့သော် အသိဉာဏ်နဲ့နဲ့ပြီး အရှက်အိန္ဒြေမရှိသူများကမူ တစ်ဖက်လူ၏ပြစ်ချက်ကို အသားလွတ် ဖော်ထုတ်ပြောဆိုရန် တွန့်ဆုတ်ခြင်းမရှိပါ။ အချို့သောမုနာဇရာသမားအကြီးအကဲနှင့်ပတ်သက်၍ပင် ဤကဲ့သို့သောအကျင့်အကြံများ ရှိနေကြောင်း ကြားသိရသည်။

မုနာဇရာကြောင့်ဖြစ်ပေါ်ရသည့် ပျက်ပြားမှုတစ်ခုသည် အခြားသူတို့ ဒုက္ခရောက်လျှင် ဝမ်းသာပြီး တစ်ပါးသူပျော်ရွှင်သည်ကို တွေ့ရလျှင် စိတ်ညစ်ခြင်းဖြစ်သည်။ အကြင်သူသည် မိမိတွင်ရှိရန် လိုလားနှစ်သက်သည့်အရာကို မိမိ၏မွတ်စလင်မ်ညီနောင်လည်း ရရှိခံစားရန် လိုလားနှစ်သက်ခြင်းမရှိလျှင် ထိုသူသည် အီမာန်ရှင်တို့၏အကျင့်စာရ

နှင့် ထေးကျာလုသူပင်ဖြစ်သည်။ တဖန် အပြိုင်အဆိုင်လုပ်သူအားလုံးသည် ကိုယ်က သာမြတ်ကြောင်း ထုတ်ဖော်ပြီး မိမိ၏တန်းတူပုဂ္ဂိုလ်များနှင့် ဂုဏ်ရည်တူပုဂ္ဂိုလ်များ အဆိုးကြုံ ဒုက္ခရောက်သည့်အပေါ်မှာ ဝမ်းမြောက်ဝမ်းသာဖြစ်ကြသည်ချည်းဖြစ်၏။ ၎င်းတို့ချင်း တစ်ဦးကိုတစ်ဦး ရန်လိုမုန်းတီးမှုသည် မယားပြိုင်များအကြား တစ်ဦးနှင့်တစ်ဦး ရန်လိုမုန်းတီးကြပုံအတိုင်းပင်ဖြစ်သည်။ မယားပြိုင်တစ်ဦးသည် အခြားမယားပြိုင်တစ်ဦးကို ခပ်ဝေးဝေးမှတွေ့ရလျှင်ပင် နေမထိထိုင်မထိဖြစ်ကာ မျက်စိမျက်နှာပျက်သွားတတ်သည်။ ဤနည်းအလားတူ မုနာဖရာသမားတစ်ဦးသည်လည်း အခြားမုနာဖရာသမားတစ်ဦးကို မြင်တွေ့ရသည့်အခါ မျက်စိပျက် မျက်နှာပျက်ကာ ကယောင်ကတန်းဖြစ်နေတတ်သည်။ ၎င်းသည် ရှိုင်တွာန်နှင့် မျက်နှာချင်းဆိုင်တွေ့လိုက်ရသူလို၊ သားရဲတိရိစ္ဆာန်နှင့် ပက်ပင်းပါ တိုးရသူလို သောကဗလောင်ဆူဖြစ်နေတတ်သည်။

သို့ရှိရာ သာသနာ့ပညာရှင်များ တစ်ဦးနှင့်တစ်ဦး တွေ့ဆုံသည့်အခါ ရှိခဲ့ဖူးပါသည်ဆိုသော ချစ်ခင်ရင်းနှီးမှုနှင့် ဝမ်းသာအယ်လဲဖြစ်မှုများ ဘယ်ရောက်ကုန်ပြီနည်း။ ထို့ပြင် ထိုပညာရှင်များထံမှ ညီနောင်ရင်းချာစိတ်ဓါတ်၊ ကူညီရိုင်းပင်းမှု၊ ဒုက္ခသုခကြုံတွေ့ရသည့်အခါ အေးအတူပူအမျှရှိမှုများလည်း ဘယ်ပျောက်ကုန်ပြီနည်း။ အိမာမ်ရှာဖအီ သခင်က 'ပညာသည် မြင့်မြတ်သူများ ဉာဏ်အမြော်အမြင်ရှိသူများကို ဆွေမျိုးစပ်ပေးသောအရာဖြစ်သည်'ဟု မိန့်ဆိုခဲ့ဖူးသည်။ သို့နှင့်အမျှ အိမာမ်ရှာဖအီ သခင့်လမ်းစဉ်ကို လိုက်ပါသည်ဟု ကြွေးကြော်နေသူများအကြားတွင် ပညာသည် အဘယ်ကြောင့် ရန်သူကြီးလုံးလုံးဖြစ်စေသောအရာ ဖြစ်နေရသည်ကို ကျွန်ုပ်မသိနိုင်တော့ပေ။ အနိုင်အထက်အပြိုင်အဆိုင်ဖြစ်နေသော ၎င်းတို့အကြားတွင် ချစ်ခင်ရင်းနှီးမှု ရှိကြရန်ဆိုသည်မှာ ဝေးစွခြောက်ပါး ဆိုရန်သာရှိပေတော့သည်။ ထို့ပြင် ထိုမုနာဖရာ၏မကောင်းဆိုးဝါးမှုက အသင့်အား အီမာန့်ရှင်များ၏အကျင့်စာရကို လက်လွှတ်ပြီး မုနာဖိက်များ၏အကျင့်စာရကို စွဲယူကျင့်မူရန် လှုံ့ဆော်စေပေသည်။

မုနာဖရာမှ လှုံ့ဆွဖြစ်ပေါ်ရသည့်အရာတစ်ခုသည် *နိဖါက်* ခေါ် အတွင်းတစ်မျိုး အပြင်တစ်မျိုး စိတ်ထားဖြင့် ဟန်ဆောင်ခြင်းဖြစ်သည်။ နိဖါက်၏မကောင်းဆိုးယုတ်ပုံကို အထောက်အထားများဖော်ပြနေရန်ပင် မလိုလှပေ။ မုနာဖရာသမားတို့သည် ထိုဟန်ဆောင်ခြင်းမျိုးကို မဖြစ်မနေ ပြုရလေ့ရှိသည်။ ၎င်းတို့သည် မိမိတို့၏ပြိုင်ဖက်များ၊ ပြိုင်ဖက်များ၏ ရင်းနှီးသူများ၊ နောက်လိုက်တပည့်များနှင့် တွေ့သည့်အခါတွင် နှုတ်မှ မိမိအနေနှင့် ပြိုင်ဖက်များအပေါ်ခင်မင်ကြောင်း၊ ချစ်ခင်မြတ်နိုးကြောင်း၊ ၎င်းတို့၏အဆင့်အတန်းကို အသိအမှတ်ပြုကြောင်းများကို မလွဲမသွေ ဖော်ထုတ်ပြောဆိုလေသည်။ သို့နှင့်တိုင် ပြောဆိုသူ၊ အပြောခံရသူနှင့် ကြားရသူအားလုံးက ဤပြောဆိုမှုသည် မုသား၊ အမျက်သိုမှု၊ ဟန်ဆောင်မှုနှင့် မသမာမှုများသာဖြစ်ကြောင်း သိနေကြသည်။ ဤနည်းဖြင့် မုနာဖရာသမားများသည် တစ်ဦးနှင့်တစ်ဦး နှုတ်လျှာမှ ချစ်ခင်ကြောင်း ပြောဆိုကြပြီး နှလုံးသားများတွင် အမုန်းသိုသူများဖြစ်နေကြပေသည်။ ကျွန်ုပ်တို့သည် ဤအကျင့်ဆိုးမှကင်းရန် *အလ္လာဟ်အရှင့်ထံတွင် ခိုလှုံပါ၏*။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

أذا تعلم الناس العلم و تركوا العمل و تحابوا بالألسن و تباغضوا بالقلوب و تقاطعوا في الأرحم لعنهم الله عند ذلك فأصمهم و أعمى أبصارهم. (ط)

'လူတို့သည် ပညာကို သင်ယူပြီး ကျင့်သုံးမှုကို စွန့်လွှတ်ထားသည့်အခါ၊ တစ်ဦးကိုတစ်ဦး နှုတ်လျှာများမှ ချစ်ခင်ကြပြီး နှလုံးသားများက မုန်းတီးကြသောအခါ၊ သားချင်းဆွေမျိုး အဆက်ဖြတ်ကြသောအခါတွင် ၎င်းတို့အပေါ် အလ္လာဟ်အရှင်သည် လအ်နတ်ချမည်ဖြစ်သည်။ သို့ဖြစ်ရာ ၎င်းတို့သည် အပင်းများ၊ မျက်မမြင်အကန်းများဖြစ်ကုန်ကြမည်။'

ဟစ်ဘာစရီ သခင်က ဤဟဒီစ်ကို ဆင့်ပြန်ခဲ့သည်။ လက်ရှိအခြေအနေ၌ တွေ့ရှိရသောမျက်မြင်ကိုယ်တွေ့အရာများအရ မိန့်ဆိုချက် မှန်ကန်ကြောင်းသိရသည်။

မုနာဖရာမှ လှုံ့ဆွဖြစ်ပေါ်ရသည့်အရာတစ်ခုသည် အမှန်ကို ဆန့်ကျင်၍ မောက်မာခြင်း၊ ရှုံ့ရှာခြင်းနှင့် မှန်နေသောကိစ္စအပေါ် ငြင်းခုံတိုက်ခိုက်ရန် ဆန္ဒပြင်းပြခြင်းဖြစ်သည်။ နောက်ဆုံးဆိုရသော် မုနာဖရာသမားထံတွင် အရှုံ့ရှာအစက်ဆုပ်ဆုံးအရာသည် မိမိ၏အတိုက်အခံ၏နှုတ်လျှာမှ အမှန် ပေါ်ထွက်လာမည့်ကိစ္စပင်ဖြစ်သည်။ ပေါ်ထွက်လာလျှင်လည်း ထိုအမှန်ကို စုံကန်ငြင်းပယ်ရန် အစွမ်းကုန်ကြိုးစားမည်ဖြစ်သည်။ ထို့ပြင် ထိုအမှန်ကို ပယ်ချနိုင်ရန်အတွက် မိမိတတ်နိုင်သလောက် ပရိယာယ် ဖျားယောင်းမှု လှည့်စားမှုများကို အသုံးပြုမည်သာဖြစ်သည်။ အဆုံး၌ အမှန်ကိစ္စကို ဆန့်ကျင်ငြင်းခုံခြင်းသည် သူ့အဖို့ အကျင့်ဝသီဖြစ်သွားသည်အထိပင် ဖြစ်လေသည်။ စကားတစ်ခွန်းနားက ကြားလိုက်သည်နှင့် ပင်ကိုယ်သဘာဝက ထိုစကားအပေါ် စောဒကတက်ရန် စဉ်းစားနေပြီဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်၏အထောက်အထားများ၊ ရှရီအတ်၏စကားလုံးများနှင့်ပတ်သက်လာလျှင်ပင် ထိုစိတ်ဓါတ်သဘာဝက နှလုံးသားတွင် လွှမ်းမိုးလျက်ရှိနေတတ်သည်။ ထိုအထောက်အထားစကားလုံးများကို တစ်ခုနှင့်တစ်ခု နှိုင်းယှဉ်ချက်ထုတ်နေတတ်သည်။

တရားလမ်းစဉ်မှားယွင်းသည့်ကိစ္စကိုပင် ဆန့်ကျင်ငြင်းခုံခြင်းမပြုရန် တားမြစ်ချက်ရှိထားသည်။ တမန်တော်မြတ်ﷺက အမှန်ဘက်က ရပ်တည်၍ အမှားနှင့်ငြင်းခုံခြင်းကို စွန့်လွှတ်ရန် နှိုးဆော်တော်မူခဲ့သည်။ တမန်တော်ﷺမိန့်ဆိုသည်မှာ–

من ترك المراء وهو مبطل بنى الله له بيتاً في ربض الجنة ومن ترك المراء وهو محق بنى الله له بيتاً في أعلى الجنة. (ت)

'မိမိက မှားသူဖြစ်ပြီး ငြင်းခုံမှုမှ စွန့်လွှတ်လျှင် အလ္လာဟ်အရှင်က ထိုသူ့အတွက် ဂျန္နတ်၏ဒေါင့်တစ်နေရာတွင် စံအိမ်တစ်ဆောင် ဆောက်ပေးတော်မူမည်။ ထို့ပြင် မိမိက မှန်ကန်သူဖြစ်ပြီး ငြင်းခုံမှုမှ စွန့်လွှတ်လျှင် အလ္လာဟ်အရှင်က ထိုသူ့အတွက် ဂျန္နတ်၏အမြင့်ဆုံးနေရာတွင် စံအိမ်တစ်ဆောင် ဆောက်ပေးတော်မူမည်။'

တဖန် အလ္လာဟ်ကိုယ်တော်တိုင်က အလ္လာဟ်အရှင့်အပေါ် မုသားစွပ်စွဲသူနှင့် အမှန်တရားကို မုသားဟု စွပ်စွဲသူနှစ်ဦးကို တစ်ပြေးညီ သတ်မှတ်ထားတော်မူလေသည်။ အဘယ်သို့ဆိုသော် အလ္လာဟ်အရှင် မိန့်ကြားတော်မူထားသည်မှာ– ﴿وَمَنْ أَظْلَمُ مِمَّنِ افْتَرَىٰ عَلَى اللَّهِ كَذِبًا أَوْ كَذَّبَ بِالْحَقِّ لَمَّا جَاءَهُ﴾

**'ထို့ပြင် အလ္လာဟ်အရှင့်အပေါ် မုသားစွပ်စွဲသူနှင့် အမှန်တရားဆိုက်ရောက်လာသောအခါ ထိုအမှန်တရားကို မုသားဟု စွပ်စွဲသူထက် ပို၍တရားမဲ့သူ မည်သူရှိသေးသနည်း။'** (စူရာအန်ကဗူတ် ၊၆၈)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသေးသည်မှာ–

﴿فَمَنْ أَظْلَمُ مِمَّنْ كَذَبَ عَلَى اللَّهِ وَكَذَّبَ بِالصِّدْقِ إِذْ جَاءَهُ﴾

**'ထို့ပြင် အလ္လာဟ်အရှင့်အပေါ် မုသား စွပ်စွဲသူနှင့် မှန်ကန်မှု ရောက်လာသောအခါ ထိုမှန်ကန်မှုအားမုသားဟု စွပ်စွဲသူထက် ပို၍တရားမဲ့သူ မည်သူရှိသေးသနည်း။'** (စူရာဇုမရ် ၊၃၂)

မုနာဖရာမှ လှုံ့ဆွဖြစ်ပေါ်ရသည့်အရာတစ်ခုသည် ပြစ်မှားမှုဖြစ်သည်။ လူမြင်အောင်လုကြားအောင်လုပ်ခြင်း၊ လူတို့၏နှလုံးသားများကို မိမိတို့ဘက် ဆွဲဆောင်ပြီး မျက်နှာများ မိမိတို့ဘက် လှည့်လာရေးအတွက် ကြိုးပမ်းအားထုတ်ခြင်းဖြစ်သည်။ ပြစ်မှားမှုသည် ကုရာနတ္ထိဆေးမရှိသော ရောဂါဖြစ်သည်။ ထို့ပြင် ဤကျမ်း၏ပြစ်မှားမှုကဏ္ဍတွင် ဖေါ်ပြထားသကဲ့သို့ ဂိုနာဒုစရိုက်မှုကြီးတွင် အကြီးလေးဆုံးလည်းဖြစ်သည်။ မုနာဖရာသမားသည် လူသားများထံ၌ ပေါ်လွင်ထင်ရှားရန်နှင့် လူတို့၏နှုတ်မှ သူ့ကို ချီးမွမ်းစကားများ ပြောဆိုခံရန်မှလွဲ၍ အခြားမရည်ရွယ်ပေ။

အထက်ပါ အကျင့်စရိုက်ဆယ်ခုသည် အတွင်းပိုင်းဆိုးရွားပျက်ပြားမှုများတွင် ပင်မအဓိကအရာများပင်ဖြစ်

သည်။ ဤအရာများအပြင် မရည်ရွယ်ဘဲ ဖြစ်လာသောအရာများလည်းရှိသေးသည်။ ယင်းတို့မှာ အငြင်းအခုံပြုလုပ်ရာမှ ကိုယ်ထိလက်ရောက် ရိုက်နက်သတ်ပုတ်ခြင်း၊ အဝတ်အစားများကို ဆုပ်ဖြဲခြင်း၊ မုတ်ဆိတ်ကို ဆွဲခြင်း၊ မိဘနှင့် ဆရာသမားများကို ဆဲဆိုခြင်း၊ မကြားဝံ့မနာသာ ဆဲရေးတိုင်းထွာခြင်းများအထိ ဖြစ်သွားတတ်လေသည်။ ထိုအခြေအနေမျိုးသို့ရောက်အခါ ထိုမှနာဇရာသမားတို့သည် လူသားတစ်ဦး မဟုတ်သလိုဖြစ်သွားလေသည်။ မှနာဇရာသမားများထဲမှ အကြီးအကဲများ၊ ဉာဏ်ပညာရှိသူများပင် ဤအကျင့်စရိုက်ဆယ်ခုနှင့် လွတ်ကင်းခြင်းမရှိကြပေ။ ကောင်းချက်တစ်ခုမှာ တစ်ခါတစ်ရံတွင် မှနာဇရာအချို့သည် မိမိ၏ယှဉ်ပြိုင်ဘက်က မိမိထက် ပညာရည် သိသာစွာနိမ့်ကျ၍သော်၎င်း၊ သို့မဟုတ် မိမိထက် ပညာရည် လွန်စွာမြင့်မား၍သော်၎င်း၊ မိမိနေထိုင်ရာမြို့ရွာနှင့် အသက်မွေးမှုအရ ဝေးဝေးလံလံတွင် ရှိနေသောကြောင့်သော်၎င်း အဆိုပါအကျင့်စရိုက်များမှ ကင်းရှင်းစွာရှိတတ်ကြသည်။ ၎င်းတို့နှင့် တန်းတူရည်တူပုဂ္ဂိုလ်များသည် နီးစပ်ပတ်သက်မှုရှိသည့်အပေါ်မှာ ဤအကျင့်စရိုက်ဆယ်ခုနှင့် မကင်းနိုင်ကြပါ။

တဖန် အကျင့်စရိုက်ဆယ်ခုတွင် တစ်ခုစီတိုင်းမှ မကောင်းသောအကျင့်စာရိတ္တဆယ်မျိုးစီ ဆင့်ပွါးဖြစ်ပေါ်သေးသည်။ သို့သော် ထိုဆယ်မျိုးစီ၏အသေးစိတ်ကို ရှည်လျားမည်စိုးသဖြင့် ကျွန်ုပ်တို့ မဖေါ်ပြတော့ပါ။ ထိုဆယ်မျိုး၏ဥပမာမှာ– တစ်ဦးနှင့်တစ်ဦး နှာခေါင်းရှုံ့ခြင်း၊ စိတ်ဆိုးခြင်း၊ ငြိုးသူရန်ဖက်ဖြစ်ရခြင်း၊ လိုချင်တောင့်တမှု၊ ဥစ္စာပစ္စည်းနှင့်ကြီးကျယ်မှုကို လိုလားခြင်း၊ သူဌေးသူကြွယ်များနှင့် အာဏာပိုင်များကို အလေးအမြတ်ပြုခြင်း၊ ၎င်းတို့ထံသို့ အမြဲသွားလာခြင်း၊ ၎င်းတို့၏ဟရာမ်ပစ္စည်းများထဲမှ လက်ခံယူခြင်း၊ မိမိတို့၏မြင်းများ အစီးအနင်းများနှင့် မိမိတို့ဝတ်ဆင်သည့်အဝတ်အစားများကို မပိုင်သည့်နည်းလမ်းဖြင့် ချယ်သခြင်း၊ မာနဖြင့်၎င်း ဘဝင်ဖြင့်၎င်း လူတို့အားအသေးအသိမ် ထင်မြင်ခြင်း၊ အကျိုးမဲ့ကိစ္စများတွင် စူးစားငုတ်လျှိုးခြင်း၊ စကားများစွာ ပြောဆိုခြင်း၊ နှလုံးသားထဲမှ ကြောက်ရွံ့ခန့်ငြားမှု၊ အကြောက်တရားနှင့်မျှော်လင့်ချက်များ ထွက်သွားခြင်း၊ အမေ့ဆိုက်မှုက နှလုံးသားတွင် ကြီးစိုးနေခြင်း၊ ၎င်းမှနာဇရာသမားတစ်ဦး နမာဇ်ဖတ်ပြီဆိုလျှင် မိမိ ရကအတ်မည်မျှ ဖတ်ပြီးသည်ကို၎င်း၊ မည်သည့်စူရာဖတ်လိုက်သည်ကို၎င်း မသိဘဲရှိခြင်းဖြစ်သည်။ ထို့ပြင် မိမိတီးတိုးပန်ကြားနေသူ မည်သူဖြစ်သည်ကိုလည်း မသိဘဲရှိတတ်လေသည်။

မိမိ၏သက်တမ်းကို မှနာဇရာအတွက် အထောက်အကူပြုမည့် ပညာရပ်များ၌ လိုက်စားနစ်မြုတ်ခဲ့ရသဖြင့် သူ၏နှလုံးသားသည် ရိုက်ျိုးကိုင်းညွတ်မှုကို မသိတော့ပေ။ ထိုမှနာဇရာဆိုင်ရာ တတ်မြောက်ကျွမ်းကျင်မှုများသည် ဥပမာအားဖြင့် အပြောအဆိုကောင်းမွန်ခြင်း၊ စကားလုံးများကို ကာရံနဘောထပ်ခြင်း၊ ကြုံကြိုက်ခဲသောရှားရှားပါးပါး အရာများကို မှတ်သားထားခြင်း–စသည်ဖြင့် မရေမတွက်နိုင်သောကိစ္စများဖြစ်သည်။ စင်စစ် ထိုကိစ္စရပ်များသည် အာခိရတ်တွင် အကျိုးပြုမည့်အရာများမဟုတ်ပေ။

မှနာဇရာသမားတို့သည် မိမိတို့၏အဆင့်အတန်းအလျှောက် တစ်ဦးနှင့်တစ်ဦး ကွာခြားမှုများ ရှိကြသည်။ တဖန် ၎င်းတို့၏အဆင့်အတန်းကလည်း အမျိုးမျိုးရှိသည်။ သို့နှင့်တိုင် ၎င်းတို့အနက် သာသနာလေးစားမှုအရှိဆုံး၊ အသိဉာဏ်အရှိဆုံးဆိုသည့် ပုဂ္ဂိုလ်များပင်လျှင် ဤအကျင့်စာရိတ္တ၏အစေ့အညှောက်များနှင့် မကင်းပေ။ သူသည် မိမိ၏စေတသိတ်အပေါ် ဖိဖိစီးစီး ဖွဲခတ်ကြိုးပမ်းခဲ့သဖြင့်သာ ထိုအကျင့်စာရိတ္တများက အညှောက် မပြူနိုင်ခြင်းဖြစ်သည်။

မှနာဇရာလုပ်ငန်းအပြင် အခြားသာသနာ့လုပ်ငန်းများဖြစ်သည့် တရားဓမ္မပို့ချခြင်းနှင့်ဟောပြောသွန်သင်ခြင်းတို့တွင်လည်း လူထုပရိသတ် နှစ်သက်လက်ခံမှုရရန်၊ မိမိကိုယ်ကို ကြီးကျယ်အောင်လုပ်ရန်၊ ဩဇာတိက္ကမနှင့်ဂုဏ်သိန်ကြီးမြင့်မှုရရှိရန် ရည်ရွယ်ချက်များဖြင့် လုပ်နေသူများ ရှိနေလေသည်။ [illegible]တို့တွင်လည်း ဤအကျင့်ဆိုးများ [illegible]ရှိနေ[illegible]သည်။ ထို့ပြင် ဤအကျင့်ဆိုးသည် မဇ်ဟဗ်ပညာနှင့် ဖတ္တဝါပညာကို တရားသူကြီးဖြစ်ရန်၊ ဝကဖ်အ[illegible]

ချုပ်သူဖြစ်ရန်၊ ခေတ်ပြိုင်များအပေါ်တွင် အထက်စီးရရန် ရည်ရွယ်ချက်များဖြင့် သင်ယူသူများတွင်လည်း မုချရှိနေမည်ဖြစ်သည်။ အချုပ်ဆိုသော် အာခိရတ်တွင် အလ္လာဟ်အရှင် ချီးမြှင့်မည့်စွဝါဗ်မှအပ အခြားအရာကို အလိုထားပြီး ပညာကို သင်ယူသူများအားလုံးတွင် ဤအကျင့်ဆိုးများ မုချရှိနေမည်သာဖြစ်သည်။ ပညာဆိုသည်ကား ပညာရှိသူကို ထာဝရပျက်စီးအောင် ဖျက်ဆီးပစ်နိုင်သလို ထာဝရသက်တမ်းဖြင့် ရှင်စေနိုင်သည့်အရာဖြစ်သည်။ ထို့အတွက်ကြောင့် တမန်တော်မြတ်ﷺက–

اشدّ الناس عذابًا يوم القيامة عالم لم ينفعه الله بعلمه ،

'ကိယာမတ်နေ့၌ လူသားတို့တွင် အပြင်းထန်ဆုံး ပြစ်ဒဏ်ခံရမည့်သူသည် အလ္လာဟ်အရှင်က သူ၏ပညာဖြင့် သူ့ကို အကျိုးမဖြစ်ထွန်းစေသော ပညာရှင်ဖြစ်သည်'

ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ဤမိန့်ဆိုမှုအရ ထိုပညာရှင်သည် မိမိ၏ပညာမှ အကျိုးမခံစားရသည့်အခါ ထိုပညာဖြင့်ဘေးအန္တရာယ်ပင် ကြုံရဦးမည်ဖြစ်ကြောင်း သိရပေသည်။ ထိုပညာရှင်မျိုးအဖို့ကား အများသူငါနည်းတူ အပြစ်ခံရပြီးနောက် လွတ်မြောက်ရမည်ဆိုလျှင် တော်သေးသည်ဟု ဆိုရမည်။ ပညာ၏ဒုက္ခသည် ဤမျှပင် ကြီးမားသည်။ ပညာကို လိုလားရှာဖွေသူသည် တည်မြဲသောပိုင်စားစိုးစံမှုနှင့် ထာဝရအမြိုက်စည်းစိမ်ကို လိုလားရှာဖွေသူဖြစ်သည်။ သို့ဖြစ်ရာ ၎င်းအဖို့ စံစားမှုကို ရလျှင်ရ၊ သို့မဟုတ် ဆုံးရှုံးမှုနှင့် ရင်ဆိုင်ရမည်သာဖြစ်သည်။ ထိုသူ၏ဥပမာသည် ဒွန်ယာတွင် အုပ်ချုပ်ရေးအာဏာကို လိုလားရှာဖွေသူကဲ့သို့ဖြစ်သည်။ ၎င်းအဖို့ မိမိ၏လိုလားမှုကို ပေါက်ပေါက်မြောက်မြောက် ရလျှင်ရ၊ မရလျှင် သေမြေကြီး ရှင်ရွှေထီး ဆိုသကဲ့သို့ အနံညာတဖြစ်ရန်သာရှိလေသည်။

အကယ်၍ စာရှုသူအသင်က 'မုနာဇရာကို ခွင့်ပြုခြင်းဖြင့် အကျိုးရှိသည်။ ဤပညာက လူတို့အား ပညာကို လိုလားရှာဖွေလာရန် မက်ဆန္ဒဖြစ်ပေါ်စေသည်။ အကယ်၍ အကြီးအမှူးဖြစ်လိုစိတ် မရှိလျှင် ပညာသည်လည်း တိမ်ကောပျောက်ကွယ်သွားလိမ့်မည်'ဟု စောဒကတက်ပြောဆိုခဲ့မည်ဆိုလျှင်၊ ထိုစကားအပေါ် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن الله لؤيد هذا الدين بأقوام لا خلاق لهم . (س)

'အလ္လာဟ်အရှင်သည် သာသနာ့ဝေစုဝေပုံ မရှိသောလူများဖြင့် ဤသာသနာတော်ကို မုချ ထောက်ကူအားပေးတော်မူမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن الله لؤيد هذا الدين بالرجل الفاجر . (خ.م)

'မုချအလ္လာဟ်အရှင်သည် ဤသာသနာတော်ကို လူဆိုးလူသွမ်းဖြင့် ထောက်ကူအားပေးတော်မူမည်။'

သို့ဖြစ်ရာ အကြီးအမှူးဖြစ်ရန် လိုလားသူသည် မိမိကိုယ်ကို ပျက်စီးဆုံးရှုံးစေသူပင်ဖြစ်သည်။ သို့နှင့်တိုင် ရံဖန်ရံခါသူ့ကို အကြောင်းပြု၍ အခြားသူများကို ကောင်းမွန်သွားသည့်အခါများရှိသည်။ ဤသို့ရှိရန်မှာ ၎င်းက ဒွန်ယာကိုလွှတ်ရန် လှုံ့ဆော်ဖိတ်ခေါ်သောအခါမှသာဖြစ်သည်။ ၎င်း၏ဗဟိဒ္ဓသရုပ်သကန်သည် ရှေးသူဟောင်းပညာရှင်တို့၏ဗဟိဒ္ဓသရုပ်သကန်နှင့် တူဆင်မှုရှိသောအခါမှသာဖြစ်သည်။ ထိုသို့ရှိသည့်တိုင် ကြီးကျယ်ကျော်ကြားရန် ဦးတည်ရည်ရွယ်ချက်သည် ၎င်း၏အတွင်း၌ ဖုံးအုပ်စွာတည်ရှိနေသည်။ ထိုသူ၏ဥပမာသည် ဆီမီးကဲ့သို့ဖြစ်သည်။ ဆီမီးသည် မိမိကိုယ်တိုင်က မီးလောင်ကျွမ်းခံရပြီး အခြားသူကိုမူ အလင်းရောင်ပေးသည်။ ဆိုလိုသည်မှာ အခြားသူကိုကောင်းအောင်ပြုပြီး မိမိကိုယ်တိုင်က ပျက်စီးရသည်။ ထို့ပြင် ဒွန်ယာကို လိုလားရှာဖွေရန် လှုံ့ဆော်ဖိတ်ခေါ်သောပညာရှင်၏ဥပမာသည် မီးတောက်မီးလျှံကဲ့သို့ဖြစ်သည်။ မီးတောက်မီးလျှံသည် ကိုယ်တိုင်ကိုင်၎င်း အခြားသူကို၎င်း လောင်ကျွမ်းဝါးမြိုပစ်သည်။ သို့ရှိရာ ပညာရှင်များသည် သုံးမျိုးသုံးစားရှိနေသည်။

ပထမတစ်မျိုးမှာ မိမိကိုယ်တိုင်လည်း ပျက်စီးပြီး အခြားသူများကိုလည်း ပျက်စီးစေသူဖြစ်သည်။ ဤအမျိုးအစားသည် ဒွန္နယာလိုက်စားရန် ပြောင်ပြောင်တင်းတင်း လှုံ့ဆော်ဖိတ်ခေါ်သူ၊ ဒွန္နယာဘက်သို့ စိတ်အာရုံစူးစိုက်သူ ပညာရှင်များဖြစ်ကြသည်။ ဒုတိယတစ်မျိုးမှာ မိမိကိုယ်တိုင်ကိုငင်း၊ အခြားသူများကိုငင်း ချမ်းသာရစေသူဖြစ်သည်။ ဤအမျိုးအစားသည် လူသားများ၏ အပြင်ပိုင်းကိုရော အတွင်းပိုင်းကိုပါ အလ္လာဟ်အရှင့်ဘက်သို့ ဖိတ်ခေါ်လှုံ့ဆော်သူပညာရှင်များဖြစ်ကြသည်။ တတိယတစ်မျိုးမှာ မိမိကိုယ်တိုင်က ပျက်စီးရပြီး အခြားသူများကို ချမ်းသာရစေသူဖြစ်သည်။ ဤအမျိုးအစားသည် အခြားသူများကို အာခိရတ်ဘက်သို့ ဖိတ်ခေါ်လှုံ့ဆော်ပြီး မိမိကိုယ်တိုင်လည်း အပြင်ပန်းအရ ဒွန္နယာကို စွန့်လွှတ်သူဖြစ်သည်။ သို့သော် သူ၏ အတွင်းပိုင်းတွင် လူတို့မှ နှစ်သက်လက်ခံစေလိုသောစိတ်၊ ကြီးကျယ်ကျော်ကြားမှု ထူထောင်လိုသော စိတ်များရှိနေသူဖြစ်သည်။ သို့ဖြစ်ရာ အသင်သည် မိမိကိုယ်တိုင် ထိုအမျိုးအစားသုံးခုအနက် မည်သည့်အမျိုးအစားတွင် ပါဝင်နေသည်ကို ဦးစွာကြည့်ပါလေ။ ထို့နောက် သင်ကိုယ်တိုင် မည်သို့သော လူအမျိုးအစားဖြစ်လာရန် ပြင်ဆင်နေသည်ကိုလည်း ကြည့်ပါလေ။

တဖန် အလ္လာဟ်အရှင့်အတွက် သီးသန့်တစ်စိတ်တစ်လက် မရှိသူ၏ ပညာနှင့်ကျင့်သုံးမှုကို အလ္လာဟ်အရှင် လက်ခံတော်မူလိမ့်မည်ဟု အသင် လုံးဝမထင်မှတ်လေနှင့်။ ဤအကြောင်းအရာကို ဤကျမ်း၏ ပျက်စီးမှုများအပိုင်း ပြစားမှုကဏ္ဍတွင် ဖော်ပြမည်။ အလ္လာဟ်အရှင့်အလိုတော်ဖြင့် ထိုအပိုင်းကဏ္ဍတွင် အသင်သည် ဤအကြောင်းအရာကို ဒွိဟမကျန်တော့အောင် ရှင်းလင်းစွာ သိရပါလိမ့်မည်။



အခန်း ၄း

# သင်ယူသူနှင့် သင်ပေးသူတို့တွင် ရှိအပ်သည့် ဝတ္တရားများ

သင်ယူသူနှင့်သက်ဆိုင်ရာ ရှိသေယဉ်ကျေးမှုများ၊ အပြင်ပန်းဗဟိဒ္ဓအရ စွဲမြဲရမည့်ဝတ္တရားများသည် များစွာရှိလေသည်။ သို့သော် အစုစုကွဲနေသည်များကို ချုပ်လိုက်သောအခါ ဝတ္တရားဆယ်ခုသာရှိလေသည်။

**ပထမဝတ္တရား–** ဦးစွာ မိမိ၏နဖ်စ်စိတ်ကို သိမ်ဖျင်းသော အကျင့်စာရိတ္တများနှင့် မကောင်းသောဂုဏ်သတ္တိများမှ သန့်ရှင်းစေရမည်။ အကြောင်းမှာ ပညာသည် နှလုံးသား၏အိဗာဒတ်ဖြစ်သည်။ အတွင်းပိုင်း၏နမာဇ်ဝတ်ပြုမှုဖြစ်သည်။ အဇ္ဈတ္တကို အလ္လာဟ်အရှင်ဘက်သို့ နီးကပ်စေသောအရာဖြစ်သည်။ သို့နှင့်အမျှ အပြင်ပိုင်း မသန့်ငယ်ဖြစ်မှုနှင့် ညစ်ပတ်မှုများမှ သန့်ရှင်းခြင်းမရှိဘဲ၊ ကိုယ်ကာယ၏ဝတ္တရားဖြစ်သောနမာဇ်သည် မမှန်ကန်နိုင်သကဲ့သို့ နှလုံးသားအား မကောင်းသောအကျင့်စာရိတ္တနှင့် မကောင်းသောဂုဏ်သတ္တိများမှ သန့်ရှင်းခြင်းမရှိဘဲ၊ အတွင်းပိုင်းအိဗာဒတ်ဖြစ်သော အသိပညာသည် မမှန်ကန်နိုင်ပေ။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

بني الدين على النظافة

'သာသနာသည် စင်ကြယ်မှုကို အရင်းခံပေသည်။'*

ဤသည်မှာ သန့်ရှင်းစင်ကြယ်မှုကို အတွင်းရောအပြင်ပါ ပြုလုပ်ရန် ဖော်ပြချက်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်မိန့်ကြားတော်မူသည်မှာ–

﴿إِنَّمَا الْمُشْرِكُونَ نَجَسٌ﴾

**'မုရှ်ရိက်များကား မသန့်မှုသာဖြစ်၏။'** (တူရာတောင်ဘာ ၂၈)

ဤမိန့်ကြားမှုဖြင့် သန့်ရှင်းခြင်း မသန့်ရှင်းခြင်းဆိုသည်ကို ထိကိုင်မြင်တွေ့နိုင်သော ဗဟိဒ္ဓအရာများဖြင့်သာ ဆိုလိုခြင်းမဟုတ်ကြောင်း အသိဉာဏ်ကို သတိပေးထားသည်။ မုရှ်ရိက်သည် ရံဖန်ရံခါ အဝတ်များ သန့်ရှင်းပြီး ခန္ဓာကိုယ် ရေချိုးသန့်ရှင်းထားသည်လည်း ရှိတတ်၏။ သို့သော် ၎င်း၏မသန့်ခြင်းသည် ဒြပ်သဘောအရဖြစ်သည်။ ဆိုလိုသည်မှာ သူ၏အတွင်းပိုင်းသည် အညစ်အကြေးများဖြင့် ပေရေလျက်ရှိသည်။ ထို့ပြင် 'မသန့်'ဆိုသည်မှာ ကင်းအောင် ရှောင်ရမည့်အရာ၊ ဝေးအောင်နေရမည့်အရာကို ခေါ်ဆိုခြင်းဖြစ်သည်။ တဖန် 'ညစ်ကျုမှု'သည် အတွင်းပိုင်းနှင့်သက်ဆိုင်သောဂုဏ်သတ္တိဖြစ်ရာ ကင်းအောင်ရှောင်ရန် ပို၍အရေးကြီးသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းသည် လောလောဆယ်အတွက် ညစ်ကျုမှုဖြစ်ပြီး နိဂုံးချုပ်တွင် ပျက်စီးမှုဖြစ်သောကြောင့်ဖြစ်သည်။ ထိုအတွက်ပင် တမန်

---

* အီရာကီသခင်ﷺက 'ကျွန်ုပ် ဟဒီစ်ကို ဤအတိုင်းမတွေ့ဘူးပါ'ဟု ဆိုပြီး အဓိပ္ပါယ်တူညီနီးစပ်သော ဟဒီစ်နှစ်ပုဒ်ကို ဖော်ပြခဲ့၏။ ယင်းမှာ အာအိရှာﷺသခင်မ ဆင့်ပြန်ခဲ့သည့်– 'تنظفوا فان الإسلام نظيف ('အသင်တို့ စင်ကြယ်ကြကုန်။ အဘယ်ကြောင့်ဆိုသော် အစ္စလာမ်သည် စင်ကြယ်မှု၏သာသနာဖြစ်သည်။')–ဟူသောဟဒီစ်နှင့် အိဗ်နေ့မတ်စအုဒ်ﷺသခင်ဆင့်ပြန်ခဲ့သော– النظافة تدعو إلى الإيمان ('စင်ကြယ်မှုသည် အီမာန်ကို ဖိတ်ခေါ်သောအရာဖြစ်၏။')–ဟူသော ဟဒီစ်များဖြစ်သည်။

သော်မြတ် ﷺ က–      لا تدخل الملائكة بيتاً فيه كلب. (خ.م)

'ကောင်းကင်တမန်များသည် ခွေးရှိသော အိမ်ထဲသို့ မဝင်ပေ။'

ဟု **မိန့်ဆိုခဲ့ခြင်းဖြစ်**သည်။ နှလုံးသားသည် အိမ်တစ်ဆောင်ဖြစ်၏။ ထိုအိမ်သည် ကောင်းကင်တမန်များ **ဆင်းသက်သည့်နေရာဖြစ်**သည်။ ကောင်းကင်တမန်များ၏ အာနိသင် သက်ရောက်ရာလည်းဖြစ်သည်။ ထို့ပြင် ၎င်းတို့၏ စုရပ်**ဌာနလည်းဖြစ်**သည်။ ဒေါသ၊ ရမ္မက်၊ ရန်ငြိုး၊ မနာလိုမှု၊ မိမိကိုယ်ကိုအထင်ကြီးမှု အစရှိသည့် မကောင်းသောဂုဏ်သတ္တိများသည် ဟောင်တတ်သောခွေးများပင်ဖြစ်သည်။ သို့ဖြစ်ရာ ခွေးများဖြင့် ပြည့်နှက်နေသောနှလုံးသားအတွင်းသို့ ကောင်းကင်တမန်များ အဘယ်မှာဝင်မည်နည်း။ ပညာ၏နူရ်အလင်းရောင်ကို အလ္လာဟ်အရှင်သည် ကောင်းကင်တမန်များမှတဆင့် နှလုံးသားအတွင်းသို့ ထည့်သွင်းပေးတော်မူခြင်းဖြစ်သည်။ ယင်းသည်–

﴿وَمَا كَانَ لِبَشَرٍ أَنْ يُكَلِّمَهُ اللهُ إِلاَّ وَحْياً أَوْ مِنْ وَرَاءِ حِجَابٍ أَوْ يُرْسِلَ رَسُولاً فَيُوحِيَ بِإِذْنِهِ مَا يَشَاءُ﴾

**'မည်သည့်လူသားမှ အလ္လာဟ်အရှင်နှင့် စကားပြောဆိုရသည်ဟူ၍ မရှိပေ။ သို့ရာတွင် စိတ်နှလုံးထဲသို့ အသိထည့်ပေး၍ဖြစ်စေ၊ သို့မဟုတ် အကာအဆီး၏နောက်မှဖြစ်စေ၊ သို့မဟုတ် ကောင်းကင်တမန်ကို စေလွှတ်၍ဖြစ်စေ၊ အလ္လာဟ်အရှင်၏အခွင့်အမိန့်ဖြင့် အရှင်အလိုရှိရာ ဝဟီကို ပို့တော်မူပေသည်။'**

(၄၂:၅၁)

ဟု အလ္လာဟ်အရှင် မိန့်တော်မူထားသကဲ့သို့ဖြစ်သည်။ ဤနည်းအလားတူ ပညာဆိုသည်မှာလည်း အလ္လာဟ်အရှင်၏ ဂရုဏာတော်ဖြစ်ပြီး ယင်းကို နှလုံးသားအတွင်း ထည့်သွင်းရန် ကောင်းကင်တမန်များအား တာဝန်ပေးတော်မူသည်။ ထိုကောင်းကင်တမန်များကို ပညာအတွက် သီးသန့်ထားခြင်းဖြစ်သည်။ ၎င်းတို့သည် စင်ကြယ်သန့်ရှင်းပြီး မကောင်းသော အရည်အချင်းဂုဏ်သတ္တိများမှ ကင်းရှင်းကြသည်။ သို့ဖြစ်ရာ ၎င်းတို့သည် သန့်ပြန့်သောနေရာကိုသာ ရှာဖွေကြသည်။ အလ္လာဟ်အရှင်၏ ဂရုဏာတော်ဖြစ်သော ၎င်းတို့ထံတွင် ရှိနေသည့် ပညာတည်းဟူသောအဖိုးတန်ရတနာများကို သန့်ရှင်းစင်ကြယ်သည့်နေရာတွင်သာ ဖြည့်ဆည်းထားသိုကြသည်။

အထက်ကဟဒီစ်တွင် ပါရှိသော 'အိမ်'သည် လူသား၏နှလုံးသားဖြစ်သည်ဟု၎င်း၊ 'ခွေး'သည် ဒေါသ အစရှိသည့် မကောင်းသောအကျင့်စာရိတ္တများဖြစ်ဟု၎င်း ကျွန်ုပ်မပြောဆိုပေ။ ထိုသို့ပြောဆိုမည်ဆိုလျှင် ဘာတွေနီဂိုဏ်းက ကျွန်ုပ်အား မိမိတားမြစ်ထားသောကိစ္စကို ကိုယ်တိုင်ပြုလုပ်နေသည်ဟု စောဒကတက်ကြတော့မည်။ သို့သော် ကျွန်ုပ်ပြောလိုသည်မှာ ဟဒီစ်၏ဗဟိဒ္ဓစာသားအဓိပ္ပါယ်များကို အပြောင်းအလဲမဖြစ်စေဘဲ၊ အဇ္ဈတ္တအလိုသဘော ကောက်ယူခြင်းသည် ပြုပိုင်သောကိစ္စဖြစ်သည်။ ဗဟိဒ္ဓစာသားအဓိပ္ပါယ်ကို အပြောင်းအလဲဖြစ်စေမည်ဆိုလျှင်မူ လုံးလုံးမှားသည်။ ကျွန်ုပ်သည် အထက်က ဟဒီစ်၏ဗဟိဒ္ဓအဓိပ္ပါယ်ကို ဖော်ပြခဲ့သည်။ ထို့နောက် 'လူသား၏နှလုံးသားသည် အိမ်တစ်ဆောင်ဖြစ်၍ မကောင်းသောအကျင့်စာရိတ္တများသည် ခွေးများနှင့်အလားတူကြောင်း၊ ခွေးများရှိနေသည့်အခါ ကောင်းကင်တမန်များ အိမ်အတွင်း မဝင်သကဲ့သို့၊ မကောင်းသောအကျင့်စာရိတ္တများ ရှိနေသည့်အတွက် နှလုံးသားအတွင်းသို့ ကောင်းကင်တမန်များက ပညာ၏အလင်းရောင်ကို ထည့်သွင်းမပေးကြောင်း' သတိပေးဖော်ပြခြင်းမျှဖြစ်သည်။ ထိုဖော်ပြချက်သည် တရားသံဝေဂယူသည့်အနေမျိုးသာဖြစ်သည်။ ဤနည်းသည် ပညာရှင်များနှင့် သူတော်စင်သူတော်ကောင်းတို့၏ နည်းလမ်းလည်းဖြစ်သည်။

အခြားသူနှင့်ပတ်သက်၍ ဖော်ပြပြောဆိုသည့်ကိစ္စအပေါ် မိမိအတွက်လည်း သခ်န်းစာထုတ်ယူခြင်းကို သတိသံဝေဂဟု ခေါ်လေသည်။ ဥပမာ အသိဉာဏ်ရှိသူတစ်ဦးသည် သူတစ်ပါးဒုက္ခရောက်သည်ကို ကြည့်ပြီး 'ငါသည်လည်း အတိဒုက္ခကြုံမည်ဆိုက ကြုံနိုင်သည်။ ဒွန္နယာသည် အမျိုးမျိုးပြောင်းလဲဖြစ်ပေါ်နေသောနေရာဌာနဖြစ်သည်'

ဟု မိမိအတွက် သံဝေဂယူလေသည်။ အခြားသူ၏အဖြစ်ကို ကြည့်ပြီး မိမိအတွက် ထပ်တူပြုစာနာခြင်းနှင့် ဒွန်ယာ၏အရင်းခံသဘောကို စဉ်းစားသုံးသပ်ခြင်းသည် ကောင်းမြတ်သော တရားသံဝေဂယူမှုပင်ဖြစ်သည်။

ဤနည်းအလားတူ ဤနေရာတွင် လူသားဆောက်လုပ်ထားသည့်အိမ်ကို နှလုံးသားဆိုသော အလ္လာဟ်အရှင်ဆောက်လုပ်ထားသောအိမ်နှင့် ထပ်တူပြုနှိုင်းဆခြင်း၊ ခွေးကို ထိုနှလုံးသား၏မကောင်းသောဂုဏ်သတ္တိများနှင့် နှိုင်းယှဉ်ခြင်းဖြစ်သည်။ ထိုသို့နှိုင်းယှဉ်ရာ၌ ရုပ်သွင် တူသောကြောင့်မဟုတ်ပေ။ ခွေး၏မကောင်းခြင်းသည် ၎င်း၏ရုပ်သွင်ကြောင့် မဟုတ်ဘဲ တိရိစ္ဆာန်ဖြစ်ခြင်းနှင့် မသန့်ခြင်းကြောင့်ဖြစ်သည်။

နှလုံးသားသည် အမျက်ဒေါသ၊ ဒွန်ယာမက်မောမှု၊ ဒွန်ယာအတွက် လုယက်တွန်းထိုးခြင်း၊ ပစ္စည်းအတွက်လောဘတက်ခြင်း၊ လူတို့ထံတွင် ဂုဏ်ရှိလိုခြင်းများဖြင့် ပြည့်နှက်နေမည်ဆိုပါက၊ ယင်းသည် အမြင်တွင် နှလုံးသားဖြစ်သော်လည်း အရင်းမူလသဘောအရ ခွေးဖြစ်သည်။ မျှော်မြင်ဉာဏ်၏အလင်းရောင်သည် အပေါ်ယံရုပ်သွင်ကို မကြည့်၊ အတွင်းသဘောကိုသာ ကြည့်သည်။ ကမ္ဘာလောကတွင် ရုပ်သွင်များက အတွင်းသဘောကို လွှမ်းမိုးလျက်ရှိသည်။ အတွင်းသဘောသည် ရုပ်သွင်များ၏အောက်တွင် ငုတ်နေသည်။ သို့သော် အာခိရတ်တွင်ကား အတွင်းသဘော၏နောက်သို့ ရုပ်သွင်က လိုက်ပါရမည်ဖြစ်ပြီး အတွင်းသဘောက လွှမ်းမိုးမည်ဖြစ်သည်။ ထိုကြောင့် လူကိုင်းသည် မိမိ၏အတွင်းသဘောနှင့် ကိုက်ညီသော ရုပ်သွင်ဖြင့် ပြန်ရှင်ထရမည်ဟု ဆိုခြင်းဖြစ်သည်။ ဥဒါဟရဏ်မှာ–

فيحشر الممزق لأعراض الناس كلبًا ضاريًا ، والشره إلى أموالهم ذئبًا عاديًا ، أموالهم ذئبًا عاديًا ،
والمتكبر عليهم في صورة نمر ، وطالب الرئاسة في صورة أسد . (الثعلبي في التفسير)

'လူတို့ကို သိက္ခာချသူသည် ခွေးဆိုးအဖြစ်၎င်း၊ လူတို့၏ပစ္စည်းဥစ္စာများကို လိုချင်တပ်မက်သူသည် ရန်လိုသောဝံပုလွေအဖြစ်၎င်း၊ လူတို့အပေါ် မာနထားသူသည် ကျားအဖြစ်၎င်း ရှင်ထကြရမည်ဖြစ်သည်။'

ဤအကြောင်းအရာများသည် ဟဒီစ်တော်များတွင် ဖေါ်ပြပါရှိနေပေသည်။ ထို့ပြင် အသိဉာဏ်အမျှော်အမြင်ရှိသူများသည် ဤအရာများ၏အစစ်အမှန်သဘောကို သိမြင်ကြသည်။

အကယ်၍ စာရှုသူက 'ကျွန်ုပ်သည် များစွာသောပညာရှာဖွေဆည်းပူးသူတို့အား အကျင့်စာရိတ္တမကောင်းကြသည့်အကြားက ပညာရပ်များ သင်ယူတတ်မြောက်သည်ကို မြင်တွေ့နေရသည်'ဟု စောဒကတက်လာမည်ဆိုလျှင်၊ ကျွန်ုပ်အဖို့ မကောင်းသောအကျင့်စာရိတ္တရှိသည့်ပညာသင်ယူဆည်းပူးသူများက အာခိရတ်လမ်းတွင် အကျိုးပြုမည့်အစစ်အမှန်ပညာရပ်ကို တတ်မြောက်ကြသည်ဆိုခြင်းမှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုပညာ၏ဖွဲ့ဆော်ဦးအဆင့်သည် မကောင်းမှုဒုစရိုက်မှုကို အသက်သေစေသောအဆိပ်ဟု၎င်း၊ ပျက်စီးဆုံးရှုံးစေသောအရာဟု၎င်းသိခြင်းဖြစ်သည်။ အသက်သေစေနိုင်မှန်းသိပါလျက် အဆိပ် သောက်သူကို အသင်တွေ့ဖူးပါသလော။ ဤနည်းနှင်နှင် ပညာသင်ယူဆည်းပူးသူများသည် ပညာကို ဓလေ့ထုံးစံအရ သင်ယူနေကြခြင်းဖြစ်သည်။ အကြောင်းအရာအချို့ကို ၎င်းတို့သည် ရံဖန်ရံခါ နှုတ်ဖြင့် ဖတ်ရှုမှတ်သားကြသည်။ ရံဖန်ရံခါ စိတ်ထဲမှ အထပ်ထပ်ရွတ်ဆိုကြသည်။ ထိုအရာတို့သည် ပညာနှင့် မည်သို့မှသက်ဆိုင်မှုမရှိပါချေ။

အဗ်ဒုလ္လာဟ်အိဗ်နေ့မဗ်စအုဒ်ﷺသခင်က 'ပညာဟူသည် ရိဝါယတ်ဆင့်ပြန်မှု များပြားခြင်းကို မဆိုလိုပါ။ ပညာသည် နူရ်အလင်းရောင်တစ်ခုဖြစ်ပြီး ယင်းကို နှလုံးသားထဲသို့ ထည့်ပေးခြင်းဖြစ်သည်'ဟု မိန့်ဆိုခဲ့၏။ အချို့သောပညာရှင်အကြီးအကဲများက ဆိုမိန့်ကြသည်မှာ 'ပညာဆိုသည်မှာ အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿إِنَّمَا يَخْشَى اللَّهَ مِنْ عِبَادِهِ الْعُلَمَاءُ﴾

**'အလ္လာဟ်အရှင်အား ကြောက်ရွံ့သူများကား အရှင်၏ကျေးကျွန်များထဲမှ ဓမ္မပညာရှင်များတည်း။'**

(စူရာဖာတွေရ် ၊ ၂၈)

ဤမိန့်ခွန်းတော်သည် ပညာဖြင့်ရရှိမည့် အသီးအပွင့်အကျိုးရလဒ်ကို ညွှန်ပြနေသည့်အလားဖြစ်သည်။ ကျွန်ုပ်တို့က ပညာကို အလ္လာဟ်အရှင့်အတွက်မဟုတ်ဘဲ အခြားအရာအတွက် သင်ယူကြသည်။ သို့သော် ပညာက အလ္လာဟ်အရှင့်အတွက်ဖြစ်ရမည်ဟု ငြင်းဆိုသည်။'

သုတေသီပညာရှင်များက 'ထိုသခင်တို့၏အထက်ပါစကားတွင် ပညာက ကျွန်ုပ်တို့ကို ငြင်းဆိုခြင်း၊ ကျွန်ုပ်တို့အပေါ်ကန့်ကွက်ခြင်း၏အဓိပ္ပါယ်အလိုသည် ပညာ၏အကြောင်းအရာစာသားများကိုသာ ကျွန်ုပ်တို့သင်ယူရရှိနေပြီး ထိုပညာ၏အစစ်အမှန်သဘောကို ကျွန်ုပ်တို့ အသိအလင်းမရကြခြင်းကို ဆိုလိုသည်'ဟု ရှင်းပြကြသည်။

အကယ်၍ စာရှုသူက 'ကျွန်ုပ်သည် များစွာသောပညာရှင်များ၊ ဖိကဟ်ပညာရှင် သုတေသီများကို တွေ့မြင်ဖူးပါသည်။ ၎င်းတို့သည် ပညာကို အရင်းရော အဖျားပါ စုံလင်တတ်မြောက်သူများဖြစ်ကြပါသည်။ ရောမပုဂ္ဂိုလ်ကြီးများစာရင်းတွင် ထည့်သွင်းရသူများဖြစ်သည်။ သို့သော် ထိုပုဂ္ဂိုလ်များသည် အကျင့်စာရိတ္တအားဖြင့် ကောင်းကြသူများမဟုတ်ပါ။ စင်ကြယ်သူများလည်း မဟုတ်ကြပါ'ဟု ထပ်မံစောဒကတက်မည်ဆိုအံ့။ အသင်စာရှုသူသည် ပညာရပ်များ၏အဆင့်အတန်းများကိုငှ်း၊ အာခိရတ်ပညာကိုငှ်း သိထားပြီးဖြစ်လျှင်၊ ထိုပညာရှင်များတတ်မြောက်သောပညာသည် ပညာတစ်ခုအနေဖြင့် အကျိုးဖြစ်ထွန်းမှု မရှိလှကြောင်း အသင်ဝေခွဲနိုင်မည်ဖြစ်သည်။ ပညာတစ်ခုအနေဖြင့် အကျိုးဖြစ်ထွန်းသည်ဆိုရာမှာ ထိုပညာကို ဆည်းပူးခြင်းသည် အလ္လာဟ်အရှင့်အတွက် ဖြစ်ရမည်။ ထို့ပြင် ထိုပညာဖြင့် ထားရှိရမည့် ဦးတည်ချက်သည် အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်ရန်ဖြစ်စေရမည်။ အထက်တစ်နေရာတွင် ဤအချက်ကို ကျွန်ုပ်တို့ ညွှန်ပြခဲ့ပြီးပြီ။ ရှေ့တွင်လည်း ဤအကြောင်းကို အကျယ်တဝင့် ရှင်းလင်းဖော်ပြဦးမည်ဖြစ်သည်။

**ဒုတိယဝတ္တရား**– ပညာရှာသူသည် ဒွန္နယာရေးအတွက် အချိန်ပေးမှုများ နည်းရမည်။ ထို့ပြင် ဆွေမျိုးသားချင်း၊ ဇာတိမြေတို့မှ ဝေးရမည်။ အဘယ်ကြောင့်ဆိုသော် ကျင်လည်နေထိုင်သည့်ပတ်ဝန်းကျင်သည် ပညာရှာဖွေရာတွင် အဟန့်အတားဖြစ်စေသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ما جَعَلَ اللهُ لِرَجُلٍ مِنْ قَلْبَيْنِ فِي جَوْفِهِ﴾

**'အလ္လာဟ်အရှင်သည် လူသား၏ရင်ထဲတွင် နှလုံးနှစ်ခု ပြုလုပ်မပေးပါ။'** (စူရာအဟ်ဇာဗ် ၊ ၄)

အတွေးများ ပြန့်လွင့်နေသည်နှင့်အမျှ အစစ်အမှန်သဘောကို သိမြင်နိုင်မှုသည်လည်း လျော့နည်းမည်သာဖြစ်သည်။ ထို့ကြောင့် အဆိုရှိသည်မှာ 'အသင်က မိမိ၏အလုံးစုံကို ပုံမအပ်သ၍ ပညာက အသင့်ကို တစ်စိတ်တစ်ပိုင်းမျှ ပေးမည်မဟုတ်ပေ။ အသင်သည် အနည်းငယ်ပင်ဖြစ်လင့်ကစား မိမိ၏အလုံးစုံကို ပုံအပ်လိုက်လျှင်မှ ပညာအမြောက်အမြားကို အသင်ရလိမ့်မည်။ ထိုသို့ရရှိသည့်တိုင် အသင်သည် ထိုပညာဖြင့် အကျိုးဖြစ်မည်လား အဆိုးဖြစ်မည်လား ဆိုသည်ကို စိတ်မချရသေးပေ။'

အလုပ်ကိစ္စအမျိုးမျိုးတွင် အတွေးပြန့်လွင့်ခြင်းသည် ရေအိုင်နှင့်တူသည်။ အိုင်၏ရေအချို့ကို မြေကြီးက စုပ်ယူလိုက်သည်။ အချို့သည် လေထဲသို့ လွင့်ပျံကုန်သည်။ ကျန်သောရေသည် စိုက်ခင်းကို ရေတိုက်ကျွေးရန် မလောက်တော့ချေ။

**တတိယဝတ္တရား**– ပညာရှာသူသည် မိမိ၏ပညာအပေါ် မာနမထားရန်ဖြစ်သည်။ မိမိ၏ဆရာအပေါ် ဩဇာမပေးရန်ဖြစ်သည်။ သို့သာမက မိမိ၏အရေးကိစ္စအားလုံးကို ထိုဆရာ၏အကြိုက်ဆန္ဒအရ လွှဲအပ်ရမည်။ ဆရာ၏ဆုံးမသွန်သင်မှုကို လိုက်နာရာမှာ ရောဂါဝေဒနာရှင်လူပြိန်းတစ်ဦးက ဝါရင့်သမားတော်ကြီးတစ်ဦး၏ညွှန်ကြားမှုကို

လိုက်နာသည့်အတိုင်းဖြစ်စေရမည်။ မိမိ၏ဆရာသမားကို ကျိုးငဲ့နိမ့်ချရမည်။ ၎င်းကို ဝတ်ကြီးဝတ်ငယ်ပြု၍ စွဝါဗ် ကုသိုလ်ရယူရမည်။

ရှအ်ဘီသခင်ႀက ဆင့်ပြန်ပြောသည်မှာ 'ဇိုက်ဒ်အီဗ်နေ့စာဗစ်တ်ﷺသခင်သည် ဂျနာဇာနမာဇ်တစ်ခုကို ဖတ် ခဲ့သည်။ နမာဇ်ပြီးသည့်နောက် လူတို့က သခင်စီးရန် လားတစ်ကောင်ကို ခေါ်လာကြသည်။ ထိုအချိန်တွင် အီဗ်နေ့ အဗ္ဗာစ်ﷺသခင် ရောက်လာပြီး ထိုလား၏ကေကြိုးကို ဆွဲပေးသည်။ ထိုအခါ ဇိုက်ဒ်အီဗ်နေစာဗစ်တ်ﷺသခင်က- 'အို တမန်တော်မြတ်ﷺ၏ဘကြီးတော်၊ ကြိုးကို လွှတ်ပါ'ဟု ပြောသည်။ ထိုတွင် အဗ္ဗာစ်ﷺသခင်က ပြန်ပြောသည် မှာ 'ပညာရှင်များနှင့်အကြီးအကဲများကို ဤကဲ့သို့ အလုပ်အကျွေးပြုရန် ကျွန်ုပ်တို့အား အမိန့်ပေးထားသည်။' ဤ စကားကို ကြားသောအခါ ဇိုက်ဒ်အီဗ်နေစာဗစ်တ်ﷺသခင်က အဗ္ဗာစ်ﷺသခင်၏လက်ကို နမ်းသည်။ ထို့နောက် 'ကျွန်ုပ်တို့ကိုလည်း နဗီတမန်တော်၏ဆွေတော်မျိုးတော်များအား ယခုလို ဆက်ဆံကြရန် အမိန့်ပေးထားပါသည်'ဟု ပြောလေသည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-

ليس من أخلاق المؤمن التملق إلا في طلب العلم. (ابن عدي)

'မျက်နှာလိုမျက်နှာရ မြှောက်ပင့်ခြင်းသည် အီမာန်ရှင်၏စာရိတ္တမဟုတ်ပေ။ သို့သော် ပညာရှာနေသူ အတွက်တော့ ခွင့်ရှိသည်။'

ပညာရှာသူသည် မိမိ၏ဆရာအပေါ် မာနထားရန်မထိုက်ချေ။ ဆရာနှင့်ပတ်သက်၍ မာနထားမှုတစ်မျိုးသည် ထင်ရှားကျော်ကြားသောဆရာများထံတွင်သာ တပည့်ခံလိုခြင်းဖြစ်သည်။ ဤသည်မှာ မိုက်မဲမှုသက်သက်ဖြစ်သည်။ ပညာဆိုသည်မှာ အာခိရတ်ရေး လွတ်မြောက်မှုနှင့် ချမ်းသာရမှု၏အကြောင်းခံဖြစ်သည်။ တစ်စုံတစ်ဦးသည် သားရဲ တိရိစ္ဆာန်၏ဘေးအန္တရာယ်မှ ကြောက်ရွံ့နေရပြီး၊ ထိုဘေးမှ လွတ်ရာပြေးရန် ပြေးလမ်းရှာသည့်အခါ လမ်းပြမည့်သူ က နာမည်ကြီးပုဂ္ဂိုလ်လား၊ သို့မဟုတ် အညတရပုဂ္ဂိုလ်လား ဆိုသည်ကို ခွဲခြားနေမည်မဟုတ်ပေ။ သားရဲတိရိစ္ဆာန် များ၏ဘေးအန္တရာယ်ထက် အလ္လာဟ်အရှင်ကို မသိခြင်းကြောင့် ကြုံတွေ့ရမည့် ဂျဟန္နမ်၏ဘေးအန္တရာယ်က ပို၍ ကြီးမားပါသည်။

ဟီကမ်မတ်ဉာဏ်ပညာသည် အီမာန်ရှင်တို့၏ပျောက်နေသောပစ္စည်းဖြစ်သည်။ ဟီကမ်မတ်ကို ဘယ်နေရာမှာ တွေ့ရသည်ဖြစ်စေ အခွင့်ကောင်း အခါကောင်းတွေ့သည်ဟု မှတ်ယူရမည်။ ဟီကမ်မတ်ဘက်သို့ ရောက်အောင်ပို့ပေး သူကိုလည်း မည်သို့သောသူဖြစ်ပင်စေ ကျေးဇူးရှင်ဟု လက်ခံရမည်။ ထို့ကြောင့် စာဆိုရှိသည်မှာ-

العلم حرب للفتى المتعالي  كالسيل حرب للمكان العالي

*ကုန်းမြင့်သည် ရေစီးချောင်းနှင့် ရန်သူဖြစ်သကဲ့သို့*

*ပညာသည် ဘဝင်မြင့်သူလူငယ်နှင့် ရန်သူဖြစ်သည်။*

ကျိုးငဲ့နိမ့်ချမှုမရှိဘဲ ပညာကို မရနိုင်ပါ။ စိတ်ဝင်တစား နားစိုက်ထောင်မှုမရှိလျှင်လည်း မရနိုင်ပါ။ အလ္လာဟ် အရှင်မြတ် မိန့်တော်မူသည်မှာ-

﴿إِنَّ فِي ذَٰلِكَ لَذِكْرَىٰ لِمَن كَانَ لَهُۥ قَلْبٌ أَوْ أَلْقَى ٱلسَّمْعَ وَهُوَ شَهِيدٌ﴾

**'မုချ ထိုအထဲ၌ စိတ်နှလုံးရှိသူနှင့် စိတ်ဝင်စားစွာ နားစိုက်ထောင်သူအတွက် သတိတရားရှိပေသည်။'**

(ကူရာတာဖ်၊ ၃၇)

အလ္လာဟ်အရှင် မိန့်တော်မူသည့်အထဲမှ **'စိတ်နှလုံးရှိသူ'**- ဆိုသည်မှာ ပညာနှင့်ထိုက်တန်သူ၊ ပညာကို နားလည်ရန် အရည်အချင်းရှိသူဖြစ်သည်။ တဖန် နားလည်နိုင်စွမ်း ရှိရုံဖြင့်လည်း မလုံလောက်သေးပေ။ စိတ်ဝင်စားစွာ နားစိုက် ထောင်ပြီး မိမိနားထဲ ဝင်လာသမျှအားလုံးကို ကောင်းစွာအာရုံစိုက်ရမည်။ ထို့ပြင် ပျပ်ဝပ်ကျိုးနွံခြင်း၊ ကျေးဇူးတင်ခြင်း၊

ပျော့ရှင်ခြင်း၊ တန်ဘိုးထားခြင်းများလည်း ရှိရမည်။ တပည့်သည် ဆရာ၏ရှေ့မှောက်တွင် နူးညံ့သော မြေပြင်ကဲ့သို့ ဖြစ်ရမည်။ ထိုမြေသည် သွန်းချသမျှ မိုးရေအားလုံးကို အပြောင်အစင် စုပ်ယူထားလိုက်သည်။ ဤနည်းအလားတူ တပည့်သည် ဆရာသင်ပြသမျှအားလုံးကို လက်ခံယူရမည်။ ဆရာ၏သင်ပြမှုနည်းပေးလမ်းပြအတိုင်း လိုက်ရမည်။ မိမိ၏သဘောထား မပါဝင်စေရပေ။ သင်ပြသူဆရာ မှားသွားဦးမည်ဆိုလျှင်ပင် တပည့်ကိုယ်တိုင်အတွက် မှန်သည် ထက် ထိုအမှားက ပို၍အကျိုးရှိမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အတွေ့အကြုံအရ ထိုအထဲမှ အလွန်သိမ်မွေ့ သောအရာများကို သိရှိရသည်။ ထိုအရာများသည် ကြားရရုံသက်သက်ဖြင့်ဆိုလျှင် အထူးအဆန်းကိစ္စပင်ဖြစ်သည်။ သို့နှင့်တိုင် ကြီးမားသော အကျိုးရလဒ်ရှိလေသည်။ ဥပမာဆိုသော် များစွာသောဝေဒနာရှင်များသည် အပူအားကြီး သောဓါတ်ခံရှိနေကြသည်။ ဤသို့ရှိသော်လည်း ရံဖန်ရံဖန် ဆေးဆရာက ဆေးပူများ ပေး၍ ကုသည်။ ဤနည်းကို တွေ့ရသည့်အခါ ဆေးဝါးကုသမှု၏အခြေခံသဘောကို မသိသူအဖို့ ဤကုထုံးမှာ အထူးအဆန်းကိစ္စပင်ဖြစ်သည်။ အမှန်မှာ ဤနည်းဖြင့် ကုသသည့်အခါ တေဇောဓါတ် အားကောင်းလာပြီး ရောဂါပျောက်ကင်းမှုကို အထောက်အကူ ပြုလေသည်။

ဆရာနှင့် တပည့်အကြား ထားရှိရမည့်ဝတ္တရားကို အလ္လာဟ်အရှင်က တမန်တော်မူဆာ عليه السلام သခင်နှင့် ခဇွေရ် သခင် عليه السلام တို့၏ဖြစ်ရပ်ဖြင့် ဖေါ်ပြတော်မူခဲ့သည်။ ခဇွေရ် عليه السلام သခင်က တမန်တော်မူဆာ عليه السلام သခင်အား–

﴿إِنَّكَ لَن تَسْتَطِيعَ مَعِيَ صَبْرًا وَكَيْفَ تَصْبِرُ عَلَىٰ مَا لَمْ تُحِطْ بِهِ خُبْرًا﴾

**'အသင်သည် ကျွန်ုပ်နှင့်အတူ သည်းခံနေရန် လုံးဝအစွမ်း ရှိမည်မဟုတ်ပေ။ အသင် သိနိုင်ခြင်း မရှိ သောကိစ္စအပေါ်မှာ အဘယ်သို့ သည်းခံနိုင်မည်နည်း။'** (စူရာကဟ်ဖ်၊ ၆၇–၆၈)

ဟု ပြောဆိုခဲ့သည်။ ထို့နောက် ခဇွေရ် عليه السلام သခင်က တမန်တော်မူဆာ عليه السلام သခင်အား နှုတ်ပိတ်ပြီး တိတ်ဆိတ်စွာနေ ရန် ပဋိညာဉ်ယူသည်မှာ–

﴿فَإِنِ اتَّبَعْتَنِي فَلَا تَسْأَلْنِي عَن شَيْءٍ حَتَّىٰ أُحْدِثَ لَكَ مِنْهُ ذِكْرًا﴾

**'အကယ်၍ အသင် ကျွန်ုပ်နှင့်အတူ လိုက်မည်ဆိုလျှင်၊ အသင့်ကို ကျွန်ုပ် ထုတ်ဖေါ်ပြောဆိုခြင်းမပြု သ၍၊ အသင်သည် ကျွန်ုပ်အား တစ်စုံတစ်ရာမမေးပါနှင့်။'** (စူရာကဟ်ဖ်၊ ၇၀)

သို့ရာတွင် တမန်တော်မူဆာ عليه السلام သခင်သည် နှုတ်ပိတ်ချုပ်တီးနိုင်ခဲ့ခြင်းမရှိပေ။ အကျိုးအကြောင်း မေးမြန်းမှုများကို အကြိမ်ကြိမ်ပြုလုပ်ခဲ့သည်။ ထိုအချက်က ၎င်းတို့နှစ်ဦး ခွဲခွါရန်အကြောင်းခံဖြစ်လာသည်။ အချုပ်ဆိုရသော် တပည့် သည် ဆရာ၏ရှေ့မှောက်တွင် မိမိ၏အယူအဆသဘောထားအတိုင်း ဆက်လက်ဆွဲကိုင်ထားမည်ဆိုလျှင် ၎င်းသည် မိမိ၏ရည်မှန်းချက်ပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။

အကယ်၍ စာရှုသူက အလ္လာဟ်အရှင်မြတ်၏မိန့်ခွန်းတော်–

﴿فَاسْأَلُوا أَهْلَ الذِّكْرِ إِن كُنتُمْ لَا تَعْلَمُونَ﴾

**'သို့ဖြစ်ရာ အသင်တို့ မသိကြပါလျှင် တတ်ကျွမ်းသူများထံမှ မေးမြန်းသင်ယူကြကုန်။'**

(စူရာနဟ်လ်၊ ၄၃။ စူရာအန်ဘိယာ၊ ၇)

ကို ထောက်ပြပြီး 'ဤမိန့်ခွန်းတော်အရ မေးမြန်းခြင်းသည် ခွင့်ပြုထားသောအရာဖြစ်သည်။ သို့ပါလျက် မေးမြန်းခြင်း မပြုရန် အဘယ်ကြောင့် တားဆီးရပါသနည်း'ဟု စောဒကတက်ကောင်း တက်လိမ့်မည်။ ထိုစောဒကအတွက် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။ အမှန်အားဖြင့် မေးမြန်းခြင်းသည် ခွင့်ပြုချက်ရှိသောအရာဖြစ်သည်။ သို့သော် ဆရာက ခွင့်ပြုထားသောကိစ္စတွင်သာ မေးမြန်းရန်ဖြစ်သည်။ ဤသို့ခွင့်ပြုသည်ဆိုရာမှာပင် ကိုယ့်အဆင့်ဖြင့် နားလည်နိုင်စွမ်း

မရှိသောကိစ္စကို မေးမြန်းခြင်းသည် မကောင်းသောအရာဖြစ်သည်။ ထိုအကြောင်းကြောင့် ခဇ္ဇေရ်ﷺသခင်က တမန်တော်မူဆာﷺသခင်အား မေးမြန်းခြင်းမပြုရန် တစ်နည်း အချိန်မတန်မီ မေးခွန်းမထုတ်ရန် တားမြစ်ခဲ့ခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အသင့်တွင် မည်သည့်အရာလိုအပ်နေသည်ကို ဆရာက အသိဆုံးဖြစ်သည်။ ထို့ပြင် ထိုလိုအပ်ချက်ကို မည်သည့်အချိန်တွင် ထုတ်ဖော်ပြသပေးရမည်ဆိုသည်ကိုလည်း ဆရာကပင် အသိဆုံးဖြစ်သည်။ သင်ကြားမှု၏အဆင့်တိုင်းတွင် အဆင့်အထွာအလျောက် ထုတ်ဖော်ပြသရမည့်အချိန် မရောက်မချင်း ထုတ်ဖော်ပြသခြင်းပြုမည်မဟုတ်ပေ။

အလီﷺသခင်က မိန့်ဆိုခဲ့သည်မှာ 'ပညာရှင်တစ်ပါးကို ဆက်ဆံရမည့်ဝတ္တရားများသည် ဤသို့ဖြစ်သည်။ ထိုပညာရှင်အား များစွာ မေးမြန်းခြင်းမပြုရန်ဖြစ်သည်။ ကိုယ်က မေး၍ ဖြေသည့်အခါမှာလည်း အပြစ်မရှာရန်ဖြစ်သည်။ ၎င်းပင်ပန်းနေသည့်အခါ အနှောက်အယှက်မပေးရန်ဖြစ်သည်။ ထိုင်ရာမှထသည့်အခါ အဝတ်ကို မဆွဲရန်ဖြစ်သည်။ ၎င်း၏အတွင်းရေးကို မထုတ်ဖော်ရန်ဖြစ်သည်။ ၎င်း၏ထိုင်ဝိုင်းတွင် မည်သူ့အတင်းကိုမှ မပြောရန်ဖြစ်သည်။ ပညာရှင်ဘက်မှ အမှေ့အမှားလွဲချော်မှုရှိခဲ့ပါက ၎င်း၏အကြောင်းပြအမှားပြင်ချက်ကို လက်ခံရန်ဖြစ်သည်။ ပညာရှင်သည် အလ္လာဟ်အရှင်၏အမိန့်တော်များကို ထိန်းသိမ်းနေသည်နှင့်အမျှ အသင်တို့အပေါ်မှာ ၎င်းကို ဂုဏ်ပေးလေးစားရန် တာဝန်ရှိသည်။ ပညာရှင်၏ရှေ့တည့်တည့်တွင် မထိုင်နှင့်။ ပညာရှင်တွင် လိုအပ်ချက်တစ်ခုခုရှိမည်ဆိုလျှင် ၎င်းအား အကျိုးဆောင်ရန် လူတို့၏ရှေ့မှ ဦးစွာထွက်ပါ။'

**စတုတ္ထဝတ္တရား**– ပညာရှာသူသည် အစပထမပိုင်းတွင် လူတို့၏ပညာနှင့်သက်ဆိုင်ရာ အကွဲအလွဲကိစ္စများကို စိတ်ဝင်စား အာရုံစိုက်ခြင်းမှ ရှောင်ကျဉ်ရန်ဖြစ်သည်။ ကွဲလွဲမှုသည် ဒွန္နယာ့ပညာများနှင့်သက်ဆိုင်သည်ဖြစ်စေ၊ အာခိရတ်ပညာများနှင့်သက်ဆိုင်သည်ဖြစ်စေ ရှောင်ကျဉ်ရမည်။ အဘယ်ကြောင့်ဆိုသော် ထိုကွဲလွဲမှုများသည် ပညာစတင်ရှာဖွေသူ၏အသိဉာဏ်ကို စိုးထိပ်စေသည်။ မှတ်သားဉာဏ်ကို တွေဝေစေသည်။ စဉ်းစားဉာဏ်ကို ဇဝေဇဝါဖြစ်စေသည်။ မိမိ၏သိမှုဆိုင်ရာရည်မှန်းချက်သို့ ပေါက်မြောက်ရောက်ရှိတော့မည်မဟုတ်ဟု မျှော်လင့်ချက်ကင်းစေသည်။

**အမှန်မှာ ဆရာဖြစ်သူ** နှစ်သက်ရွေးချယ်သည့် နည်းနိဿယကို ပထမဦးစွာ အယုံအကြည်ထားရှိသင့်သည်။ ထို့နောက်တွင်မှ အခြားမဇ်ဟဗ်လမ်းစဉ်များနှင့် ဒွိဟဖြစ်မှုများကို နားစိုက်ထောင်သင့်သည်။ သို့နှင့်အမျှ ဆရာသည် အယူအဆတစ်ခုတည်းအပေါ် မရပ်တည်ဘဲ၊ မဇ်ဟဗ်လမ်းစဉ်အများထဲမှ အဆိုအမိန့်များကို အကိုးအကားပြုသည့် အလေ့အကျင့်ရှိနေသူဖြစ်လျှင် ထိုဆရာမျိုးကို ရှောင်ရှားရမည်။ အဘယ်ကြောင့်ဆိုသော် ထိုဆရာမျိုးထံမှ ရရှိမည့် 'လမ်းမှန်တရားထက် လမ်းမှားလွဲချော်မှုက ပို၍များပြားမည်ဖြစ်သောကြောင့်ပင်။ မျက်မမြင်တစ်ဦးသည် အခြားမျက်မမြင်ကို အဘယ်မှာ လမ်းပြနိုင်မည်နည်း။ တောကြီးမျက်မည်းတွင် မျက်စေ့လည်လမ်းမှားနေသူက အခြားသူကို လမ်းမှန်ပြရန် အဘယ်သို့ဖြစ်နိုင်မည်နည်း။

ပညာစတင်ဆည်းပူးသူကို ဒွိဟဖြစ်ဖွယ်များမှ တားမြစ်ရခြင်း၏အလားသဏ္ဌာန်သည် လောလောလတ်လတ်အစ္စလာမ်လက်ခံလာသူအား ကာဖိရ်များနှင့် ရောနှောတွေ့ဆုံခြင်းမှ တားမြစ်ရခြင်းကဲ့သို့ဖြစ်သည်။ သင်ရိုးကုန်ပြီးသူအတွက် အကွဲအလွဲကိစ္စများအား လေ့လာခွင့်ရှိခြင်း၏အလားသဏ္ဌာန်သည် အီမာန်အားကောင်းသော မွတ်စလင်မ်တစ်ဦးက ကာဖိရ်များထံ ဝင်ထွက်ရောနှောခွင့်ရှိသကဲ့သို့ဖြစ်သည်။ ဤနည်းအလားတူ ကာဖိရ်များနှင့်ရင်ဆိုင်ရာတွင် စိတ်ဓါတ်ပျော့ညံ့ ယောကျ်ားမပီသသူများကို ခွင့်မပြုဘဲ၊ သူရသတ္တိရှိသူများကိုသာ ခွင့်ပြုခြင်းဖြစ်သည်။

ဤသိမ်မွေ့သောအချက်ကို မေ့လျော့ပြီး အချို့အီမာန်အားနည်းသူများက အီမာန်အားကောင်းသူများအတွက် ဖော်ပြထားသော အခွင့်အရေးကို မိမိတို့လည်း ရပိုင်ခွင့်ရှိသည်ဟု ထင်မှတ်နေကြသည်။ အီမာန်အားကောင်းသူများ

အတွက် တာဝန်ဝတ္တရားများသည် အိမာန်အားနည်းသူများ၏ တာဝန်ဝတ္တရားများနှင့် ကွဲလွဲကြောင်း ၎င်းတို့မသိကြပေ။ ဤတွင် အချို့ပညာရှင်များက 'အကြင်သူသည် ကျွန်ပ်ကို ငယ်နုစဉ်အစပထမပိုင်းတွင် မြင်တွေ့မည်ဆိုလျှင် ထိုသူသည် သစ္စာဝါဒီဖြစ်သွားမည်။ အကြင်သူ ကျွန်ုပ်ကို ရင့်ကျက်သော အဆုံးပိုင်းတွင် မြင်တွေ့ရမည်ဆိုလျှင် ထိုသူ ဘာသာမဲ့သွားလိမ့်မည်'ဟု မိန့်ဆိုကြခြင်းဖြစ်သည်။ ဤသို့ဆိုကြခြင်းမှာ ရင့်ကျက်ပြီဖြစ်သော အဆုံးပိုင်း၏ကျင့်ဆောင်မှုများသည် အတွင်းအဇ္ဈတ္တနှင့် သက်ဆိုင်လျက်ရှိသောကြောင့်ဖြစ်သည်။ အပြင်ပန်း ခန္ဓာကိုယ်အစိတ်အပိုင်းများသည် ဖရာဇ်တာဝန်များကိုသာ ဆောင်ရွက်တော့ရာ၊ ယင်းကို မြင်တွေ့ရသူများက ပြင်းရိပေါ့ဆမှုအဖြစ် မှတ်ယူကြသည်။ ထိုသို့မှတ်ယူခြင်း မှားသည်။ အမှန်စင်စစ် ၎င်းပုဂ္ဂိုလ်သည် စိတ်နှလုံးက အလ္လာဟ်အရှင့်ကို မပြတ်ရှုပွါးအာရုံထားပြီး ဇိကြ်ရ်တသမှုတွင် မြဲစွဲစွာ ဝင်စားနေခြင်းဖြစ်သည်။ ထိုဇိကြ်ရ်သည်ပင် ကျင့်မှုရာများတွင် အမြတ်ဆုံးဖြစ်သည်။

အထက်ပါအိမာန်အားကောင်းသူ၏ အခြေအနေကို အားနည်းသူက မြင်တွေ့ရသည့်အခါ ဤသည်ကို ပေါ့ပေါ့တန်တန်ရှိမှုဟု ထင်မှတ်မှားပြီး သူကိုယ်တိုင်လည်း ထိုသို့လိုက်ပါပြုမူလေသည်။ ထိုသူ၏ဥပမာမှာ ရေခွက်ထဲသို့ မသန့်အနည်းငယ် ထည့်သူနှင့်တူသည်။ ၎င်းက 'ပင်လယ်ထဲတွင် မသန့်များ ယခုထက်အဆပေါင်း ထောင်နှင့်သောင်းနှင့်ချီ၍ ရှိနေသည်။ သို့သော် ပင်လယ်ရေသည် မသန့်မဖြစ်ပါ။ ပင်လယ်သည် ရေခွက်ထက် ကြီးမားသည်။ သို့ဖြစ်ရာ ပင်လယ်အတွက် ပိုင်သောကိစ္စသည် ရေခွက်အတွက် ပို၍ပိုင်ရမည်'ဟုအကြောင်းပြသည်။ ၎င်းမသိသောအချက်မှာ ပင်လယ်သည် မိမိ၏အင်အားဖြင့် အညစ်အကြေးများကို ရေဖြစ်အောင် လုပ်ပစ်သည်။ ရေ၏ထုထည်အင်အားလွှမ်းမိုးမှုကြောင့် အညစ်အကြေး၏ဂုဏ်သတ္တိသည်လည်း ပြောင်းလဲသွားသည်။

ဤနည်းနှင်နှင် တမန်တော်မြတ်ﷺအတွက် သီးသန့်ခွင့်ပြုထားသော အရာများရှိသည်။ ထိုအရာများသည် အခြားသူများအတွက် အခွင့်မရှိပေ။ ဥပမာ တမန်တော်မြတ်ﷺတွင် ဇနီးတော်ကိုးပါးရှိခဲ့သည်။* ထိုသို့ ဇနီးတော်အရေအတွက် များသော်လည်း တမန်တော်မြတ်ﷺတွင် တရားမျှတစွာထားရန် အင်အားရှိတော်မူသည်။ အခြားသူများသည် ဇနီးအရေအတွက် အနည်းငယ်ကိုပင် တရားမျှစွာ မထားနိုင်ကြပေ။ သို့သာမက ဇနီးသည်များ၏ တစ်ဦးအပေါ်တစ်ဦး ကျေနပ်မှုအတွက် အလ္လာဟ်အရှင်၏အမိန့်တော်ကို ဖီဆန်သည်အထိဖြစ်လာပြီး၊ ၎င်းအဖို့ ဇနီးသည်များက ဒုက္ခဖိစီးမှုဖြစ်လာလိမ့်မည်။ ကောင်းကင်တမန်များကို ပန်းပဲသမားနှင့် နှိုင်းယှဉ်သူသည် အဘယ်မှာ အောင်မြင်နိုင်ပါမည်နည်း။

**ပဥ္စမဝတ္တရား**– ပညာရှာသူသည် ကောင်းမြတ်သောပညာရပ်များထဲမှ ပညာရပ်တစ်ခုခုကို စွန့်လွှတ်ခြင်းမပြုရပေ။ ဘာသာရပ်အမျိုးမျိုးရှိသည့်အနက် တစ်မျိုးစီ၏ဦးတည်ချက်နှင့် ပင်မအခြေခံကိုသိရန် ဖတ်ရှုလေ့လာထားရမည်။ ထို့နောက်တွင်မှ သက်တမ်းအချိန်ခွင့်ပြုသလောက် ဘာသာရပ်တစ်မျိုးစီကို နက်နက်နဲနဲဆည်းပူးရမည်။ သို့မဟုတ် အရေးကြီးသည့်ဘာသာရပ်ကို ဦးစားပေးပြီး ကျွမ်းကျင်တတ်ကျွမ်းအောင် လိုက်စားရမည်။ ထိုအခါမျိုးတွင် ကျန်ဘာသာရပ်များကိုလည်း အနည်းငယ်စီ လေ့လာထားရဦးမည်။ အဘယ်ကြောင့်ဆိုသော် ပညာရပ်များသည် တစ်ခုကိုတစ်ခု အထောက်အကူပြုလျက်ရှိသည်။ ထို့ပြင် ပညာရပ်အချို့သည် အချို့နှင့် ဆက်စပ်လျက်ရှိသည်။ ယခုအခါ လူတို့သည် ထိုပညာရပ်များကို အငြိုးအတေးဖြင့် မသင်ဘဲနေကြသည်။ ထိုအငြိုးအတေးသည် မသိမိုက်မဲမှုကို အခြေခံထားခြင်းဖြစ်သည်။ လူသားသည် မိမိမသိနားမလည်သောအရာကို ရန်လုပ်တတ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

* ဗုခါရီနှင့်မွတ်စလင်မ်ကျမ်းတော်နှစ်စောင်တွင် အီဗ်နေ့အဗ္ဗာစ်ရ သခင်၏– كان عند النبيﷺ تسع نسوة (တမန်တော်မြတ်ﷺတွင် ဇနီးတော်ကိုးပါးရှိခဲ့သည်)–ဟူသောမိန့်ဆိုမှုကို ဖော်ပြထားသည်။

﴿وَ إِذْ لَمْ يَهْتَدُوا بِهِ فَسَيَقُولُوْنَ هٰذَا إِفْكٌ قَدِيْمٌ﴾

**'ထို့ပြင် ဤကျမ်းတော်ဖြင့် လမ်းညွှန်ပြခြင်း မခံရသောအခါ၊ ၎င်းတို့က 'ဤသည်မှာ ဟောင်းမြင်းလှပြီဖြစ်သောမုသာဝါဒမျှသာဖြစ်သည်'ဟု ပြောဆိုကြလိမ့်မည်။ '** (စူရာအဟ်ကာဖ် ၊ ၁၁)

ومن يك ذا فم مر مريض يجد مرا به الماء الزلالا

*ရောဂါဖြင့် ပါးစပ်ပျက်နေသူအတွက် ပါးစပ်ထဲတွင်*
*ချိုမြသောကျောက်စက်ရေကလည်း ခါးပေလိမ့်မည်။*

ကောင်းမြတ်သောပညာရပ်များတွင် အဆင့်အတန်းများရှိသည်။ လူသားသည် ထိုအဆင့်အတန်းနှင့် အညီ အလ္လာဟ်အရှင်၏လမ်းတွင် လျှောက်လှမ်းရသည်။ သို့မဟုတ် အလ္လာဟ်အရှင်၏လမ်းကို လျှောက်လှမ်းရာတွင် ထို အဆင့်အတန်းများအနက် တစ်ခုခု၏အထောက်အကူကို ရရှိသည်။ ထိုအဆင့်အတန်းအားလုံးတွင် လူသားကို ရည် မှန်းချက်ပန်းတိုင်နှင့် နီးကပ်စေမည့်စခန်းများ၊ ဝေးကွာစေမည့်စခန်းများ အသီးသီးရှိနေသည်။ ထိုပညာရပ်များကို သိကျွမ်းသူသည် ကင်းစခန်းများနှင့်ခံတပ်ကျင်းများကို စောင့်ရှောက်ရသူကဲ့သို့ဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင် ၏နှစ်သက်မှုအတွက် ရည်ရွယ်သူမှန်လျှင် မိမိတို့ပညာအဆင့်အတန်းအလျောက် အာခိရတ်တွင် အကျိုးစွဝါဗ်ရရှိ မည်ဖြစ်သည်။

**ဆင်ခြင်မဝတ္တရား-** ပညာ၏အကြောင်းကဏ္ဍတစ်ခုကို တစ်သွန်တည်း ၎တ်လျှိုးခြင်းမပြုရပေ။ အစီအစဉ်အ လိုက် အဓိကကျသည့်အပိုင်းကို ဦးစားပေးရမည်။ အဘယ်ကြောင့်ဆိုသော် ဘဝသက်တမ်းသည် များသောအားဖြင့် ပညာရပ်အားလုံးကို သင်ယူဆည်းပူးရန် လုံလောက်ခြင်းမရှိပေ။ သို့ဖြစ်ရာ ပညာရပ်အားလုံး၏ကောင်းမွန်သောအ ပိုင်းများကို သေချာမှုအတွက် ရယူထားရန်ဖြစ်သည်။ အနည်းငယ်မျှဖြင့် ကျေနပ်ရောင့်ရဲပြီး ထိုအနည်းငယ်မျှသော ပညာမှ ရရှိသည့်အင်အားကို ထိုပညာ ပြည့်ဝစုံလင်ရေးတွင် အသုံးပြုရန်ဖြစ်သည်။

ယခုဖော်ပြနေသည်မှာ ပညာရပ်အားလုံးတွင် အမြတ်ဆုံးဖြစ်သော အာခိရတ်ပညာဖြစ်သည်။ ဆိုလိုသည်မှာ မုအာမိလတ်ပညာနှင့် မုကာရှိဖတ်ပညာ နှစ်ခုဖြစ်သည်။ မုအာမိလတ်ပညာ၏အဆုံးစွန်သည် မုကာရှိဖတ်ပညာဖြစ် သည်။ မုကာရှိဖတ်ပညာ၏အဆုံးစွန်သည် အလ္လာဟ်အရှင်ကို မအ်ရိဖတ်အသိထူးဖြင့် သိခြင်းဖြစ်သည်။ ကျွန်ုပ်တို့ က မုကာရှိဖတ်ပညာဟု ခေါ်ဆိုသုံးနှုန်းရာ၌ လူသာမန်တို့က မိမိတို့မိဘဘိုးဘွားများထံမှ ရရှိသောစွဲယူယုံကြည်မှုကို ကို ဆိုလိုခြင်းမဟုတ်ပေ။ လူသာမန်တို့သည် ထိုစွဲယူမှုများကို ကြားနာမှတ်သားမှုဖြင့်ဖြစ်စေ၊ နှုတ်တိုက်ကျက်မှတ်မှု ဖြင့်ဖြစ်စေ ရရှိထားကြခြင်းဖြစ်သည်။ ထို့ပြင် မုကာရှိဖတ်ပညာဆိုရာတွင် ကလာမ်ပညာနှင့် မုနာဇရာပညာ၏နည်း လမ်းကို ဆိုလိုခြင်းလည်း မဟုတ်ပေ။ မုနာဇရာပညာ၏အဆုံးစွန်သည် တစ်ဖက်ပုဂ္ဂိုလ်နှင့် ရင်ဆိုင်ရာတွင် ပြန်လှန် ချေပခြင်းမပြုနိုင်လောက်အောင် တင်ပြရန် ဖြစ်သည်။

အမှန်စင်စစ် မုကာရှိဖတ်ပညာဟု ကျွန်ုပ်ဆိုရာတွင် ဒိဋ္ဌယုံမှုတစ်မျိုးကို ရည်ရွယ်ခြင်းဖြစ်သည်။ ထိုဒိဋ္ဌယုံမှု သည် အလ္လာဟ်အရှင်က လူသား၏နှလုံးသားတွင် ထည့်သွင်းပေးတော်မူသော နူရ်အလင်းရောင်၏အသီးအပွင့်ဖြစ် သည်။ အတွင်းပိုင်းမှ မကောင်းမှုအညစ်အကြေးများကို ဖွဲ့ခတ်ကြိုးပမ်းမှုများဖြင့် သန့်ရှင်းထားသူ၏နှလုံးသားအတွင်း သို့ အလ္လာဟ်အရှင်က ထိုနူရ်ကို ထည့်ပေးတော်မူသည်။ ဖွဲ့ခတ်ကြိုးပမ်းမှုပြုရင်း ထိုသူ၏အီမာန်သည် အဗူဗကရ်ﷺ သခင်၏အီမာန်အဆင့်သို့တိုင် မြင့်တက်သွားရသည်။ တမန်တော်မြတ်ﷺက အဗူဗကရ်ﷺသခင်၏အီမာန်ကို-

لو وزن إيمان أبي بكر بإيمان العالمين لرجح . (شعب)

'အကယ်၍ အဗူဗကရ်၏အီမာန်ကို တစ်လောကလုံး၏အီမာန်ဖြင့် ချိန်စက်မည်ဆိုလျှင် အဗူဗကရ်၏ အီမာန်က အလေးချိန်စီးမည်ဖြစ်သည်။'

အဗူဗကရ်ﷺသခင်၏ အီမာန်နှင့် ကျန်ဆွဟာဗဟ်သခင်များ၏ အီမာန်တို့ ထွတ်မြတ်မှုချင်း ကွာခြားပုံကို ဤသို့နားလည်နိုင်သည်။ လူသာမာန်တို့နှင့် ကလာမ်ပညာရှင်တို့၏ အကီဒဟ်သည် တစ်မျိုးတစ်စားတည်းသာဖြစ်သည်။ သို့နှင့်တိုင် ကလာမ်ပညာရှင်က လူသာမာန်တို့ထက် ထွတ်မြတ်ရခြင်းမှာ ၎င်းသည် အကီဒဟ်အကြောင်းကို ဆွေးနွေးပြောဆိုနိုင်သောကြောင့်ဖြစ်သည်။ ထိုသို့ပြောဆိုရခြင်းကြောင့်လည်း ၎င်းပညာရပ်ကို ကလာမ်ပညာဟု ခေါ်ခြင်းဖြစ်သည်။ အိုမရ်သခင်၊ အွစ္စမာန်သခင်နှင့် အခြားဆွဟာဗဟ်များအားလုံးသည် ဤအတတ်ကို မတတ်ခဲ့ကြပါ။ အဗူဗကရ်ﷺသခင်က ဆွဟာဗဟ်အပေါင်းတို့ထက် မြတ်ရသည်မှာ သခင်၏ရင်တွင် လျှို့ဝှက်စွာ ကိန်းဝင်နေသောအရာကြောင့်ဖြစ်သည်။

တမန်တော်မြတ်ﷺထံမှ အဆိုပါမိန့်ဆိုမှုများကို ကြားသိရသည့်အခါ လက်ခံသည်။ ထို့နောက် ထိုမိန့်ဆိုမှုများနှင့် အညီအညွတ်ဖြစ်သော စကားရပ်များကို ကြားရသည့်အခါ အထင်သေးပြီး ဤအပြောအဆိုများသည် ဆူဖီများ၏ သတိလက်လွတ်ပြောဆိုမှုများဟု ဆိုကြခြင်းမှာ တူးဆန်းလေသည်။ ဤသည်မှာ အသိဉာဏ်နှင့်ဆန့်ကျင်သောကိစ္စဖြစ်သည်။ ဤသို့သောကိစ္စရပ်များတွင် လေးလေးနက်နက်စဉ်းစားသင့်သည်။ အကြောင်းမှာ အနည်းငယ်ပေါ့လိုက်ရုံဖြင့် အီမာန်တည်းဟူသောအရင်းအနှီးကို လက်လွတ်ဆုံးရှုံးသွားနိုင်သောကြောင့်ဖြစ်သည်။ အဆိုပါရင်ထဲတွင် ကိန်းဝင်တည်ရှိသောလျှို့ဝှက်ချက်ကို သိနားလည်ရန် လုံးပမ်းသင့်သည်။ ယင်းသည် ဖိကဟ်ပညာရှင်များနှင့် ကလာမ်ပညာရှင်များ၏ တတ်ကျွမ်းထားမှု၏ အပြင်ဘက်မှာဖြစ်သည်။ ထိုလျှို့ဝှက်ချက်ကို သိရှိရန် လိုလားတပ်မက်မှု မရှိမချင်း အသင်သည် ထိုအတွက်လမ်းတွေ့မည်မဟုတ်ပေ။

အချုပ်ဆိုသော် ပညာရပ်အားလုံးတွင် အထွတ်မြတ်ဆုံးနှင့် ပဓာနအကျဆုံးအသိပညာသည် အလ္လာဟ်အရှင်မြတ်အား မအ်ရိဖတ်အသိထူးဖြင့် သိခြင်းဖြစ်သည်။ ဤအသိပညာသည် အတိုင်းမသိ နက်ရှိုင်းသော သမုဒ္ဒရာဖြစ်သည်။ လူသားတို့တွင် နဗီတမန်တော်များﷺသည် ဤအသိပညာကို အဆင့်အမြင့်ဆုံးရရှိခဲ့ကြသည်။ ထို့နောက်နောက် ဝလီသူတော်စင်များ ရရှိခဲ့ကြသည်။ ထို့နောက် ထိုသခင်များကို ဆက်ခံသူများ ရရှိခဲ့သည်။ အဆိုရှိသည်မှာ ဗလီတစ်ခုတွင် ရှေးခေတ်ပညာရှိသုခမိန်များအနက် သုခမိန်နှစ်ဦး၏ အဆင်းသဏ္ဌာန်ကို မြင်တွေ့ကြရသည်။ တစ်ဦး၏ လက်တွင် စာရွက်တစ်ရွက်ကို ကိုင်ထားသည်။ ထိုစာရွက်ထဲတွင် 'အသင်သည် လုပ်ငန်းအားလုံးကို ကောင်းမွန်စွာ လုပ်ခဲ့မည်ဆိုသော်လည်း အလ္လာဟ်အရှင်မြတ်ကို သိကျွမ်းခြင်းမရှိသ၍၊ ထိုအရှင်မြတ်သည် အကြောင်းခံများ၏ အကြောင်းရင်းဖြစ်တော်မူကြောင်း၊ အရာဝတ္ထုများကို ဖြစ်ပေါ်စေသောအရှင်ဖြစ်တော်မူကြောင်း မသိသေးသ၍၊ တစ်စုံတစ်ရာ ကောင်းမွန်အောင် လုပ်လိုက်ပြီဟု အသင် မထင်မှတ်လေနှင့်'ဟု ပါရှိသည်။ ဒုတိယသုခမိန်၏ လက်ထဲတွင်လည်း စာရွက်တစ်ရွက် ရှိနေသည်။ ထိုစာရွက်တွင် 'ကျွန်ုပ်သည် အလ္လာဟ်အရှင်ကို သိကျွမ်းခြင်း မရှိခဲ့ချိန်က ရေသောက်ခဲ့သည်။ ရေဆာမွတ်ခဲ့သည်။ အရှင့်ကို သိကျွမ်းပြီးနောက် ကျွန်ုပ်သည် ရေမသောက်ရဘဲ အဆာပြေနေခဲ့သည်။'

**သတ္တမဝတ္တရား**– ပထမသင်ယူနေသော ဘာသာရပ်ကို မပြည့်စုံမချင်း နောက်ဘာသာရပ်တစ်ခုကို သင်ယူသည်းပူးခြင်းမပြုရန်ဖြစ်သည်။ အကြောင်းမှာ ပညာရပ်များသည် အဆင့်ဆင့် အစီအစဉ်အလိုက်ရှိနေသည်။ ပညာရပ်တစ်ခုကို လမ်းခင်းသွားပါမှ အခြားပညာရပ်တစ်ခုသို့ ရောက်ရှိနိုင်သည်။ ပညာကို ထိုသို့အစီအစဉ်တကျ လိုက်စားသူကိုသာ အလ္လာဟ်အရှင်က ကျင့်သုံးနိုင်စွမ်းချီးမြှင့်မည်ဖြစ်သည်။ အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿اَلَّذِيْنَ اٰتَيْنَاهُمُ الْكِتَابَ يَتْلُوْنَهٗ حَقَّ تِلَاوَتِهٖ﴾

**'အကြင်သူတို့အား ငါအရှင်က ကျမ်းဂန်ချီးမြှင့်တော်မူခဲ့ရာ၊ ၎င်းတို့သည် ထိုကျမ်းဂန်ကို ဖတ်ရွတ်ရာတွင် ထိုက်တန်သောနည်းလမ်းဖြင့် ဖတ်ရွတ်(ကြ၏၊)'** (ဗကရာဟ ၊၁၂၁)

ဆိုလိုသည်မှာ ပညာရပ်တစ်ခုကို အသိအားဖြင့်၎င်း လက်တွေ့ကျင့်သုံးမှုအားဖြင့်၎င်း ပိုင်နိုင်ကျွမ်းကျင်မှုမရှိသေးဘဲ နောက်ပညာရပ်တစ်ခုသို့ တက်လှမ်းခြင်းမပြုရပေ။ သို့သော် ပညာရှာသူသည် ပညာရပ်တစ်ခုကို သင်ယူရန် ရည်ရွယ်သည့်အခါ ထိုပညာရပ်၏အထက်တွင်ရှိသည့် ပညာရပ်ကိုလည်း တစ်ဆင့်တက် သင်ယူမည်ဟု ရည်ရွယ်ချက်ထားရှိရမည်။ ပညာရပ်တစ်ခုတွင် ပညာရှင်များ အကွဲအလွဲဖြစ်နေကြသဖြင့်၎င်း၊ ထိုပညာဖြင့် ပညာရှင်တစ်ဦး မှားယွင်းတိမ်းချော်ခဲ့သဖြင့်၎င်း၊ သို့မဟုတ် ထိုပညာနှင့်အညီ ကျင့်သုံးမှု မရှိကြသဖြင့်၎င်း– ဤအကြောင်းများကြောင့် ပညာရပ်တစ်ခုကို မကောင်းမပြောဆိုသင့်ပေ။

အချို့သူတို့သည် ဉာဏ်သုံးဖေါ်ထုတ်ထားသော ပညာရပ်များနှင့် သာသနာ့သိနားလည်မှုဆိုင်ရာ ဖိကဟ်ပညာရပ်များကို လေ့လာလိုက်စားခြင်းမပြုကြပေ။ ၎င်းတို့က– 'အကယ်၍ ဤပညာရပ်များတွင် အခြေအမြစ်ရှိခဲ့မည်ဆိုလျှင် ၎င်းပညာရပ်များကို ကျွမ်းကျင်သည့်ပညာရှင်တို့သည် ထိုအခြေအမြစ်ကို တွေ့ကြရမည်ဖြစ်သည်'ဟု အကြောင်းပြပြောဆိုကြသည်။ ဤသို့ဒွိဟဖြစ်ခြင်းအပေါ် ဖြေရှင်းချက်ကို ကျွန်ုပ်သည် **'မဲအ်ရာရွလ်အိလ်မ်'**ကျမ်းတွင် ရေးသားခဲ့ပြီးဖြစ်သည်။

လူအချို့သည် ဆေးဆရာ၏လွဲချော်မှုကို ကြည့်ပြီး ဆေးပညာကို အမှားအယွင်းဟု သတ်မှတ်လိုက်ကြသည်။ လူအချို့သည် နက္ခတ်ဟောသူတစ်ဦး၏ပြောဆိုမှု တိုက်တိုက်ဆိုင်ဆိုင် မှန်သွားသည်ကို ကြည့်ပြီး နက္ခတ်ပညာကို အမှန်ဟု သတ်မှတ်လိုက်ကြသည်။ လူအချို့သည် နက္ခတ်ဟောသူ၏အလွဲအချော်များကို ကြည့်ပြီး နက္ခတ်ပညာကို အမှားအယွင်းဟု သတ်မှတ်လိုက်ကြသည်။ ဤသတ်မှတ်ချက်အားလုံး မှားလေသည်။ အမှန်မှာ ၎င်းတို့သည် အရာတစ်ခုကို ဓမ္မဓိဋ္ဌာန်ကျကျ ရှုမြင်သင့်ကြသည်။ ပညာရပ်တစ်ခုကို အသေးစိတ်တစ်ခုမကျန် အကုန်အစင်သိသူဟူ၍ မည်သူမှမရှိပေ။ ထိုအတွက်ကြောင့် အလီ﷛သခင်က 'လူပုဂ္ဂိုလ်ထံမှ အမှန်တရားကို မသိနှင့်။ အမှန်တရားကို သိပြီးနောက်မှ အမှန်တရားရှိသူများကို သိပါ'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။

**အဋ္ဌမဝတ္တရား**– ပညာရှာသူသည် ပညာရပ်များ၏မြတ်ထွတ်ရခြင်းအကြောင်းရင်းကို သိထားရမည်။ ပညာ၏မြတ်ခြင်းသည် အကြောင်းခံနှစ်ခုကြောင့်ဖြစ်သည်။ ပထမတစ်ခုမှာ ပညာမှရရှိသည့် ရလဒ်အသီးအပွင့်ကြောင့် မြတ်ခြင်းဖြစ်သည်။ ဒုတိယတစ်ခုမှာ အထောက်အထားခိုင်မာအားကောင်းမှုကြောင့် မြင့်မြတ်ခြင်းဖြစ်သည်။ ဥပမာအဖြစ် သာသနာ့ပညာနှင့် ဆေးပညာကို ကြည့်နိုင်သည်။ ထိုနှစ်ခုအနက် သာသနာ့ပညာသည် အာခိရတ်တည်းဟူသော ထာဝရသက်တမ်းအတွက် အကျိုးရလဒ် ဖြစ်ထွန်းပြီး ဆေးပညာသည် ဒွန်ယာတည်းဟူသော မတည်မြဲသည့် သက်တမ်းအတွက် အကျိုးရလဒ် ဖြစ်ထွန်းသည်။ ဤရှုဒေါင့်မှ ကြည့်သည့်အခါ သာသနာ့ပညာက ပို၍မြတ်ကြောင်း သိရသည်။

နောက်ထပ်သာဓကမှာ သင်္ချာပညာနှင့် နက္ခတ်ပညာဖြစ်သည်။ သင်္ချာပညာသည် အထောက်အထားအားဖြင့် နက္ခတ်ပညာထက်ပို၍ ခိုင်မာပြီး အားကောင်းသည်။ သို့ဖြစ်ရာ သင်္ချာပညာသည် နက္ခတ်ပညာထက်ပို၍မြတ်သည်။ ထို့နောက် သင်္ချာပညာနှင့်ဆေးပညာကို နှိုင်းယှဉ်ကြည့်သည့်အခါ၊ အကျိုးရလဒ်ဖြစ်ထွန်းမှုအရ ဆေးပညာက ပို၍မြတ်သည်။ အထောက်အထားခိုင်မာအားကောင်းမှုအရ သင်္ချာပညာက ပို၍မြတ်သည်။ သို့ဖြစ်ရာ အထောက်အထားခိုင်မာအားကောင်းမှုထက် အကျိုးရလဒ်ဖြစ်ထွန်းမှုကို ပို၍ အဓိကထားရမည်ဖြစ်သည်။ သို့နှင့်အမျှ ဆေးပညာသည် မှန်းဆချင့်ချိန်မှုကို အများဆုံးအခြေခံထားသော်လည်း သင်္ချာပညာထက် ပို၍ မြတ်ရသည်။ ဤရှင်းပြချက်များအရ ပညာရပ်များတွင် အလ္လာဟ်အရှင်မြတ်နှင့် အရှင်၏ကောင်းကင်တမန်များ၊ အရှင်၏ကျမ်းတော်များ၊ အရှင်၏ရစူလ်တမန်တော်များﷺကို သိသောအသိပညာက အမြတ်ဆုံးဖြစ်ကြောင်း ထင်ရှားပေသည်။ နောက်တစ်ဆင့် အမြတ်ဆုံးသည် အဆိုပါအသိပညာသို့ ရောက်ရန် အခြေခံရသည့် ပညာရပ်ဖြစ်သည်။ သို့နှင့်ပင် အသင်သည် ထိုအသိပညာ

ကို သိကျွမ်းရန် လိုလားမက်မောအပ်သည်။ ထိုအသိပညာမှလွဲ၍ အခြားပညာရပ်များကို သိကျွမ်းရန် လိုလားမက်မောခြင်း မဖြစ်သင့်ပေ။

**နဝမဝတ္တရား**– ပညာရှာသူသည် ပညာဖြင့် အစပထမတွင် မိမိ၏အတွင်းပိုင်းကို သိုက်မြိုက်ကောင်းမွန်ရန်ငှင်း၊ အန္တိမအားဖြင့် အလ္လာဟ်အရှင်နှင့် နီးကပ်ရန်ငှင်း၊ ကောင်းကင်တမန်များအနက်မှဖြစ်သော မလအိအအ်လာများ၊ အလ္လာဟ်အရှင်၏အပါးတော်မြဲ သူတော်ကောင်းများနှင့် ဝင်ဆံ့နိုင်ရန်ငှင်း ရည်ရွယ်ချက်ထားသင့်သည်။ ပညာရှာသူသည် ပညာဖြင့် ခေါင်းဆောင်အကြီးအကဲဖြစ်ရန်သော်ငှင်း၊ ပစ္စည်းဥစ္စာနှင့် ကျော်ကြားမှု ရရှိရန်သော်ငှင်း၊ လူ့ဗာလများနှင့် မုနာဇရာပြုလုပ်ရန်သော်ငှင်း၊ ခေတ်ပြိုင်ပုဂ္ဂိုလ်များအား ဂုဏ်ယူမော်ကြွားရန်သော်ငှင်း မရည်ရွယ်သင့်ပေ။ ပညာရှာသူသည် ပညာဖြင့် အလ္လာဟ်အရှင့်ထံ နီးကပ်မှုရရန် ရည်ရွယ်သည်ဆိုလျှင် ငှင်းသည် မိမိ၏ရည်ရွယ်ချက်နှင့် အနီးစပ်ဆုံးပညာကို သင်ယူရမည်။ ဆိုလိုသည်မှာ အာခိရတ်ပညာကို သင်ယူရမည်။ သို့သော် ငှင်းသည် အခြားပညာရပ်များကို အထင်သေးသည့် အကြည့်ဖြင့် ကြည့်ရန် မထိုက်ချေ။ ဆိုလိုသည်မှာ ကုရ်အာန်ဟဒီစ်နှင့်ဆက်စပ်လျက်ရှိသောဖတ္တဝါပညာ၊ သဒ္ဒါပညာ၊ အဘိဓာန်ပညာ အစရှိသည်ကိုဖြစ်သည်။ ကျွန်ုပ်တို့သည် ယင်းတို့အကြောင်းကို အကြိုရှေ့ပြေးပညာရပ်များနှင့် အဖြည့်ပညာရပ်များတွင် ဖော်ပြခဲ့ပြီးပြီ။ ယင်းတို့သည် ဖရာဇ်ကိဖာယာအဆင့်မှ ပညာရပ်များဖြစ်သည်။

ကျွန်ုပ်တို့က အာခိရတ်ပညာကို အတိုင်းထက်အလွန် ချီးမွမ်းခန်းဖွင့်ထားသည့်အတွက် ကျန်ပညာရပ်များကို မကောင်းမထင်မှတ်သင့်ပေ။ အဆိုပါပညာရပ်များကို တတ်ကျွမ်းသူ၏ပမာသည် ဂျိဟာဒ်တွင် ကိုယ်တိုင်ကိုယ်ကျပါဝင်တိုက်ခိုက်ခြင်းမပြုဘဲ ကင်းစခန်းနှင့်ခံတပ်ကျင်းများကို ကာကွယ်စောင့်ရှောက်သူနှင့် အလားတူသည်။ အလ္လာဟ်အရှင်၏လမ်းတော်တွင် ဂျိဟာဒ်ဆင်နွှဲရာ၌ အချို့သည် ရှေ့တန်းမှ တိုက်ခိုက်ကြသည်။ အချို့သည် နောက်တန်းမှ အကူအညီပေးကြသည်။ အချို့သည် ထိုတိုက်ခိုက်နေသူများကို ရေတိုက်ရသည်။ အချို့သည် ထိုတိုက်ခိုက်သူများ၏အစီးအနင်းတိရိစ္ဆာန်များကို ထိန်းကျောင်းပြီး အထောက်အကူပြုရသည်။ ငှင်းတို့အနက် မည်သူမှ အကျိုးစွဝါဗ်လက်မဲ့မဖြစ်ပေ။ ငှင်းတို့သည် သုံ့ရပစ္စည်းရလိုမှုအတွက်မဟုတ်ဘဲ အလ္လာဟ်အရှင်၏ကလေမာတော်ကို မြင့်စွင့်ရန်ရည်ရွယ်ချက်ထားရှိရန်ကား လိုပေသည်။ ပညာရှင်များ၏အလားသဏ္ဌာန်သည်လည်း ဤနည်းနှင်နှင်ဖြစ်ပေသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿يَرْفَعِ اللّٰهُ الَّذِيْنَ آمَنُوْا مِنْكُمْ وَ الَّذِيْنَ أُوْتُوا الْعِلْمَ دَرَجَاتٍ﴾

**'အလ္လာဟ်အရှင်က အသင်တို့အနက်မှ အီမာန်ယူသူတို့အားငှင်း၊ အသိပညာ ပေးအပ်ခြင်းခံရသူတို့အားငှင်း အဆင့်အတန်းများ မြှင့်တင်တော်မူမည်။'** (စူရာမုဂျာဒလာ ၊ ၁၁)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿هُمْ دَرَجَاتٌ عِنْدَاللّٰهِ﴾

**'အလ္လာဟ်အရှင့်ထံတော်တွင် ငှင်းတို့သည် အဆင့်အတန်းများ ရှိပေသည်။'** (စူရာအာလိအင်မ်ရာန် ၊ ၁၆၃)

အချုပ်ဆိုရသော် ပညာရှင်များ၏ထွတ်မြတ်မှုသည် နှိုင်းယှဉ်ချက်အရဖြစ်သည်။ ဥပမာ ဘုရင်များနှင့် နှိုင်းယှဉ်ပြီး ငွေကြေးလဲလှယ်သူများကို အဆင့်အတန်းနိမ့်ကျသည်ဟု ပြောဆိုခြင်း၏အလိုသဘောသည် အမှိုက်လှဲသူများနှင့် နှိုင်းယှဉ်သည့်အခါမှာလည်း ငွေကြေးလဲလှယ်သူများ အဆင့်အတန်းနိမ့်ကျသည်ဆိုသည့်သဘောမဟုတ်ပေ။ အမှန်မှာ အဆင့်အတန်းအမြင့်ဆုံးသည် နဗီတမန်တော်များ ﷺ ဖြစ်သည်။ ထို့နောက် အဆင့်အမြင့်ဆုံးသည် ဝလီသူတော်စင်များဖြစ်သည်။ ထို့နောက် အဆင့်အမြင့်ဆုံးသည် ပညာအရာတွင် နှံ့စပ်သိမြင်ကြသောဓမ္မပညာရှင်များဖြစ်သည်။ ထို့နောက် အဆင့်အမြင့်ဆုံးသည် အဆင့်အတန်းအမျိုးမျိုးဖြင့် ရှိနေသော ပုဂ္ဂိုလ်မြတ်များဖြစ်သည်။ အချုပ်ဆိုသော်

အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်အတိုင်းပင်–

﴿وَمَنْ يَعْمَلْ مِثْقَالَ ذَرَّةٍ خَيْرًا يَرَهُ ۞ وَمَنْ يَعْمَلْ مِثْقَالَ ذَرَّةٍ شَرًّا يَرَهُ﴾

**'အကြင်သူသည် မြူမှုန်စန့် ကောင်းမှုပြုခဲ့မည်ဆိုလျှင်၊ ၎င်းသည် ထိုကောင်းမှုကို တွေ့မြင်ရအံ့။ တဖန် အကြင်သူသည် မြူမှုန်စန့်မျှ မကောင်းမှုပြုခဲ့မည်ဆိုလျှင်၊ ၎င်းသည် ထိုမကောင်းမှုကို တွေ့မြင်ရအံ့။'**

(ဇူရာဇီလ်ဇီလာ ၊ ၇–၈)

အကြင်သူသည် ပညာဖြင့် အလ္လာဟ်အရှင်၏ ကျေနပ်မှုကိုသာ ရည်ရွယ်မည်ဆိုလျှင်၊ မည်သည့်ပညာပင်ဖြစ်စေ၊ ထိုပညာက ၎င်းကို အကျိုးပြုမည်ဖြစ်သည်။ မလွဲမသွေ ထိုပညာက ၎င်း၏အဆင့်အတန်းကို မြှင့်တင်ပေးမည်သာဖြစ်သည်။

ဒဿမဝတ္တရား– ပညာရှာသူသည် ပညာရပ်များနှင့် မူလရည်ရွယ်ချက်တို့၏ဆက်စပ်မှုကို သိထားရမည်။ သို့မှသာ မူလရည်ရွယ်ချက်နှင့်နီးကပ်သောအရာကို ဝေးသောအရာထက် ပို၍ ဦးစားပေးနိုင်မည်ဖြစ်သည်။ ထို့ပြင် အရေးကြီးသောပညာကို အခြားပညာများထက်ပို၍ ဦးစားပေးနိုင်မည်ဖြစ်သည်။ အရေးကြီးသည်ဆိုသည့်အလိုသဘောမှာ အသင့်ကို သောကပွါးစေသောအရာဖြစ်သည်။ အသင်၏ဒွန္နယာရေးနှင့် အာခိရတ်ရေးတို့ထက်ပို၍ အသင့်အား သောကပွါးအတွေးပင်လယ်ဝေစေသောအရာသည် အခြားတွင် မရှိပေ။ တဖန် ဒွန္နယာ၏အရသာနှင့် အာခိရတ်၏ စည်းစိမ်ကို ပေါင်းစပ်ရန်ဆိုသည်မှာ အသင့်အဖို့ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ ထိုသို့ပေါင်းစပ်ရန် မဖြစ်နိုင်ကြောင်းကို ကျမ်းမြတ်ကုရ်အာန်တွင် ဖေါ်ပြထားပြီးဖြစ်သည်။ ထို့ပြင် အတွင်းမျက်စေ့၏အလင်းရောင်ဖြင့်လည်း တွေ့မြင်နိုင်သောကိစ္စဖြစ်သည်။ ထိုသို့တွေ့မြင်သည်နှင့်အမျှ အမြဲထာဝရတည်ရှိမည့်အရာသည် အဓိကဖြစ်ကြောင်းသိရသည်။ ထိုပုံစံအနေအထားတွင် ဒွန္နယာသည် စခန်းတစ်ခုဖြစ်ပြီး ခန္ဓာကိုယ်သည် အစီးအနင်းတစ်ခုဖြစ်သွားသည်။ ကျင့်မှုရာများသည် ရည်ရွယ်ချက်ပန်းတိုင်ဆီသို့ ဦးတည်လျှောက်လှမ်းမှုများဖြစ်သည်။ ရည်ရွယ်ချက်ပန်းတိုင်ဆိုသည်မှာလည်း အလ္လာဟ်အရှင်အား ဖူးတွေ့ရခြင်းမှလွဲ၍ အခြားမဟုတ်ပေ။ ထိုဖူးတွေ့ရခြင်းထဲတွင် အမြိုက်စည်းစိမ်အားလုံး ပေါင်းရုံးတည်ရှိနေသည်။ ဒွန္နယာလောကတွင် ဤတန်ဘိုးကို သိသူကတော့ အနည်းစုမျှသာဖြစ်သည်။

အလ္လာဟ်အရှင်နှင့် တွေ့ဆုံရခြင်း၊ အလ္လာဟ်အရှင်၏ပကတိတော်ကို ဖူးမျှော်ရခြင်းတည်းဟူသော ရှုဒေါင့်မှ ကြည့်ရှုလျှင် ပညာရပ်များသည် သုံးမျိုးသုံးစားရှိသည်။ ဖူးမျှော်ခြင်းဟု ဆိုရာတွင် နဗီတမန်တော်များ ﷺ ၏အလို ကျဖေါ်ပြမှုနှင့် ထိုသခင်တို့နားလည်ခဲ့ကြသည့်အဓိပ္ပါယ်ဖြစ်သည်။ လူသာမန်နှင့် ကလာမ်ပညာရှင်များ၏အသိတွင် ရှိနေသော ဖူးမျှော်ခြင်းကို မဆိုလိုပါ။ ထိုပညာရပ်အမျိုးအစား သုံးခုကို ဥပမာတစ်ခုဖြင့် နားလည်နိုင်သည်။ ကျွန်တစ်ယောက်အား 'အသင် ဟဂ်ျပြုပါ။ ဟဂ်ျ၏တာဝန်များကို အပြည့်အဝထမ်းဆောင်မည်ဆိုလျှင် သင့်ကို ကျွန်အဖြစ်မှလည်း သုကောင်းပြုမည်။ ထို့ပြင် ဘုရင်အဖြစ်လည်း တင်မြှောက်မည်'ဟု ပြောဆိုခဲ့သည်။ ထိုအခါ ကျေးကျွန်က ဟဂ်ျအတွက် ပြင်ဆင်ခဲ့သည်။ ဟဂ်ျခရီးကိုပင် စတင်ခဲ့သည်။ သို့သော် လမ်းတွင် အတားအဆီးတစ်ခုကို ကြုံရသဖြင့် ဟဂ်ျကို ပြီးစီးအောင် မဆောင်ရွက်ခဲ့ရပေ။ သို့ဆိုလျှင် ၎င်းသည် အတုပ်အနှောင်များမှ လွှတ်ပေးခြင်းခံရသဖြင့် ကျွန်အဖြစ်မှ လွတ်လပ်ခွင့်ရသွားပြီဖြစ်သည်။ သို့သော် ၎င်းသည် ဘုရင်ဖြစ်လိမ့်မည်တော့ မဟုတ်ပေ။

ဤဥပမာထဲမှ ကျွန်သည် အလုပ်သုံးမျိုးကို လုပ်ခဲ့သည်။ ပထမတစ်မျိုးမှာ– ခရီးထွက်ရန် ပြင်ဆင်ခြင်းဖြစ်သည်။ ကုလားအုတ်ဝယ်ယူခြင်း၊ ရေအိတ်စုခြင်း၊ လမ်းခရီးရိက္ခာနှင့်အစီးအနင်းစီစဉ်ခြင်း–စသည်လုပ်ငန်းများဖြစ်သည်။ ဒုတိယအမျိုးမှာ– နေရပ်မှ ထွက်ခွာခြင်းဖြစ်သည်။ ကအ်ဘာသို့ ဦးတည်၍ ခရီးစခန်းတစ်ခုပြီးတစ်ခု သွားလာခြင်းဖြစ်သည်။ တတိယတစ်မျိုးမှာ–ဟဂ်ျ၏ကျင့်ရန်များကို ပြဋ္ဌာန်းချက်တစ်ခုပြီးတစ်ခု ကျင့်ဆောက်တည်ခြင်း

ဖြစ်သည်။ ဤလုပ်ငန်းသုံးမျိုးကို ဆောင်ရွက်ပြီးစီးသည့်နောက် တွဝါဖွလ်ဝေဒအ်လှည့်ပြီးမည်၊ အဲဟ်ရာမ်ချွတ်မည်ဆိုလျှင် ထိုကျွန်သည် ကျွန်ဘဝမှလွတ်မြောက်ခြင်းနှင့် ဘုရင်ဖြစ်ခြင်းဆိုသည့် ဆုလာဘ်နှစ်ခုနှင့် ထိုက်တန်ပြီဖြစ်သည်။ သို့မှုမက ထိုကျွန်၏ခရီးထွက်ရန် ပြင်ဆင်ခြင်းလုပ်ငန်းများ၏အစမှအဆုံး၊ ခရီးစတင်ထွက်ခွါသည်မှ ခရီးဆုံးသည်အထိ၊ ဟဂျ်၏ပြဋ္ဌာန်းချက်များကို စတင်ဆောင်ရွက်သည်မှ ပြီးဆုံးသည်အထိတွင် ၎င်းအတွက် အဆင့်အတန်းများစွာ ရှိလေသည်။ သို့ဖြစ်ရာ စားရေးရိက္ခာနှင့်အစီးအနင်းပြင်ဆင်သူ၊ ခရီးစဉ်စတင်သူတို့၏အဆင့်အတန်းသည် ဟဂျ်၏ကျင့်စဉ်များကို စတင်နေသူ၏အဆင့်အတန်းကို မီမည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ဟဂျ်၏ကျင့်စဉ်များကို စတင်သူသည် လုပ်ငန်းစဉ်နှစ်ခုကို ဖြတ်သန်းလွန်မြောက်ပြီးခဲ့ရုံမျှမက ပန်းတိုင်နှင့်လည်း အလွန်နီးကပ်နေသောကြောင့်ဖြစ်သည်။

ဤဥပမာနှင့်အညီ ပညာရပ်များသည်လည်း အမျိုးအစားသုံးခုရှိနေသည်။ ပညာရပ်**အမျိုးအစားတစ်ခု**သည် လမ်းခရီးရိက္ခာနှင့် အစီးအနင်းပြင်ဆင်ခြင်း၊ ကုလားအုတ်ဝယ်ယူခြင်းတို့နှင့် တူဆင်သည်။ ဤပညာရပ်အမျိုးအစားတွင် ဆေးပညာနှင့်ဖိကဟ်ပညာတို့ပါဝင်သည်။ ယင်းတို့သည် ဒွန္နယာတွင် နေထိုင်စဉ် ခန္ဓာကိုယ်၏ကောင်းကျိုးကောင်းရာရှိမှုနှင့်သက်ဆိုင်လေသည်။ နောက်ပညာရပ်**အမျိုးအစားတစ်ခု**မှာ တောတောင်မြစ်ချောင်းများကို ဖြတ်၍ခရီးသွားလာခြင်းနှင့် တူဆင်သည်။ ယင်းသည် အတွင်းပိုင်းကို ညစ်ညမ်းသောအရည်အချင်းများမှ ကင်းဝေးအောင်လုပ်ပေးသည့် ပညာရပ်များဖြစ်သည်။ ဤမြင့်မားသောတောင်ထွတ်များပေါ်သို့ တက်ရန်ဆိုသည်မှာ အလ္လာဟ်အရှင်က ကျင့်သုံးနိုင်စွမ်း ချီးမြှင့်ခံရသူများမှလွဲ၍ ရှေးလူနှောင်းလူ မည်သူမျှ မစွမ်းပေ။

တဖန် ၎င်းတို့က ပညာကို သိရှိပုံသည် လမ်းခရီး၏ဦးတည်ရာဘက်နှင့် စခန်းစဉ်များကို သိရှိသကဲ့သို့ဖြစ်သည်။ ခရီးတစ်ခုကို လက်တွေ့သွားလာခြင်းမပြုဘဲ တောတောင်များတွင် သွားရမည့်လမ်းကြောင်းများကို သိထားရုံဖြင့် လုံလောက်ခြင်းမရှိချေ။ ဤနည်းအတူ လက်ငင်းပြုပြင်ခြင်းမရှိဘဲ ကိုယ်ကျင့်ပြုပြင်မှုနည်းလမ်းကို သိထားရုံဖြင့်လည်း လုံလောက်ခြင်းမရှိပေ။ တဖန် **ကိုယ်ကျင့်ပြုပြင်မှုနည်းလမ်း**ကို မသိဘဲနှင့် ကိုယ်ကျင့်ပြုပြင်ရန်မှာလည်းမဖြစ်နိုင်ပေ။

**တတိယပညာရပ်အမျိုးအစား**မှာ ဟဂျ်ကျင့်စဉ်ကိုယ်တိုင်၊ ဟဂျ်ပြဋ္ဌာန်းချက်များနှင့် ဆင်တူသည်။ ယင်းမှာ အလ္လာဟ်အရှင်ကိုင်၎င်း၊ အလ္လာဟ်အရှင်၏ဂုဏ်တော်များကို၎င်း၊ ထိုအရှင်၏ကောင်းကင်တမန်များကို၎င်း၊ ထိုအရှင်၏လုပ်ရပ်တော်များကို၎င်း သိသည့်ပညာရပ်ဖြစ်သည်။ ထို့ပြင် မုကာရှိဖတ်ပညာအကြောင်းတွင် ကျွန်ုပ်တို့ ဖော်ပြခဲ့သည့် ပညာရပ်ဖြစ်သည်။ လွတ်မြောက်မှုနှင့် ချမ်းသာရအောင်မြင်မှုသည် ဤပညာရပ်အမျိုးအစားကို သိကျွမ်းပြီးနောက်မှဖြစ်သည်။ သို့နှင့်တိုင် လွတ်မြောက်မှုသည် အမှန်တရားသို့ ဦးတည်ရည်ရွယ်သော လမ်းလိုက်သူအားလုံးအတွက် ရရှိနိုင်သောအရာဖြစ်သည်။ ယင်းလွတ်မြောက်မှုကို တစ်နည်းဖော်ပြရလျှင် ငြိမ်းချမ်းစွာနေရခြင်းဖြစ်သည်။

ချမ်းသာရအောင်မြင်မှုကို အလ္လာဟ်အရှင်အား အသိထူးဖြင့် သိကျွမ်းကြသော သူတော်စင်များမှလွဲ၍ အခြားသူတို့မရရှိကြပေ။ ထိုပုဂ္ဂိုလ်တို့သည် အပါးတော်မြဲများဖြစ်သည်။ ၎င်းတို့သည် အလ္လာဟ်အရှင်၏အပါးတော်တွင် ဂရုဏာတော်ကို၎င်း၊ ချမ်းသာသုခနှင့် ခဲဘွယ်ဘောဇဉ်တို့ကို၎င်း၊ စည်းစိမ်အတိဖြစ်သော ဂျန္နတ်ကို၎င်း ခံစားစံစားရသူများဖြစ်သည်။ ပါရမီပြည့်ဝသည့်အဆင့်သို့ မရောက်သေးသူများအတွက်ကား ထိုအဆင့်၏အောင်မြင်မှုကိုမရနိုင်ပေ။ ၎င်းတို့သည် လွတ်မြောက်မှုနှင့် ငြိမ်းချမ်းသာယာမှုသာ ရမည်ဖြစ်သည်။ ဤအကြောင်းကို အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿فَأَمَّا إِنْ كَانَ مِنَ الْمُقَرَّبِينَ ۞ فَرَوْحٌ وَرَيْحَانٌ وَجَنَّةُ نَعِيمٍ ۞ وَأَمَّا إِنْ كَانَ مِنْ أَصْحَابِ الْيَمِينِ ۞ فَسَلَامٌ لَكَ مِنْ أَصْحَابِ الْيَمِينِ﴾

**'၎င်းသည် အပါးတော်နှင့် နီးကပ်သူများထဲမှ ဖြစ်လျှင်ကား ချမ်းသာသုခ၊ ခံဘွယ်သောစဉ်နှင့် စည်းစိမ်အတိဖြစ်သော ဂျန္နတ်တို့သည် ၎င်းအတွက် ရှိနေပေသည်။ ထို့ပြင် လက်ယာဘက်သားထဲမှ ဖြစ်လျှင်မူ လက်ယာဘက်သားများထဲတွင် ပါဝင်သော အသင့်အတွက် ငြိမ်းချမ်းမှု ရှိပေသည်။'** (စူရာဝါကိအာ၊ ၈၈-၉၁)

အကြင်သူသည် ရည်ရွယ်ချက်ပန်းတိုင်ဆီသို့ အာရုံစိုက်ခြင်းမရှိခဲ့လျှင်၊ သို့မဟုတ် ထိုပန်းတိုင်ဆီသို့ရောက်ရန် လုံ့လစိုက်ထုတ်ခြင်းမရှိခဲ့လျှင်၊ သို့မဟုတ် လုံ့လစိုက်ထုတ်ပါသော်လည်း နာခံလိုက်နာခြင်း၏ ရည်ရွယ်ချက်ဖြင့် မဟုတ်ဘဲ၊ ဒွန္နယာရေး ရည်မှန်းချက်တစ်ခုခုဖြင့် ဖြစ်နေလျှင် ၎င်းသည် လက်ဝဲဘက်သားများနှင့် လမ်းမှားသူများတွင် အပါအဝင်ဖြစ်လိမ့်မည်။ ထိုသူနှင့်ပတ်သက်၍ မိန့်ကြားတော်မူသည်မှာ–

﴿فَنُزُلٌ مِّنْ حَمِيمٍ ۝ وَتَصْلِيَةُ جَحِيمٍ﴾

**'သို့ဖြစ်လျှင်ကား ၎င်းအား ကြွက်ကြွက်ဆူသောရေဖြင့် ဧည့်ခံမည်။ ထို့နောက် ငရဲမီးတွင်းသို့ ဝင်ရောက်စေမည်၊'** (စူရာဝါကိအာ၊ ၉၃-၉၄)

ဤအကြောင်းအရာများသည် ရင့်ကျက်မျှော်မြင်သောပညာရှင်တို့ထံတွင် ဟပ်ကွလ်ယကီန်ဖြစ်သည်။ ဆိုလိုသည်မှာ ထိုပညာရှင်များသည် ဤအကြောင်းအရာများကို အတွင်းမျက်စေ့ဖြင့် တွေ့မြင်သိရှိကြခြင်းဖြစ်သည်။ ထိုသို့တွေ့မြင်ခြင်းသည် မံသစက္ခုများဖြင့် တွေ့မြင်ရခြင်းထက် ပို၍ အားကောင်းပြီး ထင်းလင်းသည်။ ၎င်းတို့သည် အကြားသက်သက်ဖြင့် ယုံကြည်လက်ခံထားရာမှ အဆင့်မြင့်တက်လာကြခြင်းဖြစ်သည်။ ၎င်းတို့၏ဥပမာမှာ ဤသို့ဖြစ်သည်။ လူတစ်ယောက်သည် ကိစ္စရပ်တစ်ခုကို ကြားသိရသည့်အခါ ထိုကိစ္စရပ်ကို အမှန်ဖြစ်ကြောင်းလက်ခံခဲ့သည်။ ထို့နောက် ထိုကိစ္စကို မျက်မြင်ကိုယ်တွေ့ပင် ကြုံခဲ့ရာ မုချဒိဋ္ဌဖြစ်ကြောင်းယုံကြည်သွားခဲ့သည်။ အခြားသူများ၏အခြေအနေမှာ ဤသို့မဟုတ်ပေ။ အခြားသူတို့က ကိစ္စရပ်တစ်ခု မှန်ကန်ကြောင်းကို ကောင်းမွန်သော အီမာန်ယုံကြည်ချက်ဖြင့် လက်ခံကြခြင်းဖြစ်သည်။ သို့သော် ၎င်းတို့သည် မျက်ဝါးထင်ထင်မြင်တွေ့သကဲ့သို့ဖြစ်သော အဆင့်သို့မူ မရောက်ကြပေ။

အချုပ်မှာ အစစ်အမှန်ချမ်းသာရခြင်းသည် မုကာရှိဖတ်ပညာကို သိကျွမ်းပြီးနောက်မှဖြစ်သည်။ တဖန် ထိုမုကာရှိဖတ်ပညာကို သိကျွမ်းခြင်းသည် မုအာမိလတ်ပညာ၏နောက်မှဖြစ်သည်။ ဆိုလိုသည်မှာ မုကာရှိဖတ်ပညာသည် အာခိရတ်လမ်းတွင် လျှောက်လှမ်းကာ ဂုဏ်သတ္တိဟူသော စခန်းစဉ်များ တောတောင်များကို ဖြတ်သန်းကျော်လွှန်ပြီးနောက်မှဖြစ်သည်။

မကောင်းသော ဂုဏ်သတ္တိများကို ပယ်ရှင်းခြင်း၏လမ်းသို့ လျှောက်လှမ်းရန်မှာ ဂုဏ်သတ္တိများကို သိခြင်း၊ ကုသမှုနည်းလမ်းများကို သိခြင်းနှင့်လျှောက်လှမ်းမှုနည်းလမ်းကို သိပြီးနောက်မှဖြစ်သည်။ ယင်းသည်လည်း ခန္ဓာကိုယ်ချမ်းမြေ့စွာရှိခြင်းနှင့်ကျန်းမာခြင်းအပေါ် မူတည်လျက်ရှိသည်။ ခန္ဓာကိုယ်၏ချမ်းမြေ့စွာရှိခြင်းသည် တစ်ဦးနှင့်တစ်ဦး အပြန်အလှန်အထောက်အကူပြုမှုအပေါ် မူတည်လျက်ရှိသည်။ လူသားတို့၏စုပေါင်းလုပ်ဆောင်မှုမှ အဝတ်အထည်၊ အစားအစာနှင့် အိုးအိမ်များ ရရှိသည်။ ယင်းသည် အုပ်ချုပ်ရေးမှုနှင့်သက်ဆိုင်ရာကဏ္ဍဖြစ်သည်။ ထိုအုပ်ချုပ်ရေးမှု၏ဥပဒေတွင် လူတို့အား တရားမျှတစွာစီမံအုပ်ချုပ်ရမည့်နည်းလမ်းများကို ဖေါ်ပြမှုသည် ဖိကဟ်ပညာရှင်နှင့်သက်ဆိုင်ရာကဏ္ဍဖြစ်သည်။ ထို့နောက် ကျန်းမာရေးသည် ဆရာဝန်များနှင့်သက်ဆိုင်ရာကဏ္ဍဖြစ်သည်။ ဤအချက်ကို ရည်ညွှန်း၍– 'ပညာသည် နှစ်ခုသာရှိသည်။ ယင်းမှာ ခန္ဓာကိုယ်ဆိုင်ရာပညာနှင့် သာသနာဆိုင်ရာပညာတို့ဖြစ်သည်'ဟု ပြောဆိုကြခြင်းဖြစ်သည်။ ဤပြောဆိုမှုသည် ကျယ်ပြန့်စွာရှိနေသောဇဟိဒ္ဒပညာရပ်ဖြစ်သည့်ဖိကဟ်ပညာကို ရည်ညွှန်းခြင်းဖြစ်သည်။ အတွင်းပိုင်းနှင့်သက်ဆိုင်သည့် အဇ္ဈတ္တပညာရပ်များကိုဆိုလိုခြင်းမဟုတ်ချေ။

အကယ်၍ စာရှုသူက 'ဆေးပညာနှင့်ဖိကဟ်ပညာကို လမ်းခရီးရိက္ခာနှင့်အစီးအနင်းစီစဉ်သည့် အဆင့်နေရာ

တွင် အဘယ်ကြောင့်ထားရသလဲ'ဟု စောဒကတက်ခဲ့မည်ဆိုအံ့။ ထိုအတွက် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။ အလ္လာဟ်အရှင်နှင့် နီးကပ်မှုရရန်အတွက် လျှောက်လှမ်းသွားလာသောအရာသည် နှလုံးသားဖြစ်သည်။ ခန္ဓာကိုယ်မဟုတ်ချေ။ နှလုံးသားဟု ဆိုရာတွင် ထိတွေ့၍ရသောထိုအသားတုံးကို ကျွန်ုပ်ဆိုလိုခြင်းမဟုတ်ပေ။ အမှန်မှာ ယင်းသည် အလ္လာဟ်အရှင်၏လျှို့ဝှက်ဖုံးကွယ်ထားသောအရာများထဲမှ လျှို့ဝှက်မှုတစ်ခုဖြစ်သည်။ ယင်းကို အာရုံငါးပါးဖြင့် မြင်တွေ့ထိကိုင်၍ မရနိုင်ပေ။ ထိုလျှို့ဝှက်မှုကို ရံဖန်ရံခါ 'ရူဟ်'ဟု ခေါ်သည်။ ရံဖန်ရံခါ 'နဖ်စ်မုတွမာအင်န်'ဟု ခေါ်သည်။ ယင်းသည် အမြဲတေများထဲမှ အမြဲတေတစ်ခုဖြစ်သည်။ ရှရီအတ်က ယင်းကို ဖော်ပြရာ၌ 'နှလုံးသား' ဆိုသည့်စကားလုံးကို သုံးသည်။ အဘယ်ကြောင့်ဆိုသော် ထိုလျှို့ဝှက်မှုက စတင်စီးနင်းရာ အစီးအနင်းသည် နှလုံးသားဖြစ်သောကြောင့်ပင်။ ထိုနှလုံးသားကို စီးနင်းပြီး ခန္ဓာကိုယ်တစ်ခုလုံးကို ပဲ့ကိုင်မောင်းနှင်ခြင်းဖြစ်သည်။

ထိုလျှို့ဝှက်ဖုံးကွယ်မှုကို မုကာရှိဖတ်ပညာဖြင့် ဖွင့်ဖော်သိရှိနိုင်သည်။ ထိုအသိများသည် သိုသိပ်ထားရမည့်အရာများဖြစ်ပြီး လူအများသိအောင် ဖြန့်ချိခွင့်မရှိပေ။ အလွန်ဆုံးထုတ်ဖော်လိုပါက 'ဤအရာသည် အမြိုက်ရတနာဖြစ်သည်၊ အဖိုးထိုက်သောပုလဲအမြဲတေဖြစ်သည်'ဟုသာ ပြောဆိုခွင့်ရှိသည်။ ယင်းသည် မြင်တွေ့ထိကိုင်ရနိုင်သောကိုယ်ကာယများထက် ပို၍ မြင့်မြတ်သောအရာဖြစ်သည်။ ထို့ပြင် ယင်းသည် အလ္လာဟ်အရှင့်ဘက်မှ အမိန့်ပြဋ္ဌာန်းချက်တစ်ခုဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားထားသည်မှာ–

﴿وَيَسْـَٔلُونَكَ عَنِ ٱلرُّوحِ قُلِ ٱلرُّوحُ مِنْ أَمْرِ رَبِّي﴾

**'ထို့ပြင် အသင့်အား ရူဟ်ဝိဉာဉ်နှင့်စပ်လျဉ်း၍ မေးမြန်းကြလိမ့်မည်။ အသင်က 'ရူဟ်သည် ငါ၏ရဗ်အရှင်၏အမိန့်တော်မှ ဖြစ်သည်'ဟု ပြောလော့။'** (စူရာဗနီအီစ္စရာအီလ် ၊၈၅)

အားလုံးသောအဖန်ဆင်းခံများကို အလ္လာဟ်အရှင်၏ဖန်ဆင်းမှုများဖြစ်သည်ဟုသာ စပ်လျဉ်းရသည်။ သို့နှင့်တိုင် ထိုရူဟ်၏စပ်လျဉ်းမှုသည် ခန္ဓာကိုယ်အစိတ်အပိုင်း အားလုံး၏စပ်လျဉ်းမှုထက် ပို၍ မြင့်မြတ်လေသည်။ အကြောင်းမှာ ရူဟ်ကို ဖန်ဆင်းမှုနှင့်အမိန့်ပြဋ္ဌာန်းမှု နှစ်ရပ်ပေါင်းစပ်၍ အလ္လာဟ်အရှင့်ဘက်သို့ စပ်လျဉ်းထားသောကြောင့်ဖြစ်၏။ အမိန့်ပြဋ္ဌာန်းခြင်းသည် ဖန်ဆင်းခြင်းထက်ပို၍ အဆင့်မြင့်သည်။ ဤအမြိုက်ရတနာသည် အလ္လာဟ်အရှင်၏တာဝန်ပေးအပ်မှုကို ထမ်းဆောင်ထားရသည်။ အဆင့်အတန်းအားဖြင့် ၎င်းရူဟ်ဝိဉာဉ်သည် မိုးအထပ်ထပ်၊ မြေအထပ်ထပ်နှင့် တောင်များထက် ပိုမြင့်မားသည်။ ထိုမိုးများ၊ မြေများနှင့် တောင်များသည် တာဝန်ပေးအပ်မှုကို ထမ်းဆောင်ရန် ငြင်းဆန်ကြသည်။ ထိုတာဝန်တော်ကို ကြောက်ရွံ့ကြ၍ဖြစ်သည်။

ရူဟ်ဝိဉာဉ်သည် အမိန့်ပြဋ္ဌာန်းမှု၏ကမ္ဘာမှဖြစ်သည်။ ဤသို့ဆိုသဖြင့် ရူဟ်သည် ပကတူးတည်ရှိမှုဖြစ်သည်ဟု နားမလည်သင့်ပေ။ ရူဟ်ကို ပကတူးဖြစ်သည်ဟု ဆိုသူသည် အသိမရှိသူဖြစ်သည်။ ၎င်းသည် လှည့်စားခံရသူဖြစ်သည်။ မိမိပြောဆိုသည့်စကားကို မိမိကိုယ်တိုင် နားမလည်သူဖြစ်သည်။ ယခုဤအကြောင်းပြောဆိုမှုကို ကျွန်ုပ်တို့ ဖက်သတ်ရတော့မည်။ ဤအကြောင်းအရာသည် ကျွန်ုပ်တို့ ဦးတည်ဖော်ပြသည့်အကြောင်းအရာ၏အနောက်မှာဖြစ်သည်။ ကျွန်ုပ်တို့ ဦးတည်ဖော်ပြနေသည်မှာ ဤနှလုံးသားတည်းဟူသော အမြဲတေသည် အလ္လာဟ်အရှင်နှင့် နီးကပ်မှုရရန်အတွက် ကြိုးပမ်းလျှောက်လှမ်းသောအရာဖြစ်သည်။

ရူဟ်သည် အလ္လာဟ်အရှင်၏အမိန့်ပြဋ္ဌာန်းမှုမှဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်သည် ရူဟ်၏ပေါ်ထွက်ရာဌာနဖြစ်သည်။ ထို့ပြင် ထိုရူဟ် ပြန်သွားရမည့်ဌာနသည် ထိုအရှင့်ထံသို့သာဖြစ်သည်။ ခန္ဓာကိုယ်သည် ထိုရူဟ်၏အစီးအနင်းမျှသာဖြစ်သည်။ ရူဟ်သည် ခန္ဓာကိုယ်ကို ကြားခံပြု၍ လျှောက်လှမ်းနေခြင်းမျှသာဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင့်ထံသွားရာလမ်းတွင် ရူဟ်အတွက် ခန္ဓာကိုယ်၏ဥပမာသည် ဟဂ်ျခရီးတွင် ခန္ဓာကိုယ်ကို သယ်ဆောင်ရသည့် ကုလားအုတ်ကဲ့သို့ဖြစ်သည်။ သို့မဟုတ် ရေဖြည့်ထားသောရေအိတ်သဖွယ်လည်းဖြစ်သည်။ ခန္ဓာကိုယ်သည်

လမ်းခရီးတွင် ထိုရေအိတ်ကို လိုအပ်သည်။ အချုပ်မှာ ခန္ဓာကိုယ်၏ကောင်းကျိုးကောင်းရာကို ရည်ရွယ်သော ပညာအားလုံးသည် အစီးအနင်းကပေးသော အကျိုးပြုမှုအမျိုးအစားတွင် အကျုံးဝင်လေသည်။

ဆေးပညာသည် ခန္ဓာကိုယ် ကောင်းမွန်စွာရှိရေးကို ရည်ရွယ်ကြောင်း ရှင်းနေပေသည်။ ခန္ဓာကိုယ် ထိန်းသိမ်းရန်အတွက် ဤပညာကို လိုအပ်ပေသည်။ အကယ်၍ ကမ္ဘာလောကတွင် လူသားဟူ၍ တစ်ဦးတည်းသာရှိနေမည်ဆိုလျှင်လည်း ဤပညာကို လိုအပ်သည်။ ဆေးပညာနှင့်မတူသည့်အချက်မှာ ဖိကဟ်ပညာသည် ကမ္ဘာလောကတွင် လူသားဟူ၍ တစ်ဦးတည်းရှိခဲ့မည်ဆိုလျှင် ဤပညာကို လိုအပ်လိမ့်မည်မဟုတ်ပေ။ သို့သော် လူသားကို ဖန်ဆင်းရာ၌ တစ်ဦးတည်း ရှင်သန်နေထိုင်ရန် မဖြစ်နိုင်သောအနေအထားဖြင့် ဖန်ဆင်းထားခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူသားသည် မိမိ၏အစားအသောက်အတွက် ထွန်ယက်စိုက်ပျိုးခြင်းနှင့်ကျိတ်ခွဲချက်ပြုတ်ခြင်းလုပ်ငန်းများကိုငှင်း၊ အဝတ်အထည်နှင့်နေအိမ်အဆောက်အဦများ ရရှိရေးကိုငှင်း တစ်ဦးတည်း မလုပ်နိုင်သောကြောင့်ဖြစ်သည်။ ထိုလုပ်ငန်းအားလုံးအတွက် လိုအပ်သောလက်နက်ကိရိယာများကို တစ်ဦးတည်း ပြုလုပ်ရန် မည်သို့မှမဖြစ်နိုင်ချေ။ ဤအရာများကို လုပ်ဆောင်ရန်အတွက် အခြားသူများနှင့်ပူးပေါင်းခြင်း၊ အခြားသူများထံမှ အကူအညီရယူခြင်းများ မလွဲမသွေလိုအပ်လေသည်။

လူသားတို့ တစ်ဦးနှင့်တစ်ဦး ရောနှောပေါင်းသင်းခြင်း၊ ၎င်းတို့တွင် အလိုဆန္ဒများ ကြီးထွားလာခြင်းများက ပဋိပက္ခနှင့် တိုက်ခိုက်သတ်ဖြတ်မှုများကို ဖြစ်ပေါ်စေသည်။ တိုက်ခိုက်မှုများက လူသားကို ပျက်သုဉ်းစေသည်။ ဤသည်မှာ အပြင်ဘက်တွင် ဖြစ်ပွါးနေသောပဋိပက္ခနှင့်တိုက်ခိုက်သတ်ဖြတ်မှုများ၏ အကျိုးဆက်ရလဒ်ဖြစ်သည်။ ဤနည်းအတိုင်းပင် လူသားအတွင်း၌လည်း ဓါတ်သဘာဝများ၏ပဋိပက္ခများရှိနေသည်။ လူသား၏အတွင်းမှ ထိုဓါတ်သဘာဝများ၏ပဋိပက္ခကို ညီညွတ်မျှတအောင် ဆေးပညာဖြင့် ထိန်းသိမ်းရသည်။ လူ့ပတ်ဝန်းကျင်တွင် ဖြစ်ပွါးနေသော ပဋိပက္ခများကို စီမံအုပ်ချုပ်ခြင်း၊ တရားမျှတခြင်းတို့ဖြင့် ညီညွတ်မျှတအောင် ထိန်းသိမ်းရသည်။

ဓါတ်သဘာဝများကို ညီညွတ်မျှတအောင် ထိန်းသိမ်းမှုနည်းလမ်းသည် ဆေးပညာဖြစ်သည်။ လူတို့၏လူမှုဆက်ဆံရေးအခြေအနေများကို ညီညွတ်မျှတအောင် ထိန်းသိမ်းမှုနည်းလမ်းသည် ဖိကဟ်ပညာဖြစ်သည်။ ဤပညာနှစ်ခုစလုံးသည် ခန္ဓာကိုယ်ကို ထိမ်းသိမ်းစောင့်ရှောက်ရန်အတွက်ဖြစ်သည်။ ထိုခန္ဓာကိုယ်သည် နှလုံးသား၏ယာဉ်ဖြစ်သည်။ သို့ရှိရာ အကြင်သူသည် မိမိ၏နဖ်စ်အတွက်လည်း ဖွဲ့ခတ်ကြိုးပမ်းခြင်းမပြု၊ မိမိ၏နှလုံးသားကိုလည်း ပြုပြင်ခြင်း မပြုဘဲ၊ ဖိကဟ်ပညာ သို့မဟုတ် ဆေးပညာကိုသာ လိုက်စားမည်ဆိုလျှင်၊ ထိုသည် ဟဂ်ျခရီးကို ထွက်ခွါသွားလာခြင်းမပြုဘဲ၊ ကုလားအုတ်ကို ဝယ်ပြီး အစားအ[illegible] ရေဖြည့်နေသူနှင့်အလားတူပေသည်။ ဖိကဟ်ကို ဆွေးနွေးငြင်းခုံရာတွင် တွေ့ကြုံရသည့်ခက်ခဲစ[illegible] မြုတ်နေသူ၏ဥပမာသည် ဟဂ်ျအတွက် ကြိုတင်ပြင်ဆင်မှုအဖြစ် ရေအိတ်ကို ဖာထေးချုပ်လုပ်ရင်း ဘဝသက်တမ်းကုန်ဆုံးနစ်မြုတ်နေသူနှင့် အလားတူလေသည်။ ဤသို့သောဖိကဟ်ပညာရှင်များနှင့် နှလုံးသားပြုပြင်မှု၊ တစ်နည်းမုကာရှိဖတ်ပညာလမ်းသို့ လျှောက်လှမ်းသူများ၏ကွာခြားပုံမှာ ဟဂ်ျခရီးကို သွားလာနေသူနှင့် ဟဂ်ျအတွက်ပြင်ဆင်နေသူတို့ နှစ်ဦး၏ကွာခြားပုံကဲ့သို့ဖြစ်သည်။

ဤသာဓကပြဆိုမှုကို ပထမစဉ်းစားပါ။ ထို့နောက် အသင်တို့ထံမှ အဖိုးအခမတောင်းခံသူ၏မေတ္တာရိ သွန်သင်ဆုံးမမှုကို လက်ခံပါ။ ထိုသူသည် ဤဆုံးမသွန်သင်မှုအပေါ်တွင် အများဆုံးရပ်တည်နေသူဖြစ်သည်။ ဤအရာကို ပြင်းထန်စွာကြိုးပမ်းမှုမရှိဘဲ မရနိုင်ပါ။ ထို့ပြင် လူတကာ၏နောက် မိမိ၏စိတ်ဆန္ဒသက်သက်ဖြင့် မလိုက်ဘဲ၊ ၎င်းတို့မှ လမ်းခွဲရန် ပြတ်သားရဲရင့်ခြင်းမရှိဘဲနှင့်လည်း မဖြစ်နိုင်ပါ။

ယခုဖေါ်ပြခဲ့သမျှသော ဝတ္တရားများဖြင့် ပညာရှာသူအတွက် လုံလောက်မှုရှိပြီဖြစ်သည်။

## သင်ပြသူဆရာ၏ဝတ္တရားများအကြောင်း

ပညာနှင့်စပ်လာလျှင် လူသားသည် အခြေအနေလေးမျိုးရှိကြောင်း သိထားရမည်။ ပစ္စည်းဥစ္စာကို ရှာဖွေရာ၌လည်း ဤအခြေအနေမျိုးပင်ရှိ၏။ ပစ္စည်းဥစ္စာရှင်၏ပထမအခြေအနေသည် ပစ္စည်းဥစ္စာကို ရှာဖွေခြင်းဖြစ်သည်။ ထိုအခြေအနေတွင် ၎င်းကို ရှာဖွေသူဟု ခေါ်သည်။ ရှာဖွေသူ၏ဒုတိယအခြေအနေမှာ စုဆောင်းမိလာခြင်းဖြစ်သည်။ ထိုအခြေအနေတွင် သူသည် ပစ္စည်းရှင်ဖြစ်လာသည်။ သူသည် အခြားသူထံမှ တောင်းရမ်းရန် မလိုတော့ချေ။ ထို့နောက် တတိယအခြေအနေမှာ ပစ္စည်းဥစ္စာကို မိမိအတွက်သုံးစွဲခြင်းဖြစ်သည်။ ထိုအခြေအနေတွင် သူသည် အကျိုးခံစားသူဖြစ်သည်။ ထို့နောက် စတုတ္ထအခြေအနေမှာ ပစ္စည်းဥစ္စာကို အခြားသူအတွက် ပေးကမ်းသုံးစွဲခြင်းဖြစ်သည်။ စတုတ္ထအခြေအနေတွင် သူသည် ရက်ရောသူဖြစ်သည်။ ဤအခြေအနေတွင် သူ့ကို လူကောင်းသူကောင်းဟု သတ်မှတ်ကြရသည်။ ဤအခြေအနေသည် အခြေအနေအားလုံးတွင် အမြတ်ဆုံးဖြစ်သည်။ ပညာသည်လည်း ဤအတိုင်းပင်ဖြစ်သည်။

ဥစ္စာရှာသလိုပင် ပညာကို ရှာရသည်။ ထိုအခြေအနေသည် ပညာသင်ယူသူအဖို့ လိုလားရှာဖွေရသည့်အချိန်ကာလဖြစ်သည်။ ထို့နောက် ဒုတိယမှာ ပညာတတ်မြောက်ပြီးနောက် မေးမြန်းရန် မလိုတော့သည့်ကာလဖြစ်သည်။ ထို့နောက် တတိယမှာ မိမိသင်ယူတတ်မြောက်ထားသည့်ပညာအပေါ် သုံးသပ်စဉ်းစားပြီး အကျိုးခံစားသည့်အချိန်အခါဖြစ်သည်။ ထို့နောက်စတုတ္ထအခြေအနေမှာ မိမိ၏ပညာဖြင့် အခြားသူများကို အကျိုးဖြစ်ထွန်းစေသည့်အချိန်အခါဖြစ်သည်။ ထိုအချိန်အခါသည် အခြားအချိန်အခါများ အားလုံးတွင် အမြတ်ဆုံးပင်ဖြစ်သည်။ အကြောင်းမှာ ပညာကို သင်ယူပြီးနောက် မိမိကိုယ်တိုင် ထိုပညာအတိုင်း ကျင့်သုံးသူ၊ အခြားသူများကိုလည်း ပြန်လည်သင်ပြပေးသူအား မိုးကောင်းကင်ရှိ ကောင်းကင်တမန်များက 'ကြီးမြတ်သောပုဂ္ဂိုလ်'ဟု ခေါ်ကြသည်။ ထိုသူ၏ပမာသည် နေမင်းကဲ့သို့ဖြစ်သည်။ နေမင်းသည် အခြားသူများကို အလင်းပေးပြီး မိမိကိုယ်တိုင်လည်း လင်းဝင်းသူဖြစ်သည်။ ထို့ပြင် ထိုသူ၏ဥပမာသည် ကတိုးကဲ့သို့ဖြစ်သည်။ ကတိုးသည် အခြားသူများကို မွှေးရနံ့ပေးပြီး ကိုယ်တိုင်ကလည်း မွှေးကြိုင်သည့်အရာဖြစ်သည်။

အခြားသူများကို သင်ပေးပြီး မိမိကိုယ်တိုင်ကျင့်သုံးမှုမရှိသူ၏ပမာသည် ဗလာစာအုပ်ကဲ့သို့ဖြစ်သည်။ ဗလာစာအုပ်သည် အခြားသူများကို အကျိုးပြုပြီး မိမိကိုယ်တိုင်ကမူ ပညာမှ ဗလာဖြစ်နေသည်။ ထို့ပြင် ၎င်းသူ၏ဥပမာသည် ဓါးသွေးကျောက်ကဲ့သို့ဖြစ်သည်။ ဓါးသွေးကျောက်သည် သံကို ချွန်ထက်စေသော်လည်း မိမိကိုယ်တိုင်မူ ချွန်ထက်ခြင်း မရှိပေ။ ထို့ပြင် ၎င်းသည် အဝတ်ချုပ်သော အပ်ကဲ့သို့ဖြစ်သည်။ ချုပ်အပ်သည် အခြားသူများအတွက် အဝတ်အထည်များ ချုပ်ပေးနေသော်လည်း မိမိက ကိုယ်လုံးတီးဖြစ်သည်။ ထို့ပြင် ၎င်း၏ပမာသည် မီးအိမ်၏မီးစာကဲ့သို့ဖြစ်သည်။ မီးစာသည် အခြားအရာများကို အလင်းရောင်ပေးပြီး မိမိကိုယ်တိုင် လောင်ကျွမ်းရသည်။ ဤမီးစာ၏ဖြစ်အင်ကို စပ်ဆိုထားသည်မှာ–

مـا هـو إلا ذبـالـة وقـدت تـضـيء للنـاس وهـي تـحـتـرق

လူသားသည် သင်ကြားပို့ချခြင်းတည်းဟူသော ကြီးကျယ်လှသည့်အရေးကိစ္စကို ဆောင်ရွက်ပြီဆိုသောအခါ ၎င်းအပေါ် တာဝန်သည် ထုနှင့်ထည်နှင့် ရှိလာပေသည်။ သို့နှင့်အမျှ ၎င်းသည် မိမိ၏တာဝန်ဝတ္တရားများကို သတိချပ်ထိမ်းသိမ်းအပ်လှပေသည်။

**ပထမဝတ္တရား–** တပည့်များအပေါ် မေတ္တာထားရမည်။ ၎င်းတို့ကို မိမိ၏သားသမီးသဖွယ် သဘောထားရ

မည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

إنما أنا لكم مثل الوالد لولده . (د.س.ق.حب)

'ငါသည် အသင်တို့အတွက် ဖခင်က သားသမီးအပေါ် တာဝန်ရှိသကဲ့သို့ ရှိသည်။'

ဆိုလိုသည်မှာ မိဘနှစ်ပါးက မိမိတို့သားသမီးကို ဒွန္နယာ၏မီးမှ ကာကွယ်စောင့်ရှောက်ရန် အရေးတကြီးသဘောထားသည်ထက် ပို၍ ဆရာသည် မိမိ၏တပည့်များကို အာခိရတ်၏မီးမှ ကာကွယ်စောင့်ရှောက်ရန် အရေးတကြီးသဘောထားရမည်။ သို့နှင့် ဆရာ၏တာဝန်သည် မိဘ၏တာဝန်ထက်ပို၍ ကြီးမားသည်။ အဘယ်ကြောင့်ဆိုသော် မိဘသည် သားသမီး၏မျက်မှောက်ဘဝနှင့် မတည်မြဲသောသက်တမ်းအတွက် အကြောင်းခံဖြစ်သည်။ ဆရာသည် ထာဝရသက်တမ်း၏အကြောင်းခံဖြစ်သည်။ အကယ်၍ ဆရာသာ မရှိခဲ့လျှင် ဖခင်ဆီမှ ရရှိထားသောဘဝသက်တမ်းသည် ပျက်စီးမှုသို့ ဆိုက်မည်ဖြစ်သည်။ ဆရာကို အကြောင်းပြု၍သာ အမြဲထာဝရနေရမည့်အာခိရတ်သက်တမ်းတွင် အကျိုးခံစားရခြင်းဖြစ်သည်။ ဤနေရာ၌ 'ဆရာ'ဆိုသည်မှာ အာခိရတ်ပညာများကို သင်ပေးသူ၊ သို့မဟုတ် ဒွန္နယာ့ပညာရပ်များကို အာခိရတ်ရေးရည်မှန်းချက်ဖြင့် သင်ပေးသူကို ကျွန်ုပ်ဆိုလိုခြင်းဖြစ်သည်။ ဒွန္နယာရေးရည်မှန်းချက်ဖြင့် သင်ပေးသူကို မဆိုလိုပေ။ ဒွန္နယာရေးရည်မှန်းချက်ဖြင့် သင်ပေးမည်ဆိုလျှင်ကား သူသည် ကိုယ်တိုင်ပျက်စီးပြီး သူ့ကြောင့် အခြားသူများလည်းပျက်စီးရမည်။ *ကျွန်ုပ်တို့သည် ဤအဖြစ်မှ အလ္လာဟ်အရှင့်ထံတွင် ခိုလှုံကြပါ၏။*

ဖခင်တစ်ဦးတည်းက မွေးထားသောသားများသည် တစ်ဦးနှင့်တစ်ဦး ချစ်ခင်ပြီး ရည်မှန်းချက်များတွင် တစ်ဦးကို တစ်ဦးက ကူညီရိုင်းပင်းကြသကဲ့သို့၊ ဆရာတစ်ဦးတည်း၏တပည့်များသည်လည်း တစ်ဦးကို တစ်ဦး ချစ်ခင်စည်းလုံးကြရန် ထိုက်ပေသည်။ ၎င်းတို့၏ရည်ရွယ်ချက်သည် အာခိရတ်ရေးဖြစ်မည်ဆိုလျှင် ထိုအတိုင်းသာရှိရမည်။ ထိုသို့မဟုတ်ဘဲ ၎င်းတို့၏ရည်ရွယ်ချက်သည် ဒွန္နယာဖြစ်မည်ဆိုလျှင်၊ ၎င်းတို့သည် တစ်ဦးနှင့်တစ်ဦး အာဃာတထားကြလိမ့်မည်။ တစ်ဦးနှင့်တစ်ဦး အမုန်းပွါးကြလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ပညာရှင်များနှင့် အာခိရတ်၏ဘက်သားများသည် အလ္လာဟ်အရှင့်ထံသို့ သွားနေသော ခရီးသည်များဖြစ်သည်။ ၎င်းတို့သည် ဒွန္နယာမှ လျှောက်လှမ်းသွားနေကြခြင်းဖြစ်သည်။ ၎င်းတို့၏နှစ်များနှင့် လများသည် ထိုခရီး၏စခန်းများပင်ဖြစ်သည်။

ခရီးသည်များသည် တစ်မြို့မှတစ်မြို့သွားလာရင်း လမ်း၌ဆုံတွေ့ကြသော ခရီးဖော်များနှင့် ခင်မင်ရင်းနှီးမှု၏အကြောင်းခံဖြစ်ရသည်။ အဆင့်အမြင့်ဆုံးဖြစ်သော*ဂျန္နတ်ဖိရ်ဒေါက်စ်*ဆီသို့ နှင်နေသောခရီးတွင် ခရီးဖော်များအချင်းချင်း ခင်မင်ရင်းနှီးမှုအဘယ်ကြောင့် မရှိရမလဲ။ အာခိရတ်၏ချမ်းသာသုခသည် ကျဉ်းမြောင်းခြင်းမရှိပေ။ သို့ဖြစ်ရာ အာခိရတ်၏ဘက်သားများတွင် ပြဿနာဖြစ်ရန်အကြောင်းမရှိပေ။ တဖန် ဒွန္နယာ၏ချမ်းသာသုခမှာ ကျယ်ဝန်းခြင်းမရှိပေ။ ထိုအတွက်ကြောင့် အနည်းငယ်သောဝေစုအတွက် လူတို့သည် အမြဲပင်ပြဿနာဖြင့် ရှိနေကြရသည်။ မိမိတို့တတ်မြောက်ထားသောပညာကို အကြောင်းပြုပြီး အကြီးအမှူးဖြစ်ရန် အလိုထားသူတို့ကား အလ္လာဟ်အရှင်၏–

﴿اَلْاَخِلَّاءُ يَوْمَئِذٍ بَعْضُهُمْ لِبَعْضٍ عَدُوٌّ إِلَّا الْمُتَّقِيْنَ﴾

**'ထိုနေ့တွင် မုတ္တာကီများမှလွဲ၍ မိတ်ဆွေရင်းခြာများသည် တစ်ဦးနှင့်တစ်ဦး ရန်သူဖြစ်ကြလိမ့်မည်။'**

**(စူရာဇုခ်ရုဖ် ၊၆၇)**

ဟူသောအမိန့်တော်တွင် အပါအဝင်ဖြစ်ကြသည်။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မိန့်တော်မူသည့်–

﴿إِنَّمَا الْمُؤْمِنُوْنَ إِخْوَةٌ﴾

**'မုချကေ် အီမာန်ရှင်များသည် ညီနောင်များဖြစ်ကြ၏။'** (စူရာဟုဂျုရာတ် ၊၁၀)

ဟူသောအမိန့်တော်မှ အပြင်သို့ လွတ်ထွက်သွားသူများဖြစ်ကြမည်။

**ဒုတိယဝတ္တရား–** သင်ကြားပို့ချရာ၌ တရားရှင်ဖြစ်သော တမန်တော်မြတ်ﷺနောက်ကို လိုက်ရန်ဖြစ်သည်။

ဆိုလိုသည်မှာ သင်ကြားပို့ချမှုအပေါ်မှ အဖိုးအခ လိုလားခြင်းမပြုရန်ဖြစ်သည်။ မည်သို့သော တုန့်ပြန်ပေးကမ်းမှုကိုမှ အလိုမထားရန်ဖြစ်သည်။ ကျေးဇူးတင်ခြင်းကိုပင် မမျှော်မှန်းရန်ဖြစ်သည်။ ထိုအစား အလ္လာဟ်အရှင်၏ကျေနပ်မှုရရှိရန်၊ အလ္လာဟ်အရှင့်ဘက်သို့ နီးကပ်ရန်ရည်ရွယ်ချက်ဖြင့် သင်ကြားပို့ချရမည်။ တပည့်များကို မိမိက ကျေးဇူးပြုနေသည်ဟု မမြင်ရ။ ၎င်းတို့အပေါ်တွင် ကျေးဇူးရှိသည်မှန်သော်လည်း၊ ထိုတပည့်များကိုအကြောင်းပြုပြီး မိမိသည် မြတ်သောဆုလာဘ်ကို ရရှိသည်ဟု ရှုမြင်ရမည်။

တပည့်များက ၎င်းတို့၏နှလုံးသားများကို ပြုစုပျိုးထောင်ရန် မိမိအား အပ်နှံထားသည့်အပေါ်မှာ၊ အလ္လာဟ်အရှင်နှင့်နီးကပ်မှုအတွက် မိမိက ထိုနှလုံးသားများတွင် ပညာမျိုးစေ့ကို ချနေခြင်းဖြစ်သည်။ တစ်ဦးတစ်ယောက်က ၎င်း၏မြေကွက်ကို အသင့်အား စိုက်ပျိုးလုပ်ကိုင်ရန် ငှါးရမ်းခဲ့ရာ၊ အသင်သည် ထိုမြေဖြင့် သီးနှံစိုက်ပျိုး၍ အကျိုးဖြစ်ထွန်းခဲ့သည်။ သို့ဖြစ်ရာ အကျိုးခံစားရမှုတွင် မြေပိုင်ရှင်ထက် အသင်က ပိုသည်။ ဤနည်းအလားတူ ပညာသင်ကြားပို့ချရာတွင် ဆရာ၏စွဝါဗ်သည် အလ္လာဟ်အရှင့်ထံတွင် တပည့်၏စွဝါဗ်ထက် ပိုမည်ဖြစ်သည်။ သို့နှင့်အမျှ ဆရာက တပည့်အပေါ် ကျေးဇူးအဘယ်သို့ ရှိရသနည်း။ အကယ်၍ တပည့်သာ မရှိလျှင် ဆရာသည် ထိုစွဝါဗ်ကို အဘယ်မှ ရမည်နည်း။ သို့ဖြစ်ရာ အလ္လာဟ်အရှင့်ထံကလွဲ၍ မည်သူ့ထံကမှ အဖိုးအခ အစားပေးမှုကို မတောင်းခံအပ်ပါချေ။ အလ္လာဟ်အရှင် မိန့်ပြထားသည်မှာ–

﴿وَيَا قَوْمِ لاَ أَسْأَلُكُمْ عَلَيْهِ مَالًا إِنْ أَجْرِيَ إِلاَّ عَلَى اللهِ﴾

**'အို ငါ၏အမျိုးသားတို့၊ ငါသည် ဤသို့ဟောပြောသွန်သင်သည့်အပေါ်မှာ အသင်တို့ထံမှ ပစ္စည်းဥစ္စာ မတောင်းခံပေ။ ငါ့အတွက်အဖိုးအခသည် အလ္လာဟ်အရှင့်ထံမှာသာဖြစ်၏။'** (ဟူဒ် ၊ ၂၉)

သင်ကြားပို့ချခြင်းအတွက် အဖိုးအခ မယူရခြင်းအကြောင်းမှာ ပစ္စည်းဥစ္စာနှင့် ဒွန္နယာတွင် ရှိနေသောအရာများသည် ခန္ဓာကိုယ်၏အသုံးတော်ခံဖြစ်သည်။ ခန္ဓာကိုယ်သည် နဖ်စ်စေတသိတ်၏အစီးအနင်းယာဉ်ဖြစ်သည်။ ပညာကသာလျှင် အရှိအသေပြုအပ်သောအရာဖြစ်သည်။ ထိုစေတသိတ်၏မြတ်ခြင်းသည် ပညာကြောင့်ဖြစ်သည်။ ပညာမှ တုန့်ပြန်အစား ယူလိုသူ၏ဥပမာသည် ဖိနပ်တွင် ပေနေသည့် အညစ်အကြေးကို ပြောင်စင်ရန် မျက်နှာဖြင့် ပွတ်တိုက်သူနှင့်တူပေသည်။ ဤပုံစံတွင် အရှိအသေခံအပ်သူက အရှိအသေပြုသူဖြစ်၍ အရှိအသေပြုသူက အရှိအသေအပြုခံဖြစ်သွားသည်။ အလွန်ပင် ကမောက်ကမနိုင်လှသောအဖြစ်ပင်တည်း။ ပညာမှ တုန့်ပြန်အစားယူရန် အလိုထားသူသည် ကိယာမတ်နေ့ အလ္လာဟ်အရှင်၏ရှေ့တော်တွင် ရာဇဝတ်သားများတွင်အတူ အရှက်ကြီးစွာရလျက် ထရမည်။

အချုပ်ဆိုရသော် ဆရာ၏မြင့်မြတ်မှုနှင့် ကျေးဇူးရှိမှုအားလုံးသည် တပည့်ကို အကြောင်းခံ၍သာဖြစ်ရသည်။ ယခု မိမိတို့၏ရည်ရွယ်ချက်သည် အလ္လာဟ်အရှင်နှင့်နီးကပ်ရန်ဖြစ်သည်ဟု ပြောဆိုသူ၊ ဖိကဟ်ပညာရှင်နှင့်ကလာမ်ပညာတွင်ရှိနေသူများ၏အဖြစ်ကို ကြည့်ပါ။ ၎င်းတို့သည် ဤပညာများကို သင်ယူရာ၌ ပစ္စည်းဥစ္စာများသုံးစွဲခဲ့ကြရသည်။ တဖန် အာဏာပိုင်များထံ ခစားရာတွင် အမျိုးမျိုးသော သေးသိမ်မှုများ ကြုံတွေ့ခံစားကြရသည်။ အကယ်၍ ၎င်းတို့က ထိုသို့မှ ခယဝယမလုပ်လျှင် ၎င်းတို့သည် စွန့်ပစ်ခြင်းခံရမည်ဖြစ်သည်။ ၎င်းတို့ဘက်သို့ မည်သူမှ လှည့်ကြတော့မည်မဟုတ်ပေ။

တဖန် ဆရာသည် တပည့်ကို အရေးရှိသ၍ မိမိနှင့်အတူရပ်တည်ရန် မျှော်လင့်သည်။ ထို့ပြင် မိမိလိုလားသူကို ကူညီ၍ မိမိမလိုလားသူကို ရန်လုပ်စေချင်သည်။ မိမိ၏ဒွန္နယာရေးလိုအပ်ချက်များကို ဖြည့်ဆည်းစေချင်သည်။ မိမိ၏အလိုဆန္ဒတိုင်းတွင် ဩဇာခံစေချင်သည်။ တကယ်၍ တပည့်က မိမိအပေါ် အနည်းငယ်ဝတ္တရားပျက်ကွက်ခဲ့လျှင် ဆရာသည် ထိုတပည့်ကို အကြီးအကျယ်ရန်လုပ်လေတော့သည်။ ဤမျှအထိ ပညာရှင်သည် နိမ့်ကျသိမ်ဖျင်းသွားသည်။ ထို့ပြင် ၎င်းသည် ထိုအတန်းအစားတွင် ကျေနပ်ပျော်မွေ့လျက်ရှိသည်။ သို့နှင့်ပင် ၎င်းက အရှက်မဲ့စွာ–

'ကျွန်ုပ် ယခုလိုသင်ကြားပို့ချနေသည့်ရည်ရွယ်ချက်သည် ပညာကို ဖြန့်ချိရန်ဖြစ်သည်၊ အလ္လာဟ်အရှင်နှင့်နီးကပ်ရန်ဖြစ်သည်၊ အလ္လာဟ်အရှင်၏သာသနာကို ကူညီရန်ဖြစ်သည်'ဟု ပြောဆိုပေးသည်။

**တတိယဝတ္တရား–** တပည့်ကို ဆုံးမပဲ့ပြင်ရာတွင် အကျိုးရှိရာရှိကြောင်းများကို ချန်လှပ်ထားခြင်းမပြုရပေ။ တပည့်သည် မိမိနှင့်ထိုက်တန်မှု မရှိသေးခင် အဆင့်မြင့်တက်လှမ်းလျှင်၎င်း၊ ရှင်းလင်းပေါ်လွင်သော ဗဟိဒ္ဓပညာကို မရရှိသေးခင် တိမ်မြုတ်ဖုံးကွယ်သောအဇ္ဈတ္တပညာကို လိုက်စားလျှင်၎င်း တားမြစ်ရမည်။ ထို့ပြင် တပည့်ဖြစ်သူအား ဤပညာရပ်များကို သင်ယူခြင်း၏ရည်ရွယ်ချက်သည် အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်မှုရရန်ဖြစ်ပြီး သြဇာအာဏာ၊ ပစ္စည်းဥစ္စာနှင့်မောက်မာပလွှားရန်အတွက်မဟုတ်ကြောင်း သတိပေးရမည်။ ထိုအရာများ၏မကောင်းခြင်းကို တပည့်ဖြစ်သူ၏စိတ်တွင်း စွဲမြဲနိုင်သမျှစွဲမြဲစေရန် ဆုံးမသွန်သင်ရမည်။ အဘယ်ကြောင့်ဆိုသော် အကျင့်ပျက်ပညာရှင်ထံမှ ထွက်ပေါ်သော ဖျက်စီးမှုသည် သူ့ထံမှ အကျိုးပြုမှုထက်ပို၍ များပြားသည်။

သို့နှင့်အမျှ တပည့်သည် အတွင်းကျိတ်အားဖြင့် ဒွန်ယာအတွက် ပညာသင်ယူနေခြင်းဖြစ်ကြောင်း သိရလျှင်၊ ဆရာသည် ၎င်းသင်ယူနေသောပညာကို ကြည့်ရမည်။ အကယ်၍ တပည့်သင်ယူနေသောပညာသည် ဖိကဟ်၏အကွဲအလွဲကိစ္စများ၊ ကလာမ်ပညာ၏အငြင်းအခုံကိစ္စများ၊ ဖတ္တဝါဓမ္မသတ်ဆိုင်ရာ အတိုက်အခံကိစ္စများဖြစ်နေလျှင်၊ ဤပညာများသည် အာခိရတ်ပညာများမဟုတ်ကြောင်း ရှင်းပြတားမြစ်ရမည်။ 'ငါတို့သည် အလ္လာဟ်အရှင့်အတွက်မဟုတ်ဘဲ အခြားအရာများအတွက် ပညာကို သင်ယူခဲ့ကြသည်။ သို့သော် ပညာက အလ္လာဟ်အရှင်မှတပါး အခြားအရာအတွက် မဖြစ်ရန် ငြင်းဆန်ခဲ့သည်'ဟူသော အဆိုအမိန့်ကို သာဓကဆောင်ရမည်။

အကယ်၍ တပည့်ဖြစ်သူ ဒွန်ယာအတွက် သင်ယူနေသောပညာများသည် တဖ်စီရ်ပညာနှင့် ဟဒီစ်ပညာများဖြစ်နေမည်၊ သို့မဟုတ် အာခိရတ်ပညာထဲမှ အာဒိပုဂ္ဂိုလ်များ နှစ်ခြိုက်လိုက်စားခဲ့သည့် စေတသိတ်၏အကျင့်အကြံများကို သိကျွမ်းမှု၊ ထိုအကျင့်အကြံများကို ပြုစုပျိုးထောင်နည်းနှင့်သက်ဆိုင်ရာပညာဖြစ်နေမည်ဆိုလျှင် ဆရာသည် တားဆီးပိတ်ပင်ရန် မလိုအပ်ပေ။ အဘယ်ကြောင့်ဆိုသော် တပည့်သည် တရားဟောရန်နှင့် လူတို့အား စည်းရုံးဆွဲဆောင်ရန်အတွက် ပညာကို အာသာငမ်းငမ်းဆည်းပူးရင်း အရည်အချင်းရရှိလာမည်ဖြစ်သောကြောင့်ဖြစ်သည်။ ထိုသို့ သင်ယူဆည်းပူးနေစဉ်မှာဖြစ်စေ၊ သင်ယူပြီးနောက်မှာပင်ဖြစ်စေ အလ္လာဟ်အရှင်အား ကြောက်ရွံ့ခန့်ငြားစေမည့် အသိတရားများ၊ ဒွန်ယာ၏သေးသိမ်မှုနှင့် အာခိရတ်၏ကြီးကျယ်မှုကို သိမြင်စေမည့်အသိတရားများကို သတိမူမိလာမည်။ နောက်ဆုံးတွင် ထိုအရာများက ပညာသင်ယူနေသူကို မှန်မှန်ကန်ကန်ဖြစ်လာစေမည်ဟု မျှော်လင့်ချက်ရှိသည်။ အခြားသူများကို ဟောပြောဆုံးမရင်း မိမိကိုယ်တိုင်လည်း ကျင့်သုံးဖြစ်လာမည်ဟု မျှော်လင့်ချက်ရှိသည်။

လူတို့က မိမိကို ကြည်ညိုလေးစားရန်နှင့် ထင်ပေါ်ကျော်ကြားရန် ပညာသင်ယူဆည်းပူးခြင်းဆိုသောကိစ္စရပ်သည် ငှက်ကို ထောင်ဖမ်းရန် ထောင်ချောက်၏ဘေးပတ်လည်တွင် ဖြန့်ကျဲထားသောသစ်စေ့များသဖွယ်ဖြစ်သည်။ အလ္လာဟ်အရှင်သည် လူသားတို့၏မျိုးဆက်တည်မြဲမှုအတွက် လူသားတွင် တဏှာပေမကို ဖြစ်ပေါ်စေတော်မူသည်။ ဤနည်းအလားတူ အလ္လာဟ်အရှင်သည် ပညာရပ်များ ရှင်သန်အစွန့်ရှည်ရန်အတွက် လူထုလက်ခံရန်နှင့်ကြီးကျယ်ကျော်ဇောရန် လိုလားစိတ်ကို အကြောင်းခံအဖြစ် ဖန်ဆင်းထားတော်မူသည်။ သို့ဖြစ်ရာ တဖ်စီရ်ပညာ အစရှိသည့် ပညာရပ်များတွင် ပညာသင်ယူနေသူကို မှန်မှန်ကန်ကန်ဖြစ်စေမည်ဟူသော အဆိုပါမျှော်လင့်ချက် ရှိနေလေသည်။

လူသားသည် အခြားပညာရပ်များကို ဥပက္ခာပြုပြီး သက်သက် အကွဲအလွဲကိစ္စများ၊ ကလာမ်ပညာ၏အငြင်းအခုံများ၊ ရှားရှားပါးပါးအဆွယ်အပွါးကိစ္စများကို သိကျွမ်းရန် တစ်ဘက်သတ်လိုက်နေမည်ဆိုလျှင်ကား နှလုံးသား မာကျောရန်သာရှိသည်။ ထိုသူအဖို့ အလ္လာဟ်အရှင်ကို မေ့လျော့ပြီး လမ်းမှားမှုနှင့် ကြီးကျယ်ကျော်ဇောလိုမှုများ တိုးပွါးများပြားရန်သာရှိသည်။ ဤအဖြစ်များမှ ကင်းရန်မှာ အလ္လာဟ်အရှင်က မိမိ၏အသနားတော်ဖြင့် ကာကွယ်ထိန်း

သိမ်းမှသာဖြစ်နိုင်သည်။ သို့မဟုတ် အခြားသာသနာ့ပညာရပ်များနှင့် ပေါင်းစပ်သင်ယူခြင်းဖြင့်သာဖြစ်နိုင်သည်။ ဤအချက်ကို အထောက်အထားအရ မဟုတ်ဘဲ အတွေ့အကြုံနှင့် အတွေ့အမြင်အရ သိရခြင်းဖြစ်သည်။ သို့ဖြစ်ရာ ညီနောင်၊ ကြည့်ရှုပါ၊ သံဝေဂယူပါ။ မြို့ရွာလူထု၏အရင်းခံအခြေအနေကို မြင်နိုင်ရန် အတွင်းမျက်စေ့ ဖွင့်လိုက်ပါ။ *အလ္လာဟ်အရှင် ကူညီမိုင်းမတော်မူပါစေ*။

ပုဂ္ဂိုလ်တစ်ဦးက ဆွဖ်ယန်ဆော်ရီရီ ကို သခင်အား စိတ်ပျက်လက်ပျက်ဖြစ်နေသည်ကို တွေ့ရသဖြင့် 'အဘယ်ကြောင့်ဘာလဲ'ဟု မေးမြန်းခဲ့သည်။ ထိုအခါ သခင်က 'ငါတို့သည် ဒုနိယာသားများအတွက် အရောင်းအဝယ်ပြုရာ ဌာနများဖြစ်ကုန်ကြပြီ။ လူတို့သည် ငါတို့ထံလာပြီး ဆည်းပူးကြသည်။ ပညာရပြီဆိုသည့်အခါ ကာဇီဖြစ်သူက ဖြစ်သွားသည်။ ဝန်ထမ်းဖြစ်သူက ဖြစ်သွားသည်။ ဘဏ္ဍာစိုးဖြစ်သူက ဖြစ်သွားသည်'ဟု ပြောဆိုခဲ့၏။

**စတုတ္ထဝတ္တရား–** ယင်းသည် သင်ကြားပို့ချမှုအတတ်တွင် အလွန်အရေးပါသောအချက်ဖြစ်သည်။ ယင်းမှာ တပည့်၏မကောင်းသောအကျင့်စာရိုက်ကို တိုက်ရိုက်တားမြစ်ခြင်းမပြုဘဲ၊ အဖြစ်နိုင်ဆုံး သွယ်ဝိုက်သောနည်းလမ်းဖြင့် တားမြစ်ရန်ဖြစ်သည်။ ပြစ်တင်ရှုချမှုသဘော မသက်ရောက်စေဘဲ၊ ချစ်ခင်ကြင်နာမှုဖြင့် ပြောဆိုတားမြစ်ရန်ဖြစ်သည်။ တိုက်ရိုက်တဲ့တိုး ပြောဆိုခြင်းဖြင့် အကြောက်တရား၏အဖုံးအကာများကို ပွင့်ထွက်သွားစေသည်။ ဆရာကို ကန့်ကွက်ပြုရန် အတင့်ရဲလာစေသည်။ ဇွတ်တိဇွတ်ထိုးလုပ်လိုစိတ်များ ပေါ်ထွက်လာစေသည်။ ဆရာအားလုံး၏ဆရာဖြစ်သော တမန်တော်မြတ် ﷺ က မိန့်ဆိုသည်မှာ–

لو منع الناس عن فت البعر لفتوه قالوا ما نهينا عنه إلا وفيه شئى . (ابن شاهين)

'အကယ်၍ လူတို့အား ကုလားအုတ်ချေးကို ထုချေခြင်းမပြုရန် တားမြစ်လျှင် ၎င်းတို့သည် မုချထုချေကြလိမ့်မည်။ ၎င်းတို့က 'ဤအထဲတွင် တစ်စုံတစ်ခုရှိနေသောကြောင့်သာ ငါတို့ကို တားမြစ်ခြင်းဖြစ်သည်' ဟု ပြောဆိုကြလိမ့်မည်။'*

အာဒမ်သခင်နှင့် ဟောင်ဝါသခင်မ ﷺ တို့၏ဖြစ်ရပ်ကလည်း ဤအချက်ကို သတိပေးလျက်ရှိသည်။ အာဒမ်သခင်နှင့်ဟောင်ဝါသခင်မ ﷺ တို့အား သစ်ပင်တစ်ပင်အနီးသို့ ချဉ်းကပ်ခြင်းမပြုရန် တားမြစ်ခဲ့သည်။ ထိုအကြောင်းကို ဖော်ပြရခြင်းမှာ စကားရှည်လို၍ မဟုတ်ပါဘဲ၊ သတိသံဝေဂယူနိုင်ရန်ဖြစ်သည်။

တိုက်ရိုက်တဲ့တိုး ပြောဆိုတားမြစ်ခြင်း မပြုအပ်သည့်အကြောင်းတစ်ခုမှာ ပညာရှာသူသည် အမှတ်သညာ ရှိပြီး ဉာဏ်ထက်သူဖြစ်လျှင် သွယ်ဝိုက်ပြောဆိုမှုထဲမှ ဆိုလိုသည့်အဓိပ္ပါယ်ကို ဖော်ယူမည်ဖြစ်သည်။ ဤနည်းဖြင့် အဓိပ္ပါယ်ကို ရိပ်စားနားလည်ရခြင်းသည် ပျော်ရွှင်စရာဖြစ်သည်။ ထိုပျော်ရွှင်မှုက လက်တွေ့ကျင့်သုံးဖြစ်အောင် နှိုးဆော်ပေးသည်။ ထို့ပြင် ဤသို့သွယ်ဝိုက်ပြောဆိုမှုကို မိမိရိပ်စားနားလည်ကြောင်း အခြားသူများအား အသိပေးပြီးလည်းဖြစ်သွားသည်။

**ပဉ္စမဝတ္တရား–** ဆရာသည် တပည့်ကို ပညာတစ်ခုသင်ပေးနေစဉ် ထိုပညာ၏အထက်တွင်ရှိသည့်ပညာရပ်တစ်ခုအား ရှုံချပြောဆိုခြင်းမပြုရန်ဖြစ်သည်။ ဥပမာ အဘိဓာန်ပညာသင်ပြသူသည် ဖိကဟ်ပညာကို မကောင်းပြောဆိုလေ့ရှိတတ်သည်။ ဖိကဟ်ပညာသင်ပြသူသည် ဟဒီစ်ပညာနှင့် တဖ်စီရ်ပညာကို မကောင်းပြောဆိုတတ်သည်။ ၎င်းတို့က 'ဤပညာရပ်များသည် အာဂမအထောက်အထားသက်သက်ဖြင့် ဖော်ထုတ်ထားသောပညာများဖြစ်သည်။ တစ်ဆင့်စကား တစ်ဆင့်ကြားကို အခြေခံထားခြင်းဖြစ်သည်။ ဤပညာရပ်များသည် သက်ကြီးဝါကြီးများ၏ဂုဏ်သရေရှိစေမှုဖြစ်သည်။ ထိုပညာရပ်များသည် အသိဉာဏ်ကိစ္စတွင် အကျိုးဝင်ခြင်းမရှိပါ'ဟု ပြောဆိုတတ်ကြသည်။ ကလာမ်ပညာသင်ပြသူသည် ဖိကဟ်ပညာကို ရှုံ့ရှာသည်။ ၎င်းက 'ဖိကဟ်ပညာဆိုသည်မှာ အဆွယ်အပွားသာဖြစ်

* အီရာကီသခင် ကို က 'ကျွန်ုပ် ဤဟဒီစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။

သည်။ ထိုပညာသည် အမျိုးသမီးများ၏ ဓမ္မတာလာသည့်အကြောင်းကို ရှင်းပြသောပညာသာဖြစ်သည်။ သို့ဖြစ်ရာ ဖိကဟ်ပညာရှင်သည် အလ္လာဟ်အရှင်၏ ဂုဏ်တော်ကို ဖေါ်ပြပြောဆိုရသောကလာမ်ပညာရှင်၏ အဆင့်ကို အဘယ်မှာ မီနိုင်မည်နည်း'ဟု ပြောဆိုလေသည်။ ဆရာများတွင် ရှိနေသော ဤအကျင့်စာရိတ္တများသည် ဆိုးလှချေသည်။ ရှောင်ကျဉ်ထိုက်လှပေသည်။

စင်စစ်တွင်ကား ဆရာသည် ပညာရပ်တစ်ခုတည်းကို သင်ကြားပို့ချရသူဖြစ်လျှင် တပည့်ကို အခြားပညာရပ်လည်း သင်ယူနိုင်ရန် အခွင့်အလမ်းဖေါ်ဆောင်ပေးရမည်။ အကယ်၍ ဆရာသည် ပညာရပ်အများကို သင်ကြားပို့ချရသူဖြစ်လျှင် တပည့်ဖြစ်သူ တစ်ဆင့်ပြီးတစ်ဆင့် တိုးတက်မှုရရှိရေးအတွက် အစီအစဉ်ချမှတ်ရမည်။

**ဆဋ္ဌမဝတ္တရား–** ဆရာသည် တပည့်နားလည်နိုင်စွမ်းရှိသလောက်သာ ရှင်းလင်းပို့ချရမည်။ တပည့်ဉာဏ်မမီနိုင်သည့်ကိစ္စကို ပြောဆိုခြင်းမပြုရပေ။ ပြောဆိုခဲ့လျှင် တပည့်သည် ပညာကို ရွံမုန်းသွားလိမ့်မည်။ သို့မဟုတ် ၎င်း၏အသိဉာဏ် ဖောက်ပြန်ပျက်စီးသွားမည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

نحن معاشر الأنبياء أمرنا أن نكلم الناس على قدر عقولهم . (جزء من حديث أبي بكر بن الشخير)

'လူတို့အား ၎င်းတို့၏အသိဉာဏ်က စွမ်းနိုင်သလောက်သာ ပြောဆိုကြရန် ငါတို့တမန်တော်များကို အမိန့်ပေးထားတော်မူသည်။'*

တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုအလိုသဘောသည် တပည့်က ကောင်းစွာနားလည်မည်ဟု ယုံကြည်မှသာ အကြောင်းချင်းရာတစ်ခုကို ထုတ်ဖေါ်ပြောဆိုရမည်ဟူ၍ပင်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

ما أحد يحدّث قومًا بحديث لا تبلغه عقولهم إلا كان فتنة على بعضهم . (م)

'တစ်စုံတစ်ဦးသည် လူထုအား ၎င်းတို့ဉာဏ်မမီသည့် စကားဖြင့် ပြောဆိုခဲ့လျှင်၊ ဤသည်မှာ အချို့သောသူများအဖို့ ပြဿနာဖြစ်သည်။'

ထို့ပြင် အလီ‌ﷺသခင်က မိမိ၏ရင်ဘတ်ကို ညွှန်ပြပြီး 'ဤနေရာတွင် ပညာတွေ တပြုံတမ ရှိနေသည်။ နားလည်မည့်သူကို တွေ့ရမည်ဆိုလျှင်ပါ'ဟု ပြောဆိုခဲ့သည်။ ဆိုလိုသည်မှာ ထိုပညာများကို နားလည်မည့်သူမရှိသဖြင့် ဖေါ်ထုတ်ခြင်းမပြုတော့ပါ။ အလီ‌ﷺသခင်ကပင် 'သူတော်ကောင်းတို့၏ နှလုံးသည်းပွတ်များသည် အတွင်းရေးလျှို့ဝှက်ချက်များကို မြှုတ်နှံထားသည့်ဂူများပင်ဖြစ်သည်'ဟု မှန်သောစကားကို ဆိုခဲ့၏။ ဤစကားအရ ပညာရှင်သည် မိမိသိထားအရာကို လူတိုင်းသို့ ဖြန့်ချီအသိပေးခြင်းမပြုအပ်ကြောင်းသိရသည်။ ဤသို့မပြုအပ်သည်မှာ ပညာရှာသူက နားလည်နိုင်သော်လည်း၊ ထိုပညာဖြင့် အကျိုးခံစားရန် အရည်အချင်းမရှိသောကြောင့်ဖြစ်သည်။ နားလည်နိုင်မည့်သူအတွက်ပင် ထိုသို့ရှိသည်ဆိုလျှင်၊ နားလည်နိုင်စွမ်းမရှိသူအတွက်ကား ဆိုဖွယ်ရာမရှိပေ။

တမန်တော်အီစာﷺသခင်က 'ဝက်တို့၏လည်ပင်းတွင် စိန်ရွှေရတနာများ ချိတ်ဆွဲမပေးကြနှင့်။ ဟိကမတ်ဉာဏ်ပညာသည် စိန်ရွှေရတနာများထက် ပို၍အဖိုးတန်သည်။ အကြင်သူ ထိုဟိကမတ်ကို မကောင်းထင်လျှင် ထိုသူသည် ဝက်ထက်ပို၍ ဆိုးသူဖြစ်သည်'ဟု ဆိုခဲ့သည်။ ထို့ကြောင့်ပင် ပုဂ္ဂိုလ်တစ်ဦးက ဆိုမိန့်သည်မှာ 'လူတိုင်းကို သူ၏အသိဉာဏ်အတိုင်းအတာဖြင့် တိုင်းတာပါ။ သူ၏နားလည်နိုင်စွမ်းဖြင့် ချိန်တွယ်ပါ။ သို့မှသာ အသင်သည် သူ့ထံမှ ကာကွယ်ထိန်းသိမ်းမှုရမည်။ ထိုသူလည်း အသင့်ထံမှ အကျိုးခံစားရမည်။ ဤသို့မဟုတ်ဘဲ သူ၏အသိဉာဏ်အတိုင်းအတာထက် အဆင့်မြင့်၍ ပြောဆိုခဲ့လျှင် သူသည် ခံနိုင်ရည်ရှိမည်မဟုတ်ပေ။'

ပညာရှင်တစ်ဦးထံ အကြောင်းအရာတစ်ခုမေးမြန်းခဲ့ရာ ပညာရှင်က အဖြေမပေးချေ။ ထိုအခါ မေးသူက–

* အီရာကီသခင်ဲက ဤဟဒီစ်နှင့် အဓိပ္ပါယ်နီးစပ်သော အာအီရှာﷺသခင်မ ဆင့်ပြန်ခဲ့သည့်– أنزلوا الناس منازلهم ('လူဘို့အား ၎င်းတို့၏အဆင့်အတန်းသို့ ရောက်အောင်ပို့ချပါ)–ဟူသောအဗူဒါဝူဒ်ကျမ်းလာ ဟဒီစ်ကို ဖေါ်ပြခဲ့သည်။

'ခင်ဗျားသည် တမန်တော်မြတ်ﷺ၏ –

من كتم علمًا نافعاً جاء يو القيامة ملجماً بلجام من نار . (၆)

'အကြင်သူ အကျိုးရှိသည့်ပညာကို ဖုံးကွယ်ထိမ်ချန်ခဲ့မည်ဆိုလျှင် ကိယာမတ်နေ့တွင် ထိုသူသည် မီးပါးချပ်တပ်ဆင်လျက် လာရမည်'ဆိုသော မိန့်ဆိုမှုကို မကြားဖူးပါသလော'ဟု ပြောဆိုလေသည်။ ထိုအခါ ပညာရှင်က 'ပါးချပ်ကို ထားခဲ့။ အသင်သွားတော့။ နားလည်နိုင်မည့်သူတစ်ဦးရောက်လာပါလျက် ထိုသူ့ကို ငါက ထိန်ချန်ခဲ့လျှင် ထိုသူက ငါ့ကို ထိုပါးချပ်ဆွဲပေးလိမ့်မည်'ဟု ပြောဆိုခဲ့လေသည်။

အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿وَلاَ تُؤتُوا السُّفَهَاءَ أَمْوَالَكُمْ﴾

**'အသင်တို့၏ ဥစ္စာပစ္စည်းများကို လူ့အနှမ်းများအား မပေးကြနှင့်။'** (စူရာနိစာ ၊ ၂၉)

ဤအာယတ်က ပညာကို ဖျက်စီးမည့်သူနှင့် ဒုက္ခပေးမည့်သူအား မပေးဘဲ ထိန်းထားခြင်းသည် ကောင်းမွန်သောကိစ္စဖြစ်ကြောင်း သတိပေးလျက်ရှိသည်။ ထိုက်တန်သူကို မပေးဘဲနေခြင်းက ဆိုးရွားသလို၊ မထိုက်တန်သူကို ပေးကမ်းခြင်းကလည်း ဆိုးရွားမှုတွင် မလျော့ချေ။ ဤနှစ်ခု၏ ဆိုးရွားမှုမှာ မနီးရိုးစွဲသာဖြစ်သည်။

| | |
|---|---|
| أأنثـر دراً بـيـن سـارحـة النـعـم | فـأصبـح مخـزونـا بـراعـيـة الغـنـم |
| لأنَّـهـم أمـسـوا بـجـهـل لـقـدره | فـلا أنـا أضحـى أن أطـوقـه الـبـهـم |
| فـإنَّ لـطف اللهِ الـلـطيـف بـلطـفـه | وصـادفـت أهـلًا للعـلوم وللـحـكَم |
| نشـرت مفـيـداً واسـتـفـدت مـودّةً | وإلاّ فـمـخـزون لـدي ومـكـتـتـم |
| فـمن مـنـح الجّـهـال علـمـاً أضـاعـه | ومـن منـع المستـوجبين فـقـد ظـلـم |

*ကျွန်ုပ်သည် ကျက်စားနေသောတိရိစ္ဆာန်တို့ရှေ့မှာ ပုလဲများကို ပက်ကျဲရမည်လား။*

*သို့ဆိုလျှင် ဆိတ်ကျောင်းသားတို့ထံ ပုလဲများ စုပုံလိမ့်မည်။ ၎င်းတို့ကား ထိုပုလဲ၏တန်ဘိုးကို သိသူများမဟုတ်ကြပေ။*

*ကျွန်ုပ်သည် ထိုပုလဲကို တိရိစ္ဆာန်၏လည်ပင်းတွင် ဆွဲပေးလိမ့်မည်လည်း မဟုတ်ပေ။*

*အကြောင်းမှာ ထိုပုလဲများသည် အလ္လာဟ်အရှင်၏ကျေးဇူးတော်ဖြင့် ချီးမြှင့်တော်မူသော အမြတ်တရတနာများဖြစ်သောကြောင့်ဖြစ်သည်။ ဤနည်းဖြင့် ကျွန်ုပ်သည် ပညာနှင့် ထိုက်တန်သူကို တိုက်ဆိုင်စွာတွေ့ရှိရသည်။ ထိုအခါ ကျွန်ုပ်သည် ပညာကို အကျိုးရှိမှုအတွက် ဖြန့်ချီခဲ့သည်။ ဤသို့မှမဟုတ်လျှင် ပညာသည် ကျွန်ုပ်ထံ စုပုံနေမည်။ ကျွန်ုပ်လည်း ထိန်ချန်သူဖြစ်မည်။ အကြင်သူ လူ့ဗာလကို ပညာပေးလျှင် ထိုသူသည် ပညာကို ဖျက်ဆီးခြင်းပင်။ တဖန် အကြင်သူ ထိုက်တန်သူကို ပညာမပေးလျှင် ထိုသူ မတရားပြုခြင်းပင်။*

**သတ္တမဝတ္တရား–** တပည့်သည် ဉာဏ်ရည်နိမ့်သူဖြစ်လျှင် ဆရာသည် တပည့်၏အဆင့်နှင့် ထိုက်တန်ရှင်းလင်းသောအရာကို သင်ပြပေးရမည်။ ဆရာသည် တပည့်အား 'ဤအရာ၏နောက်တွင် အသင့်ကို ငါအသိပေးထုတ်ဖော်ခြင်းမပြုသော ခက်ခဲနက်နဲသည့်ကိစ္စများရှိသေးသည်'ဟု ပြောဆိုရန်မသင့်ပါ။ ထိုသို့ပြောဆိုလိုက်ခြင်းကြောင့် တပည့်သည် ပညာကို လိုချင်မက်မောစိတ် လျော့ပါးသွားလိမ့်မည်။ စိတ်နှလုံး မချိတရိဖြစ်သွားလိမ့်မည်။ ထိုသို့

ပြောဆိုခြင်းဖြင့် တပည့်၏စိတ်တွင် ဆရာသည် သူ့အပေါ်တွန့်တိုသည်ဟု ထင်မှတ်သွားလိမ့်မည်။ လူတိုင်းလူတိုင်းက မိမိသည် ခက်ခဲနက်နဲသောပညာနှင့် ထိုက်တန်သူဖြစ်သည်ဟု ထင်မှတ်နေတတ်ကြသည်။ လူတိုင်းကပင် မိမိအား အလ္လာဟ်အရှင်က ဉာဏ်ပညာနှင့် ပြည့်စုံသောသူအဖြစ်ပြုတော်မူရန် လိုလားနှစ်သက်ကြသည်။

လူသားတို့တွင် အမိုက်မဲဆုံးနှင့် အသိဉာဏ်အချို့နဲ့ဆုံးသူသည် မိမိကိုယ်ကို အသိဉာဏ်ပြည့်ဝစုံလင်လှပြီဟု ကျေနပ်မဆုံးရှိနေသူဖြစ်သည်။ ဤအချက်ဖြင့် သိရသည်မှာ လူသာမန်ထဲမှ တစ်စုံတစ်ဦးသည် ရှရီအတ်ကို စွဲမြဲပြီး ရှေးသူဟောင်းတို့ထံမှ ရရှိသောအကီဒဟ်များကို ဒွိဟမပွါး၊ လိုရာဆွဲကောက်ယူခြင်းလည်းမပြုဘဲ အလေးအနက်ခံယူမည်၊ ထို့ပြင် အတွင်းပိုင်းလည်း ကောင်းမွန်မည်၊ သို့သော် သူ၏အသိဉာဏ်က ထိုအဆင့်ထက်ပို၍ မစွမ်းဆောင်နိုင်ဆိုလျှင်၊ ထိုသူမျိုး၏အကီဒဟ်ခံယူချက်ကို တွေဝေရှုပ်ထွေးအောင်ပြုလုပ်ခြင်း မမှန်ကန်ချေ။ သို့သာမက ထိုသူမျိုးအား ပေါ်လွင်စွာရှိနေသော ဇဟိဒ္ဒအပေါ် အနက်သဘော ကြံဆကောက်ယူချက်များကို ပြောပြမည်ဆိုပါက ၎င်းသည် လူသာမန်တို့၏စည်းဝိုင်းမှ အပြင်သို့ ထွက်သွားလိမ့်မည်။ သို့နှင့်တိုင် ၎င်း၏ပညာဉာဏ်အဆင့်သည် ပညာရှင်တို့၏စည်းဝိုင်းအတွင်း ဝင်ဆံ့လောက်အောင်လည်း မဟုတ်ပေ။ ထိုအခါ ၎င်းနှင့် ကျူးလွန်ချိုးဖေါက်ခြင်းတို့အကြား အကာအဆီးဟူ၍ ရှိတော့မည်မဟုတ်။ ထို့ခြင့် ၎င်းသည် ထောင်လွှားသောရှိုင်တွာန် ဖြစ်သွားပြီး မိမိကိုယ်တိုင်လည်း ပျက်စီးပြီး အခြားသူများကိုလည်း ဖျက်ဆီးလိမ့်မည်။ သို့ဖြစ်၍ပင် လူသာမန်တို့အား ခက်ခဲနက်နဲသောပညာရပ်များ၏အရင်းခံသဘောများကို ရှင်းလင်းပြောဆိုခြင်းမပြုအပ်ပေ။ အမှန်မှာ ၎င်းတို့အား အိဗာဒတ်ဆိုင်ရာသင်ပြစရာများ၊ ၎င်းတို့၏လုပ်ငန်းဆောင်ရွက်မှုနှင့် အပေးအယူကဏ္ဍများတွင် သစ္စာစောင့်သိရန်သာ သင်ပြပို့ချသင့်သည်။ ကျမ်းမြတ်ကုရ်အာန်တွင် ဖေါ်ပြထားသည့် အကြောင်းအရာများနှင့်အညီ ၎င်းတို့၏နှလုံးသားများတွင် ဂျန္နတ်အား လိုလားမက်မောစိတ်များ၊ ဂျဟန္နမ်အား ကြောက်ရွံ့စိတ်များ အပြည့်အဝရှိအောင်ပြုပေးသင့်သည်။ ၎င်းတို့တွင် ဒွိဟသံသယပေါ်ပေါက်အောင် မပြုသင့်ပါ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏နှလုံးသားတွင် ဒွိဟစွဲကပ်ပြီဆိုလျှင် ထိုဒွိဟကို ဖယ်ရှားရန် ခက်ခဲသည်။ ထို့ပြင် ထိုဒွိဟကြောင့်ပင် ၎င်းတို့ ပျက်စီးဆုံးရှုံးရတတ်၍ဖြစ်သည်။

အချုပ်ဆိုရသော် သင်ပေးသူဆရာများသည် လူသာမန်တို့အတွက် ဝေဖန်ငြင်းခုံမှု၏တံခါးကို ဖွင့်မပေးသင့်ပေ။ ထိုသို့ဖွင့်ပေးလိုက်မည်ဆိုလျှင် ၎င်းတို့၏လုပ်ငန်းများ လစ်ဟာရပ်ဆိုင်းကုန်လိမ့်မည်။ ထိုလုပ်ငန်းများအပေါ် လူ့ဘောင်နှင့် အရေးအရာယန္တရား ရပ်တည်လည်ပတ်နေခြင်းဖြစ်သည်။

**အဋ္ဌမဝတ္တရား**– ဆရာသည် မိမိ၏ပညာနှင့်အညီ ကျင့်သုံးနေထိုင်သူဖြစ်ရမည်။ အပြောနှင့်အလုပ် မညီသူ အပြောတစ်ခြား အလုပ်တစ်မျိုး မဖြစ်ရပေ။ အဘယ်ကြောင့်ဆိုသော် ပညာကို သိခြင်းသည် အတွင်းမျက်စေ့ဖြင့်ဖြစ်သည်။ အကျင့်ကို သိခြင်းသည် အပြင်မျက်စေ့ဖြင့်ဖြစ်သည်။ အတွင်းမျက်စေ့ဖြင့် ထိုးထွင်းသိမြင်သူက နည်းသည်။ အပြင်မျက်စေ့ဖြင့် ကြည့်ရှုသူက များသည်။ ဆရာ၏ပညာနှင့်ဆရာ၏အကျင့် ဆန့်ကျင်နေမည်ဆိုလျှင် တရားလမ်းညွှန်ပြရန် ဖြစ်နိုင်မည်မဟုတ်တော့ပေ။ အကြင်သူသည် အရာတစ်ခုကို ကိုယ်တိုင် စားသုံးပြီး အခြားသူများအား 'ဒါကို မစားကြနှင့်။ ဒါဟာ အသက်သေစေမည့်အဆိပ်ဖြစ်သည်'ဟု ပြောမည်ဆိုလျှင်၊ လူတို့သည် သူ့ကို သရော်ကြလိမ့်မည်။ ပြစ်တင်ရှုံ့ချပြုကြလိမ့်မည်။ တားမြစ်ထားသည့်ကိစ္စကို ပြုလုပ်ရန် ပို၍ အငမ်းမရဖြစ်စေလိမ့်မည်။ ထို့ပြင် ...ဘို့က 'အကယ်၍ အဲဒါက အရသာရှိပြီး ကောင်းမွန်တဲ့အရာ မဟုတ်လျှင် တားသူကိုယ်တိုင်က ဘာကြောင့်စားနေသနည်း'ဟု မေးခွန်းထုတ်ကြလိမ့်မည်။ တပည့်အတွက် ဆရာသည် အိုးခွက်တို့တွင် ပန်းဖေါ်ပေးသောပုံစံခွက်ကဲ့သို့ဖြစ်သည်။ ပုံစံခွက်ထဲတွင် ပန်းပုံစံမရှိလျှင် အိုးလုပ်မည့် ရွှံ့ပေါ်တွင် အဘယ်သို့ ပန်းပုံပေါ်မည်နည်း။ ထို့ပြင် ဆရာနှင့်တပည့်သည် သစ်ကိုင်းနှင့်အရိပ်သဖွယ်ဖြစ်သည်။ သစ်ကိုင်းက ကောက်နေလျှင် အရိပ်သည် အဘယ်မှာ ဖြောင့်နိုင်မည်နည်း။ ထိုအကြောင်းအရာကို စပ်ဆိုထားသည်မှာ–

لا تنه عن خلق وتأتي مثله　　عار عليك إذا فعلت عظيم

*မိမိက လုပ်နေသော အလုပ်ကို လူတို့အား မလုပ်ရန်တားမြစ်ခြင်း မပြုနှင့်။*
*တားမည်ဆိုလျှင် အသင့်အဖို့ အရှက်တကွဲအကျိုးနည်းကိစ္စဖြစ်ရလိမ့်မည်။*

အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿أَتَأْمُرُونَ النَّاسَ بِالْبِرِّ وَتَنسَوْنَ أَنفُسَكُمْ﴾

**'အသင်တို့သည် လူတို့အား ကောင်းမှုကုသိုလ်ပြုရန် အမိန့်ပေးစေခိုင်းကြပြီး မိမိတို့ကိုယ်တိုင်ကမူ မေ့လျော့ထားကြသလော။'** (စူရာဘကရာ ၊၄၄)

ထို့ကြောင့်ပင် မကောင်းမှုဒုစရိုက်၏ဆိုးကျိုးသက်ရောက်မှုက ပညာမရှိသူထက် ပညာရှင်အပေါ် ပို၍ပြင်းထန်ရခြင်း ဖြစ်သည်။ ဤသို့ရှိရခြင်းမှာ များစွာသောလူတို့သည် ပညာရှင်တစ်ဦး၏လွဲချော်မှုနောက်က လိုက်၍ လုပ်ကြသည်။ လူတစ်ဦးသည် မကောင်းသောအကျင့်အမူတစ်ခုကို စတင်ဖေါ်ထုတ်ခဲ့လျှင်၊ သူသည် ကိုယ်တိုင်ကျင့်မူခဲ့သည့်အပြစ်အပြင်၊ သူ့ကို နမူနာထားပြီး လိုက်လုပ်ကြသူများ၏အပြစ်ကိုပါ ခံယူရမည်ဖြစ်သည်။ ထို့အတွက်ကြောင့် အလီ رضي الله عنه သခင်က မိန့်ဆိုခဲ့သည်မှာ 'နှစ်ဦးသောသူတို့သည် ကျွန်ုပ်ကို မချိတင်ကဲဖြစ်စေသည်။ တစ်ဦးမှာ ပညာရှင်ဖြစ်လျက် ဒုစရိုက်မှုကို ပြောင်ပြောင်တင်းတင်းကျူးလွန်ပြီး မိမိ၏ဂုဏ်သိက္ခာအား ညစ်နွမ်းစေသူဖြစ်သည်။ နောက်တစ်ဦးမှာ အသိပညာကင်းမဲ့လျက်ရှိရာမှ လောကီစွန့်ကျောခိုင်းသည့်လမ်းသို့ လိုက်သူဖြစ်သည်။ ဤနည်းဖြင့် အသိပညာမရှိသူက မိမိ၏ဒွန္ဒယာကျောခိုင်းမှုဖြင့် လူတို့ကို လှည့်စားသည်။ ပညာရှင်က မိမိ၏ပြောင်ပြောင်တင်းတင်းကျူးလွန်မှုဖြင့် လူတို့ကိုဖျားယောင်းသည်။' *ဤသည်တို့ကို အသိဆုံးကား အလ္လာဟ်အရှင်ပင်တည်း။*

အခန်း ခြောက်

# ပညာ၏ဒုက္ခဆိုးကျိုးများ

# နှင့်

# အာခိရတ်ပညာရှင် နှင့် အိုလမာဆိုးတို့၏အချင်းလက္ခဏာများ

ပညာနှင့်ပညာရှင်တို့၏ထွတ်မြတ်မှုများအကြောင်း ကျွန်ုပ်တို့ ဖော်ပြခဲ့ပြီးပြီ။ အိုလမာပညာရှင်ဆိုးတို့နှင့်ပတ်သက်၍ကား ၎င်းတို့သည် ကိယာမတ်နေ့၌ လူသားတို့အနက် အပြင်းထန်ဆုံး ပြစ်ဒဏ်ကို ခံရမည့်သူများဖြစ်သည်ဟူသောပြင်းထန်ကြီးလေးလှသည့် သတိပေးခြိမ်းခြောက်မှုရှိထားလေသည်။ သို့ဖြစ်ရာ ဒွန်နယာ့ပညာရှင်နှင့်အာခိရတ်ပညာရှင်တို့၏ကွဲပြားခြားနားသောအချင်းလက္ခဏာများကို ခွဲခြားသိရှိနိုင်ရန် အထူးပင်အရေးကြီးလှသည်။ ဒွန်နယာ့ပညာရှင်ဟု ကျွန်ုပ်တို့ဆိုရာမှာ အိုလမာပညာရှင်ဆိုးများကို ဆိုလိုပြီး ၎င်းတို့သည် ပညာကို အကြောင်းပြု၍ ဒွန်နယာ၏စည်းစိမ်အရသာများကိုငှ်း၊ လောကသားတို့ထံမှ အရှိအသေပြုမှုနှင့်အဆင့်အတန်းကို ရရှိရန်ဦးတည်ရည်ရွယ်သူများဖြစ်ကြသည်။ တမန်တော်မြတ်ﷺက–

إنّ اشدّ الناس عذاباً يوم القيامة عالم لم ينفعه الله بعلمه ،

'ကိယာမတ်နေ့တွင် လူသားတို့အနက် အပြင်းထန်ဆုံးပြစ်ဒဏ်ခံရမည့်သူကား အလ္လာဟ်အရှင်က သူ၏ပညာဖြင့် သူ့ကို အကျိုးမဖြစ်ထွန်းစေသော ပညာရှင်ဖြစ်သည်'ဟု မိန့်ဆိုသွားခဲ့သည်။

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

لا يكون المرء عالمًا حتى يكون بعلمه عاملاً . (حب)

'လူသားသည် မိမိ၏ပညာအပေါ်မှာ လက်တွေ့ကျင့်သုံးသူ မဖြစ်သ၍ ပညာရှင်မဖြစ်သေးပေ။'

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

العلم علمان : علم على اللسان فذلك حجة الله تعالى على خلقه وعلم في القلب فذلك العلم النافع . (ت)

'ပညာသည် နှစ်မျိုးရှိသည်။ တစ်မျိုးမှာ နှုတ်လျှာပေါ်၌ ရှိသည့်ပညာဖြစ်၏။ ယင်းသည် အလ္လာဟ်အရှင်က လူသားများအတွက် ပေးအပ်သည့် အထောက်အထားမှတ်ကျောက်ဖြစ်သည်။ နောက်တစ်မျိုးမှာ နှလုံးသားတွင်ရှိသည့် ပညာဖြစ်သည်။ ဤပညာကသာလျှင် အကျိုးပြုသည့်ပညာဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

يكون فى آخر الزمان عباد جهال و علماء فساق . (مس)

'ကိယာမတ်နီးသည့်အခါ ပညာမဲ့တရားကျင့်သူ အာဗိဒ်များနှင့် မသူတော်ပညာရှင်များ ပေါ်ထွက်

လာလိမ့်မည်။'

ထို့ပြင် တမန်တော်မြတ်ﷺက–

لا تتعلموا العلم لتباهوا به العلماء وتماروا به السفهاء ولتصرفوا به وجوه الناس اليكم ،
فمن فعل ذلك في النار ٠(ق)

'ပညာရှင်များနှင့်အတူ ဂုဏ်ပြိုင်ရန်၊ လူပြိန်းများနှင့် ဆွေးနွေးပြောဆိုရန်၊ လူတို့၏မျက်နှာများက အသင်တို့ဘက်သို့ စိတ်ဝင်တစားကြည့်ရှုကြရန်အတွက် သင်တို့သည် ပညာကိုသင်ယူခြင်းမပြုကြနှင့်'ဟု မိန့်ဆိုခဲ့ပါသည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من كتم علمًا عنده ألجمه الله بلجام من نار .

'အကြင်သူ ပညာကို ထိန်ချန်ခဲ့လျှင် အလ္လာဟ်အရှင်က ထိုသူ့ကို ကိယာမတ်နေ့တွင် မီးပါးချပ် စွပ်စေတော်မူမည်။'

ထို့ပြင် တစ်ကြိမ်တွင် တမန်တော်မြတ်ﷺက–

لأنا من غير الدجال أخوف عليكم من الدجال . فقيل : وما ذلك ؟ قال : من الأئمة المضلين . (I)

'ငါတမန်တော်သည် ဒဂျာလ်ထက်ပို၍ ဒဂျာလ်မဟုတ်သူများနှင့်ပတ်သက်၍ သင်တို့အပေါ်မှာ စိုးရိမ်မှုရှိသည်'ဟု မိန့်ဆိုသောအခါ၊ တစ်စုံတစ်ဦးက 'အဘယ်အရာဖြစ်ပါသလဲ'ဟု မေးမြန်းခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'လူတို့အား လမ်းမှားအောင်ပြုမည့်ဘာသာရေးခေါင်းဆောင်များဖြစ်သည်'ဟု ဖြေခဲ့သည်။

ထို့ပြင် တမန်တော်မြတ်ﷺက မိန့်ဟောသည်မှာ–

من ازداد علمًا ولم يزدد هدى لم يزدد من الله إلا بُعدًا . (لمى)

'အကြင်သူ့တွင် အသိပညာသာ များပြားပြီး *ဟိဒါယတ်* များပြားခြင်းမရှိလျှင် ထိုသူသည် အလ္လာဟ်အရှင်နှင့် ဝေးကွာမှု များပြားလိမ့်မည်။'

တမန်တော်အီစာ ﷺသခင် အဆိုအမိန့်ရှိသည်မှာ 'အသင်တို့သည် ညဥ့်၏နောက်ဆုံးယံ၌ သွားလာသူများအတွက် လမ်းရှင်းပေးပြီး အသင်တို့ကိုယ်တိုင်ကမူ ရပ်လျက် ဘယ်အချိန်အထိ အံ့သြငေးမောနေကြမည်နည်း။'

ဤသည်တို့အပြင် နောက်ထပ်လည်း ဩဝါဒဆိုမိန့်မှုများ ရှိသေးသည်။ ထိုဆိုမိန့်မှုများအရ ပညာရှင်သည် ထာဝရပျက်စီးဆုံးရှုံးမှုနှင့်ထာဝရချမ်းသာသုခမှု နှစ်ခုအနက် တစ်ခုမဟုတ်တစ်ခုကို ရင်ဆိုင်ကြုံတွေ့မည့်သူဖြစ်သည်။ ထိုပညာရှင်သည် ပညာကို နက်နက်နဲနဲလေ့လာလိုက်စားသည့်အတွက် အကယ်၍ ချမ်းသာသုခ မရရှိဟုဆိုလျှင် သူသည် ချမ်းမြေ့သာယာမှုကို ရစရာအကြောင်းမရှိတော့ချေ။

**ယခုဆက်လက်၍ ပညာတွင် ကျရောက်သည့် ဘေးဒုက္ခများအကြောင်း ဆွဟာဗဟ်သခင်များနှင့် တာဘိအီန်သခင်များ၏အဆိုအမိန့်ဩဝါဒများကို တင်ပြပါအံ့။**

အိုမရ်သခင်ﷺက 'ဤအွမ္မတ်အတွက် ကျွန်ုပ် အစိုးရိမ်ဆုံးအရာမှာ မုနာဖိက်ပညာရှိဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ သခင့်အား လူတို့က 'မုနာဖိက်ဖြစ်နေပါလျက် ဘယ်နည်းဖြင့် ပညာရှိဖြစ်နိုင်ပါသလဲ'ဟု မေးကြသောအခါ သခင်က 'နှုတ်လျှာပေါ်မှာသာ ပညာ ရှိနေပြီး နှလုံးသားနှင့်ကျင့်သုံးမှုက လူပြိန်းဖြစ်နေသူဖြစ်သည်'ဟု ဖြေခဲ့သည်။ ထို့နောက် ဟစ်ဘစ္စရီ⁻ᐟသခင်က 'အသင်သည် ပညာနှင့်ရှင်ပြမှုတွင် ပညာရှိသုခမိန်များကဲ့သို့ဖြစ်ပြီး အကျင့်အကြံတွင်မူ လူ့ဗာလများကဲ့သို့ မဖြစ်လေနှင့်'ဟု ဆုံးမပြောဆိုခဲ့သည်။ ဆွဟာဗဟ်ကြီးအဗူဟုရိုင်ရဟ်ﷺသခင့်အား လူ

တစ်ယောက်က 'ကျွန်တော်သည် ပညာကိုတော့ သင်ချင်ပါသည်။ သို့သော် ထိုပညာ အချည်းနှီးဖြစ်ရမည်ကို စိုးရိမ်ပါသည်'ဟု ပြောဆိုခဲ့သည်။ ထိုအခါ သခင်က 'အချည်းနှီးပျက်စီးဖို့အတွက် ပညာကို လွှတ်ထားပြီး နေရုံနဲ့လည်း လုံလောက်ပါသည်'ဟု ဆိုမိန့်ခဲ့သည်။

အီဗ်ရာဟီမ်အီဗ်နေ့အိုယိုင်နာ ~သခင့်ကို 'နောင်တအရဆုံးလူသည် မည်သူပါလဲ'ဟု မေးသောအခါ သခင်က 'ဒွန္နယာတွင် နောင်တအရဆုံးပုဂ္ဂိုလ်မှာကား လူတစ်ဦးအပေါ်တွင် အကောင်းပြုခဲ့ပြီး ထိုသူ၏ကျေးဇူးအတင် မခံရသူဖြစ်သည်။ သေလွန်သည့်အခါ နောင်တအရဆုံးပုဂ္ဂိုလ်ကား ကျင့်သုံးမှုတွင် ပေါ့ဆခဲ့သော ပညာရှင်ဖြစ်သည်'ဟု ဖြေခဲ့သည်။ တဖန် ခလီလ်အီဗ်နေ့အဟ်မဒ် ~သခင်က မိန့်ဆိုသည်မှာ 'လူသည် လေးမျိုးရှိ၏။ ပထမလူသည် သူသိသည့်အကြောင်း သိပြီး၊ အသိလည်း ရှိသူဖြစ်၏။ ထိုသူမှာ ပညာရှင်ဖြစ်၏။ သူ့နောက်ကို လိုက်ကြကုန်။ ဒုတိယလူမှာ အသိရှိပြီး ထိုသို့ သိသည်ကို မသိသူဖြစ်သည်။ သူသည် အိပ်ပျော်နေသူဖြစ်၏။ သူ့ကို နှိုးကြကုန်။ တတိယလူမှာ အသိမရှိသူဖြစ်ပြီး သူမသိသည်ကိုလည်း သိထားသူဖြစ်သည်။ ထိုသူသည် လမ်းညွှန်မှုလိုအပ်သူဖြစ်၏။ သူ့ကို လမ်းညွှန်ကြကုန်။ စတုတ္ထလူမှာ အသိမရှိသူဖြစ်ပြီး သူမသိသည်ကိုလည်း မသိသူဖြစ်သည်။ ထိုသူသည်ကား လူ့ဗာလဖြစ်၏။ သူ့ကို ရှောင်ရှားကြကုန်။'

ဆွဖ်ယန်ဆော်ရီ ~သခင်က 'ပညာက ကျင့်သုံးမှုကို လှမ်းခေါ်သည်။ ထိုသို့ခေါ်သည့်အခါ ကျင့်သုံးမှုက ပြန်ထူးလျှင် ကောင်းပါ၏။ သို့မဟုတ်လျှင်ကား ပညာသည် နှုတ်ဆက်ထွက်ခွါသွားတတ်ပါသည်'ဟု ဆိုမိန့်ခဲ့သည်။ အီဗ်နေ့မုဘာရပ်က် ~က 'လူသားသည် ပညာကို လိုလိုလားလား လိုက်စားနေသ၍ ပညာရှင်ဖြစ်သည်။ သူ့ကိုယ်သူသိပြီတတ်ပြီဟု အထင်ရောက်သည့်အခါ သူသည် ဗာလလူမိုက်ဖြစ်သွားလေတော့သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့ပြင် ဖုဇ္ဇိုင်လ်အီဗ်နေ့အေယာဇ်သခင် ~က 'ကျွန်ုပ် သုံးဦးသောသူကို သနားမိသည်။ ပထမလူမှာ လူထုက ဂုဏ်ပေးလေးစားခံရသူဖြစ်ပြီးမှ တဖန်ပြန်၍ သေးသိမ်ရသူ၊ ဒုတိယလူမှာ လူတို့အနက် ချမ်းသာကြွယ်ဝသူဖြစ်ပြီး တဖန် ဆင်းရဲမွဲတေရသူ၊ တတိယ လူမှာ ပညာရှင်ဖြစ်ပြီး ပညာကို ဒွန္နယာဖြင့် ကစားခုန်စားပြုသူ – တို့ဖြစ်သည်။

ထို့နောက် ဟာစ် ~သခင်က 'ပညာရှင်တို့အတွက် ဒဏ်ခတ်မှုသည် စိတ်နှလုံးသေဆုံးခြင်းဖြစ်သည်။ စိတ်နှလုံးသေဆုံးခြင်းဆိုသည်မှာ အာခိရတ်၏အလုပ်ဖြင့် ဒွန္နယာရှာဖွေခြင်းဖြစ်သည်'ဟု ဆိုမိန့်၏။ ဤသို့ဆိုပြီးနောက် လင်္ကာတစ်ပုဒ် ဖတ်ရွတ်သည်မှာ–

| | |
|---|---|
| عجبتُ لمبتـاعِ الضَّـلالـة بـالهُـدى | ومن يشتـري دنيـاه بـالدين أعجبُ |
| واعـجـب من هذين مـن بـاعَ دينـه | بـدنيـا سـواه فهـو من ذين أعجبُ |

*'လမ်းမှန်ကို လမ်းမှားဖြင့် လဲလှယ်ရောင်းချသူကို ကျွန်ုပ်အံ့ဩပါသည်။*
*ထို့ထက်ပို၍ကား သာသနာပေး၍ ဒွန္နယာ ဝယ်ယူသူကို အံ့ဩပါသည်။*
*ထိုနှစ်ဦးထက်ပို၍ ကျွန်ုပ် အအံ့ဩဆုံးကား ဒွန္နယာရေးပင် မဟုတ်သော*
*ဘာမဟုတ်သည့်အရာဖြင့် မိမိ၏သာသနာကို ရောင်းချသူပင်ဖြစ်သည်။'*

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ –

إنّ العالم ليعذب عذابًا يطيف به أهل النار استعظامًا لشدة عذابه .

'ပညာရှင်ကို ပေးမည့် ပြစ်ဒဏ်သည် လွန်စွာပြင်းထန်လှသဖြင့် ဂျဟန္နမ်ကျနေသူများကပင် ထိုပြစ်ဒဏ်ကို တွန့်ဆုတ်ကြမည်။'*

* အီရာကီ ~သခင်က 'ဤစာသားဖြင့် ဟဒီစ်ကို မတွေ့ရပါ။ နောက်ဆက်လာမည့်ဟဒီစ်စာသားဖြင့်သာတွေ့ရသည်'ဟု ဆိုပါသည်။

ဤစာသားတွင် ပညာရှင်သည် ဆိုးသွမ်းသောပညာရှင်ကို ဆိုလိုခြင်းဖြစ်သည်။ အိုဆာမာအီဗ်နေ့ဇိုက်ဒ်ﷺ က 'ကျွန်ုပ်သည် ရစူလ်ကိုယ်တော်ﷺမိန့်မြွက်သည်ကို ကြားနာခဲ့ပါသည်။ တမန်တော်မြတ်ﷺက–

يؤتى بالعالم يوم القيامة فيلقى في النار فتندلق أقتابه فيدور بها كما يدور الحمار بالرحى فيطيف به أهل النار فيقولون مالك فيقول كنت آمر بالخير ولا آتيه وأنهي عن الشر وآتيه .

'ကိယာမတ်နေ့တွင် ပညာရှင်တစ်ဦးကို ခေါ်လာပြီး ငရဲတွင် ပစ်ချလိမ့်မည်။ ထို့နောက် သူ၏အူကို တန်းလန်းထုတ်ထားမည်။ ထိုအခါ သူသည် ကျိတ်ဆုံတွင် လည်နေသော မြည်းကဲ့သို့ ဖြစ်လိမ့်မည်။ ဤသည်ကို မြင်ရသောဂျဟန္နမ်တို့က သူ့ကို 'အသင်က ဘယ်လိုဖြစ်တာလဲ'ဟု မေးကြမည်။ ထိုတွင် သူက 'ကျွန်ုပ်သည် လူတို့အား ကောင်းမှုပြုရန် ခိုင်းစေတိုက်တွန်းခဲ့ပြီး ကိုယ်တိုင်ကတော့ မကျင့်သုံးခဲ့ပါ။ ထို့ပြင် မကောင်းမှုမှ လူတို့ကို တားမြစ်ပိတ်ပင်ခဲ့ပြီး ကိုယ်တိုင်တော့ မရှောင်ကျဉ်ခဲ့ပါ'ဟု ဖြေလိမ့်မည်။'

ပညာရှင်၏ပြစ်ဒဏ်က ယခုလို ဆထက်ထမ်းပိုး များပြားရခြင်းမှာ သူ၏ဖီဆန်မှုကြောင့်ဖြစ်သည်။ သူသည် ပညာရှိပါလျက် ဖီဆန်ကျူးလွန်ခဲ့သည်။ ဤအတွက်ပင် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿إِنَّ الْمُنَافِقِينَ فِي الدَّرْكِ الْأَسْفَلِ مِنَ النَّارِ﴾

**'မုနာဖိက်အရေခြုံသမားများသည် ငရဲ၏ အောက်ဆုံးအဆင့်တွင် နေကြရမည်။'** (စူရာနေစာ၊ ၁၄၅)

ဤသို့ရှိခြင်းမှာ ၎င်းတို့သည် အသိပညာရှိပြီးနောက်မှ သွေဖီသွားကြသောကြောင့်ဖြစ်သည်။ အလ္လာဟ်အရှင်က ရဟူဒီများကို နဆွ်ရာနီများထက် ပို၍ဆိုးသည်ဟု သတ်မှတ်တော်မူထားသည်။ အမှန်မှာ ရဟူဒီတို့သည် နဆွ်ရာနီတို့ကဲ့သို့ အလ္လာဟ်အရှင်ကို ဘုရားသုံးဆူထဲမှ တစ်ဆူဖြစ်သည်ဟု မဆိုကြပါ။ သို့နှင့်တိုင် ယခုလို သတ်မှတ်တော်မူရခြင်းမှာ ရဟူဒီတို့သည် အသိတရားရှိပြီးနောက်မှ ငြင်းပယ်သွေဖီကြသောကြောင့်ဖြစ်သည်။ အလ္လာဟ်အရှင်ကိုယ်တော်တိုင် မိန့်ကြားထားတော်မူသည်မှာ–

﴿يَعْرِفُونَهُ كَمَا يَعْرِفُونَ أَبْنَاءَهُمْ﴾

**'ထိုရဟူဒီတို့ကား (အလ္လာဟ်အရှင်ချပေးသည့်ကျမ်းတော်)အား မိမိတို့၏ သားသမီးများကို သိကျွမ်းသကဲ့သို့ သိကျွမ်းကြလေသည်။'** (စူရာဘကရာ၊ ၁၄၆)

ဟု ရဟူဒီတို့၏သိမှုကို ဖေါ်ထုတ်တော်မူသည်။ ထို့ပြင် အလ္လာဟ်အရှင်က–

﴿فَلَمَّا جَاءَهُمْ مَا عَرَفُوا كَفَرُوا بِهِ فَلَعْنَةُ اللهِ عَلَى الْكَافِرِينَ﴾

**'၎င်းတို့ထံ (ကျမ်းမြတ်ကုရ်အာန်) ကျရောက်သောအခါ ၎င်းတို့သည် သိလျက်နှင့်ပင် ယင်း(ကျမ်းတော်)ကို ငြင်းဆန်ခဲ့ကြသည်။ သို့ဖြစ်ရာ ကာဖိရ်တို့အပေါ်တွင် အလ္လာဟ်အရှင်၏ လအ်နတ်သာရှိတော့သည်။'** (စူရာဘကရာ၊ ၈၉)

ထို့ပြင် အလ္လာဟ်အရှင်က ဘလ်အမ်အီဗ်နေ့ဘာအူရာ၏ဖြစ်ရပ်နှင့်ပတ်သက်၍–

﴿وَاتْلُ عَلَيْهِمْ نَبَأَ الَّذِي آتَيْنَاهُ آيَاتِنَا فَانْسَلَخَ مِنْهَا فَأَتْبَعَهُ الشَّيْطَانُ فَكَانَ مِنَ الْغَاوِينَ﴾

**'ထို့ပြင် အသင်သည် ၎င်းတို့အား အကြင်သူ၏အကြောင်းကို ဖတ်ကြားပြပါလော့။ ထိုသူသည် သူ့ထံ ငါ၏ အာယတ်များ(၏ အသိပညာများ)ကို ငါအရှင်က ချီးမြှင့်တော်မူခဲ့သည်။ ထို့နောက်တွင် သူသည် ထို(အသိပညာများ)ကို စွန့်လွှတ်ကျောခိုင်းကာ ရှိုင်တွာန်၏နောက်သို့ လိုက်သွားခဲ့သည်။ ဤနည်းဖြင့် သူသည် လမ်းမှားသူများတွင် အပါအဝင်ဖြစ်သွားခဲ့သည်။'** (စူရာအအ်ရာဖ်၊ ၁၇၅)

ထိုပုဂ္ဂိုလ်နှင့်ပတ်သက်၍ အလ္လာဟ်အရှင် ဆက်လက်မိန့်ကြားသည်မှာ–

**﴿فَمَثَلُهُ كَمَثَلِ الْكَلْبِ اِنْ تَحْمِلْ عَلَيْهِ يَلْهَثْ اَوْ تَتْرُكْهُ يَلْهَثْ﴾**

**'ထိုသူ၏ပမာသည် ခွေးနှင့်အလားတူဖြစ်ခဲ့သည်။ ခွေးတို့မည်သည် ဝန်တင်လျှင်လည်း မောဟိုက်လျှာထွက်၏။ သို့မဟုတ် လွှတ်ထားလျှင်လည်း မောဟိုက်လျှာထွက်၏။'** (စူရာအအ်ရာဖ် ၊၁၇၆)

ဘလ်အမ်*သည် အလ္လာဟ်အရှင့်ကျမ်းတော်၏အသိပညာကို ချီးမြှင့်ခံခဲ့ရသည်။ ထို့နောက် ၎င်းသည် အလိုရမ္မက်၏နောက်သို့ လိုက်ပါခဲ့သည်။ သို့ဖြစ်ရာ ၎င်းသည် ခွေးနှင့် နှိုင်းယှဉ်ခြင်းခံရသည်။ အလိုသဘောမှာ သူ့အဖို့ ဟိက်မတ်ချီးမြှင့်ခံရသည်ဖြစ်စေ၊ မခံရသည်ဖြစ်စေ အတူတူပင်ဖြစ်သည်။ သူသည် အလိုရမ္မက်နောက်သို့ လျှာထွက်အာထွက် တန်းတန်းစွဲဖြစ်နေသည်။

တမန်တော်အီစာ ﷺသခင်က 'အိုလမာဆိုးတို့၏ပမာသည် ချောင်းဝတွင် ပိတ်ဆို့နေသော ကျောက်တုံးနှင့် အလားသဏ္ဌာန်တူသည်။ ထိုကျောက်တုံးသည် ကိုယ်တိုင်ကလည်း ချောင်းရေကို သောက်သုံးခြင်းမပြု၊ ထို့ပြင် ရေကို စိုက်ခင်းများဆီသို့ စီးဆင်းရန်လည်း ခွင့်မပြုပါ။ တဖန် အိုလမာဆိုး၏ပမာသည် ပန်းမြက်ခင်းကဲ့သို့ဖြစ်သည်။ အပေါ်ပိုင်းသည် မွှေးကြိုင်၍ အတွင်းပိုင်းသည် မြက်တောတွင် လူတို့က တောထိုင်ကြသဖြင့် နံဆော်လျက်ရှိသည်။ ထို့ပြင် အိုလမာဆိုးတို့၏ဥပမာသည် သင်္ချိုင်းနှင့်လည်း အလားတူသည်။ သင်္ချိုင်းသည် အပေါ်တွင်တော့ စည်ကားသွားလာမှုရှိသည်။ အတွင်းမှာမူ သူသေတို့၏အရိုးများသာရှိသည်'ဟု မိန့်ဆိုခဲ့သည်။

ဤအဆိုအမိန့်ဩဝါဒများက ဒွန္နယာလိုက်စားသော ပညာရှင်သည် ပညာမဲ့လူပြိန်းထက် အခြေအနေသိမ်ဖျင်းပြီး ပြစ်ဒဏ်လည်း ပိုပြင်းထန်ကြောင်း ရှင်းလင်းစွာဖော်ပြထားသည်။ အလ္လာဟ်အရှင်နှင့် နီးကပ်ပြီး အောင်မြင်မှုရရှိသူများမှာကား အာခိရတ်ပညာရှင်များသာဖြစ်သည်။ ထိုအာခိရတ်ပညာရှင်များတွင် အချင်းလက္ခဏာများရှိထားလေသည်။

**အာခိရတ်ပညာရှင်၏အချင်းလက္ခဏာတစ်ခုမှာ–** မိမိ၏ပညာဖြင့် ဒွန္နယာမရှာခြင်းဖြစ်သည်။ ပညာရှင်၏အနိမ့်ဆုံးအဆင့်သည် ဒွန္နယာ၏သေးသိမ်မှု၊ သိမ်ဖျင်းအောက်ကျမှု၊ ညစ်ညမ်းမှု၊ မတည်မြဲမှုများကို သိရှိခြင်းဖြစ်သည်။ ထို့ပြင် အာခိရတ်၏ကြီးကျယ်မှု၊ အမြဲတည်မှု၊ အာခိရတ်တွင် ခံစားရမည့်စည်းစိမ်များ၏သန့်ပြန့်မှု၊ အာခိရတ်ကို

---

* ဘလ်အမ်အိဗ်နေ့ဘာအူရာသည် ဘနီအီစရာအီမျိုးနွယ်ဝင်တစ်ဦးဖြစ်ပြီး တမန်တော်မူဆာ ﷺသခင်၏ခေတ်တွင် ပေါ်ထွက်ခဲ့သူဖြစ်သည်။ ၎င်းသည် အလ္လာဟ်အရှင်၏အာယတ်တော်အသိပညာများအပြင် **အိစ္စမိအအ်ဇွမ်** ခေါ် အလ္လာဟ်အရှင်၏လျှို့ဝှက်နာမတော်ကိုလည်း အသိပေးခြင်းခံခဲ့ရသည်။ ဘလ်အမ်သည် မြည်းကို **စီး**ပြီး ထိုနာမတော်ကို ရွတ်ဆိုလိုက်လျှင် တစ်ရက်(အချို့အဆိုအရ တစ်နာရီ)နှင့် ရက်ပေါင်းငါးရာ၏ခရီးကို ရောက်ရှိခဲ့သည်ဟု အဆိုရှိသည်။ ထို့ပြင် ဘလ်အမ်သည် ဘယ်ကိုကြည့်ကြည့် ၎င်းကြည့်သည့်နေရာတွင် အရရှ်တော်ကို မြင်နေရသည်ဟုလည်း အဆိုရှိသည်။

ဖိရ်အောင်၏နောက်လိုက်များက ဘလ်အမ်အား တမန်တော်မူဆာ ﷺသခင်နှင့် အဖွဲ့ဝင်များ ပျက်စီးရာပျက်စီးကြောင်း ဒိုအာတောင်းရန် ခိုင်းစေခဲ့ကြသည်။ ဘလ်အမ်က ငြင်းဆိုခဲ့သည်။ ၎င်းသည် အိပ်မက်တွင်လည်း ထိုသို့မပြုရန် မြင်မက်ခဲ့သည်။ သို့သော် ဖိရ်အောင်၏နောက်လိုက်များက အမျိုးသမီး၊ ပစ္စည်းဥစ္စာတို့ဖြင့် ဖျားယောင်းဆွဲဆောင်ကြသောအခါ ဘလ်အမ်သည် စိတ်ပြောင်းပြီး တမန်တော်မူဆာ ﷺသခင်နှင့်အဖွဲ့အပေါ် မကောင်းဆုတောင်းပေးခဲ့သည်။ **ထိုအခါ ၎င်း၏နှလုံးသားထဲမှ အီမာန်သည် ထွက်ခွါသွားခဲ့သည်။ အိစ္စမိအအ်ဇွမ်ကိုလည်း မေ့လျော့သွားခဲ့သည်။**
**(အလ္လာမာဇုဟိုင်ဒီ ؒ၏အီတ္တိဟာဖွစ္စအာဒတီလ်မွတ္တကီန်၊ ပထမတွဲ၊ စာ ၃၅၅)။**

**တဗ်စီရ်ပညာရှင် ဆွဟာဗဟ်နှစ်ပါးဖြစ်သောအဗ်ဒုလ္လာဟ်အိဗ်နေ့အဗ္ဗာစ် ؓနှင့်အဗ်ဒုလ္လာဟ်မတ်စအုဒ် ؓသခင်တို့ကလည်း** အာယတ်တွင်လာရှိသော '**အကြင်သူ**'သည် ဘလ်အမ်အိဗ်နေ့ဘာအူရာဖြစ်သည်ဟု ယူဆခဲ့ကြသည်။ သို့သော် **ပညာရှင်အများစုတို့က** ထို '**အကြင်သူ**'သည် ကျမ်းတော်၏အသိပညာများ ချီးမြှင့်ခံရပြီးနောက် ထိုအသိအတိုင်း မကျင့်**သုံးသူများအားလုံးနှင့်သက်ဆိုင်သည်ဟု** ရှင်းပြကြသည်။ – ဘာသာပြန်သူ။

ပိုင်စိုးမှု၏ဂုဏ်တန်ခိုးများကို သိရှိခြင်းဖြစ်သည်။ ထို့ပြင် ဒွန္နယာနှင့်အာခိရတ်သည် ဆန့်ကျင်ဘက်အရာနှစ် ခုဖြစ်ကြောင်း သိရှိခြင်းဖြစ်သည်။

ဒွန္နယာနှင့်အာခိရတ်သည် မယားပြိုင်နှစ်ယောက်ကဲ့သို့ဖြစ်သည်။ တစ်ဦးကို ကျေနပ်အောင်လုပ်လျှင် အခြားတစ်ဦးက မကြည်မသာဖြစ်သည်။ ဒွန္နယာနှင့်အာခိရတ်သည် ချိန်ခွင်ခွက် နှစ်ခုကဲ့သို့ ဖြစ်၏။ တစ်ခုကို အသာပေးလျှင် အခြားတစ်ခုက ပေါ့တက်သွား၏။ ဒွန္နယာနှင့်အာခိရတ်သည် အရှေ့နှင့် အနောက်ကဲ့သို့ဖြစ်၏။ တစ်ဘက်ကို နီးအောင်သွားလျှင် နောက်တစ်ဘက်နှင့် ဝေးရ၏။ ဒွန္နယာနှင့်အာခိရတ်သည် တစ်ခွက်က ပြည့်ပြီး တစ်ခွက်ကလွတ်နေသော ဖန်ခွက်နှစ်ခွက်ကဲ့သို့ဖြစ်၏။ ပြည့်နေသောခွက်ထဲမှ ခွက်အလွတ်ထဲသို့ ဖြည့်မည်ဆိုလျှင် ထိုခွက်အလွတ်ထဲသို့ ဖြည့်လိုက်သလောက်သည် အပြည့်ရှိသောခွက်က လျော့သွားမည်ဖြစ်သည်။

ဒွန္နယာ၏သေးသိမ်မှုနှင့်ညစ်ညမ်းမှုကို မသိသူ၊ ဒွန္နယာ၏စည်းစိမ်သည် ဒုက္ခနှင့် ယှဉ်တွဲနေသည် မသိသူ၊ ထိုစည်းစိမ်မှာလည်း တစ်ချိန်တွင် ပျက်စီးချုပ်ငြိမ်းရမည်ကို မသိသူကား အသိဉာဏ်ဖေါက်ပြန်နေသူပင်ဖြစ်သည်။ ဤသည်တို့မှာ မျက်မြင်အရင်း အတွေ့အကြုံအရင်း ညွှန်ပြသိရှိနိုင်သောအရာများဖြစ်သည်။ သို့ဖြစ်ရာ ဤအရာများကို မသိသူအား ပညာရှင်များစာရင်းတွင် အဘယ်သို့ထည့်သွင်းနိုင်မည်နည်း။ အာခိရတ်၏ကြီးကျယ်မှုနှင့် အမြဲတည်ရှိမှုကို မသိသူသည် အီမာန်ကင်းမဲ့သော ကာဖီရ်သာဖြစ်သည်။ သို့ဖြစ်ရာ အီမာန်မရှိသူကို ပညာရှင်များစာရင်းတွင် အဘယ်သို့ ထည့်သွင်းနိုင်မည်နည်း။

ဒွန္နယာကို အာခိရတ်၏ဆန့်ကျင်ဘက်အရာဖြစ်ကြောင်း မသိသူ၊ ထိုနှစ်ခုလုံးကို သိမ်းကျုံးရရှိလိုသူသည် မထားအပ်သည့်လောဘစိတ် ထားရှိသူဖြစ်သည်။ သို့ဖြစ်ရာ ထိုသူသည် နဗီတမန်တော်အပေါင်း၏ရှရီအတ်များကို မသိနားမလည်သူသာဖြစ်သည်။ သို့သာမက သူသည် ကျမ်းမြတ်ကုရ်အာန်တစ်စောင်လုံးကို အစမှအဆုံး ငြင်းပယ်သူသာဖြစ်သည်။ ထိုသူမျိုးကို အိုလမာပညာရှင်များတွင် အဘယ်သို့ ထည့်သွင်းရေတွက်နိုင်မည်နည်း။ တဖန် ဤအရာအားလုံးကို သိနားလည်ပြီးနောက်တွင် အာခိရတ်ကို ဒွန္နယာ၏အထက်တွင် အသာမထား ဦးစားမပေးသူသည် ရှိုင်တွာန်၏အကျဉ်းသားဖြစ်သည်။ သူ၏အလိုရမ္မက်က သူ့ကို ဖျက်စီးပြီး အကြောင်းဆိုးခြင်းက သူ့အား လွှမ်းမိုးသွားခဲ့ပြီဖြစ်သည်။ သို့ဖြစ်ရာ ဤအဆင့်ရှိသူမျိုးကို အိုလမာပညာရှင်များ၏အုပ်စုတွင် အဘယ်သို့ ထည့်သွင်းသတ်မှတ်ရမည်နည်း။

တမန်တော်ဒါဝူဒ် ﷺ သခင်အား အိပ်မက်ထဲတွင် အလ္လာဟ်အရှင်က မိန့်ကြားခဲ့သည်မှာ– 'ငါအရှင့်ကို ချစ်ခြင်းထက် မိမိအလိုဆန္ဒကို ဦးစားပေးသူ ပညာရှင်အား ငါ၏အနိမ့်ဆုံးဆောင်ရွက်ချက်သည် ငါအရှင့်ထံ တိုးလျှိုးပန်ကြားရသည့်အရသာကို ၎င်း မခံစားရတော့ခြင်းဖြစ်သည်။ အိုဒါဝူဒ်၊ ငါအရှင့်အကြောင်းကို ဒွန္နယာဖြင့် မူးယစ်နေသူ ပညာရှင်ထံ မမေးလေနှင့်။ ထိုသို့မေးခဲ့လျှင် သူက အသင့်အား ငါ့အချစ်ကို ရယူမည့်လမ်းကို ပိတ်လိမ့်မည်။ ထိုသူမျိုးတို့သည် ငါ၏ကျေးကျွန်လူသားများအဖို့ ဓါးပြများဖြစ်ကြသည်။ အိုဒါဝူဒ်၊ ငါ့အား ရှာဖွေလိုလာသူတစ်ဦးကို တွေ့ရလျှင် သင်သည် ထိုသူ့ကို အကျိုးပြုပါလေ။ အို ဒါဝူဒ်၊ ငါ့ထံမှ ဝေးရာသွားသူကို ငါ့ဘက်သို့ ပြန်လှည့်ပေးလျှင် ငါအရှင်သည် ၎င်းကို အသိဉာဏ်ရှိပြီး ပိုင်းခြားနိုင်သူအဖြစ် ရေးမှတ်တော်မူမည်။ ငါအရှင်က အသိဉာဏ်ရှိပြီး ဝေဖန်ပိုင်းခြားနိုင်သူဟု ရေးမှတ်ခံရသူသည် မည်သည့်အခါမှ အဓာဗ်ပြစ်ဒဏ်ခံရမည် မဟုတ်တော့ပေ။'

ဤအကြောင်းနှင့်စပ်လျဉ်း၍ ဟစ်ဘစ္စရီ သခင်က မိန့်ဆိုသည်မှာ 'ဓမ္မပညာရှင်များအတွက် ပြစ်ဒဏ်ခတ်မှုသည် စိတ်နှလုံးသေခြင်းဖြစ်သည်။ စိတ်နှလုံးသည် အာခိရတ်၏ကျင့်မှုရာများဖြင့် ဒွန္နယာရှာဖွေသည့်အခါ သေဆုံးရလေသည်'ဟု ဖြစ်သည်။ ယဟ်ယာအီဗ်နေ့မအာဇ် သခင်ကလည်း 'ပညာနှင့်ဟီကမတ်တို့ဖြင့် ဒွန္နယာကို ရှာဖွေသည့်အခါ ထိုနှစ်ခု၏တင့်တယ်မှုသည် ထွက်ခွါသွားပေသည်'ဟု ဆိုမိန့်လေသည်။ စအီဒ်အီဗ်နေ့မုစိုင်ယီဗ် သခင်

က 'ဒွန္နယာရေးလုပ်ငန်းကိစ္စများ ဖိစီးနေသောပညာရှင်သည် သူခိုးဖြစ်သည်'ဟု မိန့်ခဲ့သည်။

အိုမရ်ﷺသခင်က 'ဒွန္နယာကို ချစ်ခင်လိုလားသည့် ပညာရှင်တစ်ဦးတစ်ယောက်ကို အသင်တို့ တွေ့ရပါက အသင်တို့၏သာသနာရေးကို ထိုသူမှ သတိထားကြကုန်။ အဘယ်ကြောင့်ဆိုသော် ချစ်ခင်လိုလားသူသည် မိမိချစ်ခင်လိုလားသည့်အရာအတွက်သာ နစ်မွန်းလုံးပန်းသောကြောင့်ဖြစ်သည်။' မာလီက်အိဗ်နေ့ဒီနာရ်ﷺသခင်ကလည်း–

'ကျွန်ုပ်သည် ရှေးကျမ်းဂန်အချို့တွင် အလ္လာဟ်အရှင်က– 'ဒွန္နယာအချစ်ထားသော ပညာရှင်နှင့်ပတ်သက်၍ ငါ့ဘက်က အနိမ့်ဆုံးအရေးယူမှုသည် ငါ့ထံ တိုးလျှိုးပန်ကြားရသည့် အရသာချိုမြမှုကို သူ၏နှလုံးသားထဲမှ ထုတ်ပယ်ပစ်ခြင်းဖြစ်သည်'ဟု မိန့်ကြားတော်မူကြောင်း ဖတ်ရှုခဲ့ရသည်'ဟု ပြောပြသည်။

လူတစ်ယောက်က မိမိ၏ညီနောင်ထံသို့ စာရေးသည်မှာ 'သင့်ကို ပညာ ချီးမြှင့်ထားသည်။ အသင်၏ပညာအလင်းရောင်ကို အပြစ်ဒုစရိုက်၏မဲမှောင်မှုဖြင့် ငြိမ်းသတ်မပစ်နှင့်။ ထိုသို့ ငြိမ်းသတ်ပစ်ခဲ့မည်ဆိုလျှင် ပညာရှင်များ မိမိတို့ပညာအလင်းရောင်ဖြင့် လမ်းလျှောက်ရမည့်နေ့တွင် သင်သည် အမှောင်ထဲ၌ ရှိနေလိမ့်မည်။'

ယဟ်ယာအိဗ်နေ့ရာဇီﷺသခင်က ဒွန္နယာလိုက်စားသောပညာရှင်များသို့ ပြောဆိုလေ့ရှိသည်မှာ– 'အို ပညာရှိထားသူတို့၊ အသင်တို့၏ဗိမာန်အဆောင်များကတော့ ကိုင်စရ်ဘုရင့်နန်းတော်များအတိုင်းပါဘဲ။ အသင်တို့၏အိမ်များကလည်း ကစ္စရာဘုရင့်အိမ်များလိုပါဘဲ။ အသင်တို့အဝတ်အထည်များက ပါးလွှာလွန်းလှပါကလား။ အသင်တို့၏မော်ဇာခြေအိတ်များကလည်း ဂျာလူတ်၏ခြေအိတ်များအတိုင်းပါလား။ အသင်တို့၏အစီးအနင်းများက ကာရူန်၏အစီးအနင်းများ ဖြစ်နေပြီ။ အသင်တို့၏အိုးခွက်များက ဖီရ်အောင်၏အိုးခွက်များဖြစ်နေပေပြီ။ အသင်တို့၏ပြစ်မှုဒုစရိုက်များက ဂျာဟိလီယတ်၏ပြစ်မှုဒုစရိုက်များအတိုင်းဖြစ်နေပြီ။ အသင်တို့၏သာသနာ့လမ်းစဉ်က ရှိုင်တွာန်၏လမ်းစဉ် ဖြစ်နေပေပြီ။ မုဟမ္မဒီယာတရားလမ်းစဉ်သည် ဘယ်သို့ရောက်သွားပြီလဲ။' လင်္ကာဆရာက စပ်ဆိုသည်မှာ–

وراعي الشاة يحمي الذئب عنها      فكيف إذا الرعاة لها ذئابُ ؟

*'ဆိတ်ကျောင်းသူ၏တာဝန်သည် ဆိတ်အုပ်ကို ဝံပလွေ၏ရန်က ကာကွယ်ဖို့ဖြစ်သည်။*
*အကယ်၍ ဆိတ်ကျောင်းသူကိုယ်တိုင်က ဝံပလွေဖြစ်ပြီဆိုလျှင် ဘယ်လိုလုပ်ကြမလဲ။'*

يا معشر القرّا يا ملح البلد      ما يصلح الملح إذا الملح فسدَ ؟

*'အို ကိရအတ်ပညာရှင်တို့၊ မြို့ရွာတွင် ဆားသည် မရှိမဖြစ် လိုသလို မရှိမဖြစ် ပုဂ္ဂိုလ်တို့၊*
*ဆားကိုယ်တိုင်က ပျက်စီးသည့်အခါ သူက ဘာကို ကောင်းကျိုးပြုနိုင်တော့မည်နည်း။'*

အာရီဖ်သူတော်စင်တစ်ဦးအား 'အပြစ်ဒုစရိုက်တွင် ပျော်မွေ့နေသူတစ်ဦးအား အလ္လာဟ်အရှင်ကို မသိသူဟု အသင် ထင်မြင်ပါသလား'ဟု မေးမြန်းရာ သူတော်စင်က 'မုချဧကန်အတိုင်းဖြစ်သည်။ ဒွန္နယာကို အာခိရတ်ထက်ပို၍ ဦးစားပေးသူသည် အလ္လာဟ်အရှင်ကို မသိနိုင်ပါ'ဟု ဖြေခဲ့သည်။

ပစ္စည်းဥစ္စာကို မမက်ပါဆိုရုံဖြင့် အာခိရတ်ပညာရှင်များတွင် အပါအဝင်ဖြစ်ရန် လုံလောက်ပြီဟု မထင်မှတ်သင့်ပါ။ အဘယ်ကြောင့်ဆိုသော် ကြီးမြင့်ကျော်ကြားလိုစိတ်သည် ပစ္စည်းဥစ္စာထက်ပို၍ ဆိုးအန္တရာယ်ကြီးပါသည်။

ဘရှရ်ﷺသခင်က 'ဟဒီစ်တော်ဆင့်ပြန်ရာ၌ ဆရာဘက်က မြွက်ဟပြောဆိုရသည့် (حَدَّثَنَا) စကားလုံးသည် ဒွန္နယာလိုက်စားမှု၏တံခါးပေါက်များထဲ တံခါးပေါက်တစ်ခုဖြစ်သည်။ လူတစ်ဦးက '(حَدَّثَنَا)'ဟု မြွက်ဆိုသည်ကို အသင် ကြားရလျှင် သူသည် 'ငါ့ကို အရေးတယူ ဆက်ဆံပါ'ဟု ပြောဆိုနေခြင်းဖြစ်ကြောင်း မှတ်ယူကုန်'ဟု မိန့်ဆိုသည်။ ဤဘရှရ်အိဗ်နေ့ဟိရ်စ်ﷺသခင်သည် သစ်သားစင် ဆယ်ခုစာမက စာအုပ်များကို မြေမြှုပ်ပစ်ခဲ့သည်။ သခင်က ပြောလေ့ရှိမှာ 'ငါသည် ဟဒီစ်တော်ပို့ချရန် ဆန္ဒပြင်းပြပါသည်။ ဤဆန္ဒပြင်းပြမှု မရှိသောအခါကျမှ ငါဟဒီစ်

တော်ပို့ချမည်။' ထိုပြင် ဤသခင် မဟုတ်လျှင်၊ အခြားတစ်ဦးက ပြောဆိုခဲ့သောစကားမှာ 'သင် ဟဒီစ်တော်ပို့ချရန် ဆန္ဒပြင်းပြနေသောအခါ နှုတ်ပိတ်နေပါ။ ထိုဆန္ဒပြင်းပြမှု မရှိဘူးဆိုသောအခါမှ ဟဒီစ်တော်ပို့ချပါ'ဟု ဖြစ်သည်။

ဤသို့ပြောဆိုရခြင်းအကြောင်းမှာ သင်ပြပို့ချမှု၏အရိုက်အရာတွင် မိမိကိုယ်ကို မြင့်မြတ်သူဟု ခံစားရသည့် အရသာသည် ဒွန်နယာ၏စည်းစိမ်အားလုံးထက် ပိုသောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ အကြင်သူသည် မိမိ၏အလိုဆန္ဒကို သင်ပြပို့ချပေးမှုဖြင့် ဖြည့်ခဲ့လျှင် သူသည် ဒွန်နယာလိုက်စားသူသာဖြစ်လိမ့်မည်။

သို့ကြောင့်ပင် ဆွဖ်ယန်ဆော်ရီ ᷍သခင်က 'ဟဒီစ်တော်ပို့ချရေးပြဿနာသည် ဇနီးသားသမီးနှင့်ပစ္စည်းဥစ္စာဆိုင်ရာပြဿနာထက်ပို၍ ကြီးမားပေသည်'ဟု ဆိုခဲ့ခြင်းဖြစ်သည်။ အလ္လာဟ်အရှင်က တမန်တော်မြတ်ﷺအား–

﴿وَلَوۡلَآ أَن ثَبَّتۡنَٰكَ لَقَدۡ كِدتَّ تَرۡكَنُ إِلَيۡهِمۡ شَيۡـٔٗا قَلِيلًا﴾

**'ထိုပြင် အကယ်၍ ငါအရှင်က အသင့်ကို ကြံ့ခိုင်စွာရပ်တည်စေခြင်းမရှိလျှင် မုချဧကန် အသင်သည် ၎င်းတို့ဘက်သို့ အနည်းငယ်လောက်ပင်ဖြစ်စေ တိမ်းညွှတ်နေလောက်ပြီဖြစ်သည်။'** (စူရာအစ်ဆရာအ် ၊ ၇၄)

မိန့်တော်မူခဲ့သည်ကို ထောက်ရှုလျှင် ဤပြဿနာသည် စိုးရိမ်မကင်းဖြစ်လောက်သည့် ပြဿနာဖြစ်ကြောင်းသဘောပေါက်နိုင်ပေသည်။

ဆဟ်လ်တွစ်တုရီ ᷍သခင်က 'ပညာရပ်အားလုံးသည် ဒွန်နယာရေးပင်ဖြစ်သည်။ လက်တွေ့ကျင့်သုံးမှုဖြင့်သာ အာခိရတ်ရေးဖြစ်ရသည်။ လက်တွေ့ကျင့်သုံးမှုအားလုံးသည်လည်း စိတ်စေတနာဖြူစင်မှုမပါလျှင် သဲရုပ်ရုပ်သာဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ သခင်ကပင် အမိန့်ရှိသည်မှာ 'ဓမ္မပညာရှင်များမှအပ လူသားအားလုံးသည် သူသေများသာဖြစ်ကြသည်။ တဖန် လက်တွေ့ကျင့်ကြံအားထုတ်သူများမှအပ ဓမ္မပညာရှင်အားလုံးသည် လောကီယစ်မူးနေသူများသာဖြစ်သည်။ တဖန် အီခ်လာဆ်စေတနာဖြူစင်သူမှအပ လက်တွေ့ကျင့်ကြံသူများအားလုံးသည်လည်း လှည့်ဖြားခံရသူများသာဖြစ်သည်။ အီခ်လာဆ်ရှိသူ ဆိုသည်ကား မိမိမည်သို့ နိဂုံးကမ္ပတ်အဆုံးသတ်ရမည်ကို စိုးရိမ်ထိတ်လန့်နေသူဖြစ်သည်။'

အဗူဆုလိုင်မာန်ဒါရာနီ ᷍သခင်က ဆိုမိန့်သည်မှာ 'လူတစ်ဦးတစ်ယောက်၏ဟဒီစ်တော်ဆည်းပူးခြင်း၊ အိမ်ထောင်ပြုခြင်းနှင့် စီးပွါးရှာခရီးထွက်ခြင်းတို့သည် ဒွန်နယာရေးကဏ္ဍသာဖြစ်သည်။' ဤနေရာတွင် ဟဒီစ်တော်ဆည်းပူးခြင်းသက်သက်ကို မဆိုလိုဘဲ အဆင့်မြင့်စနဒ်ဆက်ရရှိရန် ကြိုးပမ်းခြင်းကို ဆိုလိုသည်။'

တမန်တော်အီစာ ᷍သခင်က မိန့်ဆိုခဲ့သည်မှာ ' လူကိုယ်တိုင်က အာခိရတ်ခရီးကို လျှောက်လှမ်းလျက်ရှိပြီး စိတ်အာရုံက ဒွန်နယာဘက်သို့ လှည့်နေလျှင် ထိုသူသည် အဘယ်မှာပညာရှိဖြစ်နိုင်မည်နည်း။ အကြင်သူသည် လက်တွေ့လိုက်နာကျင့်သုံးရန်မဟုတ်ဘဲ အခြားသူကို ပြောဆိုရန်အတွက် အမိန့်ပညတ်များကို သင်ယူမည်ဆိုလျှင် ထိုသူသည် အဘယ်မှာ ပညာရှိဖြစ်နိုင်မည်နည်း။'

ဆွာလေဟ်အီဗ်နေ့ကိုင်ဆာန်ဘစ္စီရီ ᷍သခင်ကမူ 'ကျွန်ုပ်သည် ဆရာသမားကြီးများကို တွေ့မိုခဲ့ရပါသည်။ ထိုပုဂ္ဂိုလ်ကြီးများသည် စွန္နတ်၏ပညာကို သင်ယူတတ်ကျွမ်းပြီးနောက် ဖေါက်ပြန်ပျက်စီးနေသည့် ပညာရှင်များမှ ကင်းဝေးရန် အလ္လာဟ်အရှင့်ထံ ကင်းဆုပန်နေကြကြောင်း တွေ့ရပါသည်။'

အဗူဟုရိုင်ရာ ᷍သခင်က 'တမန်တော်မြတ်ﷺမိန့်ဆိုမှုကို ဆင့်ပြန်သည်မှာ–

من طلب علماً مما يبتغي به وجه الله تعالى ليصيب به عرضاً من الدنيا لم يجد عرف الجنة يوم القيامة .(د.ق)

'အကြင်သူသည် အလ္လာဟ်အရှင်၏ကျေနပ်မှုရနိုင်မည့်ပညာကို ဒွန်နယာ၏ဝတ္ထုပစ္စည်းအချို့ရရှိရေးအတွက် သင်ယူခဲ့လျှင် ထိုသူသည် ကိယာမတ်နေ့တွင် ဂျန္နတ်၏အနံ့ကိုမျှ ရလိမ့်မည်မဟုတ်ပေ။'

အလ္လာဟ်အရှင်က ပညာဖြင့် ဒွန္နယာရှာဖွေစားသောက်သူကို ပညာရှင်ဆိုးဟုဝင်း၊ ကျိုးငဲ့မှုရှိပြီး ဒွန္နယာစွန့်သူကို အာခိရတ်၏ပညာရှင်ဟုဝင်း ဖော်ပြတော်မူထားသည်။ အလ္လာဟ်အရှင်က ဒွန္နယာလိုက်စားသူပညာရှင်များနှင့်ပတ်သက်၍ မိန့်တော်မူသည်မှာ–

﴿وَاِذْ اَخَذَاللّٰهُ مِيْثَاقَ الَّذِيْنَ اُوْتُوا الْكِتَابَ لَتُبَيِّنُنَّهُ لِلنَّاسِ وَلَا تَكْتُمُوْنَهُ فَنَبَذُوْهُ وَرَاءَ ظُهُوْرِهِمْ وَاشْتَرَوْا بِهِ ثَمَنًا قَلِيْلًا﴾

**'၎င်းပြင် အလ္လာဟ်အရှင်က ကျမ်းရသူများအား ထိုကျမ်းကို လူတို့အား ရှင်းလင်းပို့ချရန်၊ ထိုကျမ်းကို ဖုံးကွယ်မထားရန် ကတိယူတော်မူသောအခါ ၎င်းတို့သည် ထိုကတိကို ဥပေက္ခာပြုခဲ့ကြသည်။ ထို့ပြင် ၎င်းတို့သည် ထိုကျမ်းကို အဖိုးနည်းနည်းဖြင့် ရောင်းချခဲ့ကြသည်။'** (စူရာအာလေ့အင်မ်ရာန် ၊ ၁၈၇)

ထို့ပြင် အလ္လာဟ်အရှင်က အာခိရတ်၏ပညာရှင်များနှင့်ပတ်သက်၍ မိန့်တော်မူသည်မှာ–

﴿وَاِنَّ مِنْ اَهْلِ الْكِتَابِ لَمَنْ يُّؤْمِنُ بِاللّٰهِ وَمَا اُنْزِلَ اِلَيْكُمْ وَمَا اُنْزِلَ اِلَيْهِمْ خَاشِعِيْنَ لِلّٰهِ لَا يَشْتَرُوْنَ بِاٰيَاتِ اللّٰهِ ثَمَنًا قَلِيْلًا اُولٰٓئِكَ لَهُمْ اَجْرُهُمْ عِنْدَ رَبِّهِمْ﴾

**'၎င်းပြင် ကျမ်းရသူများထဲတွင် ဤသို့သောသူများလည်းရှိကြသည်။ ၎င်းတို့သည် အလ္လာဟ်အရှင်ကို ၎င်း၊ အသင်တို့အပေါ် ချပေးသောအရာကို၎င်း၊ ၎င်းတို့အပေါ် ချပေးသောအရာကို၎င်း အိစာန်သက်ဝင်ကြသည်။ ထို့ပြင် အလ္လာဟ်အရှင်အား ကြောက်ရွံ့ရိုကျိုးကြသည်။ ထို့ပြင် အလ္လာဟ်အရှင်၏ အာယတ်များကို အနည်းငယ်မျှသော တန်ဘိုးဖြင့် ရောင်းချခြင်း မပြုကြပေ။ ၎င်းသူတို့အတွက်ကား ၎င်းတို့၏ ရဗ်အရှင်ထံတော်၌ အကျိုးဆုလဒ်များ ရှိနေပေသည်။'** (စူရာအာလေ့အင်မ်ရာန် ၊ ၁၉၉)

အချို့သောရှေးသူဟောင်းတို့က ဆိုမိန့်ကြသည်မှာ 'ဓမ္မပညာရှင်များသည် နဗီတမန်တော်များ၏ အုပ်စုတွင် ရှင်ထကြရမည်။ ကာဇီများကမူ အာဏာပိုင်များ၏ အုပ်စုတွင် ရှင်ထကြရမည်။' ဤနေရာတွင် ကာဇီများဆိုသည်မှာ မိမိ၏ပညာဖြင့် ဒွန္နယာရှာဖွေသော ဖိကဟ်ရှင်ကို ဆိုလိုသည်။

အဗူဒရ်ဒါအ်ﷺသခင်က တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုကို ဆင့်ပြန်သည်မှာ–

أوحى الله عز وجل إلى بعض الأنبياء : قل للذين يتفقهون لغير الدين ويتعلمون لغير العمل ويطلبون الدنيا بعمل الآخرة يلبسون للناس مسوك الكباش وقلوبهم كقلوب الذئاب . ألسنتهم أحلى من العسل ، قلوبهم أمرّ من الصبر إياي يخادعون وبي يستهزئون لأفتحن لهم فتنة تذر الحليم حيران لم يجد عرف الجنة يوم القيامة . (د . ق)

'အလ္လာဟ်အရှင်မြတ်က အချို့နဗီတမန်တော်များထံ ဝဟီပို့ချတော်မူသည်မှာ 'သာသနာရေးအတွက်မဟုတ်ဘဲ ဖိကဟ်သင်ယူသူများ၊ ကျင့်သုံးရန်အတွက်မဟုတ်ဘဲ ဓမ္မပညာသင်ယူသူများ၊ အာခိရတ်ရေးကျင့်မှုရာဖြင့် ဒွန္နယာရှာသူများအား အသင်ပြောပါလော့။ လူတို့၏အမြင်တွင်တော့ ထိုသူတို့ဝတ်ဆင်ထားသည်မှာ ဆိတ်သားရေဖြစ်သည်။ သို့သော် သူတို့၏နှလုံးသားများသည် ဝံပုလွေတို့၏နှလုံးသားများကဲ့သို့ဖြစ်သည်။ ယင်းတို့၏နှုတ်လျှာများက ပျားရည်ထက် ချိုမြသည်။ သို့သော် သူတို့နှလုံးသားများကမူ မုတ်ခါးထက်ပင် ခါးသည်။ သူတို့သည် ငါအရှင့်ကိုပင် လှည့်ဖြားကြသည်။ ထို့ပြင် ငါအရှင့်အား သရော်ပြောင်လှောင်ကြသည်။ ငါအရှင်သည် ၎င်းတို့အထဲမှ သည်းခံတရားရှိသူ ခန္တီရှင်များပင် မခံမရပ်နိုင်ဖြစ်စေမည့် ပြဿနာကို ပေါ်ပေါက်စေတော်မူမည်။'

ဇွေဟာက်သခင်ﷺက အိဗ်နေ့အဗ္ဗာစ်ﷺသခင်ထံမှ တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုကို ဆင့်ပြန်သည်မှာ–

علماء هذه الأمة رجلان : رجل آتاه الله علماً فبذله للناس ولم يأخذ عليه طمعًا ولم يشتر به ثمناً .

فذلك يصلي عليه طير السماء وحيتان الماء ودواب الأرض والكرام الكاتبون يقدم على الله عزوجل يوم القيامة سيداً شريفاً حتى يوافق المرسلين ، ورجل آتاه الله علماً في الدنيا فضن به على عباد الله وأخذ عليه طمعاً واشترى به ثمناً فذلك يأتي يوم القيامة ملجماً بلجام من نار ينادي عناد على رؤوس آتاه الله علماً في الدنيا فضنّ به على عباده وأخذ به طمعاً واشترى به الخلائق فلان بن هذا فلان ثمناً فيعذب حتى يفرغ من حساب الناس . (طس)

'ငါ၏အမြင်တွင် ဓမ္မပညာရှင်ဆိုသူတို့မှာ လူနှစ်မျိုးဖြစ်သည်။ လူတစ်မျိုးမှာ အလ္လာဟ်အရှင်က သူ့ကို ပညာချီးမြှင့်တော်မူထားရာ၊ သူသည် ထိုပညာကို လူတို့အတွက် အသုံးချခဲ့သည်။ သို့သော် ထိုပညာကို အကြောင်းပြုပြီး စားသောက်ခြင်းမပြု၊ ထို့ပြင် ထိုပညာကို အဖိုးငွေဖြင့် ရောင်းချခြင်းလည်း မပြုပေ။ သို့ဖြစ်ရာ ထိုသူ့ကို မိုးကောင်းကင်ရှိငှက်များ၊ ရေထဲရှိငါးများ၊ မြေပြင်ရှိသက်ရှိသတ္တဝါများနှင့် ကိရာမာန် ကာတိဘီန် အားလုံးတို့က သနားဂရုဏာသက်ရန် ဒိုအာပြုပေးကြသည်။ ထိုသူသည် အလ္လာဟ်အရှင့်ထံသို့ ကိယာမတ်နေ့တွင် မြင့်မြတ်သောခေါင်းဆောင်အဖြစ် အခစားဝင်ရမည်။ ထို့နောက် သူသည် ရစူလ်တမန်တော်များနှင့် ဝင်ဆံ့ပေါင်းသင်းရလိမ့်မည်။

နောက်လူတစ်မျိုးမှာ အလ္လာဟ်အရှင်က သူ့အား ပညာချီးမြှင့်တော်မူခဲ့ရာ၊ သူသည် အလ္လာဟ့်ကျေးကျွန်လူသားများထံ ထိုပညာကို ပို့ချဖြန့်ဖြူးရန် နှမြောတွန့်တိုခဲ့သည်။ ထို့ပြင် ထိုပညာကို အကြောင်းပြုပြီး ရှာဖွေစားသောက်ခြင်း၊ ထိုပညာကို အဖိုးငွေဖြင့် ရောင်းချခြင်းများလည်း ပြုလုပ်ခဲ့သည်။ သို့ဖြစ်ရာ သူသည် ကေယာမတ်နေ့တွင် ဂျဟန္နမ်၏မီးပါးချုပ်ကို စွပ်လျက် ရောက်လာလိမ့်မည်။ ဟစ်ကြွေးသူက လူထုရှေ့မှောက်တွင် ဟစ်ကြွေးမည်မှာ– 'ဤသူသည် မည်သူမည်ဝါ၏သားဖြစ်သည်။ ဒွန္နယာလောကဌ်ရှိစဉ် သူ့ကို အလ္လာဟ်အရှင်က ပညာချီးမြှင့်ခဲ့သည်။ သူသည် ထိုပညာကို အရှင့်ဘန္ဒာလူသားများအား သင်ပေးရာမှာ နှမြောတွန့်တိုခဲ့သည်။ ထိုပညာဖြင့် ရှာဖွေစားသောက်ခြင်း၊ ထိုပညာကို အဖိုးငွေဖြင့် ရောင်းချခြင်းများပြုလုပ်ခဲ့သည်။' ထို့နောက် သူ့အား လူသားအားလုံး၏စာရင်းများ စစ်ဆေးပြီးစီးသည့်အချိန်ထိအောင် ပြစ်ဒဏ်စီရင် လိမ့်မည်။'

အထက်ပါမိန့်ဆိုမှုထက် ပြင်းထန်သောဖေါ်ပြချက်တစ်ခု ရှိသေးသည်။ ယင်းမှာ 'တမန်တော်မူဆာ﵇သခင့်အား ဝတ်ကြီးဝတ်ငယ်ပြုလေ့ရှိသောလူတစ်ဦးရှိခဲ့သည်။ ၎င်းသည် လူတို့အား– 'ငါ့ကို မူဆာစဖီယွလ္လာဟ်သခင်က ဤသို့မိန့်ဆိုခဲ့သည်။' 'ငါ့ကို မူဆာနဂျီယွလ္လာဟ်သခင်က ဤသို့မိန့်ဆိုခဲ့သည်။' 'ငါ့ကို မူဆာကလီမွလ္လာဟ်သခ က ဤသို့မိန့်ဆိုခဲ့သည်'ဟု ပြောဆိုလေ့ရှိခဲ့သည်။ ဤနည်းဖြင့် ၎င်းသည် ပစ္စည်းဥစ္စာချမ်းသာကြွယ်ဝသွားခဲ့သည် ထို့နောက်တွင် ၎င်းကို မမြင်ရတော့သဖြင့် တမန်တော်မူဆာ﵇သခင်သည် ၎င်းနှင့်ပတ်သက်၍ စုံစမ်းမေးမြန်းေ သည်။ သို့သော် ၎င်းသူ၏သတင်းကို အစအနမျှပင် မသိရတော့ချေ။

တစ်ရက်တွင် လူတစ်ယောက် သခင့်ထံသို့ ရောက်လာခဲ့သည်။ သူ၏လက်တွင် ဝက်တစ်ကောင်ကို လ ကုပ်မှ ကြိုးအနက်တစ်ချောင်းချည်၍ ဆွဲထားသည်။ မူဆာ﵇သခင်က သူ့အား 'အသင် ထိုလူကို သိသလား' မေးရာ သူက 'ဟုတ်ကဲ့၊ သိပါသည်'ဟု ဖြေသည်။ 'သခင်မေးသည့်လူသည် ယခုကျွန်ုပ်ထဲလက်တွင် ဆွဲထားသ ဝက်ပင်ဖြစ်ပါသည်'ဟုဆိုသည်။ ထိုအခါ တမန်တော်မူဆာ﵇သခင်က–

'အိုအရှင်၊ ဤသူ့ကို သူ၏မူလအခြေအနေသို့ ပြန်ပို့တော်မူပါ။ သူ၏အဖြစ်ကို ကျွန်ုပ်မေးမြန်းနိုင်ရန် ဖြ သည်'ဟု အလ္လာဟ်အရှင့်ထံ လျှောက်ထားလိုက်သည်။ အလ္လာဟ်အရှင်က သခင့်အား ဝဟီဖြင့် အသိပေးသည့် 'အကယ်၍ အသင်က အာဒမ်မှစ၍ နဗီများနှင့်ဝလီများ တသခေါ်ဆိုခဲ့သော ဂုဏ်ပုဒ်တော်များဖြင့် ငါ့အား ခေ

ထားတောင်းဆိုခဲ့မည်ဆိုလျှင်လည်း ငါလက်ခံမည်မဟုတ်ပါ။ သို့သော် ထိုသူ့ကို ငါအရေးယူခဲ့သည့်အကြောင်း မိန့်ကြားသေသိပေးမည်။ သူသည် သာသနာကို အကြောင်းပြုပြီး ဒွန္နယာရှာခဲ့သူဖြစ်သည်။

အထက်ပါဖေါ်ပြမှုထက် မအာဇ်အီဗ်နေ့ဂျဗ်လ်ﷺသခင်၏ဆင့်ပြန်ချက်က ပို၍ပြင်းထန်သေးသည်။ သခင်က တမန်တော်မြတ်ﷺ၏ ဤမိန့်ဆိုမှုကို ဟဒီစ်မော်ကူဖ်အဖြစ်ငှင်း ဟဒီစ်မရ်ဖူအ်အဖြစ်ငှင်း ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

من فتنة العالم أن يكون الكلام أحب اليه من الاستماع . (ဗ)

'ပညာရှင်၏ဒုက္ခပြဿနာသည် နားထောင်ခြင်းထက် ပြောဆိုရခြင်းကို ပို၍ကြိုက်ခြင်းဖြစ်သည်။'

ပြောဆိုခြင်းက ဂုဏ်တက်စေသည်။ သို့သော် ပြောဆိုသူသည် အမှားအယွင်းကင်းလိမ့်မည်ဟု စိတ်မချရပေ။ ဆိတ်ဆိတ်နေခြင်းဖြင့် အေးချမ်းသာယာမှုနှင့် ပညာဉာဏ်ရရှိမည်ဖြစ်သည်။

ပညာရှင်များအနက် မိမိ၏ပညာကို သိမ်းဆည်းသိုဝှက်ထားပြီး အခြားသူများထံ ထိုပညာ ရှိနေမည်ကို မလိုလားသူများရှိသည်။ ထိုသူတို့သည် ငရဲ၏ပထမထပ်တွင် နေရမည်။ ထို့ပြင် ပညာရှင်များတွင် မိမိ၏ပညာအပေါ် ဘုရင်တစ်ပါးအဆင့်သို့ မြှင့်တင်ထားသူရှိသည်။ သူ၏ပညာအပေါ် တစ်စုံတစ်ရာ စောဒကတက်ခဲ့လျှင်ငှင်း၊ သူ၏အခွင့်အရေးတွင် အနည်းငယ်လျှော့ပေါ့မှုရှိခဲ့လျှင်ငှင်း ဒေါသပေါက်ကွဲလေ့ရှိသည်။ ဤသူမျိုးသည် ငရဲ၏ဒုတိယထပ်တွင် နေရမည်။ ထို့ပြင် ပညာရှင်များတွင် မိမိ၏ပညာနှင့် ဟဒီစ်တော်များကို အထက်တန်းလွှာများနှင့် ချမ်းသာကြွယ်ဝသူများသို့သာ ပို့ချလေ့ရှိသည်။ ပညာလိုလားသူများကို သူ၏ပညာနှင့် မထိုက်တန်ဟု မှတ်ယူသည်။ ဤလူမျိုးသည် ငရဲ၏တတိယထပ်တွင် နေရမည်။ ထို့ပြင် ပညာရှင်များတွင် မိမိကိုယ်ကို မုဖ်တီတင်မြှောက်ထားသူများရှိသည်။ ဤသူတို့သည် ပြင်းထန်သော ဖတ္တဝါများ ပေးလေ့ရှိသည်။ အလ္လာဟ်အရှင်သည် တာဝန်ပိုအောင်လုပ်သူများကို မုန်းတီးတော်မူသည်။ ဤသူမျိုးသည် ငရဲ၏စတုတ္ထထပ်တွင် နေရမည်။ ထို့ပြင် ပညာရှင်များအနက် မိမိ၏ပညာကို ထူးထူးခြားခြားဖြစ်ရန်အတွက် ရဟူဒီနှင့်နဆ္ဆရာနီတို့၏စကားရပ်များကို ကိုးကားပြောဆိုသူများ ရှိသည်။ ထိုသူမျိုးသည် ငရဲ၏ပဉ္စမထပ်တွင် နေရမည်။ ထို့ပြင် ပညာရှင်များအနက် မိမိ၏ပညာဖြင့် ပြစားသူ၊ လူတို့ထံတွင် ကဝိကျော်ကြီးအဖြစ် မှတ်မှတ်ရရ ပြောစမှတ်ကျန်ရစ်အောင် လုပ်သူများရှိသည်။ ဤသူတို့သည် ငရဲ၏ဆဋ္ဌမထပ်တွင် နေကြရမည်။ ထို့ပြင် ပညာရှင်များအနက် တရားဟောပြောရာတွင် ဂုဏ်မောက်သူများရှိသည်။ ဤသူတို့သည် ငရဲ၏သတ္တမထပ်တွင် နေကြရမည်။

အိုညီနောင်၊ အသင်ဆိတ်ဆိတ်နေခြင်းကို အလေ့အထလုပ်ပါ။ ဤနည်းဖြင့် သင်သည် ရှိုင်တွာန်ကို လွှမ်းမိုးအနိုင်ယူနိုင်မည်။ အကြောင်းထူးမရှိဘဲ ရယ်မောခြင်းမပြုနှင့်။ ထို့ပြင် မလိုအပ်ဘဲ ဟိုဟိုသည်သည်မသွားနှင့်။'

အခြားဟဒီစ်တစ်ပုဒ်တွင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن العبد لينتشر له من الثناء ما يملا ما بين المشرق و المغرب وما يزن عند الله جناح بعوضة

'လူတစ်ဦးကို ချီးကျူးမှုသည် အရှေ့အရပ်နှင့်အနောက်အရပ် နှစ်ခုအကြား ပြည့်သွားလောက်အောင် ပြန့်နှံ့လျက်ရှိတတ်သည်။ အလ္လာဟ်အရှင့်ထံ၌မူ ထိုသူသည် ယင်ကောင်၏တောင်ပံ တစ်ဘက်လောက်မှ အလေးချိန် မစီးပေ။'*

---

* အဲရာကီ သခင်က 'ဟဒီစ်ကို ဤအတိုင်း မတွေ့ဖူးပါ' ဟု ဆိုခဲ့သည်။ ထို့နောက် အဗူဟုရိုင်ရာﷺသခင်၏ဆင့်ပြန်ချက်ဟဒီစ်ကို ဖေါ်ပြသည်မှာ –

إنه ليأتي الرجل السمين يوم القيامة لا يزن عند الله جناح بعوضة . (ခ.မ)

'ကိယာမတ်နေ့တွင် အလွန်ဝဖြိုးသောလူတစ်ယောက် ရောက်လာမည်။ အလ္လာဟ်အရှင့်ထံ၌မူ ထိုသူသည် ယင်ကောင်၏တောင်ပံတစ်ဘက်လောက်မှ အလေးချိန်မစီးပေ။'

အဆိုရှိသည်မှာ 'ဟစ်ဘစ္စရီ'သခင်သည် တရားပိုင်းတစ်ခုမှ ထသောအခါ ခိုရာစာန်ပြည်မှ လူတစ်ယောက်က အိတ်ပိုင်းတစ်ခုကို သခင့်အား ယူလာပေးခဲ့သည်။ ထိုအထဲတွင် ငွေဒင်္ဂါးငါးထောင်နှင့်နူညံ့သောအထည်စ ဆယ်ခုပါရှိသည်။ ထိုလူက 'အို အဗူစအီဒ်၊ ဤငွေဒင်္ဂါးများက သခင်သုံးစွဲရန်ဖြစ်ပြီး ဤအထည်စများက သခင်ဝတ်ရန်ဖြစ်သည်'ဟုပြောသည်။ ထိုအခါ ဟစ်ဘစ္စရီ'သခင်က 'အလ္လာဟ်အရှင် သင့်ကို ချမ်းမြေ့သာယာမှုပြုတော်မူပါစေ။ ငွေနှင့် အထည်တွေကို သင့်ဆီမှာဘဲ ထားပါ။ ကျွန်ုပ်အဖို့ ဤအရာများ မလိုပါ။ ယခုလို လူတွေဆီက လက်ခံမည်ဆိုလျှင် ကျွန်ုပ်၏ထိုင်ဝိုင်းမျိုးမှာ ကိယာမတ်နေ့ အလ္လာဟ်အရှင်၏ရှေ့တော်မှောက် ရောက်သည့်အခါ သာသနာရေးတန်ဘိုး ရှိတော့မည်မဟုတ်ပါ'ဟု ရှင်းပြပြောဆိုခဲ့သည်။

ဂျာဗိရ်ﷺသခင်က တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုတစ်ခုကို မရ်ဖူအ်ငင်း၊ မော်ကူဖ်အဖြစ် ဆင့်ပြန်ခဲ့သည်။ ထိုဥ္ဓ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ—

لا تجلسوا عند كل عالم إلا إلى عالم يدعوكم من خمس إلى خمس : من الشك إلى اليقين ، ومن الرياء إلى الإخلاص ، ومن الرغبة إلى الزهد ، ومن الكبر إلى التواضع ، ومن العداوة إلى النصيحة.

(نع)

'အသင်တို့သည် ပညာရှင်ဆိုသူတိုင်းနှင့် အတူမထိုင်ကြနှင့်။ အသင်တို့ အတူထိုင် ဆည်းကပ်ရမည့် ပညာရှင်သည် အသင်တို့အား ငါးခုသောအရာဘက်မှ ငါးခုသောအရာဘက်သို့ ဆွဲဆောင်ခေါ်ယူသူဖြစ်ရမည်။ ထိုငါးခုမှာ ဒွိဟမကင်းဖြစ်မှုမှ ဒိဋ္ဌယုံမှုဘက်သို့၊ လူမြင်ကောင်းအောင် ပြစားမှုမှ အလ္လာဟ့်အတွက် တစ်စိတ်တစ်လက် ဖြစ်မှုဘက်သို့၊ လိုလားတောင့်တမှုမှ စွန့်ခွါရှောင်ဖယ်မှုဘက်သို့၊ မာနတက်မှုမှ ကျိုးငြံ နှိမ့်ချမှုဘက်သို့၊ ရန်ညိုးထားမှုမှ စိတ်ကောင်းထားမှုသို့ဖြစ်သည်။'

အလ္လာဟ်အရှင်မိန့်တော်မူသည်မှာ—

﴿فَخَرَجَ عَلٰى قَوْمِهٖ فِي زِيْنَتِهٖ ۖ قَالَ الَّذِيْنَ يُرِيْدُوْنَ الْحَيَاةَ الدُّنْيَا يَا لَيْتَ لَنَا مِثْلَ مَا اُوْتِيَ قَارُوْنَ اِنَّهُ لَذُوْ حَظٍّ عَظِيْمٍ ۞ وَقَالَ الَّذِيْنَ اُوْتُوا الْعِلْمَ وَيْلَكُمْ ثَوَابُ اللّٰهِ خَيْرٌ لِمَنْ اٰمَنَ وَعَمِلَ صَالِحًا وَ لَا يُلَقّٰهَا اِلَّا الصّٰبِرُوْنَ﴾

**'သို့နှင့် သူသည် သူ၏အမျိုးသားများထံသို့ အခန်းအနားဖြင့် ထွက်လာခဲ့ရာ၊ လောကီသက်တမ်းကို လိုလားသူတို့က ပြောဆိုကြသည်မှာ 'ဩော်၊ ကာရူန်မှာ ရှိသလို ငါတို့လည်း ရှိလျှင်ကောင်းပေစွ။ သူကား ကြီးကျယ်သောဝေစုကို ပိုင်ဆိုင်သူပင်ဖြစ်သည်။ တဖန် ပညာ ချီးမြှင့်ခြင်းခံရသူတို့က ပြောဆိုကြသည်မှာ 'အသင်တို့ပျက်စီးဖို့ပင်။ အီမာန်ရှိသူ ၎င်း ကောင်းမှုကျင့်ဆောင်သူအတွက် အလ္လာဟ်အရှင်၏ စွဝါဗ်ကုသိုလ်ကသာ ပိုကောင်းပေသည်။ သို့ရာတွင် ထိုစွဝါဗ်ကို သည်းခံမှု ခန္တီတရားရှိသူများသာ ရရှိကြပေမည်'။**

**(စူရာကာဆွာဆ် ၊ ၇၉၊ ၈၀)**

ဤအာယတ်တွင် အလ္လာဟ်အရှင်က ပညာရှင်၏ဝိသေသလက္ခဏာသည် အာခိရတ်ကို ဒွန္နယာထက် ဦးစားပေးခြင်းဖြစ်သည်ဟု မိန့်တော်မူထားသည်။

**အာခိရတ်ပညာရှင်၏အချင်းလက္ခဏာနောက်တစ်ခုမှာ—** အပြောနှင့်အလုပ် ကွဲလွဲမှုမရှိခြင်းဖြစ်သည်။ သို့သာမက ကိစ္စရပ်တစ်ခုကို မိမိကိုယ်တိုင် ဦးစွာကျင့်သုံးသူမဟုတ်ခဲ့လျှင် အခြားသူအား ခိုင်းစေတိုက်တွန်းမှုမပြုခြင်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်မှာ—

﴿أَتَأْمُرُوْنَ النَّاسَ بِالْبِرِّ وَتَنْسَوْنَ أَنْفُسَكُمْ﴾

**'အသင်တို့သည် လူတို့အား ကောင်းမှုကုသိုလ်ပြုရန် အမိန့်ပေးစေခိုင်းကြပြီး မိမိတို့ကိုယ်တိုင်ကမူ မေ့**

**လျော့ထားကြသလော။'** (စူရာအာလ်ရာ ၊၄၄)

ထို့ပြင် အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်မှာ–

﴿كَبُرَ مَقْتاً عِنْدَ اللهِ أَنْ تَقُوْلُوْا مَا لَا تَفْعَلُوْنَ﴾

**'အလ္လာဟ်အရှင့်ထံတွင် အမုန်းဆုံးအရာသည် ကိုယ်တိုင်မလုပ်သောအရာကို ပြောဆိုခြင်းဖြစ်သည်။'** (စူရာဆော့ဖ် ၊၃)

ထို့ပြင် အလ္လာဟ်အရှင်မြတ်က တမန်တော်ရှုအိုက်ဗ်ﷺသခင်၏ပြောဆိုမှုကို မိန့်တော်မူသည်မှာ–

﴿وَمَا أُرِيْدُ أَنْ أُخَالِفَكُمْ إِلَى مَا أَنْهَاكُمْ عَنْهُ﴾

**'အသင်တို့အား ငါတားမြစ်ထားသောကိစ္စအပေါ် ငါကိုယ်တိုင်က ဆန့်ကျင်ဘက်လုပ်ရန် ရည်ရွယ်ခြင်းမရှိပေ။'** (စူရာဟူဒ် ၊၈၈)

ထို့ပြင် အရှင်မြတ် မိန့်တော်မူသည်မှာ– ﴿وَاتَّقُوا اللهَ وَيُعَلِّمُكُمُ اللهُ﴾

**'အလ္လာဟ်အရှင်အား အသင်တို့ ကြောက်ရွံ့ကြကုန်။ ထို့ပြင် အလ္လာဟ်အရှင်သည် အသင်တို့အား သင်ပြတော်မူသည်။'** (စူရာအာလ်ရာ ၊၂၈၂)

ထို့ပြင် အရှင်မြတ် မိန့်တော်မူသည်မှာ– ﴿وَاتَّقُوا اللهَ وَاعْلَمُوْا﴾

**'အလ္လာဟ်အရှင်အား အသင်တို့ ကြောက်ရွံ့ကြကုန်။ ထို့ပြင် အသင်တို့ အသိရှိကြကုန်။'** (စူရာအာလ်ရာ ၊၁၉၆)

ထို့ပြင် အရှင်မြတ် မိန့်တော်မူသည်မှာ– ﴿وَاتَّقُوا اللهَ وَاسْمَعُوْا﴾

**'အလ္လာဟ်အရှင်အား အသင်တို့ ကြောက်ရွံ့ကြကုန်။ ထို့ပြင် အသင်တို့ နားထောင်ကြကုန်။'** (စူရာအာလ်ရာ ၊၁၀၈)

ထို့ပြင် အလ္လာဟ်အရှင်က တမန်တော်အီစာﷺသခင်အား မိန့်ကြားသည်မှာ–

'အိုမရ်ယမ်၏သား။ အသင်သည် မိမိကိုယ်ကို ဆုံးမသွန်သင်ပါ။ အသင် တရားရပြီဆိုသောအခါမှ လူတို့အား ဆုံးမသွန်သင်ပါ။ ဤသို့မဟုတ်ခဲ့လျှင် အသင် ငါ့အား ရှက်ပါ။'

တမန်တော်မြတ်ﷺက မိန့်ဆိုသည်မှာ–

مررت ليلة أسري بي بأقرام تقرض شفاههم بمقاريض من نار فقلت : من أنتم ؟ فقالو كنا نأمر بالخير ولانأتيه وننهى عن الشر ونأتيه .(حب)

'မဲအ်ရာဂျ်ညဉ့်က ငါသည် လူတစ်စုအနီးမှ ဖြတ်သွားခဲ့ရသည်။ ထိုလူတို့၏နှုတ်ခမ်းကို မီးကပ်ကြေးများဖြင့် ဖြတ်တောက်လျက်ရှိသည်။ ထိုအခါ ငါက 'အသင်တို့ မည်သူတွေလဲ'ဟု မေးသည်။ သူတို့က– 'ကျွန်ုပ်တို့သည် လူတို့အား ကောင်းမှုပြုရန် ခိုင်းစေခဲ့ကြသည်။ ကျွန်ုပ်တို့ ကိုယ်တိုင်ကတော့ ထိုကောင်းမှုကို မကျင့်သုံးခဲ့ကြပါ။ ထို့ပြင် ကျွန်ုပ်တို့သည် အခြားသူများကို မကောင်းမှုမှ တားမြစ်ခဲ့ကြသည်။ ကျွန်ုပ်တို့ကိုယ်တိုင်မူ ထိုမကောင်းမှုကို ကျူးလွန်ခဲ့ကြပါသည်။'

ထို့ပြင် တမန်တော်မြတ်ﷺက မိန့်ဆိုသည်မှာ–

هلاك أمتي عالم فاجر وعابد جاهل ، وشير الشيار شيار العلماء ، وخير الخيار خيار العلماء .(مى)

'ငါ့အွမ္မတ်ကို ဖျက်ဆီးမည့်သူများသည် အကျင့်ပျက်ပညာရှင်နှင့် ပညာမဲ့အာဗိဒ်ဖြစ်သည်။ အဆိုးထဲတွင် အဆိုးဆုံးအရာသည် ပညာရှင်တို့၏ဆိုးယုတ်မှုဖြစ်သည်။ ထို့ပြင် အကောင်းထဲတွင်အကောင်းဆုံးအရာသည် ပညာရှင်တို့၏ကောင်းမွန်မှုဖြစ်သည်။'

အိမာမ်အောင်ဇာအီ ~သခင်က ဆိုမိန့်သည်မှာ 'နဆွ်ရာနီတို့ကို ထည့်သည့် ခေါင်းတလားများက အလ္လာဟ်အရှင့်ထံ ကာဖိရ်အသေကောင်တို့၏ နံစော်မှုကို ညည်းညူတိုင်တန်းကြသည်။ ထိုအခါ အလ္လာဟ်အရှင်က ထိုခေါင်းများအား 'ပညာရှင်ဆိုးတို့၏ ဝမ်းဗိုက်များက အသင်တို့အထဲမှာ ရှိသောအရာထက်ပို၍ နံစော်ပေသည်'ဟု အသိပေးမိန့်ကြားခဲ့သည်။ ထို့ပြင် ဖိုဇိုင်လ်အီဗ်နေ့အိယာဇ် ~သခင်က 'ကျွန်ုပ်ကြားသိရသည်မှာ ကိယာမတ်နေ့တွင် ရုပ်တုကိုးကွယ်သူများထက်အလျင် ပညာရှင်ဆိုးတို့ကို စာရင်းအင်းစစ်ဆေးလိမ့်မည်'ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် အဗူဒရ်ဒါအ်သခင်ကြီးက 'မသိသူသည် တစ်ကြိမ်ပျက်ဆီးမည်။ သိပြီး မကျင့်သုံးသူသည် ခုနစ်ကြိမ်ပျက်ဆီးမည်'ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် ရှအ်ဘီ ~သခင်က ဆိုမိန့်သည်မှာ 'ကိယာမတ်နေ့တွင် ဂျန္နတ်သားအုပ်စုတစ်ခုသည် ဂျဟန္နမ်သားအုပ်စုတစ်ကို တွေ့ရ၍– 'အသင်တို့ ဘယ်ပြစ်မှုအတွက် ဤသို့ ဂျဟန္နမ်ကျကြသနည်း။ ငါတို့သည် သင်တို့ရဲ့သွန်သင်မှုနှင့်သင်တို့ရဲ့သင်ပြပို့ချမှုများ၏ မြတ်ထွတ်မှုအကြောင်းခံဖြင့် အလ္လာဟ်အရှင်က ဂျန္နတ်တွင် ဝင်ရောက်စေခဲ့ပါသည်။' ထိုအခါ ဂျဟန္နမ်သားများက 'ငါတို့မှုကား ကောင်းမှုပြုရန် သူတစ်ပါးကို ခိုင်းစေပြီး ငါတို့က မလုပ်ခဲ့ကြပါ။ ထို့ပြင် သူတစ်ပါးကို မကောင်းမှုမှ တားမြစ်ပြီး ငါတို့ကတော့ ထိုမကောင်းမှုကို ကျူးလွန်ခဲ့ကြသည်'ဟု ရှင်းပြကြသည်။

ဟာတင်မ်အဆွာမ် ~သခင်က ဆိုမိန့်သည်မှာ 'ကိယာမတ်နေ့တွင် တစ်ဦးသောပညာရှင်ထက် ပိုပြီး မည်သူမျှ ဝမ်းနည်းကြေကွဲရမည်မဟုတ်ပေ။ ထိုပညာရှင်သည် လူတို့ကို ပညာသင်ပေးခဲ့သည်။ လူတို့က ၎င်းပညာဖြင့် ကျင့်သုံးကြသည်။ ထိုပညာရှင်ကမူ ကျင့်သုံးခြင်းမပြု။ သို့ဖြစ်ရာ ထိုပညာရှင်ကို အကြောင်းခံပြီး လူတို့အောင်မြင်မှုရကြပြီး ထိုပညာရှင်ကိုယ်တိုင်က ပျက်ဆီးဆုံးရှုံးရသည်။' ထို့ပြင် မာလိက်အီဗ်နေ့ဒီနာရ် ~သခင်က ဆိုမိန့်သည်မှာ 'မိမိ၏ပညာအပေါ် ကိုယ်တိုင်ကျင့်သုံးမှုမရှိသော ပညာရှင်၏ ဟောပြောသွန်သင်မှုများသည် ကျောက်ဖျာပေါ်မှ ရေစီးကျသလို နှလုံးသားများထဲမှ ထွက်ကျသွားရသည်။' ဤသို့ပြောဆိုပြီးနောက် သခင်သည် ကဗျာပိုဒ်ကို ရွတ်ခဲ့သည်။

يـا واعظَ النَّـاسِ قـد أصبحت متهمـاً     إذ عبت منهـم أمـوراً أنـت تـأتيهـا
أصبحتَ تنصحهم بـالـوعظ مجتهـداً     فـالمـوبقـات لعمـري أنـت جـانيهـا
تـعيـب دنيـا ونـاسـاً راغبيـن لـهـا     وأنـت أكـثـر مـنـهـم رغـبـة فـيـهـا

*'အို တရားဟောသူ။ သင်က လူတို့ကို အပြစ် ပြ၍ ဆုံးမသည်။ ထိုအပြစ်ကို သင်ဘဲ ကျူးလွန်သည်။*
*လူတို့ကို မမောမပန်းဟောနေသော်လည်း၊ အလ္လာဟ်ကစမ်၊ သင်ကိုယ်တိုင်က မိုက်တွင်းနက်လျက်သာ။*
*ဒွန္နယာ၎င်း ဒွန္နယာဘက်ယိမ်းသူများကို သင်အပြစ်တင်သည်။ အယိမ်းယိုင်ဆုံးက သင်ဖြစ်နေသည်။'*

အခြားလင်္ကာဆရာတစ်ဦးက စပ်ဆိုသည်မှာ–

لا تـنـهِ عـن خُـلُـقٍ وتـأتـي مـثـلـه     عـارٌ عـليـك إذا فـعـلـت عـظـيـمُ

*မိမိက လုပ်နေသော အလုပ်ကို လူတို့အား မလုပ်ရန်တားမြစ်ခြင်း မပြုနှင့်။*
*တားမည်ဆိုလျှင် အသင့်အဖို့ အရှက်တကွဲအကျိုးနည်းကိစ္စဖြစ်ရလိမ့်မည်။*

အီဗ်ရာဟီမ်အီဗ်နေ့အဒ်ဟမ် ~သခင် ပြောပြသည်မှာ 'ကျွန်ုပ်သည် မက္ကာမြို့တော်၌ လျှောက်လှမ်းသွားလာစဉ် ကျောက်တစ်ချပ်ပေါ်တွင် «اقلبني تعتبر» 'ကျွန်ုပ်ကို လှန်ကြည့်လျှင် အသင် သံဝေဂရမည်'ဟု ရေးထိုးထားသည်ကို တွေ့ခဲ့ရသည်။ ကျွန်ုပ်က လှန်လိုက်သောအခါ နောက်ထပ် ရေးထွင်းချက်တစ်ခုကို ဤသို့တွေ့လိုက်ရသည်။

أنت بنا تعلم لا تعمل فكيف تطلب علم لم تعلم ؟

'အသင်သည် မိမိသိထားသော အရာအပေါ်မှာ ကျင့်သုံးခြင်းမရှိပေ။ သို့ဖြစ်ရာ အသင်မသိနိုင်သော အသိပညာကို အဘယ်ကြောင့် ရှာဖွေသင်ယူနေသေးသနည်း။'

အီဗ်နေ့စမာက် ~သခင်က ပြောဆိုသည်မှာ 'များစွာသောလူတို့သည် အလ္လာဟ်အရှင်ကို ဇိက်ရ်ပြုရင်းက အရှင့်

ကို မေ့လျော့ထားကြသည်။ များစွာသောလူတို့သည် အလ္လာဟ်အရှင်ကို ကြောက်ပါသည်ဆိုရင်းက အလ္လာဟ်အရှင့် အပေါ် အတင့်ရဲကြသည်။ များစွာသောလူတို့သည် အလ္လာဟ်အရှင်နှင့် နီးကပ်အောင်လုပ်ကြရင်းက အလ္လာဟ်အရှင် နှင့် ဝေးကွာသွားကြသည်။ များစွာသောလူတို့သည် အလ္လာဟ်အရှင့်ဘက်သို့ ဖိတ်ခေါ်ရင်းက မိမိတို့ကိုယ်တိုင် အရှင့် ထံမှ ထွက်ပြေးသွားကြသည်။ များစွာသောလူတို့သည် အလ္လာဟ်အရှင်၏ကျမ်းတော်ကို ဖတ်ရွတ်ရင်းက ကျမ်းတော် ၏အဓိပ္ပါယ်အလိုသဘောများကို ဥပက္ခာပြုထားကြသည်။'

**အီဗ်ရာဟီမ်အီဗ်နေ့အဒ်ဟမ်**ရ်သခင်က 'ကျွန်ုပ်တို့သည် စကားကို အတ္တာလက်ာရနှင့်အညီ ပြောဆိုသောအခါ **ကျွန်ုပ်တို့**၏စကားများတွင် အမှားမပါတော့ပေ။ သို့နှင့်တိုင် ကျွန်ုပ်တို့၏ကျင့်မှုရာများတွင် အမှားပါသောအခါတွင်မူ **ကျွန်ုပ်တို့** အမှန်သို့ ပြန်ပြင်ရန် မတတ်နိုင်ကြပေ။' အိမာမ်အောင်ဇာအီရ်သခင်ကမူ 'စကားကို ပြောင်မြောက်အောင် **ပြောရဆိုရ**ပြီဆိုသောအခါ ကျိုးငဲ့နိမ့်ချမှုပျောက်သွားသည်'ဟု ဆိုသည်။ မက္ကဟူလ်ရ်သခင်က အဗ်ဒွရ်ရဟ်မာန်အီဗ်နေ့ ဂနမ်ရ်သခင်၏မိန့်ဆိုမှုကို ပြန်ပြောသည်မှာ 'ကျွန်ုပ်အား တမန်တော်မြတ်ﷺ၏ဆွဟာဗဟ်သခင်ဆယ်ပါး(ရ)က မိန့် ဆိုကြသည်မှာ 'ကျွန်ုပ်တို့သည် ကုဗာဗလီထဲတွင် ပညာကို ဖလှယ်ဆွေးနွေးနေကြစဉ် တမန်တော်မြတ်ﷺရောက်ရှိ လာခဲ့သည်။ ထိုတွင် ကိုယ်တော်မြတ်ﷺက—

تعلموا ما شئتم أن تعلموا فلن يأجركم الله حتى تعملوا ؟

'ပညာကို အသင်တို့ စိတ်ဆန္ဒရှိသလောက် သင်ယူကြပါ။ သို့သော် အသင်တို့ လက်တွေ့ကျင့်သုံးမှု မပြုမချင်း အလ္လာဟ်အရှင်မြတ်က အကျိုးစွဝါဗ်ပေးလိမ့်မည်မဟုတ်ချေ။'

တမန်တော်အီစာ(အ)သခင်က မိန့်ဆိုသည်မှာ— 'ပညာကို သင်ယူပြီး လက်တွေ့မကျင့်သူ၏ဥပမာသည် ဤ သို့ဖြစ်သည်။ အမျိုးသမီးတစ်ဦးသည် ဇေနာကို လျှို့ဝှက်စွာ ကျူးလွန်ရာ ကိုယ်ဝန်ရှိသွားခဲ့သည်။ သို့ဖြင့် သူမသည် ကိုယ်ဝန်ရင့်မာလာသောအခါ အရှက်တကွဲအကျိုးနည်းဖြစ်ရသည်။ ဤနည်းအလားတူ မိမိ၏ပညာနှင့်အညီ မကျင့် မနေသူကို အလ္လာဟ်အရှင်က ကိယာမတ်နေ့တွင် လူပုံအလယ်၌ အရှက်တကွဲ အကျိုးနည်းဖြစ်စေတော်မူမည်။'

မအာဇ်ရ်သခင်က ပြောဆိုသည်မှာ— 'ပညာရှင်၏မြင်းကောင်းခွါလိပ် လွဲချော်ခြင်းမှ သတိပြုရှောင်ရှားကြပါ။ အဘယ်ကြောင့်ဆိုသော် ပညာရှင်ကို လူထုက အလွန်တန်ဘိုးထားကြရာ သူ၏လွဲချော်မှုကိုလည်း လိုက်လုပ်တတ် ကြသည်။'

အိုမရ်(ရ)သခင်က 'ပညာရှင်တစ်ပါး လွဲချော်သောအခါ ကမ္ဘာလောကလည်း လိုက်၍ လွဲချော်သည်'ဟု မိန့် ဆိုခဲ့သည်။ အိုမရ်(ရ)သခင်ကပင် ဆိုမိန့်ခဲ့သည်မှာ 'သုံးခုသောအရာဖြင့် လူသားတို့ ပျက်စီးကြရသည်။ ထိုအထဲမှ တစ်ခုသည် ပညာရှင်၏လွဲချော်မှုဖြစ်သည်။' အီဗ်နေ့မတ်စအုဒ်(ရ)သခင်က မိန့်ဆိုသည်မှာ 'များမကြာမီ လူတို့ထံ သို့ခေတ်ကာလတစ်ခု ရောက်လာလိမ့်မည်။ ထိုခေတ်ကာလတွင် နှလုံးသားများ၏ချိုမြမှုသည် ပျောက်ကွယ်သွား လိမ့်မည်။ သို့ဖြစ်ရာ ထိုခေတ်တွင် ပညာရှင်သည်၎င်း၊ ပညာသင်သည်၎င်း၊ ပညာဖြင့် အကျိုးဖြစ်ထွန်းမှု မရှိတော့ ပေ။ ထိုခေတ်ပညာရှင်များ၏နှလုံးသားများသည် ဆားပေါက်သောမြေကဲ့သို့ဖြစ်လိမ့်မည်။ ထိုမြေပေါ်သို့ မိုးရေများ ကျသော်လည်း ချိုမြခြင်း မရှိပေ။ ထိုခေတ်တွင် ပညာရှင်တို့၏နှလုံးသားများက ဒွန်နယာ၏ချစ်ခင်မှုဘက်သို့ ယိမ်း ယိုင်းပြီး ဒွန်နယာကို အာခိရတ်ထက် အသာပေးကြလိမ့်မည်။ သို့ရှိရာ ထိုနှလုံးသားများထဲမှ ဟိကမတ်၏စိမ့်စမ်းများ သည် ခမ်းခြောက်ကုန်ပြီး ဟိဒါယတ်၏မီးတိုင်သည်လည်း ငြိမ်းသေသွားလိမ့်မည်။

ယင်းတို့အထဲက ပညာရှင်တစ်ဦးနှင့် သင်တွေ့ရသည့်အခါ သူ၏နှုတ်က 'အလ္လာဟ်ကို ကြောက်ပါသည်'ဟု ပြောလိမ့်မည်။ သို့သော် သူ၏အပြုအမူတွင် အကျင့်စာရပျက်ပြားမှုကို ပေါ်လွင်စွာ တွေ့ရမည်။ နှုတ်လျှာများသည် ခြောက်သွေ့ပြီး နှလုံးသားများ မာကျောကုန်လိမ့်မည်။ ထိုအရှင်မှအပ အခြားကိုးကွယ်ရာမရှိသော အလ္လာဟ်အရှင်၏

**ကစ၏။ ဤသို့ရှိရခြင်းမှာ** သင်ပေးသူများသည် အလ္လာဟ့်အတွက်မဟုတ်ဘဲ အခြားအရာတစ်ခုခုအတွက် သင်ပေး**ကြပြီး၊** သင်ယူသူများကလည်း အလ္လာဟ့်အတွက်မဟုတ်ဘဲ အခြားအရာတစ်ခုခုအတွက် သင်ယူကြသောကြောင့်**ဖြစ်သည်။**

တောင်ရတ်ကျမ်းနှင့်အီနဂျီလ်ကျမ်းတော်နှစ်စောင်တွင် 'အသင်တို့ သိထားသလောက်အပေါ် လိုက်နာကျင့်သုံးခြင်း မပြုရသေးသမျှ အသင်တို့သည် မသိသေးသည့်ပညာကို မသင်ယူကြနှင့်ဦး'ဟု ဖော်ပြပါရှိသည်။

ဟုဒိုင်ဖဟ်ﷺသခင်က 'အသင်တို့သည် ခေတ်ကာလတစ်ခုတွင် ရှိနေကြသည်။ ဤခေတ်တွင် တတ်ထားသောပညာ၏ ဆယ်ပုံတစ်ပုံကို လွှတ်လိုက်မည်ဆိုလျှင် ပျက်ဆီးမှုနှင့်ကြုံရမည်။ များမကြာမီ ခေတ်တစ်ခေတ်ရောက်လာလိမ့်မည်။ ထိုခေတ်တွင်မူ တတ်မြောက်ထားသည့်ပညာ၏ ဆယ်ပုံတစ်ပုံကို ကျင့်သုံးလျှင် လွတ်မြောက်အောင်မြင်မှုရရှိမည်ဖြစ်သည်'ဟု ပြောဆိုခဲ့သည်။ မုသာဝါဒ ထူပြောများပြားသောအခါ ဤသို့ဖြစ်လာလိမ့်မည်။

ပညာရှင်တစ်ဦး၏အလားသဏ္ဌာန်သည် တရားသူကြီးတစ်ဦးနှင့် တူလေသည်။ တမန်တော်မြတ်ﷺက–

القضاة ثلاثة : قاضٍ قضى بالحق وهو يعلم فذلك في الجنة ، وقاضٍ قضى بالجور وهو يعلم أو لايعلم فهو في النار ، وقاضٍ قضى بغير ما امر الله به فهو في النار . (أخرجه أصحاب السنن)

'တရားသူကြီးသည် သုံးမျိုးရှိသည်။ တရားသူကြီးတစ်မျိုးမှာ အမှန်အတိုင်း စီရင်ဆုံးဖြတ်ပြီး သူက ဤသည်ကို ဂျန္နတ်ရမည့်လုပ်ရပ်ဖြစ်ကြောင်း သိသည်။ နောက်တရားသူကြီးတစ်မျိုးမှာ မတရားစီရင်ဆုံးဖြတ်ခဲ့သည်။ သူသိသည်ဖြစ်စေ မသိသည်ဖြစ်စေ သူသည် ဂျဟန္နမ်ကျမည့်သူဖြစ်သည်။ နောက်တရားသူကြီးတစ်မျိုးမှာ အလ္လာဟ်အရှင်၏အမိန့်တော်နှင့် ဆန့်ကျင်၍ တရားစီရင်ခဲ့သည်။ သူသည်လည်း ဂျဟန္နမ်ကျမည့်သူဖြစ်သည်'ဟု ဆိုမိန့်ခဲ့ပါသည်။

ကအ်ဗ်ﷺသခင်က မိန့်ဆိုသည်မှာ 'နောင်းတစ်ခေတ်တွင် ဤသို့ဖြစ်လာလိမ့်မည်။ ပညာရှင်တို့က လူတို့အား ဒွန္နယာစွန့်ကြရန် ပြောကြလိမ့်မည်။ သူတို့ကိုယ်တိုင် စွန့်ကြမည်မဟုတ်ပါ။ ထို့ပြင် ၎င်းတို့က လူတို့အား အလ္လာဟ်ကြောက်ရန် ပြောဆိုကြလိမ့်မည်။ သူတို့ကိုယ်တိုင် ကြောက်ကြမည်မဟုတ်ပါ။ ထို့ပြင် ၎င်းတို့က လူတို့အား အုပ်ချုပ်ရေးမှူးများနှင့် ကင်းကင်းနေရန် ပြောကြလိမ့်မည်။ သူတို့ကိုယ်တိုင်က အုပ်ချုပ်ရေးမှူးများထံ ဝင်ထွက်သွားလာကြလိမ့်မည်။ ထို့ပြင် ဒွန္နယာကို အာခိရတ်ထက် အသာပေးကြမည်။ မိမိတို့၏နှုတ်လျှာကို အရင်းပြုပြီး ရှာဖွေစားကြလိမ့်မည်။ ဆင်းရဲသားများနှင့် ဝေးပြီး သူဌေးသူကြွယ်များနှင့်နီးနီးနေကြမည်။ မိန်းမက ယောကျ်ား၏အသွင်ပြောင်းသကဲ့သို့ သူတို့က ပညာကို ပြောင်းလဲပစ်ကြမည်။ မိမိ၏ထိုင်ခုံနေရာတွင် ထိုင်နေသူက အခြားသို့သွားထိုင်လျှင် ထိုသူ့အပေါ် အမျက်ဒေါသထွက်လိမ့်မည်။ ဤပညာရှင်တို့သည်ကား မာနထောင်လွှားသူများ၊ အလ္လာဟ်အရှင်၏ရန်သူများပင်ဖြစ်ကြပေသည်။'

ဟဒီစ်တော်တစ်ပုဒ်တွင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

أن الشيطان ربما يسوفكم بالعلمِ ، فقيل : يارسول الله وكيف ذلك ؟ قالﷺ :((يقول اطلب العلمِ ولا تعمل حتى تعلم فلا يزال للعلم قائلا وللعمل مسوّفا حتى يموت وما عمل)) . (في الجامع من حديث أنس)

'ရံဖန်ရံခါ ရှိုင်တွာန်က အသင်တို့ကို ပညာဖြင့် အလဲထိုးလိမ့်မည်'ဟု မိန့်ဆိုသောအခါ လူတို့က 'ဤသို့ အဘယ်ကြောင့်ဖြစ်ရပါသလဲ'ဟု မေးလျှောက်ကြသည်။ တမန်တော်မြတ်ﷺက 'ပညာကို ဆည်းပူးကြကုန်။ ပညာဆည်းပူး၍မပြီးမချင်း ကျင့်သုံးမှုမပြုနှင့်'ဟု ရှိုင်တွာန်က ပြောလိမ့်မည်။ ထိုအခါ လူသားသည် ပညာတွင် နစ်မွန်းနေလိမ့်မည်။ လက်တွေ့ကျင့်သုံးရန်အတွက်မူ အကြောင်းအမျိုးမျိုးပြလိမ့်မည်။ ဤနည်းဖြင့် သူသည် သေသည်အထိ ကျင့်သုံးဖြစ်မည်မဟုတ်တော့ပေ။'

စီရ်ရီဆကတီ ﷺသခင်က ပြောပြသည်မှာ 'အပြင်ပိုင်းပညာကို လောဘတကြီး လိုက်စားနေခဲ့သူတစ်ဦးသည် အိဗာဒတ်တွင် လုံးဝမြွတ်နှံလိုက်သည်။ ကျွန်ုပ်က သူ့အား ဤသို့အိဗာဒတ်တွင် တစ်စိုက်မတ်မတ်မြွတ်နှံလိုက်ခြင်း၏အကြောင်းရင်းကို မေးကြည့်ခဲ့သည်။ သူက ပြောပြသည်မှာ 'ကျွန်ုပ်အား အိပ်မက်ထဲတွင် တစ်ဦးတစ်ယောက်က 'အသင့်ကို အလ္လာဟ်အရှင် အချည်းနှီးပြုပါစေ။ သင်သည် ပညာကို ဘယ်အထိအောင် အချည်းနှီးလုပ်နေမှာလဲ'ဟု ပြောပါသည်။ ကျွန်ုပ်က 'ကျွန်ုပ်သည် ပညာကို ထိန်းသိမ်းစောင့်ရှောက်နေခြင်းဖြစ်သည်'ဟု ဖြေသောအခါ သူက 'ပညာ၏ထိန်းသိမ်းစောင့်ရှောက်မှုသည် ထိုပညာကို လက်တွေ့ကျင့်သုံးခြင်းဖြင့်သာဖြစ်သည်'ဟု ပြောပါသည်။ ထို မှစ၍ ကျွန်ုပ်သည် ပညာရှာဖွေခြင်းကို ရပ်ဆိုင်းလိုက်ပြီး ကျင့်သုံးမှုဘက်သို့ လှည့်လိုက်ပါသည်။'

အိဗ်နေ့မတ်စအုဒ်ﷺသခင်က 'ပညာဆိုသည်မှာ ရိဝါယတ်ဆင့်ပြန်မှု အများအပြား သိရှိခြင်းကို မဆိုလိုပါ။ ပညာဆိုသည်မှာ အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခန့်ငြားခြင်းဖြစ်သည်'ဟု ဆိုမိန့်ခဲ့၏။ ၎င်း ဟစ်ဘဇ္ဇရီ ﷺသခင်ကမူ- 'အသင်တို့ ကြိုက်သလောက်သင်ယူကြပါ။ **အလ္လာဟ်၏ကစမ်။ အသင်တို့ လက်တွေ့ကျင့်သုံးမှုမပြုမချင်း** အလ္လာဟ် အရှင်က အကျိုးစွဝါဗ်ပေးလိမ့်မည် **မဟုတ်ပေ။ ဉာဏ်တုံးသူတို့ကား** ရိဝါယတ်အတွက်သာ လုံ့လထုတ်ကြသည်။ ပညာရှင်တို့ကသာ အသိ**မျှော်မြင်မှုရှိကြသည်**'ဟု မိန့်ဆိုခဲ့သည်။ **အိမာမ်မာလိက်** ﷺသခင်က မိန့်ဆိုသည်မှာ 'ပညာ ဆည်းပူးခြင်းသည် အလွန်**ကောင်းပါသည်။ ပညာကို ဖြန့်ဖြူးခြင်းလည်း အလွန်ကောင်း**ပါသည်။ ရည်ရွယ်ချက် ကောင်းမွန်ရန်**တော့လိုအပ်ပါသည်။ သို့မဟုတ်ဘဲ မနက်မိုးလင်းမှ ညနေမိုးချုပ်အထိ အသင်နှင့် စွဲမြဲစွာ** ရှိနေသော အရာထက် **အခြားအရာကို ဦးစားမပေးသင့်ပါ။'**

**အိဗ်နေ့မတ်စအုဒ်**ﷺသခင်က 'ကုရ်အာန်ကို ချပေးခြင်းသည် ကျင့်သုံးရန်အတွက်ဖြစ်သည်။ သို့ဖြစ်ရာ ကျမ်း**တော်ကို ဖတ်ရွတ်မှုအပေါ်**မှာ လက်တွေ့ကျင့်သုံးပါ။ မကြာမြင့်မီ ကျမ်းတော်ကို မြှားပစ်သလို ပစ်မည့်လူများပေါ် **လာလိမ့်**မည်။ ထိုအခါတွင် အသင်တို့အတွက် ကောင်းတော့မည်မဟုတ်ပါ။ ကျင့်သုံးမှုမရှိသော ပညာရှင်သည် ဆေးဝါးအကြောင်း ပြောရုံသာ ပြောပြီး ဆေးမကုသည့်လူမမာနှင့်၎င်း၊ အစားအသောက်များ၏အရသာကို ပြောရုံ ပြောပြီး မစားသောက်ရသည့် ဆာလောင်သူနှင့် တူဆင်သည်'ဟု ဆိုမိန့်ခဲ့၏။ ကျင့်သုံးမှုမရှိသည့် ပညာရှင်၏ပမာ ကို အလ္လာဟ်အရှင်၏- ﴿وَلَكُمُ الوَيۡلُ مِمَّا تَصِفُونَ﴾

**'အသင်တို့ ဖေါ်ထုတ်နေသောအရာများထဲတွင် အသင်တို့အတွက် ပျက်စီးခြင်းရှိပေသည်။'**

**(စူရာအန်ဘိယာ ၊ ၁၈)**

ဟူသောမိန့်ခွန်းတော်တွင် တွေ့ရှိနိုင်လေသည်။ ဟဒီစ်တော်တွင် တမန်တော်မြတ်ﷺက မိန့်ဆိုသည်မှာ-

إنما أخاف على أمتي زلة عالم وجدال منافق في القرآن .(طـ حب)

'ငါ့အွမ္မတ်အတွက် ငါစိုးရိမ်သည်မှာ ပညာရှင်၏လွဲချော်မှုနှင့် မုနာဖိက်တို့၏ကုရ်အာန်အပေါ် အငြင်းပွါးမှုဖန်တီးခြင်းဖြစ်သည်။'

**အာခိရတ်ပညာရှင်၏အချင်းလက္ခဏာနောက်တစ်ခုမှာ**- အာခိရတ်၌ အကျိုးပြုမည့်ပညာကို ဦးတည်ရှာဖွေပြီး အမိန့်နာခံမှုကို လိုလားရည်ရွယ်ခြင်းဖြစ်သည်။ ထို့ပြင် အကျိုးရှိမှုက နည်းပြီး ငြင်းခုံမှုနှင့်ပြောရဆိုရမှု များပြားသော ပညာရပ်ကို ရှောင်ခြင်းဖြစ်သည်။ ကျင့်မှုရာပညာကို ဥပက္ခာပြုပြီး အငြင်းအခုံအတိုက်အခံကိစ္စတွင် စူးစားသူ၏ပမာ သည် ရောဂါဝေဒနာရှင်တစ်ဦးကဲ့သို့ဖြစ်သည်။ သူ့တွင် ရောဂါက စုံနေပြီး အချိန်သိပ်မကျန်တော့မှ သေရမည်ကို ကြောက်ကာ ကျွမ်းကျင်သော သမားတော်နှင့်သွားတွေ့သည်။ ထိုအချိန်မျိုးမှာပင် သူသည် ကိုယ့်အတွက် ဆောင်ရန် ရှောင်ရန်အဓိက အရာများကို မမေးဘဲ၊ ဆေးညွှန်းများ၏အာနိသင်များနှင့် ဆေးပညာ၏ထူးဆန်းထွေလာကိစ္စများ ကိုမေးမြန်းနေလေသည်။ ဤသူကား မိုက်မဲသူသက်သက်ဖြစ်သည်။ ဟဒီစ်တော်လာရှိသည်မှာ-

أنّ رجلا جاء رسول الله ﷺ فقال :علمني من غرائب العلم ، فقال له : ما صنعت في رأس العلم ؟

فقال :وما رأس العلم ؟ فقالﷺ :هل عرفت الرب تعالى ؟ قال :نعم ، قال :فما صنعت في حقه ؟ قال : ماشاءالله ، قالﷺ :هل عرفت الموت ؟ قال : نعم ، قال : فما أعددت له ؟ قال : ماشاءالله ، قالﷺ : إذهب فأحكم ما هناك ثم تعال نعلمك من غرائب العلم . (ابن السني ونع)

'တမန်တော်မြတ်ﷺထံ လူတစ်ယောက် ရောက်လာပြီး 'ကျွန်ုပ်အား ထူးခြားဆန်းကျယ်သောပညာကို သင်ပေးတော်မူပါ'ဟု ပြောဆိုခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ရေသောက်မြစ်ပညာနှင့်စပ်လျဉ်း၍ သင် ဘာသိထားလဲ'ဟု မေးခဲ့သည်။ ထိုပုဂ္ဂိုလ်က 'ရေသောက်မြစ်ပညာဆိုသည်မှာ ဘာလဲ ကိုယ်တော်'ဟု ပြန်မေးခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ရဗ်အရှင်မြတ်ကို အသင်သိသလား'ဟု မေးသောအခါ ထိုသူက 'ဟုတ်ကဲ့သိပါသည်'ဟု ဖြေ၏။ ထိုအခါ တမန်တော်မြတ်ﷺက 'ထိုအရှင်နှင့်သက်ဆိုင်ရာတာဝန် ဝတ္တရားများကို အသင် ဆောင်ရွက်ပြီးပြီလား'ဟု မေးခဲ့သည်။ ထိုအခါ ၎င်းက 'အလ္လာဟ်အရှင်က အလို တော်ရှိသလောက်ပါ'ဟု ဖြေလေသည်။ ထိုအခါ တမန်တော်ﷺက 'အသင် သေခြင်းတရားကို သိသလား' မေးသောအခါ သူက 'ဟုတ်ကဲ့၊ သိပါသည်'ဟု ဖြေပါသည်။ ထိုတွင် တမန်တော်မြတ်ﷺက 'သို့ဆိုလျှင် အသင် သေခြင်းအတွက် ဘာပြင်ဆင်ပြီးပြီလဲ'ဟု ဆက်မေးခဲ့သည်။ ထိုသူက 'ဘာမှ မပြင်ဆင်ရသေးပါ' ဖြေရာ တမန်တော်မြတ်ﷺက 'သွားလော့။ ပထမဦးစွာ ထိုကိစ္စများကို သေချာအောင်လုပ်ဦး။ ထို့နောက် တွင်မှ ငါ့ထံလာခဲ့။ ငါအသင့်ကို ထူးခြားဆန်းကျယ်သောပညာကို သင်ပေးမည်။'

စင်စစ် ပညာရှာသူသည် ရှကီက်ဘလ်ခီ၏တပည့်ကျော် ဟာတင်မ်အဆွာမ်၏ထုံးကို နလုံးမူသင့်ပေသည်။ ရှကီက်ဘလ်ခီသခင်က ဟာတင်မ်အဆွာမ်အား 'ငါ့ထံတွင် အသင် ဘယ်လောက်ကြာ နေခဲ့ပြီလဲ'ဟု မေးခဲ့သည်။ ဟာတင်မ်အဆွာမ်က 'သုံးဆယ့်သုံးနှစ်နေခဲ့ပြီးပါပြီ'ဟု ပြန်ဖြေသည်။ ဆရာဖြစ်သူက 'ထိုမျှအချိန်အတွင်း အသင် ငါ့ထံက ဘာတွေ သင်ယူခဲ့သလဲ'ဟု ဆက်မေးသည်။ ထိုအခါ ဟာတင်မ်အဆွာမ်က 'မတ်စအလာရှစ်ခု သင်ယူ တတ်မြောက်ခဲ့ပါသည်'ဟု ဖြေလိုက်သည်။ ရှကီက်ဘလ်ခီသခင်သည် စိတ်ပျက်လက်ပျက်ဖြစ်ကာ 'အင်နာလိလ္လာ ဟိ ဝအင်နာအိလိုင်ဟိရာဂျိအူန်၊ ငါ့ဘဝသက်တမ်းတော့ အသင်နဲ့ဘဲ အချည်းနှီးဖြစ်ခဲ့ပါပေါ့။ သင်ဟာ တကယ်ဘဲ မတ်စအလာရှစ်ခုထဲ သင်ယူတတ်မြောက်ခဲ့တာလား'ဟု မေးခဲ့သည်။ ဟာတင်မ်အဆွာမ်က 'ဆရာသခင်၊ ဤရှစ်ခု မှလွဲ၍ အခြားဘာကိုမှ မသင်ခဲ့ရပါ။ ကျွန်ုပ် လိမ်ပြောရမည်ကို မနှစ်သက်ပါ'ဟု ဖြေသည်။ ထိုအခါ ဆရာဖြစ်သူ က 'အဲသည်မတ်စအလာရှစ်ခု ဆိုတာကို ပြောပြပါဦး။ ငါနားထောင်ပါရစေ'ဟု ပြောလေသည်။

ဟာတင်မ်အဆွာမ်က 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုခဲ့ပါသည်။ ထိုအခါ လူသားတိုင်းသည် ချစ်ခင်သူတစ်ဦးစီ ရှိနေကြောင်းတွေ့ရသည်။ ထိုလူသားသည် သင်္ချိုင်းသို့သွားသည်အထိ ထိုချစ်သူနှင့် အတူရှိနေခဲ့ သည်။ သင်္ချိုင်းသို့ရောက်သောအခါ မိမိ၏ချစ်သူကို ခွဲထားခဲ့ရပါသည်။ သို့ဖြစ်ရာ ကျွန်ုပ်သည် ကောင်းမှုကုသိုလ် များကို ကျွန်ုပ်၏ချစ်သူအဖြစ် ရွေးချယ်လိုက်ပါသည်။ ဤနည်းဖြင့် ကျွန်ုပ်သင်္ချိုင်းတွင်းသို့ ဝင်ရသောအခါ ကျွန်ုပ် ၏ချစ်သူလည်း ကျွန်ုပ်နှင့်အတူ မခွဲမခွာရှိနေမည်ဖြစ်သည်။'

ဤစကားကို ကြားသောအခါ ရှကီက်ဘလ်ခီသခင်က 'အို ဟာတင်မ်၊ အသင် သင်ယူရရှိသည့်အရာက တော့ ကောင်းလှပေသည်။ ဒုတိယမတ်စအလာက ဘယ်သို့ပါလဲ'ဟု ပြောသည်။

ဟာတင်မ်အဆွာမ်က 'ကျွန်ုပ်သည် အလ္လာဟ်အရှင်၏မိန့်ခွန်းတော်တစ်ခုကို ကြည့်ရှုစဉ်းစားခဲ့ပါသည်။ ယင်းမှာ- ﴿وَأَمَّا مَنْ خَافَ مَقَامَ رَبِّهِ وَنَهَى النَّفْسَ عَنِ الْهَوَىٰ ۞ فَإِنَّ الْجَنَّةَ هِيَ الْمَأْوَىٰ﴾

**'အကြင်သူ မိမိ၏ရဗ်အရှင့်ရှေ့တော်မှောက် ရပ်ရမည့်အရေးကို ကြောက်ရွံ့ပြီး စိတ်အလိုဆန္ဒကို ချုပ် တည်းခဲ့မည်ဆိုလျှင်ကား၊ ဂျန္နတ်သာလျှင် ထိုသူ၏နေရာထိုင်ခင်းဖြစ်တော့သည်။'** (နာဇိအာ၊ ၄၀၊ ၄၁)

ကျွန်ုပ်သည် အလ္လာဟ်အရှင်၏ မိန့်ကြားမှုကို အမှန်ဖြစ်ကြောင်း **သိရှိခဲ့သည်**။ သို့ဖြစ်ရာ ကျွန်ုပ်၏ နဖ်စ်စိတ်ကို ကြိုးစား ဟန့်တားခဲ့ပါသည်။ နောက်ဆုံးတွင် ထိုနဖ်စ်စိတ်သည် **အလ္လာဟ်အရှင့်**အား အမိန့်နာခံမှုတွင် အသားကျသွားခဲ့သည်။

**တတိယမှာ**– 'ကျွန်ုပ်သည် ကမ္ဘာလောကကို ကြည့်ရှုခဲ့ရာ၊ **လူတိုင်းလူတိုင်း**သည် မိမိတို့တွင်ရှိသည့် အဘိုးထိုက်တန်သောအရာကို အမြတ်တနိုး သိမ်းဆည်းစောင့်ရှောက်ကြကြောင်း **တွေ့ရှိရ**ပါသည်။ ထို့နောက် ကျွန်ုပ်သည် အလ္လာဟ်အရှင်၏ မိန့်ခွန်းတော်ကို ကြည့်ရှုပါသည်။ အလ္လာဟ်အရှင်က **မိန့်တော်မူ**သည်မှာ–

﴿مَا عِندَكُمْ يَنفَدُ وَمَا عِندَ اللَّهِ بَاقٍ﴾

**'အသင်တို့ထံ၌ ရှိနေသောအရာသည် သုံးစွဲကုန်ခမ်းသွားမည်ဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင့်ထံတွင် ရှိသောအရာကသာ တည်မြဲကျန်ရှိမည်ဖြစ်သည်။'** (စူရာနဟ်လ် ၊၉၆)

သို့ဖြစ်ရာ ကျွန်ုပ်သည် တန်ဘိုးရှိသောအရာ ရရှိလာပြီဆိုလျှင် **အလ္လာဟ်အရှင်ထံသို့** လွှဲအပ်ပေးပို့လိုက်ပါသည်။ သို့မှသာ အရှင့်ထံတွင် တည်မြဲစွာ ထိန်းသိမ်းထားရှိရန်ဖြစ်ပါသည်။

**စတုတ္ထမှာ**– 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုခဲ့ရာ၊ **အားလုံးတို့သည် ပစ္စည်းဥစ္စာ**ဘက်သို့၎င်း ဂုဏ်ရှိမှု၊ မြင့်မြတ်မှုနှင့် ကျော်ဇောကိတ္တိရှိမှုဘက်သို့၎င်း ဦးတည်စူးစိုက်နေကြသည်**ကို တွေ့ရ**ပါသည်။ တဖန် ကျွန်ုပ်သည် ထိုပစ္စည်းဥစ္စာ ဂုဏ်ရှိမှု အစရှိသည်တို့ကို စဉ်းစားကြည့်သောအခါ **ဘာမှအခြေအမြစ် မရှိ**သောအရာများဖြစ်ကြောင်း တွေ့ရှိရသည်။ ထို့နောက် ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ မိန့်ခွန်းတော်ဘက်သို့ ကြည့်ပါသည်။

﴿إِنَّ أَكْرَمَكُمْ عِندَ اللَّهِ أَتْقَاكُمْ﴾

**'သင်တို့အနက် အလ္လာဟ့်ထံတွင် ဂုဏ်အရှိဆုံးသူသည် တက္ကဝါအရှိဆုံးသူပင်ဖြစ်သည်။'** (စူရာဟုဂ်ုရာတ် ၁၃)

ဤနည်းဖြင့် ကျွန်ုပ်သည် အလ္လာဟ်အရှင့်ထံတွင် ဂုဏ်ရှိသူဖြစ်ရန် တက္ကဝါကို ရွေးချယ်ကျင့်သုံးခဲ့ပါသည်။

**ပဉ္စမမှာ**– 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုရာ ယင်းတို့သည် တစ်ဦးကိုတစ်ဦး မကောင်းထင်မြင်လျက်ရှိကြသည်။ တစ်ဦးကိုတစ်ဦး ကဲ့ရဲ့ပြစ်တင်နေကြသည်။ ဤအရာအားလုံးသည် မနာလိုမှုန်းတီးမှုကို အရင်းခံခြင်းဖြစ်ပါသည်။ ထို့နောက် ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ မိန့်ခွန်းတော်ဘက်သို့ ကြည့်ပါသည်။

﴿نَحْنُ قَسَمْنَا بَيْنَهُم مَّعِيشَتَهُمْ فِي الْحَيَاةِ الدُّنْيَا﴾

**'ငါအရှင်ကသာလျှင် ဒွနိယာ့သက်တမ်းတွင် ၎င်းတို့၏ အသက်မွေးမှုကို ၎င်းတို့အကြား ခွဲခြမ်းဝေငှပေးတော်မူသည်။'** (စူရာဇွခ်ရွဖ် ၊၃၂)

ဤမိန့်ခွန်းတော်အရ ကျွန်ုပ်သည် မနာလိုမှုကို စွန့်လွှတ်လိုက်ပါသည်။ ထို့ပြင် လူသားတို့နှင့် ကင်းရှင်းအောင် နေထိုင်ခဲ့ပါသည်။ ခွဲခြမ်းဝေငှပေးခြင်းသည် အလ္လာဟ်အရှင့်ဘက်တော်မှ ဖြစ်ကြောင်း ကျွန်ုပ်သိခဲ့ပြီးဖြစ်ရာ လူသားတို့အပေါ် ရန်ငြိုးထားခြင်းကိုလည်း စွန့်လွှတ်လိုက်ပါသည်။

**ဆဋ္ဌမမှာ**– 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုရာ တစ်ဦးနှင့်တစ်ဦး အံတုရန်ထောင်နေကြပြီး တစ်ဦးကို တစ်ဦး အပြန်အလှန်သတ်ဖြတ်လျက်ရှိသည်ကို တွေ့ရပါသည်။ သို့ဖြစ်ရာ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ မိန့်ခွန်းတော်ဘက်သို့ လှည့်ပါသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ –

﴿إِنَّ الشَّيْطَانَ لَكُمْ عَدُوٌّ فَاتَّخِذُوهُ عَدُوًّا﴾

**'မုချကေန် ရှိုင်တွာန်သည် အသင်တို့၏ ရန်သူပင်ဖြစ်သည်။ သို့ဖြစ်ရာ သင်တို့သည် ၎င်းကို ရန်သူဟု သတ်မှတ်ကြကုန်။'** (စူရာဖွါတွေရ် ၊၆)

ဤမိန့်ခွန်းတော်အရ ကျွန်ုပ်သည် ရှိုင်တွာန်ကို ရန်ငြိုးထားလိုက်ပါသည်။ ထို့ပြင် ၎င်း၏ဖျားယောင်းမှုမှ ရှောင်ရှားနိုင်ရန်အတွက် ကြိုးပမ်းအားထုတ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ထိုရှိုင်တွာန်သည် ကျွန်ုပ်၏ရန်သူဖြစ်ကြောင်း အလ္လာဟ်အရှင်ကိုယ်တိုင် သက်သေခံထားသောကြောင့်ဖြစ်သည်။ သို့နှင့်အမျှ ရှိုင်တွာန်မှလွဲ၍ အခြားအဖန်ဆင်းခံများအပေါ် ရန်ငြိုးထားခြင်းကိုလည်း စွန့်လွှတ်လိုက်ပါသည်။

**သတ္တမမှာ–** 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုရာ အားလုံးတို့သည် အစားအစာရှာဖွေမှုတွင် နစ်မွန်းနေကြောင်း တွေ့ရပါသည်။ မိမိတို့ကိုယ်ကို ထိုရှာဖွေမှု၌ သေးသိမ်စေလျက်ရှိကြသည်။ ထို့ပြင် ထိုရှာဖွေမှုအတွက်ပင် မပြုပိုင်သောကိစ္စရပ်များကို ကျူးလွန်ပြုလုပ်လျက်ရှိကြသည်။ သို့ဖြစ်ရာ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏မိန့်ခွန်းတော်ဘက်သို့ ကြည့်ပါသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَمَا مِن دَابَّةٍ فِي الْأَرْضِ إِلَّا عَلَى اللَّهِ رِزْقُهَا﴾

**'အလ္လာဟ်အရှင် ရိဇိရိက္ခာအတွက် တာဝန်မယူသော သတ္တဝါဟူ၍ ကမ္ဘာမြေပေါ်တွင် မရှိချေ။'**

(စူရာဟူဒ်တွေရ် ၊၆)

ထိုတွင် ကျွန်ုပ်သည်လည်း အလ္လာဟ်အရှင်က ရိဇိရိက္ခာအတွက် တာဝန်ယူတော်မူထားသော သက်ရှိသတ္တဝါများထဲတွင် တစ်ဦးအပါအဝင်ဖြစ်သည်ဟု သိရပါသည်။ သို့ဖြစ်ရာ ကျွန်ုပ်အပေါ်ရှိ အလ္လာဟ်အရှင်နှင့်သက်ဆိုင်ရာတာဝန်ဝတ္တရားများကို ထမ်းဆောင်နေခဲ့ပါသည်။ ကျွန်ုပ်အတွက်ရိဇိရိက္ခာမှာမူ အလ္လာဟ်အရှင်က တာဝန်ယူထားပြီးဖြစ်ရာ ကျွန်ုပ်ဘက်က လုံးပန်းရှာဖွေခြင်းမပြုတော့ပါ။

**အဋ္ဌမမှာ–** 'ကျွန်ုပ်သည် ဖန်ဆင်းခံလူသားများကို ကြည့်ရှုရာ ၎င်းတို့အားလုံးသည် အဖန်ဆင်းခံများအပေါ် မှီခိုအားထားနေကြသည်ကို တွေ့ရပါ၏။ တချို့က မိမိ၏မြေပေါ်တွင် မှီခိုအားထားသည်။ တချို့က မိမိ၏အရောင်းအဝယ်ကို မှီခိုအားထားသည်။ တချို့က မိမိ၏အတတ်ပညာ၊ တချို့က မိမိ၏ခန္ဓာကိုယ်ကျန်းမာသန်စွမ်းမှု–စသည်ဖြင့်ဖြစ်သည်။ အဖန်ဆင်းခံအားလုံးသည် မိမိတို့ကဲ့သို့အလားတူ အဖန်ဆင်းခံအရာအပေါ်မှာ မှီခိုအားထားလျက်ရှိသည်။ သို့ဖြစ်ရာ ကျွန်ုပ်သည် အလ္လာဟ်အရှင်၏မိန့်ကြားမှုဘက်သို့ လှည့်ပါသည်။ အလ္လာဟ်အရှင် မိန့်ကြားသည်မှာ–

﴿وَمَن يَتَوَكَّلْ عَلَى اللَّهِ فَهُوَ حَسْبُهُ﴾

**'မည်သူမဆို အလ္လာဟ်အရှင့်အပေါ် ယုံပုံအားထားခြင်းပြုမည်ဆိုလျှင် ထိုအရှင်သည်ပင် ၎င်းအဖို့ လုံလောက်ပြီဖြစ်သည်။'**

(စူရာတွလာက် ၊၃)

**သို့ဖြစ်ရာ ကျွန်ုပ်သည်** အလ္လာဟ်အရှင့်အပေါ် ယုံပုံအားထားလိုက်ပါသည်။ **အဘယ်ကြောင့်ဆိုသော်** ထိုအရှင်သည် ကျွန်ုပ်အဖို့ **လုံလောက်နေပြီ**ဖြစ်သောကြောင့်ပင်။'

ဟာတင်**အဆွာမ်**"၏အထက်ပါရှင်းပြချက်ကို ကြားရသောအခါ ရှကီက်ဘလ်ခီ"သခင်က 'အို ဟာတင်မ်၊ အလ္လာဟ်အရှင်မြတ်က **အသင့်အား** ကျင့်သုံးနိုင်စွမ်း ပေးတော်မူပါစေ။ ငါသည် တောင်ရတ်ကျမ်းတော်၊ အိန်ဂျီလ်ကျမ်းတော်၊ ဇဘူရ်ကျမ်းတော်နှင့် ဖုရ်ကာန်ကျမ်းမြတ်ကြီးတို့၏အသိပညာများကို လေ့လာကြည့်ရှုခဲ့ရာ ကောင်းမှုနှင့်သာသနာလေးစားကိုင်းရှိုင်းမှု**အမျိုးအစားအားလုံး**သည် ဤမတ်စအလာရှစ်ခုတွင် တစ်နည်းနည်းအကျုံးဝင်လျက်ရှိပေသည်။ သို့ဖြစ်ရာ တစ်စုံတစ်ဦးသည် **ဤမတ်စ**အလာရှစ်ခုကို ကျင့်သုံးမည်ဆိုလျှင် ထိုသူသည် ကျမ်းတော်ကြီးလေးစောင်ကို ကျင့်သုံးခြင်းပင်ဖြစ်**တော့သည်။'**

အာခိရတ်ပညာရှင်များကသာ **ယခုဖော်ပြ**သောပညာရပ်အမျိုးအစားကို သိရှိသဘောပေါက်ရန် ဦးတည်ရည်ရွယ်ကြလေသည်။ ဒုန္နယာ့ပညာရှင်များကား **ပစ္စည်းဥစ္စာ**နှင့် ဂုဏ်သတင်းကျော်ဇောမှု အလွယ်တကူရရှိရေးနောက်သို့ တကောက်ကောက်လိုက်နေကြသည်။ ထို့ပြင် ၎င်းတို့သည် နဗီတမန်တော်အပေါင်း ﷺ ထံသို့ အလ္လာဟ်အရှင်

ပို့ချပေးတော်မူခဲ့သော အသိပညာများကိုကား ကျောခိုင်းစွန့်လွှတ်ထားကြလေသည်။

ဇွေဟာက်အိဗ်နေ့မဇာဟင်မ်ိ သခင်က ပြောဆိုသည်မှာ 'ပညာရှင်အကြီးအကဲများကို ကျွန်ုပ်တွေ့မိခဲ့ရသည်။ ၎င်းတို့သည် တစ်ဦးကိုတစ်ဦး တက္ကဝါမှလွဲ၍ အခြားအရာကို သင်ပြပေးခြင်း မပြုကြပေ။ ယနေ့ခေတ်ပညာရှင်များကတော့ ကလာမ်ပညာမှလွဲ၍ အခြားဘာမှ သင်ပြခြင်းမပြုကြပေ။'

**အာခိရတ်ပညာရှင်၏အချင်းလက္ခဏာနောက်တစ်ခုမှာ—** စားကောင်းသောက်ကောင်း၊ ဝတ်ကောင်းစားလှနှင့် နေရာထိုင်ခင်း တင့်တယ်လှပမှုများဘက်သို့ မတိမ်းညွတ်ခြင်းဖြစ်သည်။ သို့မှုမက စားဝတ်နေရေးကိစ္စအဝဝတွင် အလယ်အလတ်ကျင့်သုံးမှုရှိသည်။ ဤကိစ္စများတွင် ရှေးသူဟောင်းတို့ကို စံပြုအတုယူကြသည်။ စားဝတ်နေရေးကိစ္စများတွင် နည်းနည်း နှင့် လုံလောက်မှုရှိအောင် ကြိုးကုတ်နေထိုင်ကြသည်။ ဤအရာများဘက်သို့ လိုအပ်ချက်နည်းလေလေ အလ္လာဟ်အရှင်နှင့် နီးကပ်မှု ပိုလေလေဖြစ်ပြီး အာခိရတ်ပညာရှင်တို့၏အဆင့်အတန်းတွင် တိုးတက်မြင့်မားလေပင်ဖြစ်သည်။ အဗူအဗ်ဒွလ္လာဟ်ခဝါစ်ိ သခင်၏ဖြစ်ရပ်က ဤအချက်ကို သက်သေခံလျက်ရှိသည်။

အဗူအဗ်ဒွလ္လာဟ်ခဝါစ်ိ သည် ဟာတင်မ်အစွာမ်ိ သခင်၏တပည့်တစ်ဦးဖြစ်သည်။ ၎င်းကပြောပြသည်မှာ— ကျွန်ုပ်သည် ဟာတင်မ်အစွာမ်သခင်နှင့်အတူ ရှိုင်မြို့သို့ သွားရောက်ခဲ့၏။ ကျွန်ုပ်တို့အဖွဲ့တွင် လူသုံးရာနှစ်ဆယ်ပါပြီး ဟဂ်ျပြုရန် ရည်ရွယ်ကြခြင်းဖြစ်သည်။ ၎င်းတို့သည် သိုးမွေးအင်္ကျီရှည်များ ဝတ်ထားကြသည်။ ၎င်းတို့နှင့်အတူ စားရေးရိက္ခာဟူ၍ ဘာမှပါမလာခဲ့ပါ။ ကျွန်ုပ်တို့သည် ကုန်သည်တစ်ဦးထံသို့ ရောက်သွားခဲ့သည်။ ၎င်းသည် သိပ်ချမ်းသာသူမဟုတ်ပါ။ သို့သော် ဆင်းရဲသားများကို ခင်မင်တတ်သူဖြစ်သည်။ ကျွန်ုပ်တို့ကို ထိုနေ့ညအတွက် သူကပင် ကျွေးမွေးခဲ့သည်။ မနက်ရောက်သောအခါ သူက ဟာတင်မ်အစွာမ်သခင်အား 'သင် ဘာလိုသေးသလဲ။ ကျွန်ုပ် ဖိကဟ်ပညာရှင်တစ်ဦးကို သွားမေးဦးမယ်။ သူနေမကောင်းဖြစ်နေတယ်'ဟု ပြောသည်။ ထိုအခါက ဟာတင်မ်သခင်က 'လူမမာမေးခြင်းက စွဝါဗ်ရဲ့လုပ်ငန်းဖြစ်တယ်။ နောက်ပြီး ဖိကဟ်ပညာရှင်ကို တွေ့ဆုံခြင်းက အိဗာဒတ်လုပ်ငန်းဖြစ်တယ်။ ကျွန်ုပ်လည်း အသင်နဲ့အတူ လိုက်ခဲ့မယ်'ဟု ပြောသည်။ လူနာမှာ မုဟမ္မဒ်အိဗ်နေ့မုကာတိလ်ဖြစ်သည်။ ၎င်းသည် ရှိုင်မြို့၏ခုံမင်းကာဇီဖြစ်သည်။ ကျွန်ုပ်တို့ တံခါးဝသို့ ရောက်သောအခါ ခန်းနားလှပသောစံအိမ်ကို တွေ့ရသည်။ ဟာတင်မ်သခင်သည် အတန်ကြာစဉ်းစားပြီး 'ပညာရှင်တစ်ဦးရဲ့အိမ်တံခါးဝဟာ သည်လိုရှိရမလား'ဟု ဆိုသည်။ ထို့နောက် အခွင့်ပေးသဖြင့် အိမ်အတွင်း ဝင်ကြသောအခါ လှပတင့်တယ်သော စံအိမ်အတွင်းပိုင်းကိုင်း၊ ကျယ်ဝန်းသော အခင်းအကျင်းနှင့် ခန်းစီးများကိုင်း တွေ့ရလေသည်။ ထိုအခါ ဟာတင်မ်သခင်သည် အတန်ကြာ အံ့ဩတွေးတောပြန်လျက် အိမ်ရှင်ရှိသောနေရာသို့ သွားခဲ့သည်။ ထိုနေရာတွင် နူညံ့သောကောဇောကို ခင်းထားပြီး အိမ်ရှင်ကြီးက ထိုအပေါ်၌ ထိုင်နေသည်။ သူ၏ခေါင်းရင်းတွင် ကျွန်တစ်ယောက်ရှိပြီး ၎င်းသည် လက်ထဲတွင် ယပ်တောင်တစ်ချောင်းကို ကိုင်ထားသည်။ ကုန်သည်တစ်ယောက်လည်း အိမ်ရှင်၏ခေါင်းရင်းတွင် ထိုင်နေသည်။

အိမ်ရှင်က ဟာတင်မ်သခင့်ကို အကျိုးအကြောင်းမေးသောအခါ သခင်က ရပ်လျက်ပင်ရှိသည်။ ထိုအခါ အိမ်ရှင်ဖြစ်သူအိဗ်နေ့မုကာတိလ်က ထိုင်ရန် လက်ဟန်ပြသည်။ ထိုအခါ သခင်က 'ကျွန်ုပ် မထိုင်တော့ပါ'ဟု ဆိုရာ 'သင့်မှာ တစ်ခုခုလိုအပ်လို့လား'ဟု မေးသည်။ သခင်က 'ဟုတ်ကဲ့'ဟုဆိုလျှင် အိမ်ရှင်က 'ဘာများလဲ'ဟု မေးသည်။ သခင်က 'မတ်စအလာတစ်ခု သင့်ဆီက မေးချင်လို့ပါ'ဟု ပြောသည်။ ကာဇီအိဗ်နေ့မုကာတိလ်က 'မေးပါ'ဟု ခွင့်ပြုသည်။ သခင်က 'ထထိုင်ပါ။ ဒါမှ ကျွန်တော် ခင်ဗျားကို မေးလို့ဖြစ်မယ်'ဟု ဆိုရာ ကာဇီလည်း ထထိုင်ရသည်။

ထိုအခါ ဟာတင်မ်သခင်က ကာဇီအိဗ်နေ့မုကာတိလ်အား 'ခင်ဗျား ပညာကို ဘယ်က သင်ယူခဲ့ပါသလဲ'ဟု မေးလေသည်။ အိဗ်နေ့မုကာတိလ်က 'ခြေမြစ်ခိုင်မာသောပညာရှင်များက ကျွန်ုပ်အား ဟဒီစ်တော်ပို့ချခဲ့ကြပါတယ်'ဟုဖြေသည်။ ဟာတင်မ်သခင်က 'ထိုသူတွေက မည်သူ့ဆီက သင်ယူခဲ့ပါသလဲ'ဟု မေးသောအခါ ၎င်းက 'တမန်

တော်မြတ်ﷺရဲ့ဆွဟာဗဟ်များထံမှ သင်ယူခဲ့သူများဖြစ်တယ်'ဟု ဖြေသည်။ ထိုအခါ သခင်က 'တမန်တော်မြတ်ﷺရဲ့ ဆွဟာဗဟ်များကကော ဘယ်သူ့ဆီက သင်ယူခဲ့သလဲ'ဟု မေးသောအခါ ၎င်းက 'တမန်တော်မြတ်ﷺထံမှ သင်ယူခဲ့ကြပါတယ်'ဟုဖြေသည်။ သခင်က 'တမန်တော်မြတ်ﷺသည်ကော ဘယ်သူ့ဆီက သင်ယူခဲ့သလဲ'ဟုမေးသောအခါ ၎င်းက 'ဂျိဗ်ရီလ်ﷺသခင်ထံမှတဆင့် အလ္လာဟ်အရှင်မြတ်ထံမှ သင်ယူတယ်'ဟု ဖြေသည်။

ထိုအခါ ဟာတင်မ်သခင်က 'ဒါဆိုရင် အလ္လာဟ်အရှင့်ထံမှ ရရှိတဲ့ အဲသည်ပညာကို ဂျိဗ်ရီလ်ﷺသခင်က တမန်တော်မြတ်ﷺအား ပို့ချ၊ ဒီနောက် တမန်တော်မြတ်ﷺက သူ့ရဲ့ဆွဟာဗဟ်များထံ ပို့ချ၊ ကိုယ်တော်ရဲ့ဆွဟာဗဟ်များက အခိုင်အမာပညာရှင်များထံ ပို့ချ၊ အဲဒီအခိုင်အမာပညာရှင်များက ခင်ဗျားကို ပို့ချခဲ့တဲ့အထဲမှာ တစ်စုံတစ်ဦးရဲ့ နေအိမ်ဟာ ခန်းနားပြီး ကျယ်ကျယ်ဝန်းဝန်းရှိသလောက် အလ္လာဟ်အရှင့်ထံတွင် သူ၏အဆင့်အတန်း ကြီးမားသည်ဟု ပါရှိပါသလား'ဟု မေးသည်။ ကာဇီက 'မပါပါ'ဟု ဖြေသည်။ ဟာတင်မ်သခင်က 'ဒီလိုဖြစ်ရင် သင်ဘာကို ကြားခဲ့ရသလဲ'ဟု မေးသည်။ ကာဇီက 'အကြင်သူ ဒွန္နယာကို စွန့်ခွါမည်၊ အာခိရတ်ကို မက်မောမည်၊ ဆင်းရဲသားများကို ချစ်ခင်မည်၊ သူ့ရဲ့အာခိရတ်ရေးအတွက် ကြိုတင်ပို့ထားမည်ဆိုလျှင် ထိုသူသည် အလ္လာဟ်အရှင့်ထံမှာ အဆင့်အတန်း ရရှိမည်ဟု ကျွန်တော် ကြားခဲ့ရပါတယ်'ဟု ပြန်ပြောသည်။ ထိုအခါ ဟာတင်မ်သခင်က 'သို့ဆိုလျှင် အသင်သည် တမန်တော်မြတ်ﷺ၊ ဆွဟာဗဟ်သခင်များ နှင့် သူမွန်သူမြတ်တို့နောက်ကို လိုက်သလား၊ သို့မဟုတ် ဖိရ်အောင်နှင့် နမ်ရူဒ်၏နောက်ကို လိုက်သလား၊ ဖိရ်အောင်ကား အဆောက်အဦကို အင်္ဂတေအုတ်များဖြင့် ပထမဦးစွာဆောက်ခဲ့သူဖြစ်သည်။ အို အိုလမာဆိုးရဲ့၊ သင်တို့ကဲ့သို့သူများအား ဒွန္နယာတပ်မက်သူ ဒွန္နယာနောက် လျှာထွက်အာထွက် လိုက်နေသူ ပညာမဲ့က တွေ့မြင်သည့်အခါ ပြောဆိုမည့်စကားမှာ 'ပညာရှင်က ဒီအခြေဆိုက်နေလျှင်တော့ ငါက ဒီထက် မဆိုးရဘူးလား'ဟုသာ ဖြစ်လိမ့်မည်။'

ဤသို့ပြောဆိုပြီးနောက် ဟာတင်မ်သခင်လည်း ထွက်သွားခဲ့သည်။ အီဗ်နေ့မုကာတီလ်၏ရောဂါမှာ ပို၍ဆိုးလာခဲ့သည်။ ဟာတင်မ်သခင်နှင့် အီဗ်နေ့မုကာတီလ်တို့နှစ်ဦး ယခုလို အပြန်အလှန်ပြောဆိုကြသည့်အကြောင်းကို ရိုင်မြို့သားများ သိကုန်ကြသည်။ သို့ဖြင့် ၎င်းတို့က ဟာတင်မ်သခင်အား 'ကဇ်ဝီန်မှ တွနာဖိစီအမည်ရှိ ပုဂ္ဂိုလ်က ဤကာဇီထက် ပို၍ကြွယ်ဝပါသည်'ဟု ပြောကြသည်။ ထိုအခါ ဟာတင်မ်သခင်သည် ထိုပုဂ္ဂိုလ်ထံသို့ တန်းသွားပြီး တွေ့ခဲ့သည်။ သခင်က တွနာဖိစီအား 'ခင်ဗျားကို အလ္လာဟ်အရှင် ရဟ်မတ်ပြုတော်မူပါစေ။ ကျွန်ုပ်သည် တိုင်းတပါးသားတစ်ဦးဖြစ်ပါသည်။ ကျွန်ုပ်အား သာသနာရေးအခြေခံနှင့် နမာဇ်ဖတ်ရန် ဝိုဇူပြုပုံပြုနည်းများ သင်ပြပေးစေလိုပါသည်'ဟု ပြောဆိုခဲ့သည်။ တွနာဖိစီက 'ကောင်းပြီ။ ဂုဏ်ယူစရာပါ။ ဟေ့ ကျွန်တစ်ယောက်၊ ခွက်တစ်ခုထဲ ရေထည့် ပြီးယူလာခဲ့'ဟု ခိုင်းစေခဲ့သည်။

ရေရောက်သောအခါ တွနာဖိစီက ထိုင်ပြီး သုံးကြိမ်သုံးခါစီ ဝိုဇူလုပ်ပြကာ 'ဒီအတိုင်း ဝိုဇူလုပ်ပေတော့'ဟု ပြောသည်။ ဟာတင်မ်သခင်က 'ခင်ဗျား ဒီမှာဘဲ ရပ်နေပါ။ ခင်ဗျားရှေ့မှာတင် ကျွန်ုပ် ဝိုဇူလုပ်မယ်။ ဒါမှ ကျွန်ုပ် လိုအပ်တာရှိရင် ခင်ဗျားက ထောက်ပေးနိုင်မယ်'ဟု ဆိုပြီး ဝိုဇူပြုခဲ့သည်။ ဝိုဇူပြုရင်း သခင်က တံတောင်နှစ်ဘက်ကို လေးကြိမ်စီ ရေးဆေးလိုက်ရာ တွနာဖိစီက 'နေဦး။ ဒါက အပိုဖြုန်းခြင်းဖြစ်တယ်'ဟု ပြောလေသည်။ ထိုအခါ ဟာတင်မ်သခင်က 'ဘာကြောင့်ပါလဲ'ဟု မေးသည်။ တွနာဖိစီက 'သင် တံတောင်နှစ်ဘက်ကို လေးကြိမ်စီ ရေဆေးခဲ့တယ်'ဟု ပြောပြသည်။

ဤတွင် ဟာတင်မ်သခင်မှာ 'အို အပြစ်ကင်းစင်ကြီးကျယ်တော်မူလှသည့် အလ္လာဟ်အရှင်!။ ကျွန်ုပ်သည် လက်တစ်ခုပ်စာရေကို အပိုဖြုန်းမိခဲ့သည်။ အသင့်ရဲ့ဒီစည်းစိမ်တွေအားလုံးကရော ဖြုန်းတီးမှုတွေ မဟုတ်ပါလား'ဟု မေးခဲ့လေသည်။ ထိုအခါမှ တွနာဖိစီက ဟာတင်မ်သခင်ရောက်လာခြင်းသည် တစ်စုံတစ်ခုသင်ယူရန်မဟုတ်ဘဲ ယခု

လို တရားပြရန်အတွက်သာဖြစ်ကြောင်း သဘောပေါက်သွားသည်။ သူသည် အိမ်တွင်းသို့ဝင်သွားခဲ့ပြီး လူတို့ထံသို့ ရက်ပေါင်းလေးဆယ် မထွက်ဘဲ နေခဲ့သည်။

ဟာတင်မ်အစွာမ် ﷺ သခင် ဘဂ္ဂဒက်မြို့သို့ရောက်သောအခါ ဘဂ္ဂဒက်မြို့သားများ သခင့်ထံ ရောက်လာကြပြီး 'အို အဗူအဗ်ဒွရ်ရဟ်မာန်။ သင်က တိုင်းတစ်ပါးသားဖြစ်နေတယ်။ စကားကို ထိန်းပြောပါ'ဟု အကြံပြုကြသည်။ သခင်က ပြောသည်မှာ 'ကျွန်ုပ်တွင် အကျင့်သုံးခုရှိနေသည်။ ဤသုံးခုဖြင့် ကျွန်ုပ်သည် တစ်ဘက်လူအပေါ် အနိုင်ယူပါသည်။ တစ်ဘက်လူက မှန်သည့်အခါ ကျွန်ုပ်ပျော်ရွှင်သည်။ တစ်ဘက်လူက မှားသည့်အခါ ကျွန်ုပ်စိတ်မကောင်းဖြစ်ရသည်။ မိမိမိုက်မဲသူမဖြစ်ရန် တစ်ဘက်လူအပေါ် မိမိ၏နဖ်စ်စိတ်ကို ထိန်းသိမ်းသည်။'

သခင်၏စကားရပ်များသည် ဘဂ္ဂဒက်မြို့ရှိ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ﷺ သခင့်နား ရောက်သွားခဲ့သည်။ အိမာမ်ဟန်ဘလ် ﷺ သခင်က 'ဆွဗ်ဟာနလ္လာဟ်။ ဘယ်လောက်များ အသိဉာဏ်ရှိတဲ့လူပါလဲ။ ထကြ။ ငါ့ကို သူ့ဆီ ပို့ပေးကြပါ'ဟု ပြောဆိုလေသည်။ **ဟာတင်မ်သခင့်ထံ** ရောက်သောအခါ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ﷺ သခင်က 'အို အဗူအဗ်ဒွရ်ရဟ်မာန်။ **ဒွန္နယာမှ ချမ်းမြေ့သာယာမှု** အသင်ဘယ်လိုရရှိပါသလဲ'ဟုမေးခဲ့သည်။ ဟာတင်မ် ﷺ သခင်က ဖြေသည်မှာ 'အို **အဗူအဗ်ဒွလ္လာဟ်။ သင့်ထံတွင် အကျင့်**လေးရပ်မရှိဘဲ သင် ဒွန္နယာမှ ချမ်းမြေ့သာယာမှု မရနိုင်ပါ။ လူတွေက အသိတတ်**တရားမရှုံလျှင် အသင်ခွင့်လွှတ်လိုက်ပါ။ လူတို့**အပေါ် အသင့်ဘက်က မသိတတ်မှု မရှိစေနှင့်။ အသင့်မှာရှိသည့်**အရာ လူတို့အား ပေးကမ်းပါ။ ၎င်းတို့ထံမှာ ရှိသည့်အရာကို မျှော်**လင့်ချက်မထားနှင့်။ ဤအတိုင်း ကျင့်ကြံနိုင်ပြီဆိုလျှင် **အသင် အေးချမ်းသာယာမှု ရရှိပေပြီ။'**

**ထို့နောက် ဟာတင်မ် ﷺ သခင်သည် မဒီနာရွှေမြို့တော်သို့ သွားရောက်ခဲ့သည်။ မဒီနာမြို့သားများက** သခင့်ကို **ဆီးကြိုရန် ရောက်ရှိလာကြသောအခါ သခင်က 'အိုလူတို့။** ဒါက ဘယ်မြို့လဲ'ဟု မေးခဲ့သည်။ လူတို့က 'တမန်တော်မြတ် ﷺ ရဲ့မဒီနာမြို့ပါ'ဟု ဖြေကြသည်။ ထိုအခါ သခင်က 'ဒါဆိုရင် တမန်တော်မြတ် ﷺ ရဲ့အိမ်တော်က ဘယ်မှာလဲ။ ငါအဲဒီမှာ နမာဇ် ဖတ်ချင်လို့ပါ'ဟု ပြောသည်။ လူတို့က 'တမန်တော်မြတ် ﷺ မှာ အိမ်တော်ရယ်လို့ မရှိခဲ့ပါ။ ကိုယ်တော့်မှာ သာမာန်မြေစိုက်အိမ်ကလေးသာရှိခဲ့ပါတယ်'ဟု ပြောပြကြသည်။ ထိုအခါ ဟာတင်မ် ﷺ သခင်က 'ဒါဖြင့်ရင် တမန်တော်မြတ် ﷺ ရဲ့ဆွဟာဗဟ်များ ﷽ နေထိုင်ခဲ့တဲ့ စံအိမ်များကကော ဘယ်မှာလဲ'ဟု မေးသည်။ ထိုအခါ လူတို့က 'တမန်တော်မြတ် ﷺ ရဲ့ဆွဟာဗဟ်များ ﷽ မှာ စံအိမ်များရယ်လို့ မရှိခဲ့ကြပါဖူး။ ထိုသခင်တွေမှာလဲ မြေစိုက်အိမ်ကလေးများသာ ရှိခဲ့ကြပါတယ်'ဟု ပြောပြကြသည်။

ထိုအခါ ဟာတင်မ် ﷺ သခင်က 'အို လူတို့။ ဒါဖြင့်ရင် ဒီမြို့ဟာ ဖိရ်အောင်ရဲ့မြို့ဘဲ'ဟု ပြောဆိုလေတော့သည်။ ဤသို့ပြောသဖြင့် လူတို့က သခင့်ကို ဖမ်းဆီးပြီး မြို့တော်ဝန်ထံသို့ ခေါ်သွားကြသည်။ ထို့နောက် 'သူသည် တိုင်းတစ်ပါးသားတစ်ဦးဖြစ်သည်။ သူက ဤမြို့ကို ဖိရ်အောင်၏မြို့ဟု ပြောနေပါသည်'ဟု တိုင်တန်းပြောဆိုခဲ့ကြသည်။ ထိုအခါ မြို့ဝန်က 'သည်လို ဘာကြောင့်ပြောသလဲ'ဟု မေးသည်။ ဟာတင်မ် ﷺ သခင်က 'ကျွန်ုပ်အပေါ် အလျင်စလို မပြုပါနှင့်။ ကျွန်ုပ်သည် နိုင်ငံခြားသားတစ်ဦးဖြစ်သည်။ ဧည့်သည်သူစိမ်းဖြစ်သည်။ ကျွန်ုပ်က 'ဒါဘယ်သူ့မြို့လဲ' ဟုမေးသောအခါ လူတို့က 'တမန်တော်မြတ် ﷺ ရဲ့မြို့ဖြစ်သည်'ဟု ပြောဆိုကြပါသည်။ ထိုအခါ ကျွန်ုပ်က 'ဒါဆိုရင် တမန်တော်မြတ် ﷺ ရဲ့အိမ်တော်က ဘယ်မှာလဲ'ဟုမေးခဲ့သည်'– စသဖြင့် ဖြစ်ကြောင်းကုန်စင် ပြောပြခဲ့သည်။ ထို့နောက် ဟာတင်မ် ﷺ သခင်က 'အလ္လာဟ်အရှင်မိန့်တော်မူချက်သည်–

﴿لَقَدْ كَانَ لَكُمْ فِي رَسُولِ اللَّهِ أُسْوَةٌ حَسَنَةٌ﴾

**'အသင်တို့အတွက်ကား တမန်တော့်ထံ၌ ကောင်းမြတ်သောစံနမူနာ ရှိထားပြီးဖြစ်၏။'** (စူရာအဟ်ဇာဗ် ၊ ၂၁)

ဟုရှိထားသည်။ သို့ဖြစ်ရာ သင်တို့သည် ဘယ်သူ့ကို စံပြုလိုက်နာကြသနည်း။ တမန်တော်မြတ် ﷺ ကို စံပြုလိုက်နာ

ကြသလား။ သို့မဟုတ် အဆောက်အဦးများကို အင်္ဂတေအုတ်များဖြင့် ဦးစွာပထမဆောက်လုပ်ခဲ့သူ ဖိရ်အောင်ကို စံပြုလိုက်နာကြသလား။'

ဤသို့ပြောဆိုသောအခါ သခင့်ကို မြို့ဝန်က လွှတ်ခိုင်းပြီး လူတို့ကလည်း လွှတ်ပေးလိုက်ကြသည်။

ဤသည်မှာ ဟာတင်မ်အစွာမ်ꨵသခင်၏ဖြစ်ရပ်ပင်။ ရှေ့တွင်လည်း ရှေးသူတော်ဟောင်းသူတော်ကောင်းတို့၏ ဒွန္နယာစွန့်ခွါပုံနှင့် လုပတင့်တယ်မှုမှ ရှောင်ကျဉ်ကြပုံများကို သက်ဆိုင်ရာအခန်းကဏ္ဍများတွင် သာဓကအဖြစ် ဖေါ်ပြပါဦးမည်။

အမှန်စင်စစ် ခွင့်ပြုသောကိစ္စများ၌ တင့်တယ်အောင်လုပ်ခြင်းသည် ဟရာမ်မဟုတ်ချေ။ သို့သော် ဤအလုပ်ထဲဘင် စူးစိုက်နစ်မြုတ်နေခြင်းက စွဲလန်းမှုကို ဖြစ်စေသည်။ စွဲလန်းမှုဖြစ်ပြီဆိုလျှင် စွန့်လွှတ်ရန် ခက်ခဲတော့သည်။ ထို့ပြင် အမြဲတန်း တင့်တယ်ကောင်းမွန်စွာ ရှိနိုင်ဖို့ဆိုသည်မှာ အခြေခံလိုအပ်ချက်များမရှိဘဲ မဖြစ်နိုင်ချေ။ များသောအားဖြင့် ထိုအခြေခံလိုအပ်ချက်များ ရရှိရန်အတွက် အလိုက်အထိုက် လိုက်လျောရမှု၊ လူတို့ကို ထောက်ထားရမှု၊ လူမြင်ကောင်းအောင်လုပ်ရမှုနှင့် အခြားတားမြစ်ထားသောကိစ္စရပ်များကို ကျူးလွန်ရန် မလွဲမသွေဖြစ်စေသည်။ ထိုလုပတင့်တယ်ကောင်းမွန်မှုများမှ ကင်းအောင်နေထိုင်ခြင်းသည် ရှောင်ကျဉ်မှုဖြစ်သည်။

အဘယ်ကြောင့်ဆိုသော် လူတစ်ယောက်သည် ဒွန္နယာ့ကိစ္စတွင် စူးစားနစ်မြုတ်သည့်အတွက် ဘယ်နည်းနှင့်မှ အေးချမ်းသာယာမှု မရနိုင်သောကြောင့်ပင်။ အကယ်၍ ဒွန္နယာ့ကိစ္စများတွင် စူးစားနစ်မြုတ်ခြင်းကြောင့် အေးချမ်းသာယာမှုရနိုင်မည်ဆိုလျှင် တမန်တော်မြတ်ﷺသည် ဒွန္နယာကို စွန့်လွှတ်ရန် လေးလေးနက်နက်တိုက်တွန်းလိမ့်မည်မဟုတ်ပေ။ တမန်တော်မြတ်ﷺသည်အဘယ်မျှ အလေးအနက်ဖေါ်ပြခဲ့သည်ဆိုလျှင် တစ်ကြိမ်မှာ အဆင်ပါသောအင်္ကျီကို ချွတ်ပစ်ခဲ့သည်။ တစ်ကြိမ်တွင်လည်း ခွတ္တဘာ မိန့်မြွက်နေစဉ်မှာ ငွေလက်စွပ်ကို ချွတ်ပစ်ခဲ့သည်။ (၂-၃) ထို့အပြင် အခြားဖြစ်ရပ်များလည်း ရှိသေးသည်။ ရှေ့တွင် ထိုအကြောင်းများကို ဖေါ်ပြမည်။

တစ်ကြိမ်တွင် ယဟ်ယာအိဗ်နေ့ယဇီဒ်နောင်ဖလီꨵသခင်က အိမာမ်မာလိက်ꨵသခင့်ထံ စာရေးခဲ့သည်။ ယင်းစာမှာ—

بسم الله الرحمن الرحيم
وصلى الله على رسوله محمد من الأولين و الآخرين

ယဟ်ယာအိဗ်နေ့ယဇီဒ်ထံမှ မာလိက်အိဗ်နေ့အနပ်စ်ထံသို့—

ဦးစွာ အလ္လာဟ်အရှင်အား ချီးမွမ်းထောပနာပြုပါ၏။ ပြီးသည့်နောက်–ကျွန်ုပ်ကြားသိရသည်မှာ သင်သည် ပါးလွှာသောအဝတ်အထည်ကို ဝတ်ဆင်သည်။ ဂျုံမုန့်အနုကို စားသုံးသည်။ နူးညံ့အိစက်သော အခင်းပေါ်တွင် ထိုင်သည်။ ထို့ပြင် သင်၏အိမ်တံခါးတွင် အစောင့်အရှောက် ချထားကြောင်းလည်း သိရသည်။ တကယ်တန်းတွင် သင်သည် အသိပညာ၏အသိုင်းအဝိုင်းတွင် နေထိုင်ကျင်လည်ခဲ့ရသူဖြစ်သည်။ ထို့နောက် အသင့်ထံသို့ လူတို့သည် ဝေးလံသောအရပ်ဒေသမှ ခရီးနှင်ရောက်ရှိလာကြသည်။ သင့်အား သူတို့၏ဦးစီးရှေ့ဆောင်အဖြစ် တင်မြှောက်ကြသည်။ သင်၏မြွက်ဟမှုများကို ကျေနပ်စွာနာယူကြသည်။ အို မာလိက်။ သင် အလ္လာဟ်အရှင်ကို ကြောက်ပါ။ ထို့ပြင် သင်သည် ကျိုးငဲ့နှိမ့်ချမှုထားဖို့လိုအပ်သည်။ ကျွန်ုပ် ဤစာကို သင်၏ကောင်းကျိုးလိုလားပြီး ရေးသားလိုက်ရခြင်းဖြစ်သည်။ ဤစာပါအကြောင်းအရာကို အလ္လာဟ်အရှင်မြတ်မှအပ မည်သူမှ မသိစေရပါ။

ဆလာမ်ဒိုအာပြုလျက်

ဤပေးစာအပေါ် အိမာမ်မာလိက်ꨵသခင်က အောက်ပါအတိုင်းစာပြန်ခဲ့သည်။

بسم الله الرحمن الرحيم
وصلى الله على سيّدنا محمد و آله وصحبه وسلم

မာလီက်အီဗ်နေ့အနှုပ်စ်ထံမှ ယဟ်ယာအီဗ်နေ့ယဇီဒ်ထံသို့–

ဦးစွာ အလ္လာဟ်အရှင်အား ချီးမွမ်းထောပနာပြုပါ၏။ ပြီးသည့်နောက်–ကျွန်ုပ်ထံသို့ သင်ရေးလိုက်သည့်စာ ရောက်ရှိပါသည်။ ထိုစာသည် ကျွန်ုပ်အတွက် ကောင်းကျိုးလိုလားမှု၊ ချစ်ခင်မြတ်နိုးမှုကို ဖော်ပြချက်ပင်ဖြစ်ပါသည်။ အလ္လာဟ်အရှင် အသင့်အား တက္ကဝါ၏အကျိုးခံစားမှုကိုဎင်း၊ ကျွန်ုပ်၏ကောင်းကျိုးလိုလားမှုအတွက် ကောင်းသော အစားပေးမှုကိုဎင်း ချီးမြှင့်တော်မူပါစေ။ ထို့ပြင် ကျင့်သုံးနိုင်စွမ်းပေးတော်မူရန် ကျွန်ုပ်အလ္လာဟ်အရှင့်ထံ ဒိုအာပြုပါသည်။ ဂိုနာမှရှောင်ရှားနိုင်စွမ်းသည်ဎင်း၊ ကောင်းမှုပြုနိုင်စွမ်းသည်ဎင်း မြင့်မြတ်ကြီးကျယ်တော်မူသောအလ္လာဟ်အရှင်၏အကူအညီမပါဘဲ မရနိုင်ပါ။

သင်၏စာထဲတွင် ဖော်ပြထားသလိုပင် ကျွန်ုပ်သည် ဂျုံနုကို **စားပါသည်။** ပါးလွှာသောအထည်စကို ဝတ်ပါသည်။ အစောင့်ထားပါသည်။ **အိမ်ပြောင်းသောအခင်းပေါ် ထိုင်ပါသည်။** ဤအတိုင်းနေထိုင်သည်မှာ အမှန်ပင်ဖြစ်သည်။ ထို့ပြင် ကျွန်ုပ်သည် **အလ္လာဟ်အရှင့်ထံမှာ ခွင့်လွှတ်မှုကိုလည်း တောင်းခံ**ပါသည်။ အလ္လာဟ်အရှင်မိန့်တော်မူသည်မှာ–

**﴿قُلْ مَنْ حَرَّمَ زِينَةَ اللَّهِ الَّتِي أَخْرَجَ لِعِبَادِهِ وَالطَّيِّبَاتِ مِنَ الرِّزْقِ﴾**

**'ပြောလော့။ အလ္လာဟ်အရှင်က မိမိ၏ကျေးကျွန်များအတွက် ထုတ်ဖော်ပေးပြီး အတင့်အတယ်ပြုတော်မူသောအရာတိုင်း၊ သန့်ပြန့်သောစားရေးရိက္ခာများကိုဎင်း မည်သူက ဟရာမ်ပြုသနည်း။'** (**ဇူရာအအ်ရာဖ် ၊ ၃၂**)

**သို့ရှိသော်လည်း ဤအရာများကို သုံးစွဲခြင်းထက် မသုံးဘဲနေခြင်းက ပို၍ကောင်းကြောင်း ကျွန်ုပ်သိပါသည်။ ကျွန်ုပ်ဆီသို့ စာမရေးဘဲ မနေပါနှင့်။** ကျွန်ုပ်ကလည်း အသင့်ထံ စာမရေးဘဲနေမည်မဟုတ်ပါ။

ဆလာမ်ဒိုအာပြုလျက်ပါ။

အိမာမ်မာလီက်ﷺသခင်၏သမ္မာသမတ်ကျမှုကို ကြည့်ပါ။ တင့်တယ်ကောင်းမွန်မှုများကို **ခံမင်သုံးစွဲခြင်းထက်** လွှတ်ခြင်းက ပိုကောင်းကြောင်း သခင်က အသိအမှတ်ပြုဝန်ခံခဲ့သည်။ တဖန် ထိုအရာများသည် **ပြုလုပ်ခွင့်ရှိသော** အရာများဖြစ်ကြောင်းကိုလည်း အဆုံးအဖြတ်ပေးသည်။ နှစ်ခုစလုံးမှာ အမှန်ချည်းဖြစ်သည်**။ အိမာမ်မာလီက်**ﷺသခင်ကဲ့သို့ပုဂ္ဂိုလ်မျိုးဖြစ်၍သာ ယခုလို မိမိအပေါ် ဆုံးမပဲ့ပြင်မှုအား သမ္မာသမတ်ကျစွာ **အသိအမှတ်ပြုနိုင်ခြင်းဖြစ်သည်။** ထို့ပြင် ခွင့်ပြုမှုနယ်နိမိတ်ကို သိနိုင်ရန်လည်း စွမ်းအားရှိခဲ့သည်။ ထိုသို့သိသော**ကြောင့်သာ ခွင့်ပြုအရာများသုံးစွဲရာ**တွင် ပြစားဝင့်ကြွားမှု၊ အပေါ့ပေါ့အလျှော့လျှော့ဖြစ်မှုနှင့် မက္ကရူကိစ္စများအထိ **စည်းကမ်းဘောင်** ကျော်လွန်မှု မဖြစ်ခဲ့ခြင်းဖြစ်သည်။ အခြားသူများသည် ဤအတိုင်း စည်းစောင့်နိုင်ရန်မစွမ်းနိုင်ပါ**။ ထိုသို့မစွမ်းလျှင်** စည်းစိမ်ခံစားမှုများ မပြုဘဲရှောင့်ရဲမှုကို ကျင့်သုံးခြင်းက ပို၍ကောင်းသည်။ ခွင့်ပြုချက်ရှိသည်**ဆိုပြီး စည်းစိမ်အ**ရသာခံမင်လိုက်စားခြင်းသည် အထူးစိုးရိမ်စရာဖြစ်သည်။ ဤလုပ်ရပ်သည် အလ္လာဟ်အရှင်ကို **ကြောက်ရွံ့ခန့်ငြားမှုနှင့်** ဝေးစေသောလုပ်ရပ်ဖြစ်သည်။

အာခိရတ်ပညာရှင်များ၏သီးသန့်ထူးခြားချက်သည် **အလ္လာဟ်အရှင်ကို** ကြောက်ရွံ့ခြင်းဖြစ်သည်။ အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခြင်း၏သီးသန့်ထူးခြားချက်သည် **ဘေးဖြစ်မည်ဟု** ထင်ရရုံဖြင့် ထိုကိစ္စကို ဝေးဝေးမှ ရှောင်ရှားကြခြင်းဖြစ်သည်။

**အာခိရတ်ပညာရှင်၏အချင်းလက္ခဏာနောက်တစ်ခုမှာ–** အာဏာပိုင်ပုဂ္ဂိုလ်များနှင့် ဝေးဝေးနေရန်ဖြစ်သည်။ ဎင်းတို့ထံ ဝင်ထွက်သွားလာခြင်းမပြုဘဲ ဖြစ်နိုင်သမျှ ကင်းကင်းနေရန်ဖြစ်သည်။ သို့မှုမက အာဏာပိုင်တို့က မိမိ

**ထံလာရောက်မည်ဆိုလျှင်လည်း** ၎င်းတို့နှင့် လက်ပွန်းတတီးမနေမိရန်ဖြစ်သည်။ အကြောင်းမှာ ဒွန္နယာသည် စိမ်းစို **ချိုမြသောအရာဖြစ်ပြီး** ၎င်းဒွန္နယာ၏ဇက်ကြိုးသည် အာဏာပိုင်တို့၏လက်ထဲ၌ ရှိနေလေသည်။

**အာဏာပိုင်တို့နှင့်** တွေ့ဆုံပေါင်းသင်းသည့်အခါ ၎င်းတို့အား ကျေနပ်အောင်ပြုရခြင်း၊ ၎င်းတို့၏တရားမဲ့မှု **အပေါ် စိတ်နှလုံးကျဉ်းကျပ်ရခြင်းတို့ကြောင့်** အနည်းနှင့်အများ ဒုက္ခရောက်ရသည်။ ၎င်းတို့၏တရားမဲ့သောလုပ်ရပ် **များကို ငြင်းဆန်တားဆီးရန်၊** ထိုတရားမဲ့မှုကို လူသိရှင်ကြား ထုတ်ဖော်ပြီး ၎င်းတို့အား နောင်ကျဉ်အောင်ပြုရန်နှင့် **၎င်းတို့၏**လုပ်ရပ်များအား မကောင်းပြောဆိုရန်မှာ သာသနာလေး**စား**သူအားလုံးအတွက် တာဝန်ဖြစ်သည်။ ထို့ပြင် **အာဏာပိုင်တို့ထံ** ဝင်ထွက်သွားလာခြင်းဖြင့် **၎င်းတို့၏**ခန်းနားသော စည်းစိမ်များအပေါ် အာရုံရောက်လိမ့်မည်။ ထို **အခါ မိမိအား** အလ္လာဟ်အရှင် ချီးမြှင့်ထားသောစည်းစိမ်ကို အသေးအသိမ်မှတ်ယူသွားနိုင်သည်။ တဖန် ၎င်းတို့၏ လုပ်ရပ်များကို ငြင်းဆန်တားဆီးမှုမပြုပြန်လျှင်လည်း ဤသို့နှုတ်ဆိတ်နေခြင်းသည် ၎င်းတို့ကို အလျှော့ပေးမှုဖြစ် သည်။ တဖန် တမင်သက်သက် ၎င်းတို့ကျေနပ်အောင် ၎င်းတို့၏လုပ်ရပ်များ မှန်ကန်ပါသည်ဟု ပြောမည်ဆိုလျှင် ဤသို့ပြောဆိုခြင်းသည် အထင်အရှားလိမ်လည်မှုပင်ဖြစ်သည်။ တဖန် ၎င်းတို့၏ဒွန္နယာစည်းစိမ်များကို မိမိလည်း ရရှိရန် လိုလားမက်မောမှုဖြစ်မည်ဆိုလျှင် ဤသည်မှာ ဟရာမ်ဖြစ်သည်။ အာဏာပိုင်တို့၏ပိုင်ဆိုင်မှုထဲမှ ပေးကမ်း သည့် ရိဇ္ဇာဝေစုနှင့်ဆုလာဘ်တို့တွင် လက်ခံရယူပိုင်သည့်အရာရှိသလို မပိုင်သည့်အရာများရှိသည်။ ဤအကြောင်း ကို ဤကျမ်း၏ဟလာလ်နှင့်ဟရာမ်ဆိုင်ရာကဏ္ဍတွင် ဖော်ပြမည်။

အချုပ်ဆိုရလျှင် အာဏာပိုင်တို့နှင့် ပေါင်းသင်းရောနှောခြင်းသည် မကောင်းဆိုးဝါးမှုအပေါင်း၏သော့တန် ဖြစ်သည်။ သို့နှင့်အမျှ ဤကိစ္စမှ ရှောင်ကျဉ်ခြင်းသည် အာခိရတ်ပညာရှင်တို့၏လမ်းစဉ်ပင်ဖြစ်သည်။ တမန်တော် မြတ်ﷺမိန့်တော်မူသည်မှာ –

من بدا جفا . يعني من سكن البادية جفا . ومن اتبع الصيد غفل ومن أتى السلطان افتتن . (د.ت.س)

'အကြင်သူ တောတွင်းမှာ နေလျှင် ကြမ်းကြုပ်ခက်ထန်သူဖြစ်သွားသည်။ ထို့ပြင် သားကောင်နောက် လိုက်သူသည် သတိလွတ်ကင်းသွားသည်။ အာဏာပိုင်ထံ ဝင်ထွက်သွားလာသူသည် ဘေးတွေ့ရသည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

سيكون عليكم أمراء يعرفون منهم وتنكرون ، فمن أنكر فقد برىء ومن كره فقد سلم ، ولكن من رضي وتابع أبعده الله تعالى قيل : أفلا نقاتلهم ؟ قالﷺ : (( لا ما صلوا )) . (م)

'များမကြာမီ အသင်တို့ထံ အုပ်ချုပ်ရေးမှူးများ လာလိမ့်မည်။ အသင်တို့သည် ၎င်းတို့အနက် အချို့ ကို သိကြမည်။ အချို့ကိုမူ မသိဘဲရှိကြမည်။ သင်တို့က အသိအမှတ်မပြုဘဲနေကြရမည်။ ၎င်းတို့ကို မသိ ကျိုးကျွံ ပြုသူသည် လွတ်ကင်းလိမ့်မည်။ ၎င်းတို့ကို မကောင်းထင်မြင်သူသည် အေးချမ်းမည်။ သို့သော် ၎င်းတို့ကို ကျေနပ်ပြီး နာခံနောက်လိုက်သူသည် အလ္လာဟ်အရှင်၏ရဟ်မတ်နှင့် ဝေးသူဖြစ်မည်။'

တမန်တော်မြတ်ﷺက ဤသို့မိန့်ဆိုသောအခါ **တစ်စုံတစ်ဦးက** 'ကျွန်ုပ်တို့သည် ၎င်းတို့ကို ဂျေဟာဒ် မပြုဘဲ နေရမည်လော'ဟု မေးလျှောက်ခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက '၎င်းတို့ နမာဇ်ဖတ်နေသ၍ ၎င်းတို့အား ဂျေဟာဒ်ပြုခွင့်မရှိပါ။'

ဆွဖ်ယန်ဆော်ရီရ်သခင်က 'ဂျဟန္နမ်တွင် တောတစ်တောရှိသည်။ ထိုတောတွင် ဘုရင်များထံ ဝင်ရောက်ခ ဲ့ဘူးကြသော ပညာရှင်များချည်း နေကြရမည်'ဟု ပြောဆိုခဲ့သည်။ တဖန် ဟုဇိုင်ဖဟ်ﷺသခင်က 'ပြဿနာ၏နေရာ ဌာနများမှ အသင်တို့ ရှောင်ကြပါ' ဟု ပြောဆိုရာ၊ လူတို့က 'ဘယ်နေရာများပါလဲ' ဟု မေးကြသည်။ ထိုအခါ သခင် က 'အုပ်ချုပ်ရေးမှူးများ၏အိမ်တံခါးပေါက်များဖြစ်သည်။ အသင်တို့အနက်က တစ်ဦးဦးသည် အုပ်ချုပ်သူထံ ဝင်ရ

ပြီဆိုလျှင် လိမ်ညာပြောဆိုမှုကိုလည်း အမှန်ဖြစ်ကြောင်း ထောက်ခံရသည်။ ထိုအုပ်ချုပ်သူတွင် မရှိသော အရည်အချင်းကိုလည်း အရှိလုပ် ပြောရသည်။'

တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

العلماء أمناء الرسل على عباد الله تعالى مالم يخالطوا السلاطين ، فإذا فعلوا ذلك فقد خانوا الرسل فاحذروهم واعتزلوهم . (العقيلي في الضعفاء)

'ဓမ္မပညာရှင်များသည် အလ္လာဟ်အရှင်၏အဖန်ဆင်းခံလူသားတို့အပေါ် တမန်တော်များ၏ သစ္စာခံများဖြစ်သည်။ အာဏာပိုင်များနှင့် ရောနှောပေါင်းသင်းခြင်းမပြုသမျှ ပညာရှင်တို့သည် ဤအဆင့်အတန်းကို ရရှိကြသည်။ သို့နှင့်ပင် ထိုသို့ရောနှောပေါင်းသင်းခဲ့ကြမည်ဆိုလျှင် ပညာရှင်တို့သည် တမန်တော်များကို သစ္စာဖေါက်လိုက်ကြခြင်းပင်ဖြစ်သည်။ ထိုသို့ဖြစ်လာသည့်အခါ ၎င်းတို့အား သတိထားကြကုန်။ ၎င်းတို့အား ကျောခိုင်းစွန့်ခွါကြကုန်။'

ဤဟဒီစ်ကို အနပ်စ်ﷺသခင်က ဆင့်ပြန်ခဲ့သည်။

ပုဂ္ဂိုလ်တစ်ဦးက အအ်မာရှ်သခင်ﷺအား 'သခင်ကတော့ အသိပညာကို ပြန်လည်ရှင်သန်အောင် ပြုလုပ်ခဲ့ပြီ။ ဤသို့ပြောရခြင်းမှာ သခင့်ထံမှ လူအမြောက်အမြား ပညာသင်ယူသွားခဲ့ကြသောကြောင့်ဖြစ်သည်'ဟု ပြောခဲ့သည်။ ထိုစကားအပေါ်မှာ သခင်က ပြန်ပြောသည်မှာ 'သိပ်လည်း ဆန္ဒမစောနှင့်ဦး။ သင်သွားကြသည့်အထဲမှ သုံးပုံတစ်ပုံက ပီပီပြင်ပြင် မရှိခင် သေကုန်ကြသည်။ သုံးပုံတစ်ပုံက အာဏာပိုင်များ၏ တံခါးဝသို့ ရောက်သွားကြသည်။ ထိုသူတို့သည် အဆိုးရွားဆုံး အဖန်ဆင်းခံများဖြစ်ကြသည်။ ကျန်သုံးပုံတစ်ပုံတွင်လည်း အောင်မြင်မှုရသူက အနည်းအကျဉ်းမျှသာဖြစ်သည်။'

စအီဒ်အီဗ်နေ့မုဆိုင်ယီဗ်ﷺသခင်ကမူ 'ပညာရှင်တစ်ဦး အုပ်ချုပ်ရေးမှူးများထံ အသွားအလာများသည်ကို သင်တို့မြင်တွေ့ရလျှင် ထိုပညာရှင်ကို သတိထားကြတော့။ သူသည် သူခိုးဖြစ်သည်'ဟု ပြောဆိုခဲ့သည်။ တဖန် အိမာမ်အောင်ဇာအီﷺသခင်က 'အလ္လာဟ်အရှင့်ထံတွင် ရာထူးအာဏာရှိသူဆီ သွားရောက်သည့် ပညာရှင်ထက် မုန်းသည့်အရာ အခြားဘာမှ မရှိပါ'ဟု ဆိုသည်။

တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

شرار العلماء الذين يأتون الأمراء وخيار الأمراء الذين ياتون العلماء . (ق)

'ပညာရှင်များတွင် အဆိုးယုတ်ဆုံးသူများသည် အုပ်ချုပ်ရေးမှူးများထံ သွားရောက်ကြသူများဖြစ်သည်။ ထို့နောက် အုပ်ချုပ်ရေးမှူးများတွင် အကောင်းဆုံးသူများသည် ပညာရှင်များထံ လာကြသူများဖြစ်သည်။'

မက္ကဟူလ်ဒမစ်ရှ်ကီﷺသခင်က 'အကြင်သူသည် ကျမ်းမြတ်ကုရ်အာန်ကို သင်ယူမည်။ ထို့ပြင် သာသနာကို သိနားလည်အောင် ဆည်းပူးမည်။ ထို့နောက် အာဏာပိုင်ထံ တစ်စုံတစ်ရာမက်ဆန္ဒဖြင့် မြှောက်ပင့်ပေါင်းသင်းမည်ဆိုလျှင် ထိုပညာရှင်သည် သူ၏ခြေလှမ်းအရေအတွက်နှင့်အမျှ ဂျဟန္နမ်၏မီးပင်လယ်တွင် ငုတ်လျှိုးရလိမ့်မည်'ဟု ဆိုမိန့်ခဲ့သည်။ ဆမ်နွံﷺသခင်က 'ပညာရှင်တစ်ဦးအကြောင်း ကြားသိရသည်။ ထိုပညာရှင်၏ထိုင်ဝိုင်းသို့ သွားသူက ၎င်းကို မတွေ့ရသဖြင့် မေးကြည့်ရာ ထိုပညာရှင်သည် အာဏာပိုင်ထံတွင် ရှိနေကြောင်းပြောကြသည်။ ထိုပညာရှင်မျိုးထက် အရုပ်ဆိုးအကျည်းတန်သည့်အရာ ဘာမှမရှိတော့ပါ။' ဆက်လက်၍ 'ကျွန်ုပ်သည် သူတော်ကောင်းတို့၏ မိန့်ခွန်းမှုကို ကြားဘူးခဲ့သည်။ ယင်းမှာ 'အသင်တို့ ပညာရှင်တစ်ဦး ဒွန္နယာချစ်နေသည်ကို တွေ့မြင်ရလျှင် သူသည် အသင်တို့၏ သာသနာရေးအတွက် သတိပေးမှုဖြစ်သည်ဟု မှတ်ယူကြကုန်။'

ဆက်လက်၍ ဆမ်နွံﷺသခင်က 'ဤကိစ္စကို ကျွန်ုပ်ကိုယ်တိုင် ကြုံခဲ့ရဘူးသည်။ ကျွန်ုပ်သည် အုပ်ချုပ်ရေးမှူး

ထံသွားပြီး ပြန်လာသည့်အခါ ကျွန်ုပ်၏နဖ်စ်ကို စမ်းစစ်ကြည့်ခဲ့သည်။ ထိုသို့စမ်းစစ်ရင်းပင် စိတ်နှလုံးနောက်ကျိခဲ့ရသည်။ အသင်တို့ တွေ့ကြသည့်အတိုင်းပင် ကျွန်ုပ်သည် ထိုနေရာတွင် ပြင်းထန်ကြမ်းတမ်းသောစကားများကို ပြောဆိုခဲ့ပြီး အုပ်ချုပ်ရေးမှူး၏သဘောဆန္ဒအများအပြားကို ဆန့်ကျင့်ခဲ့ရသည်။ နောက်နောင် သူ့ဆီသွားဖို့ အကြောင်းမပေါ်တော့ရန် ဆန္ဒဖြစ်မိပါသည်။ သို့နှင့်တိုင် ကျွန်ုပ်သည် သူ့ထံက ဘာတစ်ခုမှ ယူခဲ့သည်မဟုတ်ပါ။ သောက်ရေပင် မသောက်ခဲ့ပါ။' ထို့နောက် ဆမ်နွံ့ သခင်က ဆက်လက်အမိန့်ရှိသည်မှာ–

'ကျွန်ုပ်တို့ခေတ်၏ပညာရှင်များသည် ရှေးက ဗနီအီစ်ရာအီလ်ပညာရှင်များထက် ပိုဆိုးနေကြပြီ။ သူတို့သည် အုပ်ချုပ်ရေးမှူးအား ၎င်း၏အကြိုက်ဆန္ဒနှင့်ကိုက်ညီသည့်ကင်းလွတ်ခွင့်ကို ထုတ်ဖော်ပြောပြလျက်ရှိသည်။ အကယ်၍ ထိုပညာရှင်များက အုပ်ချုပ်ရေးမှူး၏တာဝန်လည်းဖြစ်ပြီး ၎င်းအား လွတ်မြောက်အောင်မြင်မှုလည်းရစေမည့်အရာများကို သတိပေးပြောဆိုခဲ့မည်ဆိုလျှင် အုပ်ချုပ်ရေးမှူးသည် ထိုပညာရှင်တို့၏လာရောက်ခြင်းကို မနှစ်မြို့နိုင်ဘဲရှိကြတော့မည်ဖြစ်သည်။ သို့နှင့်တိုင် ပညာရှင်တို့အဖို့ကား ထိုသို့တာဝန်ကျေမှသာ အလ္လာဟ်အရှင့်ထံတွင် လွတ်မြောက်အောင်မြင်မှု ရမည်ဖြစ်သည်။'

ဟာစ်ဘာစွရီ သခင်က ပြောပြသည်မှာ 'သင်တို့၏အလျင်က ပုဂ္ဂိုလ်တစ်ဦးရှိခဲ့ဖူးသည်။ ထိုပုဂ္ဂိုလ်သည် အစ္စလာမ်ကို လက်ခံခဲ့ပြီး တမန်တော်မြတ်ထံ ဆည်းကပ်ခွင့်ရခဲ့သည်။' အဗ်ဒွလ္လာဟ်အီဗ်နေ့မုဘာရပ်က် သခင်က 'ဟာစ်ဘာစွရီသခင် ပြောသော ထိုပုဂ္ဂိုလ်သည် စအ်ဒ်အီဗ်နေ့အဗီဝက္ကာဆွ်ဖြစ်သည်'ဟု ဆိုပါသည်။ ဟာစ်ဘာစွရီ သခင်က ထိုပုဂ္ဂိုလ်အကြောင်း ဆက်၍ပြောပြသည်မှာ 'သခင်သည် အာဏာပိုင်တို့ထံ သွားလေ့မရှိခဲ့ပါ။ ထို့ပြင် ထိုသူတို့ကို ရွံရှာသူလည်းဖြစ်သည်။ တစ်ရက်၌ သခင်၏သားက သခင့်အား 'တမန်တော်မြတ်ထံ ဆည်းကပ်ခဲ့ရမှုနှင့် အစ္စလာမ်ကို စောစီးစွာလက်ခံခဲ့ရာမှာ ဖခင်ရဲ့အဆင့်ကို မမှီသူများတောင်မှ အာဏာပိုင်တွေထံ သွားကြပါတယ်။ ဖခင်လည်း သူတို့ဆီသွားလျှင် အကျိုးရှိမှာဘဲ'ဟု ပြောလေသည်။ ထိုအခါ ဖခင်က 'ငါ့သား။ ဒွန္နယာဟာ အသေကောင်ဖြစ်တယ်။ လူတစ်ချို့က ဒီအသေကောင်ကို ဝိုင်းအုံဖက်တွယ်နေကြတယ်။ အလ္လာဟ်အရှင့်ကစမ်း။ ငါကတော့ တတ်နိုင်သလောက် ဒီကိစ္စမှာ သူတို့နဲ့ပူးပေါင်းမှာမဟုတ်ဘူး'ဟု ပြောဆိုသည်။ ထိုအခါ သားဖြစ်သူက 'အို ဖခင်၊ ဒီလိုဆိုလျှင်ကတော့ ဖခင်ဟာ ပိန်ပိန်လိန်လိန်နဲ့ဘဲ ဘဝနိဂုံးချုပ်ရလိမ့်မယ်'ဟု ပြောလိုက်သည်။ ဖခင်က 'ငါ့သား၊ ငါဟာ အီမာန်ရှင်အဖြစ် ပိန်ပိန်လိန်လိန်နဲ့သေဆုံးရခြင်းကို ဝဝဖီးဖီးမုနာဖိက်အဖြစ်နဲ့ သေဆုံးရခြင်းထက် ပိုပြီး နှစ်သက်ပါတယ်'ဟု ပြောခဲ့သည်။

ဟာစ်ဘာစွရီ သခင်က ဆက်လက်ပြောဆိုသည်မှာ 'အလ္လာဟ်အရှင်၏ကစမ်း။ ဖခင်သည် သားကို မှတ်လောက်သားလောက် သင်ခန်းစာပေးခဲ့သည်။ မြေကြီးသည် သက်ရှိသတ္တဝါတို့၏အဆီအသားများကို စားမြို့နိုင်သော်လည်း အီမာန်ကို စားမြို့နိုင်ခြင်းမရှိပါ။ ထိုဖြစ်ရပ်က ညွှန်ပြသည်မှာ အုပ်ချုပ်ရေးမှူးထံ ဝင်ထွက်သွားလာသူအတွက် နီဖါက်ခေါ် အတွင်းတစ်မျိုး အပြင်တစ်မျိုး ဟန်ဆောင်ရမှုမှ ကင်းမည်ဟု လုံးဝ စိတ်မချရပေ။ ထိုနီဖါက်သည် အီမာန်နှင့် ဆန့်ကျင်ဘက်အရာဖြစ်သည်။'

အဗူဇရ်ဂေဖါရီ သခင်က ဆလ်မာ သခင်အား 'အို ဆလ်မာ၊ သင်သည် အုပ်ချုပ်ရေးမှူးများ၏တံခါးဝသို့ မသွားနှင့်။ သွားမည်ဆိုလျှင် သူတို့၏ဒွန္နယာ့ဝေစုထဲမှ တစ်ခုခု အသင်ရလိမ့်မည်။ သို့သော် ထို့ထက်သာသည့်အရာကို သင်၏သာသနာထဲမှ သူတို့ယူလိုက်ကြမည်'ဟု ပြောဆိုခဲ့သည်။ ဤသည်မှာ ပညာရှင်များအတွက် အကြီးမားဆုံးပြဿနာဖြစ်သည်။ ထို့ပြင် ပညာရှင်တို့အပေါ် ရှိုင်တွာန်၏အထိရောက်ဆုံး ထိုးနှက်ကွက်ဖြစ်သည်။ အထူးသဖြင့် စကားကြွယ်ပြီး နှုတ်ချိုသောပညာရှင်၏အပေါ်မှာဖြစ်သည်။ ထိုကဲ့သို့ပညာရှင်မျိုးကို ရှိုင်တွာန်က မပြတ်လှုံ့ဆော်မည်မှာ– 'သူတို့အား သင့်ဘက်က ဟောပြောသွန်သင်ခြင်းများနှင့် သင်ကိုယ်တိုင် သူတို့ထံ သွားလာခြင်းများ

ကြောင့် သူတို့၏မတရားပြုမှုများတွင် **အတားအဆီးဖြစ်လျက်ရှိသည်။** ထို့ပြင် သူတို့ထံ၌ ရှရီအတ်၏အမိန့်ပညတ်များ အကောင်အထည်ပေါ်လာစေသည်။' ထိုမျှမက ရှိင်တွာန်သည် နောက်ဆုံးတွင် ထိုပညာရှင်က အုပ်ချုပ်ရေးမှူးများထံ သွားလာခြင်းကို သာသနာရေးလုပ်ငန်းစဉ်တစ်ရပ်ဖြစ်သည်ဟု အတွေးဝင်စဉ်းစားမိလာအောင် လှုံ့ဆော်ပေးလိမ့်မည်။ ထိုသို့ အုပ်ချုပ်ရေးမှူးထံ ဝင်ထွက်သွားလာသည်ဆိုရာ၌ ပြောလိုသည့်စကားကို နည့်ပြောပြောင်းစွာမပြောဘဲ မဖြစ်နိုင်ချေ။ ထို့ပြင် မတန်မရာ ဂုဏ်ဖော်ချီးမွမ်းမှုများဖြင့် မြှောက်ပင့်မျက်နှာလုပ်ရသည်။ သို့ဖြစ်ရာ ဤလုပ်ရပ်မျိုးဖြင့် သာသနာလည်း ပျက်စီးရသည်။

ရှေးသူတော်စင်တို့ ဆိုမိန့်လေ့ရှိသည်မှာ 'ပညာရှင်တို့မည်သည် သိရသည်နှင့် ထိုအသိအတိုင်း ကျင့်သုံးကြသည်။ ကျင့်သုံးရင်းက နှစ်မွန်းသွားကြသည်။ တဖန် နှစ်မွန်းရင်းမှ စုံးစုံးမြုတ်သွားကြသည်။ ထိုသို့ စုံးစုံးမြုတ်သွားသောအခါ ထိုပညာရှင်တို့ကို လိုက်လံရှာဖွေကြရသည်။ လိုက်လံရှာဖွေပြီဆိုလျှင် ထိုပညာရှင်တို့သည် တိမ်းရှောင်ထွက်ပြေးကြတော့သည်။'

တစ်ကြိမ်၌ အိုမရ်အီဗ်နေ့ **အဗ်ဒွလ်အဇီဇ်**-သခင်က ဟစ်ဘစ္စရီ-သခင့်ထံ စာရေးခဲ့သည်။ စာမှာ 'အလ္လာဟ်အရှင်အား **ချီးမွမ်းထောပနာပြုပါ၏။ ကျွန်ုပ်အား** အလ္လာဟ်အရှင်၏အမိန့်ပညတ်များနှင့်ပတ်သက်၍ အားကိုးအားထားပြုနိုင်မည့်ပုဂ္ဂိုလ်**များ ညွှန်ပြစေလိုပါသည်'ဟု ဖြစ်သည်။ ဟစ်ဘစ္စရီ**-သခင်က စာပြန်ရေးသည်မှာ 'သာသနာစွဲမြဲသူများက အသင့်ထံ လာရန် အလိုမရှိကြပါ။ **တဖန် ဒွန္နယာရှာဖွေသူများကိုလည်း** အသင်က အလိုမရှိပြန်ပါ။ **သို့ဖြစ်ရာ သင့်အတွက်နည်းလမ်းမှာ** ဂုဏ်သိက္ခာရှိသူများကို ခေါ်ယူထားရန်ဖြစ်သည်။ အကြောင်းမှာ ၎င်းတို့သည် **အလွဲသုံးစားပြုသဖြင့် ညစ်နွမ်းရမည့်အဖြစ်မှ မိမိတို့၏ဂုဏ်သိက္ခာကို ထိန်းသိမ်းကြလိမ့်မည်။'**

ယခုဖော်ပြခဲ့သည့် အိုမရ်အီဗ်နေ့အဗ်ဒွလ်အဇီဇ်-သခင်ဆိုသည်မှာ သူနှင့်ခေတ်ပြိုင် လူသားများတွင် ရှောင်ကျဉ်မှုအရှိဆုံးပုဂ္ဂိုလ်ဖြစ်သည်။ ထိုကဲ့သို့ပုဂ္ဂိုလ်မျိုးနှင့်ပင် သာသနာစွဲမြဲသူများကို ကင်းရှင်းစွာနေစေခဲ့သည်ဆိုလျှင် အခြားသောအုပ်ချုပ်ရေးမှူးများနှင့် ပေါင်းသင်းရေယှက်ခြင်းသည် အဘယ်မှာ လျော်ကန်နိုင်ပါမည်နည်း။ ရှေးသူဟောင်းပညာရှင်ကြီးများအနက်မှ ဟစ်ဘစ္စရီ-သခင်၊ ဆွဖ်ယန်စော်ရီ-သခင်၊ အီဗ်နေ့မုဘာရပ်က်-သခင်၊ ဖုဒွိုင်လ်အီဗ်နေ့အိယာဇ်-သခင်၊ အီဗ်ရာဟီမ်အီဗ်နေ့အဒ်ဟမ်-သခင်နှင့် ယူစွဖ်အီဗ်နေ့အပ်စ်ဘာတွ်-သခင်တို့သည် မက္ကာမြို့သားနှင့် ရှမ်နိုင်ငံသား ဒွန္နယာ့ပညာရှင်များအား ဒွန္နယာဘက်ယိမ်းခဲ့လျှင်၎င်း အာဏာပိုင်တို့နှင့် ရောနှောခဲ့လျှင်၎င်း အမြဲအစဉ်သတိပေးပြောဆိုလေ့ရှိခဲ့ကြပေသည်။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ–** ဖတ္တဝါကို အလျင်စလို မဆုံးဖြတ်ခြင်းဖြစ်သည်။ သို့သာမက ဖတ္တဝါပေးခြင်းမှ ရှောင်လွှဲ၍ ရနိုင်သလောက် တုံ့နေးဆိုင်းငံ့ထားတတ်ကြသည်။ အကယ်၍ ကျမ်းမြတ်ကုရ်အာန်၏ပေါ်လွင်စွာလာရှိမှုကိုင်း၊ ဟဒီစ်၏လာရှိမှုကိုင်း၊ အီဂျ်မအ်ခေါ် အွမ္မတ်သားပညာရှင်အများစု၏ညသုံညီသဘောထားကို၎င်း၊ ကိယာစ်နှိုင်းဆဆင်ခြင်မှုကို၎င်း၊ ထိုအရာများထဲမှ ခြေခြေမြစ်မြစ်သိထားသောအရာကို မေးလာခဲ့လျှင်မူ ရှင်းလင်းဖြေကြားသည်။ သို့နှင့်တိုင် မိမိကိုယ်တိုင် ဒွိဟယနမကင်းသောကိစ္စကို မေးလာခဲ့လျှင် 'ကျွန်ုပ်မသိပါ'ဟု ဖြေလေ့ရှိသည်။ အကယ်၍ မေးလာသည့်အကြောင်းအရာသည် အီဂျ်တိဟာဒ် ပြုလုပ်ရမည့်အရာ၊ အနုလုံပဋိလုံစဉ်းစားသုံးသပ်ရမည့်ကိစ္စဟု သေချာထင်မှတ်ခဲ့လျှင် အဖြေမပေးဘဲ ရှောင်ရှားကြသည်။ အမှန်အကန် ဖြေဆိုနိုင်မည့်သူရှိခဲ့လျှင် ထိုသူ့ထံ မေးခွန်းကို လွှဲအပ်ပေးသည်။ ဤသည်မှာ ရှောင်ကျဉ်မှုဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အီဂျ်တိဟာဒ်၏တာဝန်ကို ပခုံးပေါ်တင်ရန်ဆိုသည်မှာ ကြီးမားလေးလံလှသောကြောင့်ပင်။ ဟဒီစ်တော်တွင်လာရှိသည်မှာ– العلم ثلاثة: كتاب ناطق وسنة قائمة و لاأدري. (ဒ)

'ပညာသည် သုံးခုထဲသာရှိသည်။ ရှင်းလင်းသောကျမ်းတော်၊ ပြဋ္ဌာန်းချက်ဖြစ်သောစွန္နတ်နှင့် 'ကျွန်ုပ်

မသိပါ’ဟုပြောဆိုခြင်း–တို့ဖြစ်သည်။

**ရှအ်ဘီ**ˉသခင်က ‘ لا أدري’–ကျွန်ုပ်မသိပါ’ဟု ပြောဆိုခြင်းသည် အသိပညာ၏တစ်ဝက်ဖြစ်သည်။ အကြင်**သူသည် မိမိမသိ**သည့်အပေါ်မှာ အလ္လာဟ်အရှင်အတွက် နှုတ်ဆိတ်နေခြင်းသည် ဟုတ်တိုင်းမှန်ရာ ပြောဆိုသူထက် **အကျိုးစွဝါစ်လျော့**နည်းလိမ့်မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် မိမိမသိသည့်ကိစ္စကို ဝန်ခံပြောဆိုရခြင်းသည် **နဖ်စ်အတွက်** အလွန်ခက်ခဲသောကြောင့်ဖြစ်သည်’ဟု ဆိုခဲ့သည်။ သို့ဖြစ်ရာ ဆွဟာဗဟ်များနှင့်ရှေးသူဟောင်းများ၏ ကျင့်သုံးမှုသည် ဤနည်းအတိုင်းသာ ရှိခဲ့သည်။

**အီဗ်နေ့**အိုမရ်ﷺသခင်က မိမိထံ ဖတ္တဝါမေးလာသူကို ‘ဟို အုပ်ချုပ်ရေးမှူးဆီကို သွားပါ။ သူက လူတွေရဲ့ **အရေးကိစ္စ**တွေကို ပုခုံးပေါ်တင်နေသူဖြစ်တယ်။ ဒီတာဝန်ကိုလည်း သူ့ပုခုံးပေါ်တင်ပါ’ဟု ပြောလွှတ်လေ့ရှိခဲ့သည်။ **အီဗ်နေ့မတ်စအူဒ်**ﷺသခင်ကမူ ‘လူတို့က မေးလာသမျှ အဖြေပေးသူသည် အရူးသာဖြစ်သည်’ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် သခင်က ‘ပညာရှင်၏ဒိုင်းသည် ‘ကျွန်ုပ်မသိပါ’ဟု ပြောဆိုခြင်းဖြစ်သည်။ ပညာရှင်သည် လွဲချော်ခဲ့မည်ဆိုက ရှင်နေခြင်းတွင် ကောင်းစရာမရှိပါ’ဟု ဆိုမိန့်ခဲ့သေးသည်။ အီဗ်ရာဟီမ်အဒ်ဟမ်ˉသခင် ဆိုမိန့်သည်မှာ ‘ပညာရှင်တစ်ဦးက မိမိ၏ပညာအရ ပြောဆိုခြင်း ၎င်း မိမိ၏ပညာအရ နှုတ်ဆိတ်နေခြင်းလောက် ရှိုင်တွာန်အပေါ် ပြင်းထန်ခက်ခဲသောအရာ ဘာမှမရှိပါ။ ထိုရှိုင်တွာန်က ‘သူ့ကို ကြည့်ကြပါ။ သူ၏နှုတ်ပိတ်နေခြင်းက သူ၏ပြောဆိုခြင်းထက် ငါ့အတွက် အခံရခက်စေသည်’ဟု ပြောမည်ဖြစ်သည်။’

အဗ်ဒလ်များ၏ဝိသေသလက္ခဏာကို ရှင်းပြသည်မှာ ‘သခင်တို့၏အဟာရသည် အငတ်နေခြင်းဖြစ်သည်။ သခင်တို့၏အိပ်ခြင်းသည် လွန်စွာ ငိုက်မြည်းသောအခါမှဖြစ်သည်။ သခင်တို့၏စကားဆိုခြင်းသည် လိုအပ်ချက်ရှိသောအခါမှဖြစ်သည်။ ဆိုလိုသည်မှာ မေးမြန်းခြင်းမရှိလျှင် ပြောဆိုခြင်းမပြုပါ။ မေးမြန်းလာသည့်အခါတွင်လည်း ဖြေမည့်သူ တွေ့ရလျှင် ၎င်းတို့က ဆိတ်ဆိတ်ပင်နေကြသည်။ သို့နှင့် မလွဲမရှောင်သာတော့မှ ဖြေကြသည်။ ထိုသခင်တို့က မမေးမီအလျင် ကိုယ့်ဘက်က စတင်ပြောဆိုခြင်းကို ‘ဆရာကြီးလုပ်ပြီး မိန့်ခွန်းလိုသော အဲ့ပုန်းကျိတ်ဆန္ဒ’ဟု သတ်မှတ်ကြလေသည်။

အလီﷺသခင်နှင့် အဗ်ဒွလ္လာဟ်အီဗ်နေ့အဗ္ဗာစ်ﷺသခင်နှစ်ပါးသည် လူတို့အား မိန့်ခွန်းနေသူတစ်ဦးအနီးမှ ဖြတ်သွားကြသည်။ ထိုသို့ဖြတ်သွားရင်း တစ်ဦးက ‘ဤသူသည် ‘ငါ့ကို အသိအမှတ်ပြုကြပါ’ဟုပြောဆိုနေသည်’ဟု ပြောခဲ့သည်။ အကြီးအကဲအချို့က ‘ပညာရှင်ဆိုသည်မှာ မတ်စအလာမေးခြင်းခံရသည့်အခါ အံသွားအနှုတ်ခံရသကဲ့သို့ ခံစားရသူဖြစ်သည်’ဟု ဆိုမိန့်ကြသည်။ အီဗ်နေ့အိုမရ်ﷺသခင်ဆိုမိန့်လေ့ရှိသည့်စကားမှာ ‘အသင်တို့က ငါတို့ကို တံတားလုပ်၊ ငါတို့အပေါ်က ဖြတ်ပြီး ဂျဟန္နမ်ကို သွားချင်ကြတာလား’ဟူ၍ပင်။

အဗူဟဖ်စ်နိုင်စာပူရီˉသခင် ဆိုမိန့်သည်မှာ ‘ပညာရှင်ဆိုသည်မှာ မိမိကို တစ်စုံတစ်ခုမေးမြန်းလာသည့်အခါ ကိယာမတ်နေ့တွင် မိမိအား ‘အသင် ဘယ်ကနေ ယူပြီး အဖြေပေးခဲ့သလဲ’ဟု မေးမြန်းခံရမည့်အဖြစ်မှ ကြောက်နေသူဖြစ်သည်။ အီဗ်ရာဟီမ်တိုင်မီˉသခင်ကမူ မိမိအား မတ်စအလာတစ်ခုမေးသည့်အခါ ငိုခဲ့သည်။ ထို့နောက် သခင်က ‘အသင်တို့ ငါကလွဲပြီး မေးစရာလူ မတွေ့ကြတော့လို့ ငါ့ကို လက်ညှိုးထိုး ပုံချဖို့ လုပ်ကြတာလား’ဟု ပြောဆိုလေသည်။ အဗ္ဗလ်အာလီယာရယာဟီˉသခင်၊ အီဗ်ရာဟီမ်အီဗ်နေ့အဒ်ဟမ်ˉသခင်နှင့် ဆွဖ်ယန်ဆော်ရ်ရီˉသခင်တို့သည် လူနှစ်ယောက် သုံးယောက်လောက်ရှိလျှင် တရားစကားများ ပြောဆိုကြသည်။ ထို့ထက် လူများလာလျှင် စကားကို ရပ်လိုက်ကြသည်။

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ما أدري أعزير نبي أم لا ؟ وما أدري أتبع ملعون أم لا ؟ وما أدري ذو القرنيي نبيأم لا . (د.مس)

'အိုဇိုင်ရ်သည် နဗီတစ်ပါး ဖြစ်သည်မဖြစ်သည် ငါမသိပါ။ တွဗ္ဗအ်လူမျိုးတို့အပေါ် လအ်နတ်ကျခံ
ရသည်ဆိုခြင်း ဟုတ်မဟုတ် ငါမသိပါ။ ဇွလ်ကရနိုင်သည် နဗီတစ်ပါးဖြစ်သည် မဖြစ်သည် ငါမသိပါ။'

တမန်တော်မြတ်ﷺအား ကောင်းသောမြေနေရာနှင့် ဆိုးသောမြေနေရာအကြောင်း မေးလျှောက်သောအခါ တမန်တော်မြတ်ﷺက 'لا أدري-ငါ မသိပါ'ဟု မိန့်ဆိုခဲ့သည်။ ထို့နောက် ဂျိဗ်ရီလ်သခင်ﷺကြွလာသောအခါ ဤအကြောင်း မေးမြန်းခဲ့သည်။ ထိုအခါ ဂျိဗ်ရီလ်သခင်ﷺက 'لا أدري-ကျွန်တော်မျိုးလည်း မသိပါ'ဟု လျှောက်ထားခဲ့သည်။ အလ္လာဟ်အရှင်က အသိပေးတော်မူသောအခါမှ–

أن خير البقاع المساجد وشرها الأسواق . (ا.ر.ص.مس)

'မြေနေရာများတွင် အကောင်းဆုံးသည် ဗလီများဖြစ်ပြီး အဆိုးဆုံးသည် ဈေးများဖြစ်သည်'ဟု သိခဲ့ရသည်။

အီဗ်နေ့အိုမရ်ﷺသခင့်အား **မတ်စအလာဆယ်ခု** မေးမြန်းခဲ့ရာ သခင်က မတ်စအလာတစ်ခုကိုသာ ဖြေပြီး ကျန်ကိုးခုကို နှုတ်ဆိတ်နေခဲ့သည်။ **အီဗ်နေ့အဗ္ဗာစ်**ﷺသခင်ကမူ မတ်စအလာကိုးခုကို ဖြေပြီး ကျန်တစ်ခုကို နှုတ်ဆိတ်နေခဲ့သည်။ ဖိကဟ်ပညာရှင်များတွင် 'သိသည်'ဟု ပြောဆိုခြင်းထက် 'မသိပါ'ဟု ပြောဆိုသည့် အရေအတွက်ပိုများသူတို့တွင် ဆွဖ်ယန်ဆောင်ရီˆသခင်၊ မာလိက်အီဗ်နေ့အနပ်စ်ˆသခင်၊ အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ˆသခင်၊ ဖုဇိုင်လ်အီဗ်နေ့အိယာဇ်ˆသခင်နှင့်ဘရှရ်အီဗ်နေ့ဟရ်ဟာစ်ˆသခင်တို့ ပါဝင်ကြသည်။

အဗ်ဒွရ်ရဟ်မာန်အီဗ်နေ့အဘီလိုင်လာˆသခင်က ပြောပြသည်မှာ 'ဤဗလီထဲတွင် ငါသည် တမန်တော်ﷺ၏ ဆွဟာဗဟ်ပေါင်း တစ်ရာ့နှစ်ဆယ် တွေ့မိခဲ့သည်။ ထိုသခင်များအားလုံးသည် မိမိတို့ထံ ဟဒီစ်ရေးရာဖြစ်စေ ဖတ္တဝါရေးရာဖြစ်စေ မေးမြန်းလာသည့်အခါ၊ အခြားညီနောင်တစ်ဦးသို့ အဖြေပေးရန် ဆန္ဒပြုကြသည်ချည်းဖြစ်သည်။' ဤအကြောင်းအရာကို အခြားစာသားဖြင့်ဖော်ပြသည်မှာ 'မတ်စအလာတစ်ခု ထိုသခင်များထံ တင်ပြသည့်အခါ ၎င်းတို့သည် တစ်ဦးမှ အခြားတစ်ဦးသို့၊ ထိုမှတစ်ခါ တစ်ဦးမှ အခြားတစ်ဦးသို့ ပေးပို့လေ့ရှိသည်။ နောက်ဆုံးတွင် ထိုမေးခွန်းသည် ပထမဆုံးပုဂ္ဂိုလ်ထံသို့ ပြန်ရောက်လာလေ့ရှိသည်။'

အဆိုရှိသည်မှာ ဆွဖ်ဖဟ်သခင်တို့အနက် တစ်ဦးထံသို့ ဆိတ်ခေါင်းကျော် လက်ဆောင်ရောက်လာခဲ့သည်။ ထိုသခင်သည် အလွန်အမင်း ခက်ခဲကြပ်တည်းလျက်ရှိသည့်ကြားက အခြားသခင်တစ်ပါးအား လက်ဆောင်ပေးခဲ့သည်။ ထိုသခင်ကလည်း အခြားသခင်တစ်ပါးအား လက်ဆောင်ပေးခဲ့သည်။ ထိုသခင်က နောက်သခင်တစ်ပါးအား ပေးခဲ့ပြန်၏။ ဤနည်းဖြင့် လက်ဆောင်ပစ္စည်းသည် သခင်တို့အကြား၌ လည်ပတ်နေခဲ့၏။ နောက်ဆုံးတွင် ပထမပေးခဲ့သောပုဂ္ဂိုလ်ထံ ပြန်ရောက်လာသည်။

စဉ်းစားကြည့်လျှင် ယခုခေတ် ပညာရှင်တို့၏အခြေအနေသည် ရှေးကနှင့် ပြောင်းပြန်ဆိုသလို ဖြစ်နေပေပြီ။ ရှေးက ပညာရှင်များ ရှောင်ရှားခဲ့သောအရာသည် ယခုအခါ လိုလားမက်မောအပ်သည့်အရာ ဖြစ်နေသည်။ တဖန် ရှေးယခင်က ပညာရှင်များ လိုလားမက်မောခဲ့သည့်အရာသည် ယခုခေတ်ပညာရှင်များ ရွံရှာရှောင်ရှားကြသောအရာ ဖြစ်နေသည်။ ဖတ္တဝါရေးတာဝန်မှ ရှောင်လွှဲခြင်း၏ကောင်းမွန်ပုံကို အချို့သခင်များ ဆင့်ပြန်ခဲ့သည့်မရ်ဖုအ်ဟဒီစ်က သက်သေခံနေပေသည်။ ယင်းမှာ–(ق) لا يفتي الناس إلا ثلاثة: أمير أو مأمور أو متكلف.

'လူတို့တွင် သုံးဦးသောပုဂ္ဂိုလ်မှ လွဲ၍ ဖတ္တဝါဆုံးဖြတ်ခြင်း မပြုပေ။ ထိုသုံးဦးမှာ အစ္စလာမ့်ခေါင်းဆောင်၊ တာဝန်ပေးခြင်းခံရသူနှင့် တာဝန်မရှိဘဲ ဝင်ယူသူတို့ဖြစ်သည်။'

အချို့သခင်များက ပြောဆိုသည်မှာ ဆွဟာဗဟ်သခင်များသည် လေးခုသောအရာကို အခြားသူများသို့ လွှဲလေ့ရှိကြသည်။ ထိုလေးခုမှာ ရှေ့ဆောင်ရှေ့ရွက်ပြုရခြင်း၊ သေတမ်းမှာကြားမှုကို တာဝန်ခံရခြင်း၊ ယုံကြည်အပ်နှံမှုကို လက်ခံထိန်းသိမ်းပေးရခြင်းနှင့် ဖတ္တဝါပေးရခြင်း-တို့ဖြစ်သည်။' ထို့ပြင် အချို့သခင်များက ဆိုမိန့်သည်မှာ 'ပညာ

လျှော့နည်းလေလေ ဖတ္တဝါပေးရာတွင် မြန်လေလေဖြစ်သည်။ တက္ကဝါရှောင်ကျဉ်မှုရှိလေလေ ဖတ္တဝါကိစ္စကို အခြားသူများပေါ် လွှဲချမှုများလေလေဖြစ်သည်။' ထို့ပြင် ဆွဟာဗဟ်များ ﷺ နှင့် တာဘိအီန်များ ၏ စူးစိုက်ကျင့်သုံးမှုသည် ငါးခုသောအရာတွင်ဖြစ်သည်။ ယင်းတို့မှာ ကုရ်အာန်ကျမ်းမြတ် ဖတ်ရွတ်ခြင်း၊ ဗလီများကို စည်ကားအောင်လုပ်ခြင်း၊ အလ္လာဟ်အရှင်အား ဇိက်ရ်တသခြင်း၊ ကောင်းမှုဘက်သို့ တိုက်တွန်းနှိုးဆော်ခြင်း၊ မကောင်းမှုမှ တားမြစ်ခြင်းတို့ဖြစ်သည်။ ဤသို့ကျင့်မူကြသည်မှာ တမန်တော်မြတ် ﷺ ၏ မိန့်ဆိုမှုကို ကြားနာခဲ့ရသည့်အတွက်ဖြစ်သည်။ တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ–

كل كلام ابن آدم عليه لا له إلا ثلاثة : أمر بمعروف أو نهي عن منكر أو ذكر الله تعالى . (ت.ق)

'သုံးမျိုးသောစကားမှလွဲ၍ လူသား၏ပြောဆိုမှုအားလုံးသည် အကျိုးမဲ့စကားများသာဖြစ်သည်။ ထိုသုံးခုမှာ ကောင်းမှု ညွှန်ပြခြင်း၊ မကောင်းမှုမှ တားမြစ်ခြင်းနှင့် အလ္လာဟ်အရှင်အား ဇိက်ရ်တသခြင်း-တို့ဖြစ်သည်။'

အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်မှာ–

﴿لَا خَيْرَ فِي كَثِيرٍ مِن نَّجْوَاهُمْ إِلَّا مَنْ أَمَرَ بِصَدَقَةٍ أَوْ مَعْرُوفٍ أَوْ إِصْلَاحٍ بَيْنَ النَّاسِ﴾

**'ယင်းတို့၏ တီးတိုးပြောဆိုမှုအများစုတွင် အကောင်းမဟုတ်ချေ။ သို့သော် အကြင်သူသည် လှူဒါန်းရန်ငှင်း၊ ကောင်းမှုပြုရန်ငှင်း၊ လူတို့အကြား သင့်မြတ်ရန်ငှင်း ပြောမည်ဆိုလျှင် (ကောင်းမွန်သည်။)'**

**(စူရာနေစာ ၊ ၁၁၄)**

ပညာရှင်တစ်ဦးက အိပ်မက်ထဲတွင် ကူဖာမြို့သား ဖတ္တဝါရေးရာသုံးသပ်သူတစ်ဦးကို တွေ့ခဲ့ရသည်။ ထိုအခါ ပညာရှင်က 'ဖတ္တဝါနှင့်သုံးသပ်ဆန်းစစ်မှုများတွင် သင်ဆောင်ရွက်ခဲ့သည်များအပေါ် ယခုဘယ်သို့တွေ့ရပါသလဲ' ဟု မေးခဲ့သည်။ ထိုအခါ ၎င်းက မနှစ်မြို့သည် အမူအရာဖြင့် မျက်နှာလှည့်ခါ– 'ဘာမှမတွေ့ရပါ။ ဒီအလုပ်ရဲ့နိဂုံးချုပ်က ချီးမွမ်းစရာဘာမှမရှိပါ'ဟု ဖြေသည်။ အီဗ်နေ့ဟဆွီန်း သခင်က ပြောပြသည်မှာ 'ယနေ့ခေတ် ပညာရှင်တစ်ဦးက ဖတ္တဝါပေးနေသည့်မတ်စအလာမျိုးကို အိုမရ် ﷺ သခင့်ထံ တင်ပြမေးမြန်းခဲ့မည်ဆိုလျှင် သခင်သည် ဆွေးနွေးအဖြေရှာရန်အတွက် ဘဒ္ဒရ်စစ်ပြန် * အားလုံးကို စုရုံးခေါ်ယူမည်ဖြစ်သည်။'

အချုပ်ဆိုရသော် အရေးကြီးလိုအပ်သည့်အခါမှတစ်ပါး ဆိတ်ဆိတ်နေခြင်းသည် ပညာရှိတို့၏အကျင့်ဓလေ့ဖြစ်သည်။ ဟဒီစ်တွင် လာရှိသည်မှာ–

إذا رأيتم الرجل قد أوتي صمتاً وزهداً فاقتربوا منه فإنه يلقن الحكمة . (ق)

'အသင်တို့သည် နှုတ်ဆိတ်ပြီး ဒွန္နယာစွန့်ခွါနေသောလူတစ်ဦးကို တွေ့မြင်ရပြီဆိုလျှင် ထိုသူ့ထံချဉ်းကပ်ကြကုန်။ အဘယ်ကြောင့်ဆိုသော် ထိုသူသည် ဟိက်မတ်ကို သင်ပြပေးခြင်းခံရပြီဖြစ်သောကြောင့်ပင်။'

ထို့ပြင် ပညာရှိတို့အဆိုအမိန့်ရှိသည်မှာ 'ပညာရှင်သည် နှစ်မျိုးဖြစ်၏။ တစ်မျိုးသည် လူထုနှင့်သက်ဆိုင်သော ပညာရှင်ဖြစ်၏။ ယင်းသည် မုဖ်တီ၏အရိုက်အရာတွင်ရှိပြီး အာဏာပိုင်တို့နှင့် လုပ်ဖေါ်ကိုင်ဖက်များဖြစ်ကြသည်။ နောက်တစ်မျိုးမှာ သီးသန့်ပုဂ္ဂိုလ်များနှင့်သက်ဆိုင်သော ပညာရှင်ဖြစ်သည်။ ၎င်းသည် တောင်ဟီဒ်နှင့်နှလုံးသားကျင့်စဉ်များကို ခံယူကျင့်သုံးသူဖြစ်သည်။ ဤအမျိုးအစားပညာရှင်သည် ရိပ်ကြီးခိုသူများဖြစ်ကာ လူအများနှင့်

---

* **ဘဒ္ဒရ်စစ်ပြန်** ( اهل بدر )တို့၏အခန်းကဏ္ဍသည် အစ္စလာမ်သာသနာတွင် အလွန်ပဓာနကျလေသည်။ သို့ဖြစ်ရာ အရေးကြီးသောသာသနာရေးကိစ္စများ၌ ထိုသခင်တို့ကို စုစည်းခေါ်ယူပြီး တိုင်ပင်ဆွေးနွေးဖြေရှင်းလေ့ရှိခဲ့သည်။ ယခုကိစ္စတွင် **အီဗ်နေ့ဟဆွီန်း** ၏ ခေတ်က ပညာရှင်များ အလွယ်တကူ အဖြေပေးနေသော မတ်စအလာများ၏ လေးနက်ခက်ခဲပုံကို သာဓကဆောင် ပြောဆိုခြင်းဖြစ်သည်။ – မြန်မာပြန်သူ

ခွဲခွါပြီး တစ်ဦးတည်းနေတတ်ကြသည်။' တဖန် ဆိုရိုးရှိသည်မှာ 'အဟ်မဒ်အီဗ်နေ့ဟန်ဘလ်﵀သခင်သည် ဒဂျလာ မြစ်ကဲ့သို့ဖြစ်သည်။ လူအားလုံးတို့သည် ထိုမြစ်ထဲမှ ခပ်ယူသုံးစွဲကြသည်။ ထို့နောက် ဘရှရ်အီဗ်နေ့ဟာရ်စ်﵀သခင် သည် ဖုံးအုပ်ထားသော ရေချိုတွင်းကဲ့သို့ဖြစ်သည်။ ထိုတွင်းမှ ရေကို တစ်ဦးပြီးမှ နောက်တစ်ဦးက ငင်ယူသုံးစွဲရ သည်။'

'မည်သူကတော့ အာလင်မ်ပညာရှင်ကြီးဖြစ်သည်။ မည်သူကတော့ ကလာမ်ပညာရှင်ကြီးဖြစ်ပါသည်။ မည် သူကတော့ ကလာမ်ပညာ ပိုတတ်သည်။ မည်သူက ကျင့်ကြံမှု ပိုများသည်ဟု ပြောတတ်ကြသည်။ သို့နှင့်တိုင် အဗူ ဆလ်မာန်﵀သခင်က မိန့်ဆိုသည်မှာ 'မအ်ရိဖတ်အသိထူးသည် ပြောဆိုခြင်းထက် နှုတ်ဆိတ်နေခြင်းနှင့် ပို၍နီးစပ် သည်။ ထိုကြောင့်ပင် ပညာရှိတို့၏စကား ရှိထားသည်မှာ 'ပညာများသော် စကားနည်း၏။ စကားများသော် ပညာ နည်း၏'ဟူ၍ ဖြစ်သည်။

ဆုလိုင်မာန်ဖါရစီ﵁သခင်နှင့်**အဗူဒါရ်ဒအ်**﵁သခင်တို့နှစ်ပါးကို တမန်တော်မြတ်ﷺက ညီနောင်ဖွဲ့ပေးခဲ့ပါ သည်။ တစ်ကြိမ်တွင် ဆလ်မာန်ဖါ**ရစီ**﵁**သခင်က** အဗူဒါရ်ဒအ်﵁**သခင့်ထံ စာရေးသည်မှာ**– 'နောင်တော်ကြီး။ **ခင်ဗျားကို လူတို့က ဆေးဆရာအဖြစ် အသိအမှတ်ပြုပြီး** ရောဂါသည်များကို ဆေးကုသစေသည်ဟု ကျွန်ုပ်ကြားသိ ရပါသည်။ စဉ်းစားပါ။ **အကယ်၍ ခင်ဗျားသည် ဆေးဆရာအမှန်ဖြစ်မည်ဆိုလျှင် ခင်ဗျား၏**ပြောဆိုညွှန်ကြားမှုများ ကြောင့် လူတို့သက်သာ**ပျောက်ကင်းကြမည်။ အကယ်၍ ခင်ဗျားသည် ရမ်းကုဆေးဆရာ**ဖြစ်နေခဲ့လျှင် အလွှာဟ်ကို **ကြောက်စမ်းပါ။ မွတ်စလင်မ်တစ်ဦး၏အသက်ကို မသေစေပါနှင့်။'**

**ထိုပေးစာ ရရှိချိန်မှစပြီး** အဗူဒါရ်ဒအ်﵁သခင် ဆေးလာတောင်းသော် မပေးတော့ချေ။

အနပ်စ်﵁သခင်သည် မိမိထံ အမေးအမြန်းလာလျှင် 'ငါတို့ရဲ့ဆရာသခင် ဟစံသခင့်ထံ သွားမေးကြပါ'ဟု ပြောဆိုလေ့ရှိသည်။ အီဗ်နေ့အဗ္ဗာစ်﵁သခင်သည်လည်း မိမိကို မေးလာသည့်အခါ 'ဟာရစ်အီဗ်နေ့ဇိုက်ဒ်ကို သွား မေးကြ'ဟု ပြောလွှတ်လေ့ရှိသည်။ အီဗ်နေ့အိုမရ်﵁သခင်ကမူ 'စအီဒ်အီဗ်နေ့မုဆိုင်ယီဗ်ဆီ သွားမေးကြပါ'ဟု ပြော ဆိုတတ်လေသည်။

အဆိုရှိသည်မှာ ဆွဟာဗဟ်တစ်ပါးသည် ဟစံဘစွရီ﵀သခင်၏ရှေ့မှောက်တွင် ဟဒီစ် အပုဒ်နှစ်ဆယ် ဖတ်ပြ သည်။ ထိုသို့ဖတ်ပြပြီးနောက် ဟစံဘစွရီ﵀သခင့်ထံမှ ဟဒီစ်များ၏အကျယ်ဖွင့်ကို မေးမြန်းခဲ့သည်။ ဆွဟာဗဟ်က 'ကျွန်ုပ်သည် ရိဝါယတ်ဆင့်ပြန်မှု ကလွဲ၍ အခြားဘာမှ မသိပါ'ဟု ပြောဆိုခဲ့သည်။ ထိုအခါ ဟစံဘစွရီ﵀သခင်က ဟဒီစ်တပုဒ်ချင်းစီကို ဖွင့်ဆိုရှင်းလင်းခဲ့သည်။ ထိုအခါ ဟစံဘစွရီ﵀သခင်၏ဖွင့်ဆိုမှုအတတ်ကိုငင်း၊ မှတ်သားနိုင်မှု ကိုငင်း တအံ့တသြဖြစ်ကြရသည်။ ထိုဆွဟာဗဟ်သည် မြေခဲများကို လက်ဖြင့် ဆုပ်ယူပြီး လူတို့အား ပစ်ပေါက်ကာ 'ဒီလိုပညာရှိကဝိတစ်ပါး သင်တို့အထဲမှ ရှိနေပါလျက် ပညာနဲ့ပတ်သက်ပြီး ငါ့ဆီက လာမေးနေကြသေးသလား'ဟု ပြောခဲ့လေသည်။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ**– အတွင်းပညာရပ်ကိုငင်း၊ စိတ်နှလုံးထိန်း ကွပ်မှုကိုငင်း၊ အာခိရတ်လမ်း၏သိကျွမ်းမှုနှင့် လျှောက်လှမ်းမှုကိုငင်း အလွန်အလေးအနက်ထားခြင်းဖြစ်သည်။ ထို့ ပြင် ထိုအသိပညာနည်းလမ်းကျင့်စဉ်တို့၏အရင်းခံသဘောကို *မုဂျာဟိဒါ*နှင့်*မုရာကဘာ*–အကျင့်တရားများဖြင့် အသိ ပွင့်ပေါ်နိုင်မည်ဟု မုချမျှော်လင့်ချက်ထားခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မုဂျာဟိဒါဖြင့် *မုရှာဟိဒါ* ခေါ် မျက် မြင်ထင်းလင်းကြုံရမှုနှင့်နှလုံးသားအသိပညာ၏နက်နဲမှုများကို ပေါ်ထွက်ရရှိစေနိုင်သောကြောင့်ဖြစ်သည်။ ထိုအသိ ပညာရပ်များက နှလုံးသားထဲတွင် ဟိကမတ်၏စမ်းတွင်းကို ပွင့်စေသည်။ ကျမ်းစာများ စာပေသင်ယူမှုများသည် ဤအသိပညာရရှိရန်အတွက် ပြည့်စုံလုံလောက်မှုမရှိပါ။ စင်စစ်တွင် မုဂျာဟိဒါဖြင့်ငင်း၊ မုရာကဘာဖြင့်ငင်း၊ အတွင်း

အပြင် ကျင့်ဆောင်မှု၊ စိတ်အာရုံ ဝင်စားပြီး အလ္လာဟ်အရှင်၏ရှေ့မှောက်တွင် တစ်ကိုယ်တည်း ထိုင်ခြင်း၊ အလ္လာဟ်အရှင်မှအပ အခြားအရာများကို အာရုံဖြတ်တောက်ပြီး အတွေးကို စင်ကြယ်စွာထားခြင်းဖြင့်သာ အီလ်ဟာမ်၏သော့တန်ကို ရရှိကာ ကရှ်ဖ်၏စမ်းပေါက်ကို ဖွင့်နိုင်မည်ဖြစ်သည်။

များစွာသော ပညာသင်ယူသူများသည် ကာလကြာရှည်စွာ သင်ယူဆည်းပူးခဲ့သော်လည်း ၎င်းတို့ ကြားခဲ့ရသည့်စာလုံးအက္ခရာများထက် တစ်လုံး ပိုပြီး သိနိုင်စွမ်းမရှိခဲ့ကြပေ။ တဖန် များစွာသော ပညာကို လိုသလောက်သာ ဆည်းပူးခဲ့ပြီး ကျင့်ဆောင်မှုနှင့် စိတ်နှလုံးထိန်းကွပ်မှုတွင် မွေ့လျော်ခဲ့သူတို့အား အလ္လာဟ်အရှင်က ဟိက်မတ်၏အနုစိတ်အသိတရားများကို ဖွင့်ပေးတော်မူလေသည်။ ယင်းတို့ကို တွေ့ရသောအခါ ဉာဏ်ကြီးရှင်ဆိုသူတို့၏အသိဉာဏ်များပင် တအံ့တသြဖြစ်ကြရသည်။ ဤအတွက်ကြောင့် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

من عمل بما علم ورثه الله علم ما لم يعلم . (نع)

'အကြင်သူ သင်ယူရရှိသည့်အပေါ် ကျင့်သုံးလျှင် အလ္လာဟ်အရှင်က ၎င်းအား သင်ယူခြင်းမပြုရသေးသောအသိပညာကို ချီးမြှင့်တော်မူမည်။'

ရှေးအထက် ကောင်းကင်ကျမ်းတော်များတွင် ဖေါ်ပြပါရှိသည်မှာ– 'အို ဗနီအီစ်ရာအီလ်တို့၊ ပညာသည် မိုးကောင်းကင်၌ရှိသည်ဟု မပြောကြနှင့်။ ထိုသို့ဆိုလျှင် ထိုပညာကို မြေကြီးပေါ်သို့ မည်သူချပေးမည်နည်း။ ထို့ပြင် မြေကြီးအောက်၌ ရှိသည်ဟုလည်း မပြောကြနှင့်။ ထိုသို့ဆိုလျှင် ထိုပညာကို မည်သူဖေါ်ပေးမည်နည်း။ ထို့ပြင် ပင်လယ်၏တစ်ဘက်၌ ရှိသည်ဟုလည်း မပြောကြနှင့်။ ထိုသို့ဆိုလျှင် ထိုပညာကို မည်သူ ကူးဖြတ်သယ်ဆောင်မည်နည်း။ ပညာသည်ကား အသင်တို့၏နှလုံးသားထဲတွင် ရှိနေပြီးဖြစ်သည်။ ငါ၏ရှေ့တော်သို့ နာမ်ဝိညာဉ်တို့၏အရှိအသေဖြင့်၎င်း ဆွစ်ဒီက်သစ္စာရှင်တို့၏အကျင့်စာရဖြင့်၎င်း လာရောက်ကြကုန်။ သို့ဆိုလျှင် ငါအရှင်သည် သင်တို့၏နှလုံးသားထဲမှ ပညာကို ဖွင့်ထုတ်ပေးတော်မူမည်။'

ဆဟလ်အီဗ်နေ့အဗ်ဒွလ္လာဟ်တွစ်တုရီ⁻သခင်က မိန့်ဆိုသည်မှာ 'ပညာရှင်များ၊ အာဗိဒ်များ၊ ဇာဟိဒ်များတို့သည် ဒွန္နယာလောကမှ ထွက်ခွါသွားခဲ့ကြပြီ။ သို့ဖြစ်ရာ ထိုသခင်တို့၏နှလုံးသားများသည် လုံးဝပြန်ဖွင့်၍မရတော့သောအဖြစ်နှင့် သော့ခပ်ပိတ်သိမ်းခဲ့ပေပြီ။ သို့ရာတွင် ဆွစ်ဒီက်သစ္စာရှင်များနှင့်ရှဟီဒ်များ၏နှလုံးသားများကား ထိုသို့ မပိတ်သေးပေ။' ဤသို့ဆိုပြီးနောက် သခင်က အလ္လာဟ်အရှင်၏မိန့်ကြားချက်ကို ဖတ်ရွတ်ခဲ့သည်။

﴿وَعِنْدَهُ مَفَاتِحُ الْغَيْبِ لَا يَعْلَمُهَا إِلَّا هُوَ﴾

**'ထို့ပြင် ထိုအရှင့်ထံတွင် အကွယ်၏သော့တန်များ ရှိနေလေသည်။ ယင်းသော့တန်များကို ထိုအရှင်မှအပ မည်သူမျှ မသိပေ။'** (စူရာအန်အာမ် ၊ ၅၉)

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ခဲ့သည်မှာ– اسفت قلبك وإن أفتوك وأفتوك وأفتوك. (ا)

'အသင်သည် မိမိ၏နှလုံးသားမှ ဖတ္တဝါယူပါ။ လူတို့က အသင့်ထံမှ ဖတ္တဝါတောင်းခံလာခဲ့ပါလျှင်၊ ဖတ္တဝါတောင်းခံလာခဲ့ပါလျှင်၊ ဖတ္တဝါတောင်းခံလာခဲ့ပါလျှင်။

အကယ်၍သာ စိတ်နှလုံးရှင်၏နှလုံးသားသည် အတွင်းအလင်းရောင်၏အကြောင်းခံဖြင့် ဗဟိဒ္ဓပညာကို လွှမ်းမိုးချယ်လှယ်ခြင်းမရှိလျှင် တမန်တော်မြတ်ﷺသည် ဤသို့ မိန့်ဆိုရန် အကြောင်းမရှိချေ။ ထို့ပြင် ဟဒီစ်ကွဒ်စီတွင် တမန်တော်မြတ်ﷺက အလ္လာဟ်အရှင်၏မိန့်ခွန်းတော်ကို ပြန်လည်ဆင့်ပြန်သည်မှာ–

لا يزال العبد يتقرب إليَّ بالنوافل حتى أحبه فإذا أحببته كنت سمعه الذي يسمع به . (خ.م)

'ဘန္ဒာလူသားသည် ငါအရှင်နှင့်နီးကပ်မှုကို နဖီလ်ကျင့်မှုရာများဖြင့် ရရှိစမြဲဖြစ်ပေသည်။ နောက်ဆုံးတွင် ငါအရှင်သည် ထိုလူသားကို ချစ်ခင်သွားခဲ့သည်။ ထိုလူသားကို ငါအရှင်က ချစ်ခင်ပြီဆိုသောအခါ

ငါအရှင်သည် သူ၏နားဖြစ်သွားပြီး၊ ထိုနားဖြင့် သူက နားထောင်လေသည်။' (ဟဒီစ်အဆုံးထိ)

ကျမ်းမြတ်ကုရ်အာန်၏လျှို့ဝှက်နက်နဲမှုများထဲမှ ခက်ဆစ်ခက်ရာ အနုစိတ်အကြောင်းရပ် မြောက်မြားစွာတို့သည် ဇီကိရ်နှင့်ဖိကိရ်တွင် နစ်မြုပ်နေသူများ၏နှလုံးသားတွင် ပေါ်ထွက်ခဲ့သည်။ ထိုအကြောင်းရပ်များကို တဖ်စီရ်ကျမ်းကြီးများတွင် တွေ့ရလိမ့်မည်မဟုတ်ချေ။ ထို့ပြင် တဖ်စီရ်ပညာရှင်ကြီးများသည် ဤအကြောင်းရပ်များကို မသိခဲ့ကြပေ။ ဤအကြောင်းရပ်များသည် မအ်ရိဖတ်ရရန် ဦးတည်ချက်ဖြင့် စိတ်နှလုံးကို ကွပ်ညှပ်သူများတွင်သာ အသိဝင်ပွင့်လင်းခြင်းဖြစ်ပြီး ယင်းတို့ကို တဖ်စီရ်ပညာရှင်များထံ တင်ပြအသိပေးသောအခါ မြတ်မြတ်နိုးနိုးလက်ခံကြလေသည်။ ထို့ပြင် ထိုပညာရှင်များက ဤအရာများသည် သန့်စင်သောနှလုံးသားမှ ပေါ်ထွက်သော အကြောင်းသတင်းများဖြစ်ပြီး အလ္လာဟ်အရှင်က မိမိဘက်သို့ ဖွဲလုံ့လဖြင့် တစ်စိုက်မတ်မတ်ရှိခဲ့သည့်အတွက် ချီးမြှင့်ခဲ့ခြင်းဖြစ်ကြောင်း သိကြပေသည်။

မုကာရှိဖတ်ပညာရပ်များ၊ မုအာမိလတ်ပညာ၏အတွင်းကြောင်းများနှင့် နှလုံးသား၏ဝိတက်ဝိစာရ အနုစိတ်ကိစ္စများ၏အခြေအနေသည်လည်း အထက်ဖော်ပြချက်အတိုင်းသာဖြစ်သည်။ ဤပညာရပ်များအနက် ပညာရပ်တစ်ခုချင်းစီသည် ပင်လယ်တစ်ခုသဖွယ်ဖြစ်ပြီး ထိုပင်လယ်၏အနက်ဆုံးအပိုင်းသို့ ရောက်ရန်ဆိုသည်မှာ မဖြစ်နိုင်လှချေ။ ထိုပင်လယ်ထဲသို့ ငုတ်လျှိုးသူသည် သူ့အား အလ္လာဟ်အရှင် ပေးထားသောအစွမ်းရှိသလောက် ပေါက်ရောက်နိုင်မည်ဖြစ်သည်။ တဖန် သူ၏ကျင့်ကြံအားထုတ်မှု ကောင်းလျှင်ကောင်းသလို အလ္လာဟ်အရှင်က သူ့အား စွမ်းအားချီးမြှင့်မည်ဖြစ်သည်။

ဤပညာရှင်အမျိုးအစား၏ဝိသေသလက္ခဏာကို အလီ ﷺ သခင်က ရှည်လျားသောဟဒီစ်တစ်ပုဒ်တွင် မိန့်ဆိုခဲ့သည်။ ယင်းမှာ 'နှလုံးသားများသည် အိုးခွက်များသဖွယ်ဖြစ်၏။ ကောင်းမွန်သည့်အရာကို ပို၍များများထည့်ထားသောအိုးခွက်က ပို၍ကောင်းသည်။ လူသားသည် သုံးမျိုးသုံးစားရှိ၏။ တစ်မျိုးမှာ ရဗ်အရှင်အတွက် သီးသန့်ပညာရှင်ဖြစ်သည်။ နောက်တစ်မျိုးမှာ လွတ်မြောက်မှု၏လမ်းကို သင်ယူနေသူဖြစ်သည်။ တတိယအမျိုးအစားမှာ နိမ့်ကျသောလူ့ဗာလများဖြစ်သည်။ ၎င်းတို့သည် လမ်းမှားဖိတ်ခေါ်မှုအားလုံးနောက်သို့ လိုက်ပြီး လေယူရာယိမ်းသူများဖြစ်သည်။ ဤအမျိုးအစားသည် ပညာ၏အလင်းရောင်မှ လင်းဝင်းမှုကို မခံစားရချေ။ ထို့ပြင် ခိုင်မာခြေမြစ်သောအရာအပေါ်မှာ အခြေပြုရပ်တည်နေခြင်းလည်းမရှိချေ။'

'ပညာသည် ပစ္စည်းဥစ္စာထက် ပို၍ ကောင်းမွန်ပါသည်။ ပညာက အသင့်ကို ထိမ်းသိမ်းစောင့်ရှောက်သည်။ ဥစ္စာပစ္စည်းကိုမူ အသင်က ထိမ်းသိမ်းစောင့်ရှောက်ရသည်။ ထို့ပြင် ပညာသည် အသုံးပြုခြင်းဖြင့် တိုးပွါးလာသည်။ ဥစ္စာပစ္စည်းကမူ အသုံးပြုခြင်းဖြင့် လျော့နည်းသွားသည်။ ပညာကို ချစ်ခင်ခြင်းသည် ချေးငွေထိုက်သောကြွေးမြီဖြစ်သည်။ ထိုချေးငွေဖြင့် သက်တမ်းတစ်လျှောက်တွင် အမိန့်နာခံမှုကို ရှာဖွေရလေသည်။ ထို့ပြင် ကွယ်လွန်သည့်အခါ ယင်းသည် ကောင်းမွန်သောအမှတ်ရဖွယ်ဖြစ်သည်။

တဖန် ပညာသည် အဆုံးအဖြတ်ပေးသူဖြစ်သည်။ ပစ္စည်းဥစ္စာကမူ အဆုံးအဖြတ်ပြုခြင်းခံရသည့်အရာဖြစ်သည်။ ထို့ပြင် ပစ္စည်းဥစ္စာ၏ကွယ်ပျောက်မှုနှင့်အတူ ယင်း၏အကျိုးရှိ အသုံးဝင်မှုသည်လည်း ကွယ်ပျောက်သွားရသည်။ ပစ္စည်းရှင်ဥစ္စာရှင်တို့သည် အသက်ရှင်လျက် သေနေကြသည်။ ပညာရှင်များကမူ ကွယ်လွန်သေဆုံးပြီးနောက်တွင်လည်း ခေတ်အဆက်ဆက် ရှင်ကျန်လျက်ရှိကြသည်။'

ဤသို့မိန့်ဆိုပြီးနောက် အလီ ﷺ သခင်သည် သက်ပြင်းရှည်တစ်ချက် ချလိုက်သည်။ ထို့နောက် မိမိ၏ရင်ကိုညွှန်ပြရင်း 'အင်း၊ ဒီနေရာမှာ ပညာတွေ အပြည့်အသိပ်ရှိနေသည်။ ဒီပညာတွေကို မှတ်သားထမ်းရွက်မည့်သူအားကျွန်ုပ်တွေ့ချင်လှသည်။ တကယ်တန်း ကျွန်ုပ်တွေ့ရသည့် ပညာသင်ယူသူသည် ဒွန္နယာရှာဖို့အတွက် သာသနာကို

ခုတုံးလုပ်မည့်သူဖြစ်သည်။ ၎င်းသည် အလ္လာဟ်အရှင်၏နဲအ်မတ်များ ရှိပြီဆိုသည့်နှင့် ထိုအရှင်၏အချစ်တော်များ အပေါ် လျှာရှည်သူဖြစ်သည်။ ထို့ပြင် ထိုအရှင့်ဘက်မှ ရှိသည့် အထောက်အထားသာဓကများဖြင့် အဖန်ဆင်းခံကို ဩစာပေး လှမ်းမိုးလိုသူဖြစ်သည်။

သို့မဟုတ် ကျွန်ုပ်တွေ့ရသည့်ပညာသင်သည် အမြင်အားဖြင့် အမှန်တရားရှိသူတို့ကို လိုက်နာမှုရှိသည်။ သို့သော် ကနဦးပေါ်လာသော ထင်ယောင်ထင်မှားဖြစ်မှုတစ်ချက် ပေါ်ထွက်ရုံဖြင့် ၎င်း၏နှလုံးသားထဲတွင် ဒွိဟာသံသယများဖြစ်ပွါးတော့သည်။ သို့ဖြစ်ရာ ကျွန်ုပ်တွေ့ရသည့် အဆိုပါပညာရှာသူနှစ်မျိုးသည် အတွင်းမျက်စိဖြင့် မျှော်မြင်ဆင်ခြင်နိုင်ခြင်းမရှိကြပေ။ သို့သာမက ကျွန်ုပ်တွေ့နေရသော ပညာရှာဖွေသူသည် လောကီစည်းစိမ်ကို ခုံမင်လိုက်စားသူဖြစ်သည်။ အလိုရမ္မက်ကို ကျွန်ခံသူဖြစ်သည်။ ပစ္စည်းဥစ္စာ စုဆောင်းသိုလှောင်မှုမှ ရုံးမထွက်နိုင်သူဖြစ်သည်။ စိတ်ဆန္ဒ၏ကြိုးဆွဲမှုနောက် လိုက်သူဖြစ်သည်။ ဤသည်တို့မှာ အဟိတ်တိရိစ္ဆာန်များနှင့် အတူဆင်ဆုံး အကျင့်စာရိတ္တများဖြစ်သည်။'

အို အရှင်၊ ပညာကို မှတ်သားထိန်းသိမ်းသူများ ကွယ်လွန်သေဆုံးကြသည်နှင့်အမျှ ပညာသည် နိဂုံးချုပ်ရပါတော့မည်။ သို့နှင့်တိုင် ကမ္ဘာမြေပြင်ပေါ်တွင် အလ္လာဟ်အရှင့်အတွက် အထောက်အထားပေါ်ပြမည့်သူ လုံးဝကင်းမဲ့သည်တော့မဟုတ်ပါ။ ပေါ်လွင်စွာရင်း သိုသိပ်စွာရင်း ရှိနေပါသည်။ သို့မှသာ အလ္လာဟ်အရှင်၏အထောက်အထားများ အချည်းနှီး မဖြစ်စေရန်ဖြစ်ပါသည်။ သို့သော် ဤပုဂ္ဂိုလ်များသည် အရေအတွက်အားဖြင့် ဘယ်လောက်များ ရှိနေပါသလဲ။ ဘယ်အရပ်ဒေသတွင် ရှိနေကြသလဲ။

'ဤပုဂ္ဂိုလ်တို့သည် အရေအတွက်ကတော့ အနည်းငယ်သာဖြစ်သည်။ သို့သော် စွမ်းပကားမှာမူ ကြီးမားကြသည်။ ၎င်းတို့၏တည်ရှိမှုသည် မြင်ကွင်းမှ ပျောက်ကွယ်လျက်ရှိသည်။ သို့သော် ၎င်းတို့၏ရုပ်ဆင်းသဏ္ဌာန်တို့မှာ နှလုံးသားများတွင် စွဲထင်တည်ရှိနေပေသည်။ အလ္လာဟ်အရှင်သည် ၎င်းတို့ကို အကြောင်းပြုပြီး မိမိ၏အထောက်အထားသာဓကများကို ထိန်းသိမ်းတော်မူပါသည်။ ၎င်းတို့ကလည်း မိမိတို့နှင့် အချင်းတူအဆင်းတူသူများအား ထိုသာဓကများကို လွှဲအပ်ကြပြီး နောက်ဆက်ခံသူများ၏နှလုံးသားများထဲတွင် မျိုးစေ့ချသွားကြသည်။ ပညာက ၎င်းတို့ကို အရင်းခံမမှုစစ်အသိအထိ ရောက်အောင်ပို့ပေးသည်။ ထိုအခါ ယကိန် ခေါ် ဒိဋ္ဌယုံမှု၏အသက်ဝိဉာဉ်ကို သွားတွေ့ကြသည်။'

'စည်းစိမ်ရှင်များအတွက် ခဲရာခက်ဆစ်အရာသည် ၎င်းတို့အတွက် လွယ်ကူပေါ့ပါးသည်။ အမေ့ဆိုက်နေသူများအပေါ်မှာ အစိမ်းသက်သက်ဖြစ်နေသောအရာသည် ၎င်းတို့အဖို့ ယဉ်ပါးလိုက်လျောသည်။ ၎င်းတို့၏ခန္ဓာကိုယ်များက လောကီသက်တမ်းတွင် ရှိနေကြသော်လည်း ၎င်းတို့၏ရူဟ်ဝိဉာဉ်များက မလအိအအ်လာများနှင့် ပတ်သက်လျက်ရှိသည်။ ဤသူတို့သည်ကား အဖန်ဆင်းခံများအနက်မှ အလ္လာဟ်အရှင်၏အချစ်တော်များနှင့်သစ္စာတော်ခံများဖြစ်ကြသည်။ ဤသူတို့သည် ကမ္ဘာမြေပြင်တွင် အလ္လာဟ်အရှင်၏အကျိုးဆောင်ဝန်ထမ်းများဖြစ်ကြသည်။ အရှင်၏သာသနာဘက်သို့ ဖိတ်ခေါ်ဆော်ဩသူများဖြစ်ကြသည်။'

ဤသို့ပြောဆိုပြီးနောက် အလီ ﷺ သခင်သည် ငိုခဲ့၏။ ထို့နောက် 'ကျွန်ုပ်သည် ၎င်းသူတို့နှင့် တွေ့ဆုံခွင့်ရရန် အလွန်ပင် ဆန္ဒပြင်းပြမိပါသည်'ဟု ပြောဆိုခဲ့သည်။ ယင်းသည် သခင်နောက်ဆုံး ပြောဆိုခဲ့သောစကားရပ်ဖြစ်၏။

အလီ ﷺ သခင် ဆိုမိန့်ခဲ့သည်တို့မှာ အာခိရတ်ပညာရှင်များ၏ဝိသေသလက္ခဏာများပင်ဖြစ်ပါသည်။ ထို့ပြင် ထိုဆိုမိန့်မှုတွင် ပါရှိသည့် အသိပညာသည် ကျင့်ကြံအားထုတ်မှု များပြားပြီး မုဂျာဟိဒါဖြင့် ဖွဲ့ခတ်သူတို့သာ ရရှိနိုင်သည့် အသိပညာဖြစ်လေသည်။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ–** ယကီန်အားကောင်းရန်အတွက် အလွန်ဝါယာမစိုက်ကြခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယကီန်သည် သာသနာရေးအရင်းအနှီးဖြစ်သည်။ ထိုယကီန်နှင့်စပ်လျဉ်း၍ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–(سنی) اليقين الإيمان كله.

'ယကီန်သည် အီမာန်ယုံကြည်ချက်၏ပြည့်ဝစုံလင်မှုဖြစ်သည်။'

သို့ဖြစ်ရာ ယကီန်၏အသိပညာကို သင်ယူရန် အရေးကြီးပေသည်။ ဆိုလိုသည်မှာ ယကီန်၏အခြေခံများကို သင်ယူရန်ဖြစ်သည်။ ထိုသို့သင်ယူပြီးနောက်မှာ နှလုံးသားတွင် လမ်းသည် အလိုအလျောက်ပွင့်လာလိမ့်မည်။ သို့ဖြစ်၍ပင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ– تعلموا اليقين . (نع)

'ယကီန်ကို သင်ယူကြကုန်။'

ဆိုလိုသည်မှာ ယကီန်ရှိသူများနှင့်အတူ နေထိုင်ပြီး ယကီန်၏အသိတရားများကို သင်ယူရမည်။ ထို့ပြင် ထိုပုဂ္ဂိုလ်တို့အား စွဲမြဲစွာ နာခံလိုက်နာရမည်။ သို့မှသာ ထိုပုဂ္ဂိုလ်တို့ ယကီန်အားကောင်းသကဲ့သို့ အသင်တို့၏ယကီန်လည်း အားကောင်းလာမည်ဖြစ်သည်။

လက်တွေ့ကျင့်သုံးမှု များပြားခြင်းထက် အနည်းငယ်မျှ ယကီန်ရှိခြင်းက ပို၍ကောင်းသည်။ ဟဒီစ်တွင် လာရှိသည်မှာ–

قال ﷺ لما قيل له : رجل حسن اليقين كثير الذنوب ورجل مجتهد في العبادة قليل اليقين ، فقال ﷺ : ((ما من آدمي إلا وله ذنوب ولكن من كان غريزته العقل وسجيته اليقين لم تضره الذنوب لأنه كلما أذنب تاب واستغفر وندم فتكفر ذنوبه وبقي له فضل يدخل به الجنة)) . (ت)

**'တမန်တော်မြတ်ﷺအား လျှောက်ထားသည်မှာ** 'လူတစ်ယောက်သည် ယကီန်ကောင်းမွန်သော်လည်း **အပြစ်ဒုစရိုက်က များပြားပါသည်။ နောက်လူတစ်ယောက်သည် အိဗာဒတ်ရေး ကြိုးပမ်းအားထုတ်သူဖြစ်ပြီး ယကီန်ကမူ နည်းပါသည်။'** ထိုအခါ တမန်တော်မြတ်ﷺက 'အပြစ်ဒုစရိုက် ကင်းသော လူသားဟူ၍ မရှိပေ။ သို့သော် **အကြင်သူ အသိတရား**ရှိပြီး ယကီန်ထားသူဖြစ်လျှင် သူ့ကို အပြစ်ဒုစရိုက်က အန္တရာယ်ပြုမည်မဟုတ်ပေ။ **အဘယ်ကြောင့်ဆိုသော်** သူသည် အပြစ်ကျူးလွန်မိတိုင်း တောင်ဗဟ်ပြုပြီး ခွင့်လွှတ်မှုတောင်းခံသည်။ **နောင်တရသည်။ သို့ဖြစ်ရာ** သူ၏အပြစ်များ ပလပ်ခြင်းခံရသည်။ ကောင်းမှုများ သူ့တွင်ကျန်ရှိနေသည်။ **ထိုကောင်းကျိုးဖြင့် သူသည်** ဂျန္နတ်သို့ ဝင်ရလေသည်။'

ထို့အတွက်ကြောင့်ပင် **တမန်တော်မြတ်ﷺမိန့်**ဆိုခဲ့သည်မှာ–

قال ﷺ : إن من أقل ما أوتيتم : اليقين وعزيمة الصبر ومن أعطى حظه منهما لم يبال ما فاته من قيام الليل وصيام النهار .

'ယကီန်နှင့်ခိုင်ခိုင်မြဲမြဲသည်းခံနိုင်မှုကို အသင်တို့အား အနည်းသာ ချီးမြှင့်တော်မူထားသည်။ အကြင်သူသည် ဤနှစ်ခုကို ဝေစုရခဲ့မည်ဆိုလျှင် ညတွင်နိုးထ၍ အိဗာဒတ်ပြုခြင်းနှင့် နေ့၏ရိုဇာထားခြင်းများကို လက်လွှတ်ရသော်လည်း အလေးထားနေရန် မလိုပေ။' *

---

* အီရာကီ^သခင်က ဤဟဒီစ်၏အခြေခံရာကို သူမသိပါဟု ဆိုခဲ့သည်။ ထို့နောက် အဓိပ္ပါယ်နီးစပ်ရာ အခြားဟဒီစ်တစ်ပုဒ်ကို ဖော်ပြခဲ့ပါသည်။ ထိုဟဒီစ်ကို အိဗ်နေ့အဗ်ဒူလ်ဘရ်^က မအာဇ်ﷺသခင်ထံမှ ဆင့်ပြန်ဖော်ပြခြင်းဖြစ်သည်။ ဟဒီစ်မှာ– ما أنزل الله شيئاً أقل من اليقين ولا قسم شيئاً بين الناس أقل من الحلم

'အလ္လာဟ်အရှင် ချပေးသည်တို့အနက် ယကီန်ထက် ပို၍နည်းသောအရာ မရှိပါ။ ထို့ပြင် အလ္လာဟ်အရှင် လူသားတို့အကြား ခွဲဝေပေးသည်များတွင် သည်းခံမြဲသိပ်ခြင်းထက် ပို၍ နည်းသောအရာ မရှိပါ။'

လွက်မာန်ﷺသခင်က မိမိ၏သားကို ဆုံးမရာတွင် 'အို ချစ်သား၊ ယကီန်မရှိလျှင် ကောင်းမှုပြုရန် တတ်စွမ်းနိုင်မည်မဟုတ်ပါ။ လူသား၏ကျင့်ဆောင်မှုသည် သူ၏ယကီန် စွမ်းအားရှိသလောက်သာဖြစ်သည်။ သူ၏ယကီန်က နည်းသလောက် သူ၏ကျင့်ဆောင်မှု လျှော့နည်းပေသည်'ဟု ထည့်သွင်းဆုံးမထား၏။ ယဟ်ယာအိဗ်နေ့မအာဇ်ﷺ သခင်က 'တောင်ဟီဒ်တွင် အလင်းရောင်ရှိသည်။ ရှိရ်က်တွင် မီးရှိသည်။ တောင်ဟီဒ်၏အလင်းရောင်သည် တောင်ဟီဒ်ဝါဒီ၏မကောင်းမှုများကို လောင်ကျွမ်းပစ်သည်။ ရှိရ်က်၏မီးသည် မွှရိုက်၏ကောင်းမှုများကို လောင်ကျွမ်းပစ်သည်'ဟု ဆိုမိန့်ခဲ့သည်။ ဤနေရာတွင် 'အလင်းရောင်'သည် ယကီန်ကို ဆိုလိုခြင်းဖြစ်သည်။

ထို့ပြင် အလ္လာဟ်အရှင်သည် ကျမ်းမြတ်ကုရ်အာန်၏နေရာအချို့တွင် ယကီန်ထားရှိသူများ၏အကြောင်းကို မိန့်ကြားရင်း ယကီန်သည် ကောင်းမှုကောင်းရာနှင့်ထာဝရသုခချမ်းသာရရှိရေးအတွက် ကြားခံအရာဖြစ်ကြောင်း ညွှန်ပြတော်မူထားပေသည်။

အသင်စာရှုသူက 'ယကီန်၏အဓိပ္ပါယ်သည် ဘာလဲ။ တဖန် ယကီန်အားကောင်းခြင်းနှင့်အားနည်းခြင်း–ဆိုသည်မှာ ဘာကိုဆိုလိုသလဲ။ ဤအချက်များကို ဦးစွာနားလည်ပြီးမှ ယကီန်ကို သင်ယူဆည်းပူးရမည်ဖြစ်သည်။ ယကီန်က ဘယ်ပုံစံရှိသည်ကို မသိဘဲနှင့် သင်ယူဆည်းပူးရန် မဖြစ်နိုင်ပါ'ဟု စောဒကတက်ကောင်း တက်မည်။

အသင်၏စောဒကကို ကျွန်ုပ်က ဤသို့ဖြေဆိုမည်။ 'ယကီန်'(اليقين)သည် ကဏ္ဍနှစ်ခုအတွက် ယှဉ်တွဲသုံးသောစကားလုံးဖြစ်သည်။ ထိုသို့သုံးရာတွင် မတူကွဲလွဲသောအဓိပ္ပါယ်နှစ်ခုဖြင့် သုံးနှုန်းခြင်းဖြစ်သည်။ **ပထမအဓိပ္ပါယ်** တစ်ခုမှာ မုနာဇရာနှင့်ကလာမ်ပညာရှင်များ၏အသုံးအနှုန်းဖြစ်သည်။ ၎င်းတို့က ယကီန်စကားလုံးကို ဒွိဟမရှိသည့်အဓိပ္ပါယ်အတွက် သုံးကြသည်။ အရာတစ်ခုကို အမှန်ဖြစ်သည်ဟု စိတ်ကိုင်းညွှတ်ရာတွင် အခြေအနေလေးမျိုး ရှိသည်။

**ပထမအခြေအနေ**– ယင်းသည် အမှန်နှင့်အမှား ညီမျှသော အခြေအနေဖြစ်သည်။ ထိုအခြေအနေကို ဖေါ်ထုတ်ပြောဆိုရာ၌ 'ဒွိဟဖြစ်သည်'ဟု **သုံးနှုန်း**ပြောဆိုရသည်။ ဥဒါဟရဏ်အားဖြင့် မိမိတစ်စုံတစ်ရာ သိမထားသည့်လူတစ်ယောက်နှင့်စပ်လျဉ်း၍ 'အလ္လာဟ်အရှင်က ၎င်းကို ပြစ်ဒဏ်ပေးမည်၊ သို့မဟုတ် မပေးဘဲနေမည်'–ဆိုသည့်အကြောင်း သင့်အား လာမေးသည် ဆိုကြပါစို့။ ဤနေရာ၌ ပြစ်ဒဏ်ပေးမည် သို့မဟုတ် မပေးဘဲနေမည်–ဆိုသည့်ကိစ္စတစ်ခုခုဘက်မှ အဆုံးအဖြတ်ပြုရန် သင်၏စိတ်က ပြတ်နိုင်မည်မဟုတ်ပါ။ သို့သာမက ကိစ္စရပ်နှစ်ခုလုံး၏ဖြစ်နိုင်မှုသည် သင့်ထံတွင် အညီအမျှဖြစ်နေမည်ဖြစ်သည်။ ဤအခြေအနေကို 'ဒွိဟ'(الشك)ဟု ခေါ်ဆိုလေသည်။

**ဒုတိယအခြေအနေ**– ယင်းသည် ကိစ္စနှစ်ခုအနက် တစ်ခုဘက်သို့ သင့်စိတ်က ယိမ်းယိုင်နေခြင်းဖြစ်သည်။ ထိုသို့ရှိစဉ် အခြားတစ်ခုကလည်း ဖြစ်နိုင်ချေရှိကြောင်း သိနေသည်။ သို့ရာတွင် ထိုဖြစ်နိုင်ချေသည် ပထမအသာပေးထားမှုကို မတားဆီးနိုင်ပါ။ ဥပမာ လူကောင်းသူကောင်း တက္ကဝါရှိသူဟု သင်သိထားသူတစ်ဦးနှင့်စပ်လျဉ်း၍ 'သူသည် လက်ရှိအခြေအနေဖြင့် သေဆုံးခဲ့လျှင် သူသည် ပြစ်ဒဏ်ခံရမည်လား'ဟု သင့်အား မေးလာသည်ဆိုကြပါစို့။ ထိုအခါ သင့်စိတ်က သူသည် ပြစ်ဒဏ်ပေးခံရမည်ဆိုခြင်းထက် ပြစ်ဒဏ်ပေးခံရမည်မဟုတ် ဆိုသည့်ဘက်သို့ ယိမ်းယိုင်မှု ပိုများမည်ဖြစ်သည်။ ဤသည်မှာ သူတော်ကောင်းလက္ခဏာများကို ပေါ်လွင်စွာတွေ့ရသောကြောင့်ဖြစ်သည်။ ထိုသို့ရှိစဉ်ပင် သင်က သူ၏အတွင်းကျိတ် ဖုံးကွယ်ထားမှုများတွင် ပြစ်ဒဏ်ခံထိုက်သည့်အရာများ ရှိနေနိုင်သည်ဟု သဘောရလျက်ရှိသည်။ ဤသဘောရမှုသည် ပထမစိတ်ယိမ်းယိုင်မှုနှင့်အတူ ယှဉ်တွဲပြီး ရှိနေသည်။ သို့နှင့်တိုင် ဤသဘောရမှုက သူ၏ပထမအသာပေးချက်ကို ပယ်ဖျက်နိုင်ခြင်းမရှိပေ။ ဤအခြေအနေကို 'စိတ်ထင်မှတ်မှု'(الظن)ဟု ခေါ်လေသည်။

**တတိယအခြေအနေ**– ယင်းသည် အရာတစ်ခုနှင့်ပတ်သက်၍ မှန်ကန်သည်ဆိုသည့်ဘက်သို့ စိတ်က ယိမ်း

ယိုင်သည်။ ထို့ပြင် အခြားတစ်မျိုးတစ်မည်ဘက်သို့ ဝိတက်ဝိစာရပွါးမှု မရှိဘဲ၊ ထိုအရာ၏မှန်ကန်ခြင်းက စိတ်တွင် လွှမ်းမိုးနေသည်။ အကယ်၍ ဝိတက်ပွါးမည်ဆိုလျှင်လည်း ထိုအရာကို စိတ်က လက်မခံ ငြင်းပယ်မည်ဖြစ်သည်။ သို့သော် ထိုသို့စိတ်ယိမ်းယိုင်လွှမ်းမိုးနေခြင်းသည် အစစ်အမှန်သဘောကို သိကျွမ်းနားလည်သောကြောင့် မဟုတ်ပေ။ အကယ်၍ ထိုစိတ်အခြေအနေတွင် ရှိနေသူတစ်ဦးကို သေသေချာချာစဉ်းစားတွေးတောခိုင်းမည်၊ သို့မဟုတ် သက်ာမကင်းဖြစ်အောင် ပြောဆိုမည်၊ တစ်မျိုးတစ်မည် သဘောထားပြောင်းလာအောင် နားချဆွဲဆောင်မည်ဆိုလျှင်၊ သူ့စိတ်သည် သို့လောသို့လောဖြစ်နေနိုင်သေးသည်။ ဤစိတ်အခြေအနေကို 'အယုံအကြည်'(သဒ္ဓါ)ဟု ခေါ်သည်။ ဤသို့ အယုံအကြည်ရှိမှုသည် ယကိန်အဆင့်သို့ ရောက်ရန်နီးစပ်လေသည်။ လူထုသည် အားလုံးသောဘာသာရေး လမ်းစဉ်များတွင် ဤအယုံအကြည်မျိုးကို ထားရှိကြသည်။ ၎င်းတို့သည် အကြားသက်သက်ဖြင့် စိတ်တွင် စွဲမှတ်ခံယူထားလိုက်ကြသည်။

အားလုံးသော ဂိုဏ်းဂဏများသည် မိမိတို့၏လမ်းစဉ် အမှန်ဖြစ်ကြောင်း၊ မိမိတို့၏ရှေ့ဆောင်ဆရာကြီးများ မှန်ကန်ကြကြောင်း အယုံအကြည်ထားကြသည်။ အကယ်၍ သူတို့အထဲက တစ်စုံတစ်ဦးအား သူ၏ရှေ့ဆောင်ဆရာသည် မှားယွင်းမည်ဆိုက မှားယွင်းနိုင်ကြောင်း ပြောပြလျှင် ထိုသူသည် ဤစကားကို လုံးဝလက်ခံလိမ့်မည် မဟုတ်ပေ။

**စတုတ္ထအခြေအနေ**– ယင်းသည် အထောက်အထားပေါ်ပြချက်အရ အစစ်အမှန်သဘောကို သိကျွမ်းမှုဖြစ်သည်။ ဤသိကျွမ်းမှုအပေါ်မှာ ကိုယ်တိုင်ကလည်း ဒွိဟသံသယမရှိ၊ အခြားသူက ဒွိဟသံသယ ဝင်အောင်လုပ်၍ မရချေ။ သို့ဖြစ်ရာ ဤအသိထဲ၌ ဒွိဟရှိခြင်းနှင့် ဒွိဟ၏ဖြစ်နိုင်ခြင်း နှစ်ခုစလုံး မပေါ်ပေါက်တော့ပေ။ မုနာဇရာနှင့် ကလာမ်ပညာရှင်များက ဤသည်ကို 'ယကိန်'ဟု အမည်ပေးကြသည်။ ဥဒါဟရဏ်အားဖြင့် အသိဉာဏ်ရှိသူတစ်ဦးအား 'လောကတွင် ဆုံးစမဲ့ တည်မြဲသောအရာ ရှိသလား'ဟု မေးလျှင် ထိုပုဂ္ဂိုလ်က 'ရှိပါသည်'ဟု ရုတ်တရက်အဖြေပေးရန်မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဆုံးစမဲ့ တည်မြဲသောအရာဆိုသည်မှာ နေနှင့်လတို့လို လက်ဆုပ်လက်ကိုင်ပြ၍ မရနိုင်သောကြောင့်ဖြစ်သည်။ လက်ဆုပ်လက်ကိုင် မြင်တွေ့နိုင်သောအရာနှစ်ခုဖြစ်သည့်အပေါ်မှာ နေနှင့်လ၏တည်ရှိခြင်းကိုမူ မှန်ကန်သည်ဟု ဆိုမည်ဖြစ်သည်။

အရာတစ်ခုကို ဆုံးစမဲ့တည်မြဲသောအရာအဖြစ် သိထားခြင်းသည်၊ နှစ်သည် တစ်ထက် ပိုများသည်ဆိုသော အသိနှင့် မတူပေ။ ဤနည်းအလားတူ 'အကြောင်းခံလုံးဝမပါဘဲ အရာတစ်ခု အသစ်စတင်ဖြစ်ပေါ်လာသည် ဆိုခြင်းသည် ဖြစ်နိုင်ခြင်းမရှိပါ'ဆိုသောစကားရပ်ကို သိရှိပြောဆိုရန်မှာလည်း အချိန်ယူစဉ်းစားရန် မလိုသောကိစ္စဖြစ်သည်။ သို့နှင့်တိုင် အသိဉာဏ်၏ဗီဇသတ္တိသည် ဆုံးစမဲ့တည်မြဲသောအရာရှိခြင်း အမှန်ဖြစ်ကြောင်း ရုတ်တရက်လက်ခံရန် တုန့်ဆိုင်းကြောင်း သိရှိရသည်။

ဤနေရာ၌ လူတို့တွင် ဆုံးစမဲ့တည်မြဲသောအရာ၏ရှိခြင်းကို နှုတ်မှဖြစ်စေ စာအုပ်စာပေမှဖြစ်စေ ကြားရပြီး၊ အကြားဖြင့်ပင် ထိုအချက်ကို အမှန်ဖြစ်ကြောင်း ဒွိဟမဲ့ယတိပြတ် လက်ခံထားသူများရှိသည်။ ထို့ပြင် ၎င်းတို့သည် ထိုအတိုင်း အဆက်မပြတ်လက်ခံထားကြသည်။ ဤပုံစံအရ မှန်ကန်ကြောင်း သိရှိလက်ခံမှုမျိုးကို 'စွဲယူယုံကြည်မှု' ဟု ခေါ်ပါသည်။ အားလုံးသောလူသာမန်တို့၏အခြေအနေသည် ဤအတိုင်းဖြစ်သည်။

အချို့လူတို့ကမူ ဆုံးစမဲ့မြဲတည်သောအရာ ရှိကြောင်းကို အထောက်အထားဖြင့် လက်ခံထားကြသည်။ ယင်းမှာ သူ့အား 'အကယ်၍ ဆုံးစမဲ့တည်မြဲသောအရာ မရှိဟု ဆိုပါလျှင်၊ ရှိနေသောအရာများ အားလုံးတို့သည် အသစ်စတင်ဖြစ်သည့်အရာများ ဖြစ်ကြရပေမည်။ တဖန် ရှိနေသောအရာများ အားလုံးတို့သည် 'အသစ်အရာ'များ ဖြစ်ကြလျှင် ယင်းတို့သည် အကြောင်းခံမရှိဘဲ ဖြစ်ပေါ်လာခြင်းဖြစ်ရလိမ့်မည်။ သို့တည်းမဟုတ် အကြောင်းခံမရှိဘဲ စတင်

ဖြစ်ပေါ်သည့်**အရာ တစ်ခုတော့** ရှိရလိမ့်မည်။ ဤသည်မှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ သို့နှင့်အမျှ မဖြစ်နိုင်သော အရာက ပြဋ္ဌာန်းသက်ရောက်မည်ဆိုခြင်းမှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်ဟူသော ဥပဒေသရှိထားပြီးဖြစ်သည်။ ဤ ရှင်းပြချက်အရ **ဆုံးစမဲ့တည်မြဲသောအရာ၏ တည်ရှိမှုကို** ဟုတ်မှန်ကြောင်း အသိဉာဏ်က မလွဲမသွေလက်ခံရမည် ဖြစ်သည်။

**အဘယ်ကြောင့်ဆိုသော်** တည်ရှိမှုသည် သုံးမျိုးရှိသည်။ ယင်းတို့မှာ တည်ရှိနေသောအရာများအားလုံးသည် **ဆုံးစမဲ့ဖြစ်ခြင်း**၊ သို့မဟုတ် တည်ရှိနေသောအရာများအားလုံးသည် အသစ်အရာများဖြစ်ခြင်း၊ သို့မဟုတ် တည်ရှိနေ **သောအရာများအားလုံးတွင်** အချို့သည် ဆုံးစမဲ့အရာများဖြစ်ပြီး၊ အချို့သည် အသစ်အရာများဖြစ်ခြင်း-ဟူ၍ဖြစ်သည်။ **အကယ်၍** အားလုံးသည် **ဆုံးစမဲ့**အရာများဖြစ်သည်ဟု ဆိုလျှင်ကား၊ ဆုံးစမဲ့အရာ၏ တည်ရှိခြင်းသည် အတည်ဖြစ် သဖြင့် လိုရင်းအချက်ရောက်ပြီဖြစ်သည်။ တဖန် အားလုံးသည် အသစ်အရာများချည်းဖြစ်သည် ဆိုပြန်လျှင်၊ ယင်း သည် အကြောင်းအခံမရှိဘဲ အသစ်စတင်ဖြစ်ပေါ်တည်ရှိခြင်းဖြစ်သည်ဟု ဆိုလိုသဖြင့် မဖြစ်နိုင်သောကိစ္စဖြစ်သည်။ သို့ဖြစ်ရာ တည်ရှိခြင်း၏ ပထမပုံစံ၊ သို့မဟုတ် တတိယပုံစံသာ အတည်ဖြစ်သည်။

ဤဆင်ခြင်မှုအရ သိရှိရသော အသိတရားကို မုနာဇရာနှင့် ကလာမ်ပညာရှင်များက ယကီန်ဟု အမည်ပေး ကြသည်။ ထိုအသိသည် ကျွန်ုပ်တို့ ဖော်ပြခဲ့သောသာဓကမျိုးကို ကြည့်ပြီး သိရသည်ဖြစ်စေ၊ 'အကြောင်းအခံမရှိဘဲ အသစ်အရာမဖြစ်နိုင်ခြင်း'ကဲ့သို့ အာရုံငါးပါးနှင့် ဗီဇပါ ဉာဏ်အရ သိရသည်ဖြစ်စေ၊ မက္ကာမြို့တော်ဟူ၍ ရှိကြောင်း ဆင့်ကဲဆင့်ကဲအခိုင်အမာပြောဆိုမှုဖြင့် သိရခြင်းမျိုးဖြစ်စေ၊ ပွေးကိုင်းသည် ဝမ်းသက်စေသည်ဆိုခြင်းကဲ့သို့ အတွေ့ အကြုံအရ သိရသောအသိမျိုးဖြစ်ခြင်း၊ ကျွန်ုပ်တို့ ဖော်ပြခဲ့သော အထောက်အထားအရဖြစ်စေ—ဤအသိအားလုံးကို မုနာဇရာနှင့်ကလာမ်ပညာရှင်တို့က ယကီန်ဟု ခေါ်ဆိုကြသည်။

ၾင်းတို့ထံတွင် ဤစကားလုံးကို သုံးပိုင်ရန်အတွက် ဒွိဟမရှိသောအရာဖြစ်ရန်သာ သတ်မှတ်ချက်ရှိသည်။ ဤ နည်းဖြင့် ဒွိဟမရှိသော အသိအားလုံးကို ၎င်းတို့က ယကီန်ဟု ခေါ်လိုက်ကြသည်။ ဤသုံးနှုန်းမှုအရ ယကီန်ဟု ပြော ဆိုရာတွင် အားနည်းသောယကီန်ဟူ၍၊ အားကောင်းသောယကီန်ဟူ၍ ဝိသေသပြု၍ မရနိုင်ပေ။ အဘယ်ကြောင့် ဆိုသော် ဒွိဟမရှိဟု ဆိုထားပြီးနောက်တွင် အားကောင်းခြင်း အားနည်းခြင်း ဆိုသည့် ကွဲပြားမှုများ မရှိတော့ပါ။

**ယကီန်၏ဒုတိယအဓိပ္ပါယ်မှာ–** ဖိကဟ်ပညာရှင်များ၊ တဆောင်ဝုဖ်ရှင်များနှင့်ပညာရှင်အများစုတို့၏ သုံး နှုန်းမှုအဓိပ္ပါယ်ဖြစ်သည်။ ၎င်းတို့က ယကီန်ကို ဖွင့်ဆိုရာတွင် သက်ာမကင်းဖြစ်မှုနှင့် ဒွိဟကို ထည့်သွင်းစဉ်းစားခြင်း မပြုပေ။ စိတ်သဏ္ဌာန်တွင် ကြီးစိုးမှုနှင့်လွှမ်းမိုးမှုကို ၎င်းတို့က ကြည့်ရှုသည်။ ၎င်းတို့၏ သုံးနှုန်းမှုအရ သေရမည်ကို ဒွိဟမရှိသူတစ်ဦးအား 'ဤသူသည် သေရမည့်အရေးတွင် ယကီန်အားနည်းသူဖြစ်သည်'ဟု ပြော၍ရသည်။ ထို့ပြင် ရိဇိရိက္ခာမရသည့်အခါများ ရှိနိုင်မည်ကို သိလျက်နှင့် လူတစ်ဦးကို 'ဤသူသည် ရိဇိရိက္ခာသတ်မှတ်မှုတွင် ယကီန် အားကောင်းသူဖြစ်သည်'ဟု ပြောမည်ဆိုလျှင် ပြော၍ရသည်။

အချုပ်ဆိုသော် ယကီန်ဆိုသည်မှာ အရာတစ်ခု၏ မှန်ကန်မှုအပေါ် စိတ်တိမ်းညွတ်ခြင်းဖြစ်ပြီး ယင်းက နှလုံး သားအထိ လွှမ်းမိုးကြီးစိုးခြင်းဖြစ်သည်။ ထို့ပြင် ယင်းသည် စိတ်ကို ချုပ်ကိုင်စေစားပြီး နှိုးဆော်မှုနှင့်တားဆီးမှုများ ပြုလုပ်လေသည်။ ပထမအသုံးအနှုန်းအရ လူသားခပ်သိမ်းသည် သေခြင်းအပေါ် ယကီန်ရှိရာ၌ အတူတူပင်ဖြစ်သည်။ **သေရမည်**ဆိုသည့်ကိစ္စ၌ မည်သူတစ်ဦးတစ်ယောက်မှ ဒွိဟသံသယ မဖြစ်ကြပါ။ သို့သော် ဒုတိယအသုံးအနှုန်းအရ **ဖြစ်သောယကီန်**ကမူ လူတိုင်းတွင် မရှိပေ။ ဆိုလိုသည်မှာ သေခြင်းတရားကို ထည့်လည်း မစဉ်းစား၊ သေရမည့်အရေး **အတွက်** ကြိုတင်ပြင်ဆင်ခြင်းလည်းမပြုသော လူက အများစုဖြစ်သည်။ ဤလူမျိုးမှာ ဥဒါဟရဏ်အားဖြင့် သေခြင်း အပေါ် ယကီန်မရှိသူကဲ့သို့ ဖြစ်နေသည်။

တဖန် အချို့လူများမှာ အခြားဘာကိုမှ **အရေးမစိုက်တော့ဘဲ** သေရေးအတွက် အစွမ်းကုန်ကြိုးပမ်းမှုတွင် နစ်**မြှုတ်နေ**သည်အထိ သေရမည်ဆိုသည့် ယကီန်က **သူ၏နှလုံးသားကို** ကြီးစိုးထားလေသည်။ ဤအခြေအနေမျိုးကို **ယကီန်အား**ကောင်းသည်ဟု **သတ်မှတ်**ပြောဆိုရသည်။ ဤ**အတွက်**အကြောင့်ပင် **အချို့က** 'သေခြင်းတရားလောက်**ကျိန်းသေပြီး** ဒွိဟမဲ့သည့် ယကီန်**မျိုးမရှိ**ပါ။ တဖန် သေခြင်းတရားလောက် ယင်း**အပေါ်မှာ ယကီန်မရှိဟု** ဒွိဟပွါးရ**သည့်အရာလည်းမရှိပါ**'ဟု ဆိုမိန့်**ကြခြင်းဖြစ်**သည်။

**ယခုဖေါ်ပြသော** ဒုတိယအသုံးအနှုန်းအရ ယကီန်ကို အားကောင်းသည်၊ အားနည်းသည်ဟု ဝိသေသပြုနိုင်**သည်။ ကျွန်ုပ်တို့အထက်က** 'အာခိရတ်ပညာရှင်များ၏လက္ခဏာတစ်ခုမှာ ယကီန်အားကောင်းရန်အတွက် အလွန်**ဝါယာမစိုက်**ကြခြင်းဖြစ်သည်'ဟုဆိုခဲ့၏။ ဤသို့ဆိုရာ၌ **ယခုရှင်းပြ**သည့် အဓိပ္ပါယ်နှစ်ရပ်စလုံးကို အပါအဝင် ရည်**ညွှန်းခြင်းဖြစ်**သည်။ ဆိုလိုသည်မှာ ဒွိဟသံသယမရှိမှုနှင့် **စိတ်ကို လွှမ်းမိုးချုပ်ကိုင်ပြီး** စေ့ဆော်မှုများပြုလုပ်သည်အ**ထိ ယကီန်က စိုးမိုး**ထားခြင်းဖြစ်သည်။

ယခုရှင်းပြချက်ကို သင်သဘောပေါက်ပြီဆိုလျှင် ကျွန်ုပ်တို့က 'ယကီန်ကို အမျိုးအစားသုံးခု ခွဲခြား'ပြောဆို**နေသည့်** ရည်ရွယ်ချက်ကိုလည်း သင့်အနေနှင့် သိရှိနားလည်နိုင်ပြီဖြစ်သည်။ ယင်း**အမျိုး**အစားသုံးခုမှာ ယကီန်၏အားကောင်းခြင်းနှင့်အားနည်းခြင်း၊ ယကီန်၏များခြင်းနှင့်နည်းခြင်း၊ **ယကီန်၏ဖုံးကွယ်ခြင်း**နှင့်ပေါ်လွင်ခြင်းတို့ဖြစ်သည်။

ယကီန် အားကောင်းခြင်းနှင့်အားနည်းခြင်းသည် **ဒုတိယအသုံးအနှုန်းအရ**ဖြစ်သည်။ ယင်းသည် နှလုံးသားတွင် ယကီန်၏လွှမ်းမိုးကြီးစိုးမှုကို ဖေါ်ပြခြင်းဖြစ်သည်။ **ယကီန်ကို အားကောင်းသည် အားနည်းသည်ဟု** ဖေါ်ပြရာတွင် ယကီန်၏အဆင့်အတန်းသည် အကန့်အသတ်မရှိပေ။ ထို့ပြင် ဤဖေါ်ပြချက်အရဆိုလျှင် လူတို့တွင် ယကီန်ကွာခြားမှုရှိနေသည့်အလျောက် သေခြင်းတရားအတွက် ကြိုတင်ပြင်ဆင်ရာမှာလည်း တစ်ဦးနှင့်တစ်ဦး ကွာခြားကြမည်သာဖြစ်သည်။

ယကီန်၏ဖုံးကွယ်စွာရှိမှုနှင့် ပေါ်လွင်စွာရှိမှုတို့သည်လည်း မငြင်းနိုင်သောအရာများဖြစ်သည်။ ဤသည်မှာ ဒုတိယအသုံးအနှုန်းအရ ဖြစ်သလို ပထမအသုံးအနှုန်းနှင့်လည်း ကိုက်ညီမှုရှိသည်။ ဥပမာ သင်သည် မက္ကာမြို့၏တည်ရှိနေခြင်းနှင့် ဖဒက်မြို့၏တည်ရှိနေခြင်းများကို အမှန်ဟုလက်ခံထားသည်။ ထို့ပြင် တမန်တော်မူဆာ ﷺ သခင်၏တည်ရှိခဲ့ခြင်းနှင့် တမန်တော်ယူရှအ် ﷺ သခင်၏တည်ရှိခဲ့ခြင်းတို့ကိုလည်း အမှန်ဟု အသင်က လက်ခံထားသည်။ ဤအကြောင်းအရာနှစ်ခုစီကို အမှန်ဟု လက်ခံရာ၌ သင်သည် ဒွိဟသံသယ မဖြစ်ပေါ်ပေ။ အဘယ်ကြောင့်ဆိုသော် ဤအကြောင်းအရာအသီးသီးသည် အသင့်ထံသို့ ယုံကြည်လောက်သည့်နည်းလမ်းဖြင့် ဆင့်ကဲဆင့်ကဲ ရောက်ရှိလာသောကြောင့်ဖြစ်သည်။

သို့နှင့်တိုင် ဖေါ်ပြပါအကြောင်းအချက်များတွင် ဒုတိယတစ်ခုစီထက် ပထမတစ်ခုစီက ပို၍ပေါ်လွင်ထင်ရှားသည်ဟု သင်၏စိတ်နှလုံးက သိရှိလက်ခံထားသည်။ ဤသို့ရှိရခြင်းမှာ ပထမတစ်ခုစီ၏အကြောင်းအချက်များက ပို၍ အားရှိနေသောကြောင့်ဖြစ်သည်။ ဆိုလိုသည်မှာ အကြောင်းအရာနှင့်သက်ဆိုင်သောသတင်းအချက်အလက်များ ပို၍များပြားစွာ ရရှိထားသောကြောင့်ဖြစ်သည်။ မုနာဇရာသမားတစ်ဦး၏အမြင်ရှုဒေါင့်သည်လည်း ဤနည်းအလားတူဖြစ်သည်။ ၎င်းက ဖုံးကွယ်မှုနှင့်ပေါ်လွင်မှုကို အထောက်အထားများအပေါ်မှာ ခွဲခြားကြည့်မြင်လေသည်။ ၎င်းထံတွင် အထောက်အထားတစ်ခုတည်းရှိသောကိစ္စရပ်တစ်ခု၏ထင်းလင်းမှုနှင့် အထောက်အထားများစွာရှိသောကိစ္စရပ်တစ်ခု၏ထင်းလင်းမှုတို့သည် မတူညီပေ။ သို့သော်လည်း ထိုကိစ္စနှစ်ရပ်လုံးတွင် ဒွိဟမရှိခြင်းကမူ အတူတူပင်ဖြစ်သည်။

ဤသို့ (**အထောက်အထား** အနည်းအများကို ကြည့်၍) ခွဲခြားသတ်မှတ်မှုကို ရံဖန်ရံခါ ကလာမ်ပညာရှင်များက ငြင်းပယ်တတ်ကြသည်။ ၎င်းတို့သည် အသိပညာကို စာအုပ်စာပေများနှင့်အကြားအာရုံမှတဆင့် ရယူနေကြခြင်းဖြစ်သည်။ ၎င်းသည် မိမိစိတ်တွင် ရှိနေသော သိမှုများ၏ကွဲပြားခြားနားသောအခြေအနေနှင့်အဆင့်အတန်းများကို ဆဝါးသုံးသပ်ခြင်းမပြုပေ။

**ယကီန်**၏ နည်းခြင်းနှင့်များခြင်းမှာမူ ယကီန်နှင့်သက်ဆိုင်ရာများ၏ အနည်းအများအပေါ်တွင် မူတည်သည်။ **ဥပမာအားဖြင့်** 'မည်သူသည် မည်သူ့ထက် ပညာပိုသည်'ဟု ပြောဆိုခြင်းမျိုးကဲ့သို့ဖြစ်သည်။ ဤနေရာတွင် ဆိုလိုသည်မှာ 'ထိုပုဂ္ဂိုလ် သိထားသည့်အရာများက ပို၍များပြားသည်'ဟု ဖြစ်၏။ ဤအတွက်ကြောင့်ပင် ပညာရှင်တစ်ဦးသည် **ရံဖန်ရံခါ** ရှရီအတ်၏ ဖော်ပြလာရှိမှုအားလုံးအပေါ် ယကီန်အားကောင်းတတ်ပြီး ရံဖန်ရံခါ ရှရီအတ်၏ ဖော်ပြလာရှိမှုအချို့အပေါ်မှာသာ ယကီန်အားကောင်းခြင်းဖြစ်လေသည်။

အကယ်၍ စာရှုသူအသင်က 'ဒွိဟမရှိခြင်းနှင့် နှလုံးသားတွင် ကြီးစိုးထားခြင်းကို အကြောင်းပြု၍ ယကီန်၏ **အားကောင်းခြင်းနှင့်အားနည်းခြင်း၊** များခြင်းနှင့်နည်းခြင်း၊ ပေါ်လွင်ခြင်းနှင့်ဖုံးကွယ်ခြင်းများ ရှိနေကြောင်းကိုတော့ သိရပါပြီ။ သို့နှင့်တိုင် ယကီန်နှင့်သက်ဆိုင်ရာများ၊ ယကီန်၏နေရာဌာနများက ဘာတွေပါလဲ။ ထို့ပြင် မည်သည့် **အရာများ၌** ယကီန်ကို ရှာဖွေရမည်လဲ။ ယကီန်သည် ဘယ်အရာများတွင် ရှိနေမှန်းမသိဘဲနှင့် ကျွန်ုပ်သည် ယကီန်ကို ရှာဖွေရန် စွမ်းနိုင်မည်မဟုတ်ပါ'ဟု စောဒကတက်ခဲ့မည်ဆိုလျှင်၊ ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။

နဗီတမန်တော်များ ﷺ ယူဆောင်လာခဲ့သည့်အရာအားလုံး အစမှအဆုံးသည် ယကီန်၏နေရာဌာနများဖြစ်ကြသည်။ ယကီန်ဆိုသည်မှာ သီးသန့် မအ်ရိဖတ် သိကျွမ်းမှုတစ်ရပ်ဖြစ်ပြီး ရှရီအတ်တရားလမ်းစဉ်များတွင် ဖော်ပြလာရှိသည်တို့မှာ ယကီန်နှင့်သက်ဆိုင်ရာ သိမှတ်စရာများချည်းဖြစ်သည်။ သို့ဖြစ်ရာ ၎င်းအရာအားလုံးကို ပေါင်းရုံး၍ သိရှိလိုသည်ဆိုလျှင်မူ မဖြစ်နိုင်ပေ။ သို့နှင့်အမျှ ကျွန်ုပ်သည် ၎င်းတို့အနက် အဓိကကျသော နေရာဌာနအချို့ကိုသာ ဖော်ပြတော့မည်။

ယကီန်၏နေရာဌာနတစ်ခုသည် တောင်ဟီဒ်ဖြစ်သည်။ ကြားခံအထောက်အကူအရာများဘက်သို့ မလှည့်ဘဲ အကြောင်းခံများ၏အကြောင်းရင်းမှတဆင့် အရာအားလုံးကို ရှုမြင်ခြင်းဖြစ်သည်။ သို့သာမက ကြားခံအထောက်အကူများသည် ကိုယ်ပိုင်အာဏာစူးရောက်မှုမရှိသော စေလိုရာစေအမိန့်နာခံနေရသည့်အရာများသာဖြစ်သည်။ ဤဖော်ပြချက်များကို အမှန်ဟုလက်ခံထားသူသည် ယကီန်ရှင်ဖြစ်သည်။

တဖန် နှလုံးသားတွင် အီမာန်ရှိနေပြီး ဒွိဟယနများ ကင်းစင်မည်ဆိုလျှင် ထိုသူသည် အဓိပ္ပါယ်တစ်ခုအရ ယကီန်ရှင်ဖြစ်သည်။ ထို့ပြင် ကြားခံအရာများအပေါ် အမျက်ဒေါသဖြစ်ခြင်း၊ သို့မဟုတ် ၎င်းတို့အပေါ် သဘောကျကျေနပ်ခြင်း၊ သို့မဟုတ် ၎င်းတို့အား ကျေးဇူးရှင်အဖြစ်ခံယူခြင်းများ မရှိတော့လောက်အောင် ယကီန်က နှလုံးသားတွင် လွှမ်းမိုးသွားမည်ဆိုလျှင် ထိုသူသည် ဒုတိယအဓိပ္ပါယ်အရ ယကီန်ရှင်ဖြစ်သည်။ ထိုသူ၏နှလုံးသားတွင် ကြားခံ**အရာများ**၏အဆင့်သည် ကလောင်တန်နှင့်လက်၏အဆင့်တွင်သာရှိသည်။ ထိုသူသည် မိမိ၏ကလောင်တန်နှင့် လက်တို့အား အသုံးချစရာ ကိရိယာတန်ဆာနှင့် ကြားခံအထောက်အကူ၏အဆင့်အဖြစ်သာ ရှုမြင်ပြီး ယင်းတို့ကို **ကျေးဇူး**တင်ခြင်းလည်းမရှိ၊ စိတ်ဆိုးအပြစ်တင်ခြင်းလည်း မရှိပေ။ ဤသည်မှာ ယကီန်၏အမြင့်မြတ်ဆုံး အဆင့်ဖြစ်ပေသည်။

ဤယကီန်သည် ပထမယကီန်၏အသီးအပွင့်နှင့် အသက်ဝိဉာဉ်လည်းဖြစ်သည်။ ထို့ပြင် ပထမယကီန်၏ **အကျိုးဆက်**သက်ရောက်မှုလည်းဖြစ်သည်။ ဤယကီန်မျိုးရပြီဆိုလျှင် လူသားတစ်ဦးသည် နေကိုဂ်င်း၊ ကြယ်နက္ခတ်များကိုဂ်င်း၊ အရာဝတ္ထုများ၊ သစ်ပင်ဝါးပင်များ၊ သက်ရှိများနှင့် အဖန်ဆင်းခံအရာအားလုံးကိုဂ်င်း၊ ထိုအရာများသည်

စာရေးနေသူတစ်ဦးက လက်ထဲမှ ကလောင်တံကို ကြိုက်သလို အသုံးချနိုင်သကဲ့သို့၊ အလ္လာဟ်အရှင်၏စေလိုရာစေ သုံးလိုရာသုံးပိုင်သော အရာများဖြစ်သည်ဟူသော ယကီန်က နှလုံးသားတွင် ကြီးစိုးထားပြီဆိုလျှင်၊ ထိုနှလုံးသားတွင် တဝပ်ကွလ်ယုံပုံလွဲအပ်မှု၊ ကျေနပ်ကြည်ဖြူမှု၊ ကျေလည်နှစ်သိမ့်မှုများ လွှမ်းမိုးနေမည်သာဖြစ်ပေတော့သည်။ ထို့ပြင် ယကီန်ရှင်သည် အမျက်ဒေါသ၊ ရန်ငြိုးထားမှု၊ မနာလိုဝန်တိုမှုနှင့်မကောင်းသောအကျင့်စာရများမှ ကင်းရှင်းသူဖြစ်လာပေမည်။ ဤသည်မှာ ယကီန်၏တစ်ခန်းတစ်ကဏ္ဍမျှသာဖြစ်သည်။

ထို့နောက် ယကီန်၏နေရာဋ္ဌာနတစ်ခုသည် အလ္လာဟ်အရှင်က **စားရေးရိက္ခာအတွက်** တာဝန်ယူထားသည့် အပေါ်မှာ စိတ်ချအားထားခြင်းဖြစ်သည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَمَا مِنْ دَابَّةٍ فِي الْأَرْضِ إِلَّا عَلَى اللَّهِ رِزْقُهَا﴾

**'အလ္လာဟ်အရှင် ရိဇ်ရိက္ခာအတွက် တာဝန်မယူသော သက်ရှိသတ္တဝါဟူ၍ ကမ္ဘာမြေပေါ်တွင် မရှိချေ။'**

**(စူရာဟူဒ်ေတွ ၊၆)**

ဤကိစ္စနှင့်ပတ်သက်၍ တက္ကဒီရ်မှာရှိသည့်အတိုင်း စားရေးရိက္ခာသည် **မိမိထံ** မလွဲမသွေရောက်လာမည်ဟု ယကီန်ထားခြင်းဖြစ်သည်။ ဤယကီန်သည် ထိုသူ၏နှလုံးသားတွင် လွှမ်းမိုး**သွားပြီဆိုသောအခါ** သူ၏ရှာဖွေမှုသည် တရားနည်းလမ်းတကျဖြစ်လိမ့်မည်။ လောဘဇောတိုက်ခြင်းလည်း ရှိတော့မည်မ**ဟုတ်ပေ။ မိမိ** လက်လွတ် လွဲချော်သွားသောအရာအတွက် ဝမ်းနည်းပူဆွေးခြင်းလည်း ဖြစ်မည်မဟုတ်တော့ပေ။ ဤယ**ကီန်မှ ရရှိ**မည့်အသီးအပွင့်မှာ အမိန့်နာခံ ကျင့်ဆောက်တည်ခြင်းများနှင့် ကောင်းမြတ်သောအကျင့်စာရိတ္တများဖြစ်သည်။

ယကီန်၏နေရာဋ္ဌာနတစ်ခုသည် ကောင်းကျိုး ဆိုးပြစ်များ စံစား ခံစားရမည်ကို ယကီန်ထားခြင်းဖြစ်သည်။ အာယတ်တော်တွင်– ﴿فَمَنْ يَعْمَلْ مِثْقَالَ ذَرَّةٍ خَيْرًا يَرَهُ وَمَنْ يَعْمَلْ مِثْقَالَ ذَرَّةٍ شَرًّا يَرَهُ﴾

**'သို့ဖြစ်ရာ အကြင်သူ ကောင်းမှုကို မြူ၏အလေးချိန်မျှ ကျင့်မူမည်ဆိုလျှင် ထိုသူသည် ထိုကောင်းမှုကို မြင်တွေ့ရမည်။ တဖန် အကြင်သူ မကောင်းမှုကို မြူ၏အလေးချိန်မျှ ကျင့်မူမည်ဆိုလျှင် ထိုသူသည် ထို မကောင်းမှုကို မြင်တွေ့ရမည်။'**

**(စူရာဇလ်ဇလာ ၊၇၊၈)**

ဟု လာရှိသည့်အတိုင်း သူ၏နှလုံးသားတွင် ယကီန်က လွှမ်းမိုးနေခြင်းဖြစ်သည်။ အစားအစာနှင့်ဝမ်းဗိုက်ဝလင်ခြင်း၏ဆက်သွယ်မှုသည် လက်တွေ့မျက်မြင်ဖြစ်သကဲ့သို့၊ ထိုသူသည် အမိန့်နာခံမှုနှင့်ကုသိုလ်စွဝါဗ်၏ဆက်သွယ်မှုကို တွေ့မြင်ရသည်။ ထို့ပြင် အဆိပ်အတောက် မြွေဆိုးကင်းဆိုးများနှင့် အသက်ဆုံးရှုံးမှုတို့၏ဆက်သွယ်မှုသည် လက်တွေ့မျက်မြင်ဖြစ်သကဲ့သို့ ထိုသူသည် မကောင်းမှုဒုစရိုက်နှင့် ပြစ်ဒဏ်၏ဆက်သွယ်မှုကို တွေ့မြင်ရသည်။ သို့ဖြစ်ရာ ထိုသူသည် ဝမ်းဗိုက်ဖြည့်တင်းရန်အတွက် အစားအစာကို လိုလားရှာဖွေရာတွင် နည်းသည်များသည်မဟူ ရယူသိ လောင်သကဲ့သို့ အမိန့်နာခံမှုများအားလုံးကို နည်းသည်များသည်မဟူ လိုလားရှာဖွေလေသည်။ တဖန် ထိုသူသည် နည်းသည်များသည်မဟူ အဆိပ်အတောက်ဖြစ်မည့်အရာများမှ ရှောင်ဖယ်သကဲ့သို့ မကောင်းမှုဒုစရိုက်များမှ နည်းသည်များသည် ငယ်သည်ကြီးသည် မရွေးဘဲ ရှောင်ရှားလေသည်။

သို့ဖြစ်ရာ ပထမအဓိပ္ပါယ်အရဖြစ်သော ယကီန်ကို အီမာန်ရှင်အများစုတွင် တွေ့ရှိရသည်။ ဒုတိယအဓိပ္ပါယ် အရဖြစ်သော ယကီန်ကိုကား အလ္လာဟ်အရှင်နှင့် နီးကပ်မှုရရှိပြီးသောပုဂ္ဂိုလ်များထံတွင်သာ သီးသန့်တွေ့ရှိရသည်။ ဤယကီန်၏အသီးအပွင့်မှာ လူသားသည် မိမိ၏လှုပ်ရှားမှု၊ တည်ငြိမ်မှု၊ တွေးတောမှုများကို မပြတ်ရှုပ္ပါးစောင့်ကြည့်ခြင်း၊ အတိုင်းထက်အလွန် တက္ကဝါထားခြင်း၊ မကောင်းသောအကျင့်အကြံများအားလုံးမှ ရှောင်ရှားခြင်းများဖြစ်သည်။ ထိုသူ့တွင် ယကီန်၏လွှမ်းမိုးမှု များပြားလေလေ အပြစ်ဂိုနာမှ ရှောင်ရှားလေလေ အမိန့်နာခံရန် အသင့်ဖြစ်လေလေ ဖြစ်သည်။

**ယကီန်၏**နေရာဌာနတစ်ခုမှာ အလ္လာဟ်အရှင်သည် မိမိ၏အခြေအနေအားလုံးကို သိတော်မူလျက်ရှိသည်ဟု **ဒိဋ္ဌယုံမှုဖြစ်**သည်။ ထို့ပြင် အလ္လာဟ်အရှင်သည် မိမိ၏စိတ်ထဲမှ ဝိစိကိစ္ဆာများနှင့် မိမိ၏အတွင်းတွင် လျှို့ဝှက်ဖြစ်**ပေါ်နေသော** ဝိတက်ဝိစာရများကို တွေ့မြင်နေတော်မူသည်။ ဤယကီန်သည် ဒွိဟမရှိခြင်းဆိုသော ပထမအဓိပ္ပါယ်**အရ အီမာန်**ရှင်အားလုံးတွင် ရှိနေသည်။ သို့သော် ဒုတိယအဓိပ္ပါယ်အရဖြစ်သော ယကီန်ကသာ ဦးတည်ချက်ပန်းတိုင်ဖြစ်သည်။ သို့သော် အတွေ့ရ နည်းလှပေသည်။ ဤယကီန်သည် ဆွစ်ဒီက်သစ္စာဝါဒီများ၏ သီးသန့်အရာဖြစ်သည်။

ဤယကီန်၏အသီးအပွင့်ရလဒ်မှာကား လူသားသည် မိမိတစ်ဦးတည်း ရှိနေသည့်အခါ၌လည်း အနေအထိုင်**အပြုအမူ**အားလုံးတွင် အကျင့်ဝလေ့ကောင်းများအရပင် နေထိုင်ပြုမူသည်။ မိမိတစ်ဦးတည်း ရှိနေသော်လည်း သူ၏**အနေအထိုင်**သည် ကြီးကျယ်သော ဘုရင်ဧကရာဇ်၏ရှေ့တော်မှောက်တွင် နေထိုင်နေသကဲ့သို့ရှိသည်။ သူ့ကို ကြည့်မည်ဆိုလျှင် အမြဲပင် ငုံ့လျှိုးလျက်ရှိပြီး လှုပ်ရှားဆောင်ရွက်မှုများအားလုံးသည် အကျင့်ဝလေ့ကောင်းများနှင့်အညီ ထိန်းထိန်းသိမ်းသိမ်း သတိသမ္ပဇဉ်စွဲမြဲလှကြောင်း တွေ့မြင်ရမည်။

သူ၏အတွင်းပိုင်း စဉ်းစားတွေးခေါ်မှုများကလည်း အပြင်ပိုင်း ကျင့်မူရာများကဲ့သို့ပင်ဖြစ်သည်။ အလ္လာဟ်အရှင်သည် အဖန်ဆင်းခံလူသားတစ်ဦး၏အပြင်အပ ကျင့်ဆောင်မှုများကို သိတော်မူသကဲ့သို့ သူ၏အတွင်းပိုင်းကို သိတော်မူနေသည်–ဆိုသည့်အချက်က သူ့တွင် သိသာပေါ်ထွက်လျက်ရှိ၏။ သို့နှင့်အမျှ သူသည် လူသားအပေါင်းအတွက် မိမိ၏အပြင်ပိုင်းကို သိက္ခာရှိစေရန် အထူးတလည် ကြိုးပမ်းသည်ထက်၊ မိမိ၏အတွင်းပိုင်း ကျက်သရေရှိစေရန်၊ သန့်ရှင်း တင့်တယ်စေရန် များစွာပို၍ ကြိုးပမ်းရမည်ဖြစ်သည်။ ထိုအတွင်းသည် အလ္လာဟ်အရှင်၏အရှုတော်တွင် အမြဲရှိနေသောကြောင့်ဖြစ်သည်။ ဤအဆင့်ရှိ ယကီန်မှ အရှက်၊ အကြောက်၊ ကျိုးနွံခြင်း၊ မိမိကိုယ်ကို အသေးအသိမ်မှတ်ယူခြင်း၊ ရိုကျိုးရှိညွှတ်ခြင်းနှင့်ကောင်းမြတ်သောအကျင့်စာရအားလုံး ပေါ်ထွက်ရရှိသည်။ ထိုအကျင့်စာရများမှ တဖန် မြင့်မားသောအမိန့်နာခံမှုအမျိုးမျိုး ပေါ်ထွက်ရရှိသည်။

သို့ဖြစ်ရာ ဤအခန်းကဏ္ဍများတွင် ယကီန်သည် သစ်ပင်နှင့်တူလေသည်။ နလုံးသားတွင်ရှိသော အကျင့်စာရများသည် ထိုသစ်ပင်မှ ဖျာထွက်လာသောအကိုင်းများနှင့် တူပေသည်။ တဖန် ဤအကျင့်စာရများမှ ပေါ်ထွက်သော ကျင့်မူရာများနှင့်အမိန့်နာခံမှုများသည် ထိုသစ်ကိုင်းများမှ ပေါ်ထွက်လာသောအပွင့်အဖူးများနှင့် တူပေသည်။ သို့နှင့်အမျှ ယကီန်သည် အခြေခံအုတ်မြစ်နှင့်ရေသောက်မြစ်ဖြစ်သည်။ ဤယကီန်၏နေရာဌာနများနှင့်ကဏ္ဍရပ်များသည် အထက်က ကျွန်ုပ်တို့ဖော်ပြခဲ့သည်ထက် များစွာပိုပေသည်။ အလ္လာဟ်အရှင်မြတ်အလိုတော်ဖြင့် ထိုအကြောင်းအရာများကို မွန်ဂျီယတ်၏အပိုင်းတွင် ဖော်ပြမည်။ ယခုကား စကားလုံး၏အဓိပ္ပါယ်ကိုသာ ပြဆိုရန်ဖြစ်ရာ ဤမျှခန့်ဆိုလျှင် လုံလောက်ပေပြီ။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ**– ထိုပညာရှင်သည် ညှိုးငယ်၊ ကျိုးနွံ၊ ငုံ့လျှိုး၊ တိတ်**ဆိတ်စွာ** ရှိနေခြင်းဖြစ်သည်။ သူ၏အသွင်သဏ္ဌာန်၊ ဝတ်ပုံစားပုံ၊ အမူအယာ၊ သူ၏လှုပ်ရှားမှုနှင့် ရပ်တန့်မှု၊ ပြောဆိုမှု**နှင့် နှုတ်ဆိတ်**နေမှုများတွင် အလ္လာဟ်အရှင်အား ကြောက်ရွံ့ရှိသေမှုသည် ပေါ်လွင်ထင်ရှားလျက်ရှိသည်။ သူ့ကို မြင်**ရသော**မြင်ကွင်းသည် ကြည့်ရှုသူအဖို့ အလ္လာဟ်အရှင်ကို သတိရစေသောမြင်ကွင်းဖြစ်သည်။ သူ၏သရုပ်သကန်က **သူ၏**ကျင့်သုံးမှုအတွက် အထောက်အထားဖြစ်နေသည်။ အပွေးမြင် အပင်သိ ဆိုသကဲ့သို့ အာခိရတ်ပညာရှင်များ၏**မျက်နှာ**ကို ကြည့်ရုံဖြင့် သူတို့၏ကိုယ့်ကိုယ်ကိုနှိမ့်ချမှု၊ မိမိကိုယ်ကို အသေးအသိမ်ထားမှုနှင့် ကျိုးငဲ့မှုများကို သိရပေသည်။

အဆိုအမိန့်ရှိသည်မှာ 'အလ္လာဟ်အရှင်က လူသားကို ဆင်မြန်းခဲ့သည့်အဝတ်တန်ဆာများတွင် ရိုကျိုးနှိမ့်ချမှု

ထက် ပိုမိုကောင်းမွန်သည့်အဝတ်တန်ဆာမရှိတော့ပေ။ ဤရိုကျိုးနှိမ့်ချမှုသည် နဗီတမန်တော်များ ﷺ သူတော်စင်များ၊ ဆွစ်ဒီကဲသစ္စာဝါဒီများနှင့် ပညာရှိသုခမိန်များ၏ အဝတ်တန်ဆာဖြစ်လေသည်။ စကားဖေါင်ဖေါင်ပြောဆိုခြင်း၊ စကားကြီးစကားကျယ်ပြောဆိုခြင်း၊ ဟားတိုက်ရယ်မောခြင်း၊ အနေအထိုင်အပြောအဆို ပေါ့တန်ခြင်း–အားလုံးသည် ပလွှားမှု၊ အလ္လာဟ်၏ကြီးကျယ်သောပြစ်ဒဏ်ခပ်မှုနှင့် ပြင်းထန်သောအမျက်တော်ရှမှုများကို အကြောက်အလန့်မရှိဘဲ အမေ့ဆိုက်နေသူ၏ အမှတ်လက္ခဏာများပင်ဖြစ်သည်။ ဤအရာများသည် ပညာရှင်တို့နှင့်လားလားမှမဆိုင်ဘဲ၊ ဒွန္နယာနစ်မွန်းသူနှင့် အလ္လာဟ်အရှင်ကို မေ့နေသူတို့၏ အကျင့်စရိုက်များသာဖြစ်သည်။

ဤအကြောင်းအရာကို ဆဟ်လ်တွစ်တုရီ သခင် ဆိုမိန့်ခဲ့သော ပညာရှင်သုံးမျိုး ကွာခြားပုံဖြင့် သိနိုင်သည်။ သခင်က 'ပညာရှင်တစ်မျိုးမှာ အလ္လာဟ်အရှင်ကို သိသည်။ အလ္လာဟ်အရှင်၏ အမိန့်တော်ကို သိသည်။ အလ္လာဟ်အရှင့်ထံမှ စံစားခံစားရမှုများကို မသိချေ။ ဤပညာရှင်အမျိုးအစားသည် ပြုပိုင်သည်–မပြုပိုင်သည်ကို ဆုံးဖြတ်ပေးရသောမုဖ်တီများဖြစ်ကြသည်။ ၎င်းတို့၏အသိပညာသည် အလ္လာဟ်အရှင်အား ကြောက်ရွံ့ခန့်ငြားမှုကို ဖေါ်ဆောင်မပေးနိုင်ပေ။ ပညာရှင်အမျိုးအစားနောက်တစ်ခုမှာ အလ္လာဟ်အရှင်ကို သိသည်။ အလ္လာဟ်အရှင်၏ အမိန့်တော်ကိုမူ မသိချေ။ အလ္လာဟ်အရှင့်ထံမှ ခံစားစံစားရမှုများကိုလည်း မသိချေ။ ဤသူများသည် အီမာန်ရှင် လူပြိန်းများဖြစ်ကြသည်။ ထို့နောက် ပညာရှင်အမျိုးအစားတစ်ခုမှာ အလ္လာဟ်အရှင်ကို သိသည်။ အလ္လာဟ်အရှင်၏ အမိန့်တော်ကို သိသည်။ အလ္လာဟ်အရှင့်ထံမှ စံစားခံစားရမှုများကိုလည်း သိသည်။ ဤပညာရှင်အမျိုးအစားသည် ဆွစ်ဒီကဲသစ္စာရှင်များဖြစ်ကြသည်။ အလ္လာဟ်အရှင်အား ကြောက်ရွံ့ခန့်ငြားခြင်းနှင့် ကျိုးငဲ့နှိမ့်ချခြင်းသည် ဤပုဂ္ဂိုလ်များတွင် လွှမ်းမိုးလျက်ရှိသည်။

ဤနေရာတွင် 'အလ္လာဟ်အရှင့်ထံမှ စံစားခံစားမှုများ' ဆိုသည်မှာ အမျိုးမျိုးသောပြစ်ဒဏ်ခပ်မှုများနှင့်အတွင်းပိုင်းစည်းစိမ်နဲ့အ်မတ်များဖြစ်သည်။ ယင်းတို့ကို အလ္လာဟ်အရှင်သည် ရှေးဦးအွမ္မတ်တွင်ရော၊ မျက်မှောက်တွင်ပါ ချမှတ်ချီးမြှင့်ခဲ့သည်။ ပညာရှင်တစ်ဦးတွင် ဤအသိတရားများ လွှမ်းခြုံလာပြီဆိုလျှင် သူ၏အကြောက်တရားသည် ကြီးမားလာပြီး သူ၏ကျိုးငဲ့မှုသည် ပေါ်လွင်ထင်ရှားလာလေသည်။

အိုမရ် ﷺ သခင်က ဆိုမိန့်သည်မှာ 'အသင်တို့ ပညာကို သင်ယူကြ။ ထို့ပြင် ပညာအတွက် သမာဓိကိုငင်း၊ အိန္ဒြေသိက္ခာကိုငင်း၊ သည်းခံမြဲသိပ်မှုကိုငင်း သင်ယူကြ။ အသင်တို့အား သင်ပြပို့ချပေးနေသူကို နှိမ့်ချဆက်ဆံကြ။ သို့မှသာ အသင်တို့ထံမှ သင်ယူမည့်သူများက အသင်တို့အား နှိမ့်ချဆက်ဆံကြလိမ့်မည်။ အသင်တို့သည် မတရားဖိနှိပ်သောပညာရှင်များ မဖြစ်ကြနှင့်။ အသင်တို့၏အသိပညာကို ပညာမဲ့မိုက်မဲမှုနှင့် တန်းတူမဖြစ်စေနှင့်။'

ပုဂ္ဂိုလ်တစ်ဦးကမူ 'အလ္လာဟ်အရှင်က တစ်ဦးတစ်ယောက်ကို ပညာ ပေးကမ်းချီးမြှင့်တော်မူသည့်အခါ ထိုပညာနှင့်အတူ သည်းခံမြဲသိပ်မှု၊ နှိမ့်ချရှိသေမှု၊ စာရိတ္တကောင်းမြတ်မှုနှင့်နူးညံ့သိမ်မွေ့မှုတို့ကိုပါ တစ်ပါတည်း ချီးမြှင့်တော်မူပါသည်။ သို့ဖြစ်ရာ ဤချီးမြှင့်မှုကသာ အကျိုးပြုပညာဖြစ်ပေသည်' ဟု ဆိုမိန့်ခဲ့သည်။ သူမွန်သူမြတ်တို့၏ ဩဝါဒစကားရှိသည်မှာ 'အကြင်သူ့ကို အလ္လာဟ်အရှင်က ပညာကိုငင်း၊ လောကီစွန့်မှုကိုငင်း၊ နှိမ့်ချရိုကျိုးမှုကိုငင်း၊ ကောင်းမြတ်သောအကျင့်စာရကိုငင်း ချီးမြှင့်ထားပြီဆိုလျှင် ထိုသူသည် မုတ္တကီတို့၏ ရှေ့ဆောင်ရှေ့ရှုက်ဖြစ်ပေပြီ။'

တဖန် ဟဒီစ်တော်တွင် လာရှိသည်မှာ–

إن من خيار أمتي قومًا يضحكون جهرًا من سعة ورحمة الله ويبكون سرًا من خوف عذابه أبدانهم في الأرض وقلوبهم في السماء أرواحهم في الدنيا وعقولهم في الآخرة ، يتمشون بالسكينة ويتقربون بالوسيلة . (من شعب)

'ငါ၏အွမ္မတ်တွင် အကောင်းဆုံးသူတို့သည် အလ္လာဟ်အရှင်၏ ရဟ်မတ်တော် ကျယ်ဝန်းစွာရှိသဖြင့်

အပြင်ပန်းက ရယ်မောပျော်ရွှင်ကြသည်။ တဖန် အတွင်းကမူ အလ္လာဟ်အရှင်၏အဇာဗ်အပြစ်ကို ကြောက်ရွံ့သဖြင့် ငိုကြွေးကြသည်။ ၎င်းတို့၏ခန္ဓာကိုယ်များသည် မြေပေါ်တွင် ရှိနေပြီး၊ ၎င်းတို့၏နှလုံးသားများက မိုးထက်တွင် ရှိနေသည်။ ထို့ပြင် ၎င်းတို့၏ဝိဉာဉ်များက ဒွန်နယာလောကတွင် ရှိနေပြီး ၎င်းတို့၏အသိဉာဏ်များက အာခိရတ်တွင် ရှိနေသည်။ ၎င်းတို့သည် သမာဓိတည်ကြည်စွာ လျှောက်လှမ်းသွားလာလျက်ရှိကြသည်။ ထို့နောက် ဝဆီွလာဖြင့် အလ္လာဟ်အရှင်နှင့် နီးကပ်မှုကို ရယူရန်လည်း အလိုထားကြသည်။'

တဖန် ဟစ်ဘစ္စရီ^ᴿ^သခင်က 'စိတ်ရှည်မှုသည် ပညာ၏အတွင်းဝန်ဖြစ်သည်။ နူးညံ့သိမ်မွေ့မှုသည် ပညာ၏ဖခင်ဖြစ်သည်။ ကျိုးငြံနှိမ့်ချမှုသည် ပညာ၏အဝတ်တန်ဆာဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် ဘရ်ှအီဗ်နေ့ဟာရစ်^ᴿ^သခင်ကမူ 'အကြင်သူသည် ပညာကို အကြောင်းပြုပြီး အကြီးအမှူးဖြစ်အောင် လုပ်ယူလျှင် သူ့အား အလ္လာဟ်အရှင်နှင့်နီးကပ်မှုကိုယ်တိုင်က မုန်းတီးသွားလေသည်။ ထိုအခါ မိုးကောင်းကင်နှင့်ကမ္ဘာမြေပြင်ရှိ အရာအပေါင်းက သူ့ကို ရွံရှာစက်ဆုပ်ကြလေသည်'ဟု မိန့်ဆိုခဲ့သည်။

ဗနီအိစ်ရာအီလ်တို့တွင် အဆိုရှိသည်မှာ 'သုခမိန်တစ်ဦးသည် ဟီကမ်တ်နှင့်သက်ဆိုင်ရာကျမ်းစာပေါင်းသုံးရာ ခြောက်ဆယ်ပြုစုခဲ့သည်။ ထိုအတွက် သူသည်လည်း 'မဟာကဝိကြီး'ဟု အမည်တွင်သွားခဲ့သည်။ ထိုခဏ၌ အလ္လာဟ်အရှင်က မိမိ၏တမန်တော်အား 'အသင်နဗီသည် ထိုသူ့ကို 'အသင်သည် ကမ္ဘာမြေပြင်ကို အချည်းနှီးအရာတို့ဖြင့် ပြည့်လျှံအောင်လုပ်လိုက်ပြီ။ ထိုအရာများထဲမှ တစ်စုံတစ်ခုသည် ငါအရှင့်ထံ မရောက်ခဲ့ပါ။ ငါအရှင်သည် သင်၏ အချည်းနှီးအရာများကို တစ်ခုမှလက်ခံခြင်းမပြုပါ'ဟု ပြောစေသည်။ နဗီတမန်တော်က ထိုသို့ပြောဆိုသောအခါ ထိုသုခမိန်သည် နောင်တကြီးစွာရလေသည်။ သူသည် ဈေးများသို့ သွားလာပြီး လူအများနှင့် ရောနှောသည်။ ဗနီအိစ်ရာအီလ်အမျိုးသားတို့နှင့်အတူ လက်ရည်တစ်ပြင်တည်း စားသောက်သည်။ မိမိ၏နဖ်စ်စိတ်ကိုလည်း ကျိုးငြံနှိမ့်ချသည်။ ထိုအခါ အလ္လာဟ်အရှင်က မိမိ၏နဗီတမန်တော်အား 'ထိုသူ့ကို ပြောလော့။ ယခုမူ သင်သည် ငါအရှင်၏ ကျေနပ်နှစ်သက်မှုကို ရရှိချေပြီ'ဟု ဝဟီပို့ချတော်မူလေသည်။

အိမာမ်အောင်ဇာအီ^ᴿ^သခင်က ပြောပြဆိုမိန့်သည်မှာ 'ဘီလာလ်အိဗ်နေ့စအဒ်က ပြောလေ့ရှိသည်မှာ– အသင်တို့အထဲမှ တစ်စုံတစ်ဦးသည် စစ်သည်ရဲမက်ကို မြင်တွေ့ရသည့်အခါ ၎င်း၏ဘေးအန္တရာယ်မှ ကင်းရန် အလ္လာဟ်အရှင့်ထံတွင် ခိုပန်ပါသည်။ သို့သော် မိမိတို့၏အကျင့်စာရှများကို ရုပ်ပြလုပ်ပြီး အကြီးအမှူးဖြစ်ရန် ငမ်းငမ်းတက်ဖြစ်နေသော ဒွန်နယာ့ပညာရှင်များကို မြင်တွေ့ရသည့်အခါတွင်မူ ရွံရှာစက်ဆုပ်ခြင်းမဖြစ်ကြပေ။ ထိုဒွန်နယာ့ပညာရှင်တို့သည် ညှင်းပမ်းနှိပ်စက်သော ရဲမက်တို့ထက် ပို၍စက်ဆုပ်ရွံရှာထိုက်သူများဖြစ်ကြသည်။'

တဖန် ဟဒီစ်တော်တွင် လာရှိသည်မှာ–

قيل : يا رسول الله أي الأعمال أفضل ؟ قال اجتناب المحارم ولا يزال فوك رطبًا من ذكر الله تعالى ، قيل : فأي الأصحاب خير؟ قال ﷺ : (( صاحب إن ذكرك وإن ذكرت الله أعانك وأن نسيته ذكرك)) ، قيل: فأي الناس أعلم ؟ قال: أشدهم لله خشية ، قيل: فأخبرنا بخيارنا نجالسهم قال ﷺ: ((الذين إذا رؤوا ذكر الله))، قيل : فأي الناس شر؟ قال : اللهم غفرًا ، قالوا : أخبرنا يا رسول الله قال: ((العلماء إذا فسدوا))

တမန်တော်မြတ်ﷺအား 'အိုအလ္လာဟ့်တမန်တော်၊ မည်သည့်ကျင့်စဉ်သည် အမြတ်ဆုံးပါလဲ'ဟု မေးမြန်းသည့်အခါ တမန်တော်မြတ်ﷺက 'တားမြစ်ချက်များမှ ရှောင်ကျဉ်ခြင်းဖြစ်သည်။ ထို့နောက် အသင်၏နှုတ်လျှာကို အလ္လာဟ်အရှင်အား သတိရတသမှုဖြင့် အမြဲစွတ်စိုအောင်ပြုခြင်းဖြစ်သည်'ဟု ဖြေကြားခဲ့သည်။ ထို့နောက် မေးသူက 'မည်သည့် အဆွေခင်ပွန်းသည် ကောင်းမွန်ပါသလဲ'ဟု မေးလေသည်။ တမန်တော်မြတ်ﷺက 'အသင်က အလ္လာဟ်အရှင်ကို သတိရသည့်အခါ အသင့်ကို ကူညီသူဖြစ်သည်။ တဖန် အသင် အလ္လာဟ်အရှင်ကို မေ့လျော့နေသည့်အခါ သင့်ကို သတိရအောင် ပြုလုပ်သူဖြစ်သည်'ဟု ဖြေခဲ့သည်။ ထို့

နောက် မေးသူက 'မည်သည့်အဆွေခင်ပွန်းသည် မကောင်းသူပါလဲ'ဟု မေးခဲ့သည်။ တမန်တော်မြတ်ﷺက 'သင်က အလ္လာဟ်အရှင်ကို မေ့နေသည့်အခါ သင့်ကို သတိရအောင် မပြုသူဖြစ်သည်။ တဖန် သင်က အလ္လာဟ်အရှင်ကို သတိရနေသည့်အခါ သင့်ကို မကူညီသူဖြစ်သည်'ဟု ဖြေခဲ့သည်။ ထို့နောက် မေးသူက 'လူတို့တွင် မည်သူသည် အသိပညာအရှိဆုံးပါလဲ'ဟု မေးခဲ့သည်။ ထိုမေးခွန်းကို တမန်တော်မြတ်ﷺက 'အလ္လာဟ်အရှင့်ကို ကြောက်ရွံ့ခန့်ငြားမှု အများပြားဆုံးသူဖြစ်သည်'ဟု ဖြေခဲ့သည်။

ထိုအခါ မေးသူက 'ကျွန်တော်မျိုးတို့အနက် အကောင်းဆုံးသူကို ညွှန်ပြတော်မူပါ။ ကျွန်တော်မျိုးတို့ ထိုသူနှင့်အတူ နေထိုင်ကြပါမည်'ဟု **မေးမြန်း**ခဲ့ပြန်သည်။ ထိုတွင် တမန်တော်မြတ်ﷺက 'ထိုသူ့ကို ကြည့်ရှုခြင်းဖြင့် အလ္လာဟ်အရှင်ကို သတိ**စေသူဖြစ်**သည်'ဟု ဖြေခဲ့သည်။ ထိုအခါ မေးသူက 'မည်သည့်လူသားသည် အဆိုးယုတ်ဆုံးဖြစ်ပါသလဲ'ဟု **မေးမြန်း**ခဲ့သည်။ ဤတွင် တမန်တော်မြတ်ﷺက 'အိုအလ္လာဟ်အရှင်။ ကျွန်တော်မျိုး အရှင့်ထံမှ ခွင့်လွှ**တ်မှုတောင်းခံ**ပါသည်'*ဟု ဆုပန်ခဲ့သည်။ ထိုအခါ လူတို့က 'အို အလ္လာဟ့် တမန်တော်။ ကျွန်တော်**မျိုးတို့အား ပြောပြတော်**မူပါ'ဟု ထပ်မံမေးလျှောက်ခဲ့ကြသည်။ ထိုအခါမှ တမန်တော်မြတ်ﷺက 'ပညာရှင်**များ ပျက်စီးသောအခါ** အဆိုးယုတ်ဆုံး လူသားများဖြစ်သွားကြသည်'ဟု ဖြေကြားခဲ့သည်။'†

တဖန် ဟဒီစ်တော်တွင် လာရှိသည်မှာ–

إن أكثر الناس أمانا يوم القيامة أكثرهم فكرا في الدنيا، وأكثر الناس ضحكا في الآخرة أكثرهم بكاء في الدنيا، وأشد الناس فرحا في الآخرة أطولهم حزنا في الدنيا.

'ကိယာမတ်နေ့တွင် ငြိမ်းချမ်းမှုအရှိဆုံးလူသားများသည် ဒွန္နယာ၌ အများဆုံးသောကရောက်ခဲ့သူများများဖြစ်သည်။ အာခိရတ်တွင် အများဆုံး ရယ်မောကြရမည့် လူသားများသည် ဒွန္နယာတွင် အများဆုံးငိုကြွေးခဲ့သူများဖြစ်သည်။ အာခိရတ်တွင် အများဆုံး ပျော်ရွှင်ရမည့်လူသားများသည် ဒွန္နယာ၌ အကြာရှည်ဆုံးစိတ်ညစ်ခဲ့ရသူများဖြစ်သည်။'‡

အလီ﷽သခင်က မိမိ၏ခွတ္တဘာဟောကြားမှုထဲ၌ ထည့်သွင်းမိန့်ဆိုခဲ့သည်မှာ– 'ကျွန်ုပ်ပြောဆိုသည့်စကားအပေါ် အပြည့်အဝတာဝန်ယူမှုဖြင့် ကျွန်ုပ် ဆိုရေးရှိ၍ ဆိုရတော့မည်။ လူထု၏အာခိရတ်ရေးအတွက် စိုက်ပျိုးလုပ်ကိုင်မှုသည် တက္ကဝါရှိနေသည့်အပေါ်မှာ ပျက်စီးခြင်း မဖြစ်နိုင်ပါ။ ထို့ပြင် ကျင့်ကြံအားထုတ်မှုများ၏အခြေအမြစ်သည် လမ်းမှန်တရားရှိထားသည့်အပေါ်မှာ ခမ်းခြောက်ခြင်းမဖြစ်နိုင်ပါ။ တဖန် လူသားတို့တွင် ပညာမဲ့အမိုက်မဲဆုံးသူသည် အလ္လာဟ်အရှင်အား ကြောက်ရွံ့ခန့်ငြားမှု၏တန်ဘိုးတရားကို မသိသူဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်အရွံ့မုန်းဆုံးလူသားသည် ပညာကို ကြုံရာကျပန်း စုဆောင်းရယူပြီး ပြဿနာအမှောင်ထုထဲသို့ တဟုန်ထိုး တိုးဝင်သူဖြစ်သည်။ ဤသူမျိုးကို လူတွေအထဲမှ အသေးသိမ်ဆုံးသူကသာ ပညာရှင်ဟု ခေါ်ပါသည်။ ဤသူသည် တကယ်တန်းတွင် ပညာနှင့်အတူ တစ်ရက်တစ်မွန်းတည့်မျှ အေးချမ်းစွာနေရသူမဟုတ်ပေ။'

'မနက်မိုးလင်း အိပ်ယာက ထသည်နှင့် သူသည် ပစ္စည်းဥစ္စာကို ရတတ်သလောက် များစွာ ရှာဖွေလေသည်။

---

* တမန်တော်မြတ်ﷺက မိမိ၏ပြောပြမည်သူတို့၏ဆိုးယုတ်မှုကို အလေးအနက်ပြုသောအနေဖြင့်၎င်း၊ ၎င်းတို့၏ဆိုးယုတ်မှုမှ အလ္လာဟ်အရှင့်ထံ ခိုလှုံသည့်အနေဖြင့်၎င်း ဤသို့ ကြားဖြတ်ဒိုအာပြုခဲ့ခြင်းဖြစ်ပါသည်။

† ဟဒီစ်ကို ဤစာသားဖြင့် မတွေ့ရပါ။ သို့သော် ဤအကြောင်းအရာအပေါ် အခြားစာသားဖြင့် ဟဒီစ်များကို တွစ်ဗ်ရာနီကျမ်း၊ အီဗ်နေ့စွန္နီကျမ်းနှင့် ဒါရူမီကျမ်းများတွင် တွေ့ရပါသည်။

‡ အီရာကီသခင်ﷲက 'ဤဟဒီစ်၏အခြေခံရာကို ကျွန်ုပ် မတွေ့ဘူးပါ'ဟု ဆိုသည်။

ရလာသည့်ပစ္စည်းက များပြားသလောက် အကျိုးရှိမှုက နည်းလေသည်။ အိုအရှင်၊ သူသည် ရေဆိုးရေသိုးကို ခပ်ငင်သုံးစွဲပြီး အကျိုးမဲ့အရာများစွာကို ရယူစုဆောင်းသူဖြစ်သည်။ ထို့နောက် သူသည် လူတို့ထံမှ ဇဝေဇဝါမဝေခွဲနိုင်ဖြစ်နေသောအရာများကို ရှင်းလင်းအောင်ဟုဆို၍ မုဖ်တီ၏အရိုက်အရာကို ဝင်ယူလိုက်သည်။ ထိုတွင် မရှင်းမလင်းဖြစ်နေသောအရာတစ်ခု သူ့ဆီမှာ မေးမြန်းတိုင်း သူ့ဘက်မှ ထိုအရာအပေါ် မဆီမလျော် ကောက်ယူရှင်းလင်းချက်ထုတ်ပေးရန် အသင့်ရှိနေခဲ့သည်။ သို့နှင့်အမျှ မှားသည် မှန်သည် မသိနိုင်တော့ဘဲ ဒွိဟသံသယ၏ပင့်ကူအိမ်တွင် ပိတ်မိသလိုဖြစ်ကြရတော့သည်။'

၎င်းသည် မသိမိုက်မဲမှုကို အစီးအနင်းပြု၍ ညဥ့်အမှောင်၌ မမြင်မကန်း သွားလာနေရသူဖြစ်သည်။ ထို့ပြင် ၎င်းသည် မိမိ မသိသည်ကို ဝန်ခံခြင်းမပြု။ ထိုသို့ဝန်ခံမည်ဆိုလျှင် ၎င်းအဖို့ ကင်းလွတ်မှုရနိုင်သေးသည်။ ထို့ပြင် ၎င်းသည် ပညာကို စွဲစွဲမြဲမြဲ လိုက်စားခြင်းလည်းမပြုချေ။ ထိုသို့ လိုက်စားမည်ဆိုလျှင် ၎င်းအဖို့ အကျိုးရလဒ်ရှိနိုင်သေးသည်။ ၎င်းသိရှိထားသည့် ရိဝါယတ်ဆင့်ပြန်မှုကလည်း လက်တွေ့ကျင့်ကြံမှုမပါ လေပူမှုတ်ခြင်းသက်သက်မျှဖြစ်သည်။ ထိုအတွက် သွေးက မျက်ရေကျရသည်။ နိကဟ်မပြုပိုင်သူတို့ကို ၎င်းက ပိုင်အောင် အဆုံးအဖြတ်ပေးလိုက်သည်။ ဤနည်းဖြင့် ပညာသည် မထိုက်တန်သူလက် ရောက်သွားရသည်။ ၎င်းတို့သည် ပြစ်ဒဏ်နှင့်သာထိုက်တန်သူများဖြစ်သည်။ ထိုပြစ်ဒဏ်ဖြင့် တစ်သက်လုံး ငိုညည်းမြည်တမ်းနေသင့်သူများဖြစ်သည်။'

အလီ ﷺ သခင်ကပင် ဆိုမိန့်သည်မှာ 'အသင်တို့ အသိပညာကို ကြားရသည့်အခါ တိတ်တဆိတ်နေကြပါ။ ပညာကို ပျက်ချော်ချော်မလုပ်ကြနှင့်။ သို့မဟုတ်က စိတ်နှလုံးများသည် ထိုပညာမှ အကျိုးခံစားရမည် မဟုတ်ပေ။' ထို့ပြင် ရှေးသူတော်စင်အချို့က ဆိုမိန့်သည်မှာ 'ပညာကို တစ်ချက်ပျက်ရယ်ခြင်းပြုလျှင် ထိုပညာထဲမှ တစ်ငုံစာ ထွက်သွားသည်'ဟူ၏။ တဖန် အဆိုအမိန့်ရှိသည်မှာ 'ဆရာတွင် အချက်သုံးခု ပြည့်စုံလျှင် တပည့်အတွက် ကောင်းကျိုးစုံလင်မှု ရှိသွားသည်။ ထိုသုံးခုမှာ သည်းခံခြင်း၊ နှိမ့်ချခြင်းနှင့် ကိုယ်ကျင့်ကောင်းမွန်ခြင်းတို့ဖြစ်သည်။ ထို့နောက် တပည့်တွင် အချက်သုံးခု ပြည့်စုံလျှင် ဆရာအတွက် ကောင်းကျိုးစုံလင်မှုရှိသွားသည်။ သုံးခုမှာ အသိဉာဏ်ရှိခြင်း၊ အရိုအသေရှိခြင်းနှင့် နားလည်သဘောပေါက်လွယ်ခြင်းတို့ဖြစ်သည်။'

အချုပ်ဆိုရသော် ကျမ်းမြတ်ကုရ်အာန်က ဖော်ပြထားသော အကျင့်စာရများသည် အာခိရတ်ပညာရှင်များတွင် ပြည့်ပြည့်ဝဝရှိနေသည်။ ဤသို့ရှိရခြင်းမှာ ၎င်းတို့သည် ကျမ်းမြတ်ကုရ်အာန်ကို လက်တွေ့ကျင့်သုံးရန်အတွက် သင်ပေးကြသောကြောင့်ဖြစ်သည်။ ဖတ်ရွတ်သရဇ္ဈာယ်ရုံသက်သက်အတွက် သင်ပေးကြခြင်းမဟုတ်ပေ။ အိုမရ် ﷺ သခင်က ပြောပြသည်မှာ 'ကျွန်ုပ်တို့သည် ခေတ်တစ်ခေတ်ကို ဖြတ်သန်းကြုံဆုံခဲ့ကြရသည်။ ထိုခေတ်တွင် ကျွန်ုပ်တို့သည် ကုရ်အာန်မကျရောက်မီ အီမာန်ယူခွင့်ရခဲ့ကြသည်။ ထိုခေတ်တွင် စူရာတစ်ပုဒ်ကျလာလျှင် ကျွန်ုပ်တို့သည် ထိုစူရာထဲမှ ခွင့်ပြုသောအရာများ၊ ခွင့်မပြုသောအရာများ၊ အမိန့်ပေးစေခိုင်းမှုများ၊ တားဆီးမှုအမိန့်များနှင့် ထိုစူရာထဲမှ ရပ်ဆိုင်းရမည့်နေရာများကို သင်ယူခဲ့ကြသည်။ ယခုအခါ ကျွန်ုပ်သည် လူတို့ကို တွေ့ကြရသည်မှာ ၎င်းတို့သည် ကျမ်းမြတ်ကုရ်အာန်ကို အီမာန်ထက် စောစီးစွာ ရရှိထားကြသည်။ သို့ဖြစ်ရာ ကျမ်းတော်ကို စူရာဖာတိဟာမှ အဆုံးအထိ ဖတ်ရွတ်ကြသည်။ သို့သော် ၎င်းတို့သည် ကျမ်းတော်၏အမိန့်ပေးချက်များ၊ တားမြစ်ချက်များနှင့် ရပ်ဆိုင်းရမည့်နေရာများကို မသိကြပေ။ သို့ဖြစ်ရာ ၎င်းတို့သည် ကျမ်းတော်ကို တန်ဘိုးမထားတော့ဘဲ ပေါက်လွှတ်ပဲစား လုပ်ပစ်လိုက်ကြသည်။'(ص - ٥٥)

အလားတူအဓိပ္ပါယ်ဖြင့် ဩဝါဒဆင့်ပြန်မှုတစ်ခု ရှိသေးသည်။ ယင်းမှာ 'ကျွန်ုပ်တို့သည် တမန်တော်မြတ် ﷺ ၏ဆွဟာဗဟ်များဖြစ်ကြခဲ့ရာတွင် ကျွန်ုပ်တို့၏အီမာန်ယူခြင်းသည် ကုရ်အာန်ကျရောက်မှု၏အလျင် ဖြစ်ခဲ့သည်။ အသင်တို့ မရှိသည့်နောက် မကြာမီရောက်ရှိလာမည့် လူ့အစုအဝေးကမူ ကျမ်းမြတ်ကုရ်အာန်ကို အီမာန်၏အလျင်

ရရှိကြလိမ့်မည်။ ၎င်းတို့သည် ကျမ်းတော်၏စာလုံးအက္ခရာများကို မှန်ကန်ပီသအောင်လုပ်ကြမည်။ သို့သော် ၎င်းတို့က ကျမ်းတော်မှပြဋ္ဌာန်းထားသည့် စည်းကမ်းဥပဒေများနှင့် တာဝန်ဝတ္တရားများကို ချိုးဖေါက်ဖျက်ဆီးပစ်ကြလိမ့်မည်။ ထို့နောက် ၎င်းတို့က 'ကျွန်ုပ် ဖတ်ရွတ်တတ်ကြသည်။ ကျွန်ုပ်တို့ထက် ပို၍ဖတ်ရွတ်တတ်သူ မည်သူရှိသေးသနည်း။ ထို့ပြင် ကျွန်ုပ်တို့ နားလည်တတ်ကျွမ်းကြသည်။ ကျွန်ုပ်တို့ထက် ပို၍ နားလည်တတ်ကျွမ်းသူ မည်သူရှိသေးသနည်း'ဟု ပြောဆိုကြလိမ့်မည်။ သို့ရှိရာ ၎င်းတို့အတွက် ရရှိမည့် ကျမ်းမြတ်ကုရ်အာန်၏ဝေစုသည် ထိုမျှသာ ဖြစ်လိမ့်မည်။'

အခြားဆင့်ပြန်မှုတွင် '၎င်းတို့သည်ကား ဤအွမ္မတ်၏အဆိုးယုတ်ဆုံးသူများပင်ဖြစ်သည်'ဟု လာရှိသည်။

အဆိုအမိန့်ရှိသည်မှာ 'အာလိမ်ရတ်ပညာရှင်များတွင် ငါးခုသောအကျင့်စာရရှိနေပြီး ထိုငါးခုကို အလ္လာဟ်အရှင်၏ကျမ်းတော်လာ အာယတ်ငါးခုဖြင့် နားလည်သဘောနိုင်သည်။ ထိုအကျင့်စာရငါးခုမှာ ကြောက်ရွံ့ခန့်ငြားမှု၊ ကျိုးညွှတ်ပျပ်ဝပ်မှု၊ ကျိုးနွံနှိမ့်ချမှု၊ ကိုယ်ကျင့်ကောင်းမွန်မှုနှင့် အာလိမ်ရတ်ကို ဒွန္နယာထက် ပို၍ ဦးစားပေးမှုတို့ဖြစ်သည်။ သို့ရှိရာ ကြောက်ရွံ့ခန့်ငြားမှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ –

﴿إِنَّمَا يَخْشَى اللهَ مِنْ عِبَادِهِ الْعُلَمَاءُ﴾

**'အလ္လာဟ်အရှင်အား ကြောက်ရွံ့ကြသူများကား အရှင်၏ကျေးကျွန်များထဲမှ ဓမ္မပညာရှင်များတည်း။'**

**(စူရာဖာတွေရ် ၊ ၂၈)**

ထို့နောက် ကျိုးညွှတ်ပျပ်ဝပ်မှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ–

﴿خَاشِعِيْنَ لِلّٰهِ لاَ يَشْتَرُوْنَ بِآيَاتِ اللّٰهِ ثَمَنًا قَلِيْلًا﴾

**'အလ္လာဟ်အရှင်အား ကျိုးညွှတ်ပျပ်ဝပ်သူများဖြစ်ကြပြီး၊ အလ္လာဟ်အရှင်၏ အာယတ်များကိုလည်း အဖိုးနည်းပါးစွာဖြင့် ရောင်းချခြင်းမပြုကြပေ။'** **(စူရာအာလေ့အင်မ်ရာန် ၊ ၁၉၉)**

ထို့နောက် ကျိုးနွံနှိမ့်ချမှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ–

﴿وَاخْفِضْ جَنَاحَكَ لِلْمُؤْمِنِيْنَ﴾

**'အသင်၏လက်ရုံးကို အီမာန်ရှင်များအတွက် နှိမ့်ချထားပါ။'** **(စူရာဟိဂျရ် ၊ ၈၈)**

ထို့နောက် ကိုယ်ကျင့်ကောင်းမွန်မှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ–

﴿فَبِمَا رَحْمَةٍ مِنَ اللّٰهِ لِنْتَ لَهُمْ﴾

**'သို့ရှိရာ အသင် ၎င်းတို့နှင့် စိတ်နှလုံးနူးညံ့စွာတွေ့ဆုံရသည်မှာ အလ္လာဟ်အရှင့်ဘက်မှ ဂရုဏာတော်ပင်ဖြစ်သည်။'** **(စူရာအာလေ့အင်မ်ရာန် ၊ ၁၅၉)**

ထို့နောက် ဒွန္နယာစွန့်မှုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ–

﴿وَقَالَ الَّذِيْنَ أُوْتُوا الْعِلْمَ وَيْلَكُمْ ثَوَابُ اللّٰهِ خَيْرٌ لِمَنْ آمَنَ وَعَمِلَ صَالِحًا﴾

**'ထို့ပြင် အသိပညာရရှိထားသူတို့က ပြောသည်မှာ 'သင်တို့အတွက် ပျက်စီးမှုပင်တကား။ အီမာန်ယူပြီး ကောင်းမှုကျင့်ဆောင်သူအတွက် အလ္လာဟ်အရှင်ချီးမြှင့်မည့် ဆုဝါဒ်သည် ပို၍ကောင်းပေသည်။'**

**(စူရာကဆွာဆ် ၊ ၈၀)**

ထို့ပြင် တမန်တော်မြတ်ﷺက အလ္လာဟ်အရှင် မိန့်ခွန်းတော်–

﴿فَمَنْ يُرِدِ اللّٰهُ أَنْ يَهْدِيَهُ يَشْرَحْ صَدْرَهُ لِلْإِسْلَامِ﴾

**'သို့ဖြစ်ရာ အကြင်သူကို အလ္လာဟ်အရှင်က တရားလမ်းညွှန်ပြရန် အလိုရှိတော်မူလျှင် ထိုသူ၏ရင်ကို**

**အစ္စလာမ်အတွက် ဖွင့်ဟတော်မူသည်။'** (နုရာအန်အာဇ် ၁၂၅)

**ကို ဖတ်ရွတ်လိုက်သောအခါ** တမန်တော်မြတ်ﷺအား တစ်စုံတစ်ဦးက 'ရင်ကို ဖွင့်ဟခြင်းသည် အဘယ်သို့ပါလဲ'ဟု **မေးမြန်းခဲ့သည်။** ထိုအခါ တမန်တော်မြတ်ﷺက–

إن النور إذا قذف في القلب انشرح له الصدر وانفسح

'နူရ်အလင်းရောင်ကို နှလုံးသားထဲသို့ ပစ်ထည့်ခြင်းခံရသောအခါ ထိုသူ၏ရင်သည် ပွင့်လင်းကျယ်ဝန်းသွားရသည်'ဟု ရှင်းပြခဲ့သည်။ ထိုအခါ 'ထိုသို့ဖြစ်ကြောင်း သိနိုင်သည့် လက္ခဏာမှာ မည်သို့ပါလဲ' ဟု ထပ်မေးပါသည်။ ထို၌ တမန်တော်မြတ်ﷺက–

نعم التجافي عن دار الغرور والإنابة إلى دار الخلود، والاستعداد للموت قبل نزوله

'မာယာပရိယာယ်သာဖြစ်သော ဒွန်နယာလောကကို ကျောခိုင်းကာ အမြဲထာဝရနေထိုင်ရမည့် အာခိရတ်လောကကို မျက်မှောက်ပြုခြင်းဖြစ်သည်။ ထို့ပြင် သေခြင်းဆိုက်ရောက် မလာမီ ထိုသေခြင်းအတွက် ကြိုတင်ပြင်ဆင်ခြင်းဖြစ်သည်။ ဤသို့ပြုနိုင်သူအဖို့ ကောင်းပေစွ။'

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ**– လက်တွေ့ကျင့်ကြံအားထုတ်မှုနှင့်သက်ဆိုင်ရာ အသိပညာကို များစွာလိုက်စားသူဖြစ်ရမည်။ ထို့ပြင် ထိုကျင့်သုံးမှုများကို ပျက်စီးဆုံးရှုံးစေသောအရာများ၊ စိတ်နှလုံး၏ဥဒ္ဒစ္စ(စိတ်ပျံ့လွင့်မှု)၊ ဝိစိကိစ္ဆာကို လှုံ့ဆော်ပေးသည့်အရာများနှင့် မကောင်းမှုကို နှိုးဆွပေးသည့်အရာများနှင့်သက်ဆိုင်သည့်အသိပညာများကို အဓိကလိုက်စားရမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် သာသနာ၏အရင်းခံအချက်သည် မကောင်းမှုမှ ရှောင်ကျဉ်ခြင်းဖြစ်သည်။ ဤအတွက် စပ်ဆိုထားသည်မှာ–

عـرفت الشـرَّ لا لـلشـرِّ لكـن لـتـوقِّـيـه

ومن لا يعـرفِ الشــرَّ من النَّـاسِ يقـع فـيـهِ

*'ကျွန်ုပ် မကောင်းမှုကို သိခြင်းသည် ကျူးလွန်ရန်မဟုတ်၊ ရှောင်ရန်ဖြစ်သည်။*
*လူတို့တွင် မကောင်းမှုကို မသိသူသည် မကောင်းမှုထဲသို့ ကျသွားတတ်၏။'*

အကြောင်းမှာ ကိုယ်ခန္ဓာဖြင့် ကျင့်မူရသည့် ကျင့်ဆောက်တည်မှုများသည် လွယ်ကူသောကြောင့်ဖြစ်သည်။ ထိုအထဲတွင် အဆင့်အမြင့်ဆုံးသည် အလ္လာဟ်အရှင်အား နှလုံးသားနှင့်နှုတ်လျှာမှ အမြဲမပြတ် သတိရတသခြင်းဖြစ်သည်။ သို့နှင့်တိုင် ထိုကျင့်သုံးမှုများ မှန်ကန်ကောင်းမွန်ရန်အတွက် ၎င်းတို့ကို ဖျက်ဆီးပစ်မည့်အရာများ၊ အနှောင့်အယှက်ပြုမည့်အရာများအား သိထားရမည်ဖြစ်သည်။ ထိုအကြောင်းအရာများသည် ကဏ္ဍများစွာရှိပြီး အသေးစိတ်အားဖြင့် ကျယ်ပြန့်လှသည်။ အာခိရတ်လမ်းကို လိုက်တော့မည်ဆိုလျှင် ထိုအရာများကို သိထားရန် အရေးကြီးလှပေသည်။ အဘယ်ကြောင့်ဆိုသော် လမ်းလိုက်သူအားလုံးသည် များသောအားဖြင့် ထိုအရာများထဲသို့ ကျရောက်နစ်မွန်းကြရသောကြောင့်ဖြစ်သည်။

ဒွန်နယာ့ဘက်သား ပညာရှင်များကား အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးဆိုင်ရာ ကြုံတောင့်ကြုံခဲ အစွယ်အပွါးကိစ္စများကို လေ့လာလိုက်စားလေ့ရှိကြသည်။ ထိုကိစ္စများသည် ခေတ်ကာလများစွာ ကြာလျှင်ပင် တစ်ကြိမ်တစ်ခါ မကြုံတတ်သောကိစ္စမျိုး၊ အကယ်၍ ကြုံပြန်လျှင်လည်း မိမိအတွက်မဟုတ်ဘဲ အခြားသူအတွက် ကြုံသောကိစ္စမျိုး၊ ထိုသို့ကြုံပြီဆိုလျှင်လည်း သွန်သင်ပြသမည့်သူ များစွာရှိနေသည့်ကိစ္စမျိုးဖြစ်သည်။ ထိုပညာရှင်များသည် မိမိတို့စိတ်နှလုံးများတွင် နေ့ရောညပါ ပူးကပ်ပြီး အဖန်တလဲလဲ ကြုံတွေ့နေသော ဝိတက်ဝိစာရများ၊ ဝိစိကိစ္ဆာများနှင့် မိမိတို့၏ကျင့်မူရာများကိုမူ ဥပက္ခာပြုထားကြသည်။ မိမိအတွက် အမြဲတန်းအရေးကြီးသောအရာကို စွန့်ပစ်ပြီး ထိုအစား

ကြုံတောင့်ကြုံခဲကိစ္စကို ကြုံးပမ်းရယူသူ၊ တဖန် အလ္လာဟ်အရှင်နှင့် နီးကပ်မှုရနိုင်မည့်အရာထက် အဖန်ဆင်းခံလူသားတို့ သဘောကျလက်ခံမည့်အရာကို ဦးစားပေးသူကား ထာဝရသုခချမ်းသာနှင့် ဝေးကွာလှသူပင်ဖြစ်သည်။

ဒွန္နယာသားများက မိမိအား ထူးချွန်သောသုတေသီကြီး၊ အသေးစိတ်ကိစ္စရပ်များတွင် နိုက်နိုက်ချွတ်ချွတ်သိသူ ပညာရှင်ကြီးဟု အခေါ်ခံခဲ့ရသည့်အတွက် အလ္လာဟ်အရှင်ပေးမည့် **အစားရလဒ်**သည် ဆိုးရွားလှချေသည်။ သူ့ကို ဒွန္နယာသားများကလည်း လက်ခံကြမည်မဟုတ်။ ထို့ပြင် **အာခိရတ်တွင် သူသည်** အလ္လာဟ်အရှင်၏ လက်ခံမှုကို ရရှိမည်လည်းမဟုတ်ပေ။ သို့သာမက **ဒွန္နယာတွင်ရှိစဉ် သူသည် ဒုက္ခဝေဒနာပြွမ်းသော** ဘဝသက်တမ်းကို ကြုံတွေ့ဖြတ်သန်းရမည်။ တဖန် ကိယာမတ်နေ့တွင် **ဆင်းရဲသားလက်မဲ့အဖြစ် ထရမည်။** ထို့နောက် သူသည် အာခိရတ်ပညာရှင်များ၊ အလ္လာဟ်အရှင်နှင့် **နီးကပ်ခွင့်ရသူ သူတော်ကောင်းများ၏** အောင်မြင်မှုများကို မြင်တွေ့ရပြီး ဝမ်းနည်းပက်လက်ဖြစ်ရလိမ့်မည်။ ဤသည်တို့မှာ **ကြီးမားသောဆုံးရှုံးနစ်နာမှုများ**ပင်ဖြစ်တော့သည်။

ဟစ်ဘဇ္ဇရီ ‌‌သခင်သည် **စကားပြောဆိုရာတွင်** နဗီတမန်တော်များ ﷺ၏ ပြောဆိုပုံနှင့် အတူဆင်ဆုံး လူသားတစ်ဦးဖြစ်သည်။ သခင်သည်၊ **အကျင့်အမူအားဖြင့်** ဆွဟာဗဟ်များ နှင့် အနီးစပ်ဆုံးလူသားဖြစ်သည်။ ဤနှစ်ချက်ကို အားလုံးက **သဘောတူလက်ခံကြသည်။** ဟစ်ဘဇ္ဇရီ သခင် အများဆုံးပြောဆိုလေ့ရှိသည့်အကြောင်းအရာများမှာ **နှလုံးသား၏ ဝိတက်ဝိစာရများ၊** ကျင့်ဆောင်မှုများ၏ ပျက်စီးကြောင်းများ၊ စေတသိတ်၏ ဝိစိက္ကိစ္ဆာများ၊ စိတ်၏ ရမ္မက်ဆန္ဒအတွင်း ဖုံးအုပ်ငုတ်လျှိုးလျက်ရှိသောအရာများဖြစ်သည်။ တစ်စုံတစ်ဦးက သခင့်အား ‘အို အဗူစအီဒ်၊ ကျွန်ုပ်တို့ အခြားသူများထံတွင် မကြားရသောစကားများကို အသင်ပြောဆိုလေ့ရှိသည်။ ထိုစကားများကို အသင်အဘယ်က ရသနည်း’ဟု မေးမြန်းခဲ့သည်။ ထိုအခါ ဟစ်ဘဇ္ဇရီ သခင်က ‘ဟုဇိုင်ဖဟ်အီဗ်နေ့ယမန် ထံမှ ရသည်’ဟု ဖြေသည်။ တဖန် တစ်စုံတစ်ဦးက ဟုဇိုင်ဖဟ်အီဗ်နေ့ယမန် သခင့်အား ‘ကျွန်ုပ်တို့သည် အခြားဆွဟာဗဟ်များထံတွင် သခင်ပြောဆိုလေ့ရှိသောစကားများကို မကြားကြရပါ။ ထိုစကားများကို သခင်ဘယ်မှရပါသနည်း’ဟု မေးခဲ့သည်။ ဟုဇိုင်ဖဟ်အီဗ်နေ့ယမန် သခင်က ‘ငါ့ကို တမန်တော်မြတ် ﷺက သီးသန့်သင်ပေးတော်မူခြင်းဖြစ်သည်’ဟု ဖြေခဲ့သည်။ ဟုဇိုင်ဖဟ်အီဗ်နေ့ယမန် သခင်၏ ပြောပြသည်မှာ–

كان الناس يسألونه عن الخير وكنت أسأله عن الشر مخافة أن أقع فيه وعلمت أن الخير لا يسبقني علمه . (خ.م)

‘လူတို့သည် တမန်တော်မြတ် ﷺထံ အကောင်းကို မေးလေ့ရှိကြသည်။ ငါကမူ တမန်တော်မြတ် ﷺထံ အဆိုးကို မေးလေ့ရှိသည်။ အဆိုးထဲ ကျရောက်သွားမည်ကို ကြောက်ရွံ့သောကြောင့်ဖြစ်သည်။ အကောင်းကတော့ ငါမကြုံမည်ကို ငါသိထားပြီးဖြစ်သည်။’

တစ်ကြိမ်တွင် သခင်က–

فعلمت أن من لا يعرف الشر لا يعرف الخير. وفي لفظ آخر: كانوا يقولون يا رسول الله ما لمن عمل كذا وكذا يسألونه عن فضائل الأعمال ، وكنت أقول يا رسول الله : مايفسد كذاوكذا ، فلما رآنى اساله عن آفات الاعمال خصنى بهذا العلم . (خ.م)

‘ကျွန်ုပ်သိထားမှာ အကြင်သူ အဆိုးကို မသိလျှင် အကောင်းကိုလည်း သိလိမ့်မည်မဟုတ်ပါ’ဟု ပြောဆိုခဲ့သည်။ အခြားဆင့်ပြန်မှုတစ်ခုတွင် သခင်က ပြောဆိုသည်မှာ ‘လူတို့သည် တမန်တော်မြတ် ﷺအား ‘အို ရစူလ်ကိုယ်တော်၊ ပုဂ္ဂိုလ်တစ်ဦးသည် မည်သည့်အကျင့်ကို ကျင့်လျှင် မည်သည့်အကျိုးရပါမည်လဲ’ဟု မေးမြန်းလေ့ရှိကြသည်။ ၎င်းတို့သည် တမန်တော်မြတ် ﷺထံမှ ကျင့်မှုရာများ၏ အကျိုးထူးအာနိသင်များကို မေးမြန်းကြခြင်းဖြစ်သည်။ ငါကမူ တမန်တော်မြတ် ﷺအား ‘အို ရစူလ်ကိုယ်တော်၊ မည်သည့်အကျင့်ကို ကျင့်လျှင် မည်သည့်ဆိုးကျိုးရရှိပါသလဲ’ဟု မေးမြန်းလေ့ရှိသည်။ ထိုသို့ ငါက ကျင့်မှုရာများ၏ ဘေးဒုက္ခ

များအကြောင်း မေးမြန်းသည်ကို တမန်တော်မြတ်ﷺက တွေ့သောအခါ ငါ့အား ထိုအသိကို သီးသန့်ပေး တော်ခဲ့သည်။'

ဟုဇိုင်ဖဟ်ؓသခင်၏ သီးသန့်တတ်ကျွမ်းမှုနောက်တစ်ခုမှ မုနာဖီက်ခေါ် သာသနာ့အရေခြုံများကို သိခြင်းဖြစ်သည်။ နိဖါက် ခေါ် အီမာန်ရှင်ဖြစ်ဟန်ဆောင်ခြင်း၊ ထိုသို့ဟန်ဆောင်ရခြင်း၏အကြောင်းခံများ၊ သာသနာရေးပြဿနာကြီး များ၏နက်နဲသောအသိများကို သိကျွမ်းသူဟူ၍ ဟုဇိုင်ဖဟ်ؓသခင်တစ်ဦးတည်းသာရှိခဲ့သည်။ အိုမရ်သခင်၊ အုစ္စမာန်ؓသခင်နှင့် အခြားသောဆွဟာဗဟ်အကြီးအကဲများؓသည် နိဖာက်နှင့်ပတ်သက်၍ အများဆိုင်ပြဿနာများ၊ တစ်ဦးချင်းဆိုင်ပြဿနာများနှင့်ပတ်သက်လာလျှင် ဟုဇိုင်ဖဟ်ؓသခင့်အား မေးလေ့ရှိကြသည်။ မုနာဖီက်များနှင့် ပတ်သက်၍ မေးမြန်းကြသောအခါ သခင်က မုနာဖီက်တို့၏အမည်နာမများကို မပြောဆိုဘဲ၊ အသက်ရှင်ကျန်ရှိသူ အရည်အတွက်ကိုသာ ပြောဆိုလေသည်။

အိုမရ်ؓသခင်ကဆိုလျှင် မိမိတွင် နိဖါက်အယောင်ဆောင်မှု ရှိမရှိ မေးမြန်းခဲ့ဖူးသည်။ ဟုဇိုင်ဖဟ်ؓသခင်က မရှိကြောင်းဖြေခဲ့သည်။ ထို့ပြင် အိုမရ်ؓသခင်သည် **မိမိအား** ဂျနာဇာနမာဇ်ဖတ်ပေးရန် ဖိတ်ခေါ်လာသည့်အခါ ထိုဂျနာဇာသို့ ဟုဇိုင်ဖဟ်ؓသခင် လာမလာကြည့်လေ့ရှိသည်။ ဟုဇိုင်ဖဟ်ؓသခင် လာလျှင် ဂျနာဇာကို ဖတ်ပေးသည်။ မလာလျှင် ဖတ်မပေးချေ။ ဆွဟာဗဟ်များအကြားတွင် ဟုဇိုင်ဖဟ်ؓသခင်သည် 'صاحب السر' (အတွင်းရေးကို ပိုင်နိုင်သိကျွမ်းသူ)ဟု အမည်တွင်ခဲ့သည်။

အချုပ်မှာ အာဒိရုတ်ပညာရှင်များ၏အဓိကအာရုံစူးစိုက်ရာသည် နှလုံးသား၏အဆင့်စခန်းများနှင့် ထိုနှလုံးသား၏အခြေအနေများဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် နှလုံးသားကသာလျှင် အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်မှုအတွက် အခရာဖြစ်သောကြောင့်ဖြစ်သည်။ ယခုအခါ ထိုပညာရပ်သည် တိမ်ကောပျောက်ကွယ်လုနီးပါးဖြစ်နေပေပြီ။ အကယ်၍ ပညာရှင်တစ်ဦးက ဤပညာရပ်ဘက်သို့ လိုက်စားတော့မည်ဆိုလျှင် လူတို့သည် အထူးအဆန်းဖြစ်ကုန်ကြသည်။ ကြံကြီးစည်ရာမဖြစ်နိုင်သောကိစ္စဟု ထင်မှတ်ကုန်တတ်ကြသည်။ 'ဤသည်မှာ စာဟောဆရာတို့၏ ပရိယာယ်ဝေဝုစ်ပြောဆိုမှုများသာဖြစ်သည်။ အခြေအမြစ်မရှိသောကိစ္စများသာဖြစ်သည်။ အမှန်တကယ် အခြေအမြစ်ရှိသည်မှာ အသေးစိတ် အကွဲအလွဲများတွင်သာဖြစ်သည်'ဟု ပြောဆိုလေ့ရှိကြသည်။ စာဆိုတစ်ပါး၏စပ်ဆိုမှုသည် မှန်ပေစွ။

الطرق شتّى وطرق الحقّ مفردة     والسالكون طريق الحق أفرادٌ
لا يعرفون ولا تدري مقاصدهم     فهم على مهل يمشون قصاد
والناس في غفلة عما عما يُراد بهم     فجُّلهم عن سبيلِ الحقّ رقادٌ

*'လမ်းအသွယ်သွယ်ရှိသည်။ အမှန်တရားသို့ သွားသည့်လမ်းကား တစ်ခုတည်းသာဖြစ်သည်။*
*အမှန်တရား၏လမ်းတွင် လျှောက်လှမ်းသွားလာသူများမှာလည်း တစ်ဦးချင်းစီသာဖြစ်ကြ၏။*
*ထိုလျှောက်လှမ်းသွားလာသူများ၏ဦးတည်ရည်ရွယ်ချက်ကို မည်သူမှ မသိနားမလည်ကြချေ။*
*သွားသူများက ရည်ရွယ်ချက်ပန်းတိုင်ဆီသို့ မမိုတ်မသုံလျှောက်လှမ်းသွားလာလျက်ရှိကြသည်။*
*လူတို့မှုကား မိမိတို့ဦးတည်ရမည့် ရည်ရွယ်ချက်ပန်းတိုင်မှ အမေ့မေ့အလျော့လျော့ရှိနေကြ၏။*
*လူတို့သည် အမှန်တရား၏လမ်းကို သိမြင်ခြင်းမှ မိမိတို့၏မျက်စိများကို စုံပိတ်ထားကြသည်။'*

အချုပ်ဆိုသော် လူအများစုသည် အလွယ်လမ်းကို လိုက်လိုကြသည်။ မိမိတို့၏စိတ်ဓါတ်သဘာဝနှင့် ကိုက်ညီမှုကိုသာ အလိုရှိကြသည်။ အမှန်တရားကမူ ခါးသီးသောအရာဖြစ်သည်။ အမှန်တရားကို သိရန် ခက်သည်။ သဘောပေါက်ရန် ခဲယဉ်းလှသည်။ အမှန်တရားသို့ သွားရာလမ်းသည် ကြမ်းတမ်းသည်။ အထူးသဖြင့် နှလုံးသား

၏အခြေအနေဝိသေသများကို သိနားလည်ရန်နှင့် ထိုနှလုံးသားကို မကောင်းသောအကျင့်စာရိတ္တများမှ သန့်ရှင်းစွာထားရန် အလွန်ပင်ခက်ခဲပြင်းထန်လေသည်။ ထိုဝေဒနာသည် အသက်နုတ်ခြင်းခံရသောဝေဒနာထက် ပို၍ပြင်းထန်သည်။ ထိုလမ်းလိုက်သူ၏ဥပမာသည် ရောဂါပျောက်ကင်းမည်ဟူသော မျှော်လင့်ချက်ဖြင့် ဆေးခါးကို သောက်မျိုသူကဲ့သို့ဖြစ်သည်။ နောက်တစ်နည်း ထိုသူ၏ဥပမာသည် သက်တမ်းတစ်ခုလုံး ရိုဇာထားသူကဲ့သို့ဖြစ်သည်။ မိမိသေသည့်နေ့တွင် အီဒ်နေ့အဖြစ်ပျော်ရွှင်နိုင်ရန် ထိုသူသည် ပြင်းထန်သောရေငတ်ဆာလောင်မှုကို ခံစားလေသည်။ သို့နှင့်အမျှ ထိုလမ်းတွင် မည်၍မည်မျှလိုလားမက်မောမှုထားရမည်ကို ခန့်မှန်း၍ရသည်။

သို့ဖြစ်၍ အဆိုရှိသည်မှာ ဘစွရာမြို့တွင် တရားဓမ္မဟောပြောသူ တစ်ရာ့နှစ်ဆယ်ရှိသည်။ သို့သော် ထိုအထဲတွင် ယကီန်၏ပညာ၊ နှလုံးသား၏အခြေအနေနှင့် အဇ္ဈတ္တ၏ဂုဏ်ထူးဝိသေသများကို ဟောပြောသူမှာ သုံးဦးသာရှိသည်။ ထိုသုံးဦးမှာ ဆဟ်လ်တွစ်တုရီ ˜သခင်၊ ဆွဘီဟီ ˜သခင်နှင့် အဗ်ဒွလ်ရဟီမ် ˜သခင်တို့ဖြစ်သည်။ အခြားတရားဟောဆရာများ၏တရားပွဲများတွင် ပရိသတ်သည် မရေမတွက်နိုင်အောင် များပြားသည်။ ဤပုဂ္ဂိုလ်သုံးဦး၏တရားပွဲမှာကား နားထောင်သူ အလွန်နည်းသည်။ ဆယ်ဦးကျော်သည့်အခါပင် ခပ်ရှားရှားဖြစ်သည်။ ဤသို့ရှိရခြင်းမှာ တန်ဘိုးရှိသောအရာကို ထိုက်တန်သူမှာ သီးသန့်လူနည်းစုသာဖြစ်သည်။ လူအများတွင် ရှိနေသောအရာများမှာ အလွယ်တကူရနိုင်ပြီး နားလည်ရန် လွယ်ကူသောအရာများသာဖြစ်သည်။ ထိုအရာများကို လိုလားသူကလည်း အများစုဖြစ်သည်။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ–** ပညာရှင်၏အသိပညာသည် မိမိ၏အတွင်းမျက်စိဖြင့် သိမြင်မှုနှင့် မိမိ၏နှလုံးသားကြည်လင်မှုအရ သိရှိလာမှုကို အခြေခံရမည်။ စာအုပ်စာပေများအပေါ် အဓိကအားထားခြင်းမဖြစ်ရပေ။ သူတစ်ပါးထံမှ တစ်ဆင့်ကြားဖြင့် တက္ကလီဒ်စိတ်ချလိုက်နာခြင်းလည်း မဖြစ်ရပေ။ တက္ကလီဒ်ပြုခြင်းခံထိုက်သူမှာ ရှရီအတ်ရှင်တမန်တော်မြတ်ﷺသာဖြစ်သည်။ တမန်တော်မြတ်ﷺအမိန့်နှင့်ဩဝါဒကိုသာ တက္ကလီဒ်လိုက်ရမည်။ ဆွဟာဗဟ်များ၏ကို တက္ကလီဒ်လိုက်သည်ဆိုရာမှာလည်း ထိုသခင်တို့၏ကျင့်သုံးမှုသည် တမန်တော်မြတ်ﷺထံမှ ကြားသိမှုအရဖြစ်သည်ဟူသော အသိရှုဒေါင့်ဖြင့် တက္ကလီဒ်လိုက်ခြင်းဖြစ်ရမည်။*

တမန်တော်မြတ်ﷺ၏မိန့်ဆိုမှုများနှင့် ကျင့်သုံးမှုများကို လက်ခံနာယူပြီးနောက် ထိုအရာများ၏အတွင်းရေးလျှို့ဝှက်ချက်များကို သိနားလည်ရန် မက်ရှိသင့်သည်။ အဘယ်ကြောင့်ဆိုသော် အပြုအမူတစ်ခုကို နောက်လိုက်ပြုမူခြင်းသည် တမန်တော်မြတ်ﷺပြုမူခဲ့သောကြောင့်ဖြစ်သည်။ တမန်တော်မြတ်ﷺသည် အပြုအမူတစ်ခုကို ပြုမူခဲ့ရာတွင် မုချအတွင်းရေးအကြောင်းခံရှိလေသည်။ သို့ဖြစ်ရာ တမန်တော်မြတ်ﷺ၏ပြုမူကျင့်သုံးမှုများနှင့် မိန့်ဆိုမှုများ၏အတွင်းရေးအကြောင်းရင်းများကို ပြင်းပြင်းပြပြစူးစမ်းလေ့လာသင့်သည်။ တမန်တော်မြတ်ﷺ၏ပြုမူကျင့်သုံးမှုများနှင့်မိန့်ဆိုမှုများအကြောင်း ကြားနာမှတ်သားထားရုံသက်သက်သည် မလုံလောက်ချေ။ ယင်းကြားနာမှတ်သားခြင်းသည် ပညာမဟုတ်သေးဘဲ၊ ပညာ၏ 'အခံ' သာဖြစ်သည်။ သို့ဖြစ်သောကြောင့် ခေတ်ဦးပိုင်းက ဟီက်မတ်အကြောင်း

* ဤနေရာတွင် အိမာမ်ဂဇာလီသခင် ˜သည် မဇ်ဟဗ်ရှင်အိမာမ်ကြီးများ၏နောက် တက္ကလီဒ်လိုက်ခြင်းကို ငြင်းပယ်နေခြင်း မဟုတ်ကြောင်း သိထားရမည်။ အိမာမ်ဂဇာလီ ˜သခင် ဆိုလိုသည်မှာ အရင်းခံသဘောအရ တက္ကလီဒ်ပြုခြင်းခံထိုက်သူသည် တမန်တော်မြတ်ﷺသာဖြစ်သည်။ အခြားလူပုဂ္ဂိုလ်တဦးတစ်ယောက်ကို တက္ကလီဒ်လိုက်သည်ဆိုလျှင် ထိုတက္ကလီဒ်၏မူလအခြေခံရာသည် တမန်တော်မြတ်ﷺဖြစ်ရမည်ဟု ဆိုလိုခြင်းဖြစ်သည်။ ရှင်းနေသောအချက်မှာ အိမာမ်ဂဇာလီ ˜သခင်ကိုယ်တိုင်သည် အိမာမ်ရှာဖအီ ˜သခင်၏နောက်မှ တက္ကလီဒ်လိုက်ခဲ့သူဖြစ်သည်။ အိမာမ်ဂဇာလီ ˜သခင်သည် မိမိတွင် မွဂ်ျတဟီဒ်တစ်ပါး၏ပညာအရည်အချင်းများ အပြည့်အဝရှိနေပါလျက် အိမာမ်ရှာဖအီ ˜သခင်၏မဇ်ဟဗ်လမ်းစဉ်အား ရာသက်ပန်တက္ကလီဒ်လုပ်သွားခဲ့သည်။ – ဘာသာပြန်သူ။

ရင်းများနှင့် အတွင်းရေးများကို သိနားလည်ခြင်း မရှိဘဲ၊ မတ်စအလာများ သိရှိမှတ်သားသူသက်သက်ကို ပညာရှင်ဟု မခေါ်ခဲ့ကြခြင်းဖြစ်သည်။ ၎င်းပုဂ္ဂိုလ်ကို ပညာရှင်ဟု ခေါ်မည့်အစား 'ဤပုဂ္ဂိုလ်သည် ပညာအခံရှိသူဖြစ်သည်' ဟုသာပြောဆိုခဲ့ကြသည်။

အကြင်သူသည် နှလုံးသားမှ အဖုံးအကာ ဖွင့်ဖယ်ထားသူဖြစ်မည်။ ထို့ပြင် တရားလမ်းမှန်၏နူရ်ဖြင့် အလင်းရောင်ရနေသူဖြစ်မည်ဆိုလျှင် ထိုသူသည် နာခံထိုက်သူနှင့် နောက်လိုက်ထိုက်သူဖြစ်သွားသည်။ သို့ဖြစ်ရာ ထိုသူမျိုးသည် အခြားတစ်စုံတစ်ဦး၏နောက်လိုက်သူဖြစ်ရန် မထိုက်တော့ချေ။ ထိုအတွက်ကြောင့် အီမ်နေ့အဗ္ဗာစ်ﷺသခင်က 'တမန်တော်မြတ်ﷺမိန့်ဆိုမှုများကို အားလုံးမချွင်းမချန်လက်ခံရသည်။ အခြားသူတို့၏ပြောစကားများသည် ဤသို့မဟုတ်ချေ။ အခြားသူများ၏ပြောစကားမှာ ယူသည့်အခါ ယူရသလို ပယ်သည့်အခါ ပယ်ရသည်'ဟု ပြောဆိုခဲ့ခြင်းဖြစ်သည်။

အီမ်နေ့အဗ္ဗာစ်ﷺသခင်သည် ဖိကဟ်ပညာကို ဇိုက်ဒ်အီမ်နေ့ဆာဗစ်တ်ﷺသခင့်ထံမှရင်း၊ ကိရာအတ်ပညာကို အဗီအီမ်နေ့ကအ်ဘ်ﷺသခင့်ထံမှရင်း သင်ယူခဲ့သည်။ ထို့နောက် ဖိကဟ်ပညာနှင့် ကိရာအတ်ပညာနှစ်ရပ်တွင် အဗ္ဗာစ်ﷺသခင်သည် မိမိ၏ဆရာနှစ်ဦးစလုံးနှင့် သဘောကွဲလွဲခဲ့သည်။ ရှေးသူဟောင်းအချို့၏ပြောစကားရှိခဲ့သည်မှာ 'တမန်တော်မြတ်ﷺထံမှ ငါတို့ဆီသို့ ရောက်လာသမျှအရာအားလုံးကို ငါတို့သည် အကျွင်းမဲ့လက်ခံကြသည်။ ဆွဟာဗဟ်များထံမှ ငါတို့ဆီရောက်လာသော အရာများကိုမူ ငါတို့သည် အချို့ကို ကျင့်သုံးသည်။ အချို့ကို မကျင့်သုံးဘဲထားသည်။ တာဘိအီများထံမှ ငါတို့ဆီရောက်လာသော အရာများနှင့်ပတ်သက်၍ကား သူတို့လည်း လူ၊ ငါတို့လည်း လူ အတူတူပင်ဖြစ်သည်။'

ဆွဟာဗဟ်များ၏ထွတ်မြတ်ရခြင်းသည် ၎င်းတို့အနေဖြင့် တမန်တော်မြတ်ﷺ၏ဖြစ်တော်စဉ် အဆက်အစပ်များကို မျက်မြင်ကိုယ်တွေ့ ကြုံခဲ့ကြရသောကြောင့်ဖြစ်သည်။ ထိုအဆက်အစပ်များကို သိမြင်ရေးတွင် စိတ်နှလုံးများက ညွှတ်တွယ်နေခဲ့ကြသောကြောင့်ဖြစ်သည်။ ထိုအတွက်ပင် ၎င်းတို့သည် အမှန်အပေါ် ရပ်တည်နိုင်ခဲ့ကြသည်။ ထိုသို့အဆက်အစပ်များကို သိမြင်ခြင်းသည် ရိဝါယတ်ဆင့်ပြန်မှုနှင့်ပြောဆိုသည့်စကားရပ်များတွင် ပါဝင်အောင်ဖေါ်ပြနိုင်ခြင်းမရှိပေ။ ၎င်းတို့အပေါ် သွန်းဖြိုးလျက်ရှိသော နဗူဝပ်၏နူရ်အလင်းရောင်က ၎င်းတို့အား အမှားအမျိုးစုမှ ကာကွယ်ပေးခဲ့သည်။

အခြားသူထံမှ တစ်ဆင့်ကြားရမှုအပေါ် အားကိုးအားထားပြုခြင်းသည် မနှစ်သက်ဖွယ်တက္ကလီဒ်ဖြစ်သည်ဟုဆိုလျှင် စာအုပ်စာပေပြုစုရေးသားမှုများကို တက္ကလီဒ်လုပ်ခြင်းသည် ပို၍မနှစ်ဖွယ်ဖြစ်သည်။ စာအုပ်စာပေပြုစုရေးသားမှုများသည် အသစ်ပေါ်လာသောအရာဖြစ်သည်။ ဆွဟာဗဟ်များﷺ၏ခေတ်နှင့် တာဘိအီများ၏ခေတ်အစပိုင်းက မရှိခဲ့သောအရာဖြစ်သည်။ စာပေရေးသားပြုစုမှုသည် ဟီဂျ်ရီ တစ်ရာ့နှစ်ဆယ် နောက်ပိုင်းကျမှ ပေါ်လာခြင်းဖြစ်သည်။ ထိုအချိန်တွင် ဆွဟာဗဟ်သခင်များﷺအားလုံး မရှိကြတော့ပါ။ တာဘိအီသခင်အများအပြားလည်း မရှိကြတော့ပါ။ စအီဒ်အီမ်နေ့မုဆိုင်ယီဘ်သခင်၊ ဟစ်ဘာစွရီသခင်နှင့် အခြားတာဘိအီအကြီးအကဲများ ကွယ်လွန်ခဲ့ကြပြီဖြစ်သည်။

အစောပိုင်းပုဂ္ဂိုလ်များသည် ဟဒီစ်ကျမ်းများ ပြုစုခြင်းနှင့် ကျမ်းစာများ ရေးသားခြင်းကို မနှစ်သက်ခဲ့ကြပါ။ လူတို့သည် စာအုပ်များရှိနေသည့်အတွက် ပညာကို မှတ်ဉာဏ်ဖြင့် မှတ်သားခြင်း မပြုတော့မည်ကိုရင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်ခြင်းမပြုတော့မည်ကိုရင်း၊ ကျမ်းမြတ်ကို လိုက်စားခြင်းမပြုတော့မည်ကိုရင်း စဉ်းစားမိကြ၍ထိုသို့မနှစ်သက်ကြခြင်းဖြစ်သည်။ ထိုသခင်များက 'ငါတို့ကျက်မှတ်ထိန်းသိမ်းခဲ့သလို အသင်တို့လည်း ကျက်မှတ်ထိန်းသိမ်းကြပါ'ဟု ပြောဆိုခဲ့ကြသည်။ ထိုအတွက်ကြောင့်ပင် အဗူဗကရ်ﷺသခင်နှင့် ဆွဟာဗဟ်အုပ်စုတစ်ခုက

ကျမ်းမြတ်ကုရ်အာန်ကို စံကျမ်းတော်မူဖြစ်အောင် စီစဉ်ခြင်းကို မနှစ်သက်ခဲ့ကြခြင်းဖြစ်သည်။ ၎င်းတို့က 'တမန်တော်မြတ်ﷺမလုပ်ခဲ့သောအရာကို ငါတို့အဘယ်ကြောင့်လုပ်ရမည်နည်း'ဟု ဆိုကြသည်။ ထိုသခင်တို့က စာအုပ်အသွင်ဖြင့် ရှိနေသောကျမ်းတော်မူ အားကိုးဖြင့် ကျမ်းတော်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း မပြုတော့မည်ကို စိုးရိမ်ခဲ့ကြသည်။ ထိုသခင်တို့က–

'ငါတို့ ကျမ်းမြတ်ကုရ်အာန်ကို ဤအတိုင်းထားကြမည်။ သို့မှသာ လူတို့သည် ကျမ်းတော်ကို တစ်ဦးမှတစ်ဦး သင်ယူကြလိမ့်မည်။ မိမိတို့၏အရေးကိစ္စကို အရေးတစ်စိုက်ရှိကြလိမ့်မည်'ဟု ပြောဆိုကြသည်။ သို့နှင့်တိုင် အိုမရ်သခင်နှင့်ကျန်ဆွဟာဗဟ်များ꙰က ကျမ်းမြတ်ကုရ်အာန်ကို ရေးသားမှတ်တမ်းတင်ရန် ညွှန်ကြားခဲ့ကြသည်။ လူတို့သည် ပေါ့ပေါ့ဆဆဖြစ်ကုန်ကြပြီး ကျမ်းမြတ်ကုရ်အာန်ကို ကျက်မှတ်ထားသူ မကျန်ရှိတော့မည့်အရေးကို စိုးရိမ်ကြသောကြောင့်ဖြစ်သည်။ စာလုံးအက္ခရာတွင်၎င်း၊ ဆင်တူရိုးမှားရှိနေသောဖတ်ရွတ်မှုတွင်၎င်း အငြင်းပွါးမှုရှိလာပါက မူရင်းကျမ်းတော်မူဖြင့် ဖြေရှင်းနိုင်မည်ဖြစ်သည်။ ဤအချက်ကို အဗူဗကရ်꙰သခင်လည်း အသိပွင့်နားလည်လာခဲ့သည်။ ဤနည်းဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ကျမ်းတော်မူတစ်ခုတည်းအဖြစ် စုစည်းပြုစုခဲ့သည်။

အိမာမ်အိဗ်နေ့ဟန်ဘလ်꙰သခင်သည် အိမာမ်မာလိက်꙰သခင်က မုအပ်တွာကျမ်းပြုခဲ့သည့်အပေါ် ငြင်းချက်ထုတ်ခဲ့သည်။ အိမာမ်အိဗ်နေ့ဟန်ဘလ်꙰သခင်က 'အိမာမ်မာလိက်꙰သည် ဆွဟာဗဟ်သခင်များ꙰မလုပ်ခဲ့သည့်အလုပ်ကို တီထွင်လိုက်ပြီ'ဟု ပြောဆိုခဲ့သည်။ အစ္စလာမ်သာသနာတွင် ပထမဆုံးပြုစုခဲ့သောကျမ်းသည် အိဗ်နေ့ဂျူရိုက်ဂ်꙰၏ကျမ်းဖြစ်သည်ဟု အဆိုရှိခဲ့သည်။ ထိုကျမ်း၌ ဆွဟာဗဟ်ဩဝါဒများကို စုစည်းထားသည်။ ထို့ပြင် မုဂျာဟိဒ်꙰သခင်၊ အတ္တာ꙰သခင်နှင့် အိဗ်နေ့အဗ္ဗာစ်꙰သခင်၏တပည့်များထံမှ ရရှိသော တဖ်စီရ်ရှင်းလင်းချက်များကို ဖေါ်ပြထားသည်။ ထိုကျမ်းကို မက္ကာမြို့တွင် ရေးသားခဲ့သည်။ ထို့နောက် ဆွန်အာမြို့သား မုအမ်မရ်အိဗ်နေ့ရာရှိဒ်꙰၏ကျမ်းပေါ်လာသည်။ ထိုကျမ်းတွင် တမန်တော်မြတ်ﷺ၏စွန္နတ်တော်များကို စုစည်းထားပြီး ယမန်နိုင်ငံ၌ ရေးသားခဲ့ခြင်းဖြစ်သည်။ ထို့နောက် အိမာမ်မာလိက်꙰သခင်က မဒီနာတွင် မုအပ်တွာကျမ်းကို ပြုစုခဲ့သည်။ ထို့နောက် ဆွဖ်ယန်ဆော်ရ်ရီ꙰သခင်က ဂျာမေအ်ကျမ်းကို ပြုစုခဲ့သည်။

ဟီဂျ်ရီလေးရာစုသို့ရောက်သောအခါ ကလာမ်ပညာဆိုင်ရာအရေးအသားများကို စတင်ဖေါ်ထုတ်လာကြသည်။ စကားစစ်ထိုးခြင်းနှင့် အကျိုးမဲ့ကိစ္စများတွင် အများအပြားငုတ်လျှိုးလာကြသည်။ ထို့နောက်မှ လူတို့သည် ကွက်စိပ်နှင့်အဟောအပြောဘက်သို့ စိတ်ဝင်စားကြပြန်သည်။ ထိုအချိန်မှစ၍ ယကီန်ပညာကို လေ့လာလိုက်စားမှုများ လျော့နည်းသွားခဲ့သည်။ နောက်ပိုင်းတွင် နလုံးသားများ၏အခြေအနေကို သိသည့်အသိပညာ၊ စေတသိတ်၏ဝိသေသများကို စိစစ်သုံးသပ်ခြင်း၊ ရှိုင်တွာန်၏ပရိယာယ်များကို သိသည့်အသိပညာများသည် ထူးဆန်းထွေလာကိစ္စများဖြစ်ကုန်ကြတော့သည်။ လူတို့သည် ထိုအသိပညာများကို ဥပက္ခာပြုထားလိုက်ကြပြီး စိတ်ဝင်စားသူဟူ၍ လူနည်းစုကလေးသာရှိလေတော့သည်။

ယခုအခါ ကလာမ်ပညာနှင့် မုနာဇရာတတ်ကျွမ်းသူကိုသာ ပညာရှင်ဟု ခေါ်နေကြသည်။ ကွက်စိပ်ပုံပြင်များကို စကားတန်ဆာဆင်၍ ကာရံနဘေများဖြင့် ဟောပြောတတ်သူကိုသာ အာလင်မ်ဟု ခေါ်နေကြသည်။ ဤသို့ရှိရခြင်းမှာ ထိုပုဂ္ဂိုလ်တို့၏အဟောအပြောများကို နားထောင်သူများသည် လူသာမန်များဖြစ်ကြသည်။ ၎င်းတို့သည် အစစ်အမှန်ပညာနှင့် အစစ်အမှန်မဟုတ်သောပညာကို ခွဲခြားနိုင်ခြင်းမရှိကြချေ။ ထို့ပြင် ဆွဟာဗဟ်꙰သခင်တို့၏ဘဝသရုပ်နှင့် အသိပညာကိုလည်း ၎င်းတို့သည် ရှင်းလင်းစွာသိနားလည်ခြင်းမရှိကြပေ။ သို့ဖြစ်၍ပင် ၎င်းတို့အနေဖြင့် မိမိတို့ခေတ်တွင်ရှိနေကြသော ပညာရှင်အမည်ခံသူများသည် ရှေးသူဟောင်းတို့နှင့် လုံးဝဆန့်ကျင်ဘက်ဖြစ်နေမှန်းလည်း မသိကြပေ။ သို့နှင့်အမျှ နှုတ်လျှာမှ ပညာအကြောင်း တစ်စုံတစ်ရာ ပြောလာသူမှန်သမျှကို ပညာရှင်ဟု

ခေါ်လိုက်ကြလေသည်။ ၎င်းတို့နောက် ဆက်လာသူများကလည်း မိမိတို့ရှေးသွားပုဂ္ဂိုလ်များ၏ခြေရာကို လိုက်နင်းကြလေသည်။ နောက်ဆုံးတွင် အာခိရတ်ပညာသည် တိမ်မြုပ်သွားလေတော့သည်။

သီးသန့်ပညာရှင်များမှလွဲ၍ ဓမ္မပညာနှင့်ကလာမ်ပညာကို ခွဲခြားနိုင်သူလည်းမရှိတော့ပေ။ ထိုသီးသန့်ပုဂ္ဂိုလ်တို့အား 'မည်သူသည် ပညာပိုတတ်သလဲ'ဟု မေးခဲ့လျှင်၊ 'မည်သူက ဓမ္မပညာ ပိုတတ်သည်။ မည်သူက ကလာမ်ပညာ ပိုတတ်သည်'ဟု အဖြေပေးကြသည်။ ထိုသီးသန့်ပုဂ္ဂိုလ်တို့သည် ဓမ္မပညာနှင့် ကလာမ်ပညာကို ခွဲခြားသိမြင်ကြသည်။ ဤသည်မှာ ရှေးခေတ်များက သာသနာရေးတွင် အားနည်းခဲ့ပုံဖြစ်သည်။ ယခုခေတ်အတွက်ကား အထူးပြောစရာပင် မလိုတော့ပေ။ ယခုခေတ်တွင် ကလာမ်ပညာကို ငြင်းဆန်မိလျှင် အရှုံးအနှမ်း စွပ်စွဲခံရမည့်ကိန်းဆိုက်နေပြီဖြစ်သည်။ သို့ဖြစ်ရာ အကောင်းဆုံးမှာ လူသားသည် မိမိ၏စေတသိတ်အတွက် သောကပိုက်ပြီး တိတ်တဆိတ်နေလိုက်တော့ရန်ဖြစ်သည်။

**အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာနောက်တစ်ခုမှာ**– ဗိဒအတ်တရားသစ်များကို ရှောင်ရှားခြင်းဖြစ်သည်။ လူအများစုက ထိုဗိဒအတ်များကို တစ်ညီတစ်ညွတ်တည်း လိုက်နာကျင့်သုံးနေသော်လည်း မိမိဘက်မှ ရှောင်ရှားရမည်။ ဆွဟာဗဟ်သခင်များ ၏ မရှိသည့်နောက် အသစ်ပေါ်လာသည့်ကိစ္စများတွင် လူတို့ တစ်စိတ်တစ်ဝမ်းတည်းရှိနေခြင်းက အသင့်ကို ထင်ယောင်ထင်မှားမဖြစ်စေသင့်ပေ။ သို့နှင့်အမျှ ဆွဟာဗဟ်များ၏ အခြေအနေ၊ ဘဝသရုပ်နှင့် ကျင့်မှုရာများကို မက်မက်မောမော စူးစမ်းလေ့လာရမည်။

ဆွဟာဗဟ်များသည် စာပေပို့ချခြင်း၊ ရေးသားပြုစုခြင်း၊ မုနာဇရာလုပ်ခြင်း၊ တရားရေးနှင့်အုပ်ချုပ်ရေးတွင် ပါဝင်ခြင်း၊ ဝကဖ်များကို ကြီးကြပ်ခြင်း၊ ဖတဆိုးမိတဆိုးတို့၏ပစ္စည်းနှင့် ယုံမှတ်အပ်နှံပစ္စည်းများကို ထိန်းသိမ်းပေးခြင်း၊ အာဏာပိုင်တို့နှင့် ရောနှောခြင်း၊ ၎င်းတို့နှင့် ဖက်လဲတကင်း ရင်းနှီးဝင်ဆံ့ခြင်းများပြုလုပ်ခဲ့ကြပါသလား။ သို့မဟုတ် ဆွဟာဗဟ်များသည် အလ္လာဟ်အရှင်ကို အကြောက်ထားခြင်း၊ သောကရှိခြင်း၊ တရားသဘောဆင်ခြင်ခြင်း၊ ဇွဲခတ်ကြိုးပမ်းခြင်း၊ အပြင်ပိုင်းနှင့်အတွင်းပိုင်း မုရာကဘာလုပ်ခြင်း၊ ကြီးသည် ငယ်သည်မဟူ မကောင်းမှုဒုစရိုက်များကို ရှောင်ကျဉ်ခြင်း၊ စေတသိတ်တို့တွင် ဖုံးအုပ်စွာရှိနေသောအလိုဆန္ဒများကိုသိခြင်း၊ ရှိုင်တွာန်၏မာယာများကို သိခြင်းအစရှိသည့် အဇ္ဈတ္တပညာရပ်များကို သိနိုင်ရန် မက်မက်မောမောရှိခဲ့ကြသလား။

ခေတ်လူတို့တွင် ဆွဟာဗဟ်များနှင့် အတူဆင်ဆုံး၊ ၎င်းရှေးသူဟောင်းတို့၏တရားလမ်းစဉ်ကို အသိကျွမ်းဆုံးသူသည်သာ ပညာအရှိဆုံး၊ ၎င်းအမှန်တရားနှင့်အနီးကပ်ဆုံးလူဖြစ်ကြောင်း ခြေမြစ်စွာသိထားရမည်။ အဘယ်ကြောင့်ဆိုသော် သာသနာသည် ထိုပုဂ္ဂိုလ်များထံမှ ယူထားခြင်းဖြစ်သောကြောင့်ပင်။ သို့ဖြစ်သောကြောင့် အလီ သခင်က 'ငါတို့အထဲတွင် အကောင်းဆုံးသူသည် ဤသာသနာကို အလိုက်နာဆုံးသူဖြစ်သည်'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ သခင့်အား တစ်စုံတစ်ဦးက 'အသင်သည် မည်သူနှင့် ဆန့်ကျင်လျက်ရှိသည်'ဟု ပြောဆိုသည့်အခါ ဤသို့မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ သခင်က ဆိုလိုသည်မှာ အကယ်၍ အသင်တို့သည် တမန်တော်မြတ်၏ခေတ်နှင့် ကိုက်ညီစွာရှိမည်ဆိုလျှင် မိမိတို့ခေတ်၏လူများနှင့် ဆန့်ကျင်ကွဲလွဲသည်ကို ဂရုစိုက်စရာမလိုပါ။ အဘယ်ကြောင့်ဆိုသော် လူတို့သည် မိမိတို့၏စိတ်သဘာဝ ယိမ်းယိုင်ရာဘက်သို့ အယူအဆသဘောထားများ ထားရှိကြသည်။ ထို့ပြင် ထိုအယူအဆများသည် ဂျန္နတ်နှင့် လက်လွတ်ဆုံးရှုံးစေမည့်အယူအဆများဖြစ်သည် ဆိုခြင်းအပေါ် ဝန်ခံရန် ၎င်းတို့၏စိတ်က ရှာရှာရှူရှူမရှိပေ။ သို့သာမက ၎င်းတို့၏အယူအဆမှလွဲ၍ ဂျန္နတ်သို့သွားရန် လမ်းမရှိဟုပင် ကြွေးကြော်လျက်ရှိကြသည်။

ထိုအတွက်ကြောင့် ဟစ်ဘဇ္ဇရီ သခင်က 'အစ္စလာမ်တွင် လူအသစ် နှစ်မျိုးနှစ်စား ပေါ်ထွက်လျက်ရှိသည်။ လူတစ်မျိုးမှာ အယူအဆပျက်ပြားနေသူဖြစ်သည်။ ၎င်းသည် အယူအဆပျက်ပြားရုံမက ဂျန္နတ်သည် မိမိအယူအဆ

အတိုင်း လိုက်ပါယူဆသူအတွက်ဖြစ်သည်ဟု မှတ်ယူနေသည်။ နောက်လူတစ်မျိုးမှာ ဒွန္နယာကို ကိုးကွယ်နေသော စည်းစိမ်ရှင်ဖြစ်သည်။ ၎င်းသည် ထိုစည်းစိမ်အတွက် အမျက်ဒေါသဖြစ်သည်။ ထိုစည်းစိမ်အတွက် ကျေနပ်နှစ်သက်သည်။ ထိုစည်းစိမ်ကိုသာ လိုလားရှာဖွေသည်။ ဤလူနှစ်မျိုးကို ကြဉ်ထားလိုက်ကြ။ သူတို့ ဂျဟန္နမ်သွားပါစေ'ဟု ဆိုမိန့်ခဲ့သည်။ လူတစ်ယောက်သည် ဤကမ္ဘာလောကတွင် ရှိနေစဉ် ၎င်းအား တစ်ဘက်မှ စည်းစိမ်ရှင်က လောကီလိုက်စားရန် ဆွဲဆောင်နေမည်ဖြစ်ပြီး၊ အခြားတစ်ဘက်တွင် ဗိဒအတ်သမားက မိမိ၏အယူအဆပျက်ပြားမှုဘက်သို့ ဆွဲဆောင်နေမည်ဖြစ်သည်။ သို့သော် ထိုသူသည် ရှေးသူဟောင်းသူတော်ကောင်းတို့အား စွဲလန်းမြတ်နိုးသူဖြစ်မည်။ ထို့ပြင် ထိုပုဂ္ဂိုလ်တို့၏ကျင့်ဆောင်မှုများကို မေးမြန်းစုံစမ်းပြီး ၎င်းတို့၏ခြေရာအတိုင်း လျှောက်လှမ်းမည်။ ထို့ပြင် ထိုသူသည် ကြီးကျယ်သောအကျိုးစွဝါဗ်ကို မျှော်ကိုးသူဖြစ်မည်ဆိုလျှင် အလ္လာဟ်အရှင်သည် ထိုသူ့ကို စည်းစိမ်ရှင်နှင့် ဗိဒအတ်သမား၏ဆွဲဆောင်မှုများမှ ကာကွယ်စောင့်ရှောက်တော်မူမည်ဖြစ်သည်။ သို့ဖြစ်ရာ အသင်တို့သည် ထိုပုဂ္ဂိုလ်မျိုးကဲ့သို့ ကျင့်သုံးပါလေ။

အီဗ်နေ့မတ်စအူဒ်ﷺသခင့်ထံမှ မော်ကူဖ်၎င်း မွစ်နဒ်ဆင့်ပြန်ချက်တစ်ရပ်လာရှိသည်မှာ–

إنما هما اثنتان الكلام و الهدى ، فأحسن الكلام كلام الله تعالى ، و أحسن الهدى رسول اللهتعالى ﷺ ، ألا و إياكم و محدثات الأمور ، فإن شر الأمور محدثاتها ، و إن كل محدثة بدعة ، و إن كل بدعة ضلالة ، ألا لا يطولن عليكم ألامد فتقسو ا قلوبكم ، ألا كل ما قريب ، ألا إن البعيد ما ليس بآت . (ق)

'ရှိနေသည်မှာ နှစ်ခုတည်းသာဖြစ်၏။ ယင်းမှာ **ပြောဆိုမှုနှင့်သရုပ်ပြမှုဖြစ်သည်။** အကောင်းဆုံးပြောဆိုမှုသည် အလ္လာဟ်အရှင်၏မိန့်ခွန်းတော်ဖြစ်သည်**။ ထို့နောက် အကောင်းဆုံးအကျင့်စာရိမှာ** တမန်တော်မြတ်ﷺ၏အကျင့်စာရိဖြစ်သည်။ သတိမြဲကြကုန်**။ အသင်တို့သည် အသစ်ပေါ်လာသောတရားသစ်များမှ ဝေးစွာရှောင်ရှားကြကုန်။ အဆိုးဆုံးအရာသည် တရားသစ်များဖြစ်သည်။** တရားသစ်များအားလုံးသည် ဗိဒ**အတ်ချည်းဖြစ်သည်။ ဗိဒအတ်များအားလုံးသည် လမ်းမှားမှုချည်းဖြစ်သည်။** သတိရှိကြကုန်။ အသင်တို့၏သက်တမ်းကို **ရှည်ကြာလှသည်ဟု မထင်မှတ်ကြနှင့်။** ထိုသို့ထင်မှတ်လျှင် အသင်တို့၏နှလုံးသားများ မာကျောခက်ထန်ကုန်လိမ့်မည်။ **သတိရှိကြကုန်။ လာမည့်အရာသည်** နီးကပ်လျက်ရှိပြီ။ သတိထားကြကုန်။ ဝေးသွားပြီဖြစ်သော အရာသည် **တဖန်ရောက်လာတော့မည်မဟုတ်။**'

ခွတ္တဗာတစ်ခုတွင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

طوبى لمن شغله عيبه عن عيوب الناس ، أنفق من مال اكتسبه من غير معصية وخالط أهل الفقه و الحكم وجانب أهل الزلل و المعصية ، طوبى لمن ذل في نفسه وحسنت خليقته وصلحت سريرته وعزل عن الناس شره ، طوبى لمن عمل بعلمه و أنفق من ماله و أمسك الفضل من قوله ووسعته السنة ولم يعهدها إلى بدعة . (نع)

'အကြင်သူသည် လူတို့၏အပြစ်ကို မမြင်ဘဲ မိမိ၏အပြစ်ကို မြင်မည်ဆိုလျှင်၎င်း၊ အပြစ်ကျူးလွန်မှု မပါရှိဘဲ ရှာဖွေထားသည့် မိမိ၏ပစ္စည်းကို သုံးစွဲမည်ဆိုလျှင်၎င်း၊ ထိုသူသည် ဖိကဟ်တတ်များနှင့် ပေါင်းသင်းပြီး အပြစ်ကျူးလွန်သူများမှ ရှောင်ဖယ်မည်ဆိုလျှင်၎င်း ထိုသူ့အဖို့ ကောင်းလေစွ။ ထို့ပြင် အကြင်သူသည် မိမိကိုယ်ကို အသေးအသိမ် မှတ်ယူမည်၊ ၎င်း၏အကျင့်စာရိတ္တက ကောင်းမွန်မည်၊ ၎င်း၏အတွင်းပိုင်းက မှန်ကန်မည်၊ မိမိ၏ဆိုးရွားမှုများမှ လူတို့အား ဝေးကွာစေမည်ဆိုလျှင် ထိုသူ့အဖို့ ကောင်းလေစွ။ ထို့ပြင် အကြင်သူသည် မိမိ၏အသိနှင့်အညီ ကျင့်သုံးမည်၊ မိမိ၏ပိုလျှံသောပစ္စည်းကို အလ္လာဟ့်လမ်းတွင် သုံးစွဲမည်၊ မလိုအပ်သောစကားကို မပြောဘဲနေမည်၊ စွန္နတ်က ထိုသူ့ကို လွှမ်းခြုံထားမည်၊ ဗိဒအတ်ဘက်သို့ မကျူးကျော်ဘဲနေမည်ဆိုလျှင် ထိုသူ့အဖို့ ကောင်းလေစွ။'

အီဗ်နေ့မတ်စအူဒ်ﷺသခင်က 'နောင်းခေတ်သမယတွင် ကျင့်ကြံအားထုတ်မှုများပြားခြင်းထက် အကျင့်စာရကောင်းမွန်ခြင်းက ပို၍ကောင်းမည်ဖြစ်သည်'ဟု ဆိုမိန့်လေ့ရှိသည်။ ထို့ပြင် သခင်က 'အသင်တို့အထဲတွင် အမြတ်ဆုံးသူသည် ကောင်းမှုကောင်းရာကို အလျင်အမြန်ပြုလုပ်သောသူဖြစ်သည်။ ဤသည်မှာ အသင်တို့ရောက်ရှိနေကြသောခေတ်အတွက်ဖြစ်သည်။ အသင်တို့၏နောက် ခေတ်တစ်ခေတ်ရောက်လာလိမ့်မည်။ ထိုခေတ်တွင် အမြတ်ဆုံးသူသည် ဒွိဟသံသယ ထုပြောများပြားစွာရှိသည့်ကြားက မယိမ်းမယိုင်ကြံ့ကြံ့ခံရပ်တည်သူဖြစ်သည်'ဟု မိန့်ဆိုခဲ့၏။ အီဗ်နေ့မတ်စအူဒ်ﷺသခင်၏ဤဆိုမိန့်မှုသည် မှန်လှပေသည်။ အဘယ်ကြောင့်ဆိုသော် ယခုခေတ်တွင် လူတစ်ဦးသည် ကြံ့ခိုင်စွာရပ်တည်ခြင်းမရှိဘဲ၊ လူအများကျင့်သုံးသည့်အတိုင်း လိုက်၍ကျင့်သုံးမည်၊ လူအများနစ်မွန်းသည့်အတိုင်း လိုက်ပါနစ်မွန်းမည်ဆိုလျှင် လူအများပျက်စီးသလို ထိုသူလည်း ပျက်စီးရမည်သာဖြစ်သည်။

ဟုဇိုင်ဖဟ်ﷺသခင်က ထို့ထက်ပို၍ ထူးဆန်းသည့်စကားကို ဆိုမိန့်ခဲ့သေးသည်။ သခင်၏ဆိုမိန့်ချက်မှာ– 'ယနေ့ခေတ်ရှိ အသင်တို့၏ကောင်းမှုလုပ်ငန်းသည် ကုန်လွန်ခဲ့သည့်ခေတ်က မကောင်းမှုဖြစ်သည်။ တဖန် ယနေ့ခေတ်တွင် အသင်တို့က မကောင်းမှုဟု သတ်မှတ်ထားသောအရာသည် နောင်လာမည့်ခေတ်တွင် ကောင်းမှုကောင်းရာကိစ္စဖြစ်သွားလိမ့်မည်။ ထိုတွင် အသင်တို့သည် အမှန်တရားကို သိကြသည်နှင့်အမျှ၊ အသင်တို့အထဲမှ ပညာရှင်က အမှန်တရားကို မကွယ်မဝှက် ဟောပြောပို့ချသည်နှင့်အမျှ၊ အသင်တို့သည် ကောင်းသောအဖြစ်နှင့် ရှိနေကြမည်'ဟု ဖြစ်သည်။ ဟုဇိုင်ဖဟ်ﷺသခင်၏မိန့်ဆိုမှုသည်လည်း မှန်လှပေသည်။ အဘယ်ကြောင့်ဆိုသော် ယခုခေတ်၏ကောင်းမှုကောင်းရာအများစုသည် ဆွဟာဗဟ်များﷺ၏ခေတ်က မနှစ်သက်ခဲ့သည့်လုပ်ရပ်များဖြစ်သည်။

ကျွန်ုပ်တို့၏ခေတ်တွင် ကောင်းမှုကောင်းရာကိစ္စများဖြစ်သည်ဟူသော လှည့်စားမှုဖြင့် ဗလီများကို လှပတင့်တယ်စွာချယ်လှယ်လျက်ရှိကြသည်။ ဗလီအဆောက်အဦးကို ကြီးကျယ်ခန်းနားစွာဆောက်လုပ်နေကြသည်။ ဗလီ၏အသေးစိတ်မွမ်းမံမှုများတွင် ငွေကြေးအမြောက်အမြားသုံးစွဲလျက်ရှိကြသည်။ အဖိုးတန်သော အခင်းအကျင်းများကို ခင်းကျင်းကြသည်။ ဗလီတွင် ဖျာခင်းခြင်းသည်ပင် ဗိဒအတ်ဖြစ်ခဲ့သည်။ ထိုသို့ခင်းကျင်းခြင်းသည် ဟဂျာဂျ်အီဗ်နေ့ယူစွဖ် စတင်ခဲ့သော တရားသစ်တီထွင်မှုများအနက်မှဖြစ်သည်ဟု အဆိုရှိသည်။ အာဒိပုဂ္ဂိုလ်များသည် ၎င်းတို့နှင့်မြေကြီးအကြားတွင် အနည်းငယ်လောက်သာ အကာအဆီးထားခဲ့ကြသည်။

စကားစစ်ထိုးမှုနှင့် မုနာဇရာပညာ၏ခက်ရာခက်ဆစ်အကြောင်းအရာများကို လိုက်စားကြရာတွင်လည်း ဤနည်းနှင်နှင်သာဖြစ်သည်။ ယင်းတို့ကို ခေတ်လူတို့က အလွန်အဆင့်မြင့်သောပညာရပ်များဟု ထင်မှတ်နေကြသည်။ ယင်းပညာရပ်များကို လိုက်စားခြင်းဖြင့် ကြီးကျယ်သောအကျိုးစွဝါဗ်များရမည်ဟုလည်း ဆိုနေကြသည်။ သို့နှင့်တိုင် ထိုပညာရပ်များမှာ ရှေးသူတော်စင်များ မနှစ်မြို့ခဲ့သောပညာရပ်များဖြစ်သည်။

ကျွန်ုပ်တို့ခေတ်တွင် လူတို့က ကောင်းမှုကောင်းရာများဟု မှတ်ယူနေကြသောအရာများတွင် ကုရ်အာန်ကျမ်းမြတ်နှင့် အာဇာန်ကို အလိုက်အသွားဖြင့် ဖတ်ရွတ်ခြင်း၊ သန့်စင်မှုကို အလွန်အကျွံပြုခြင်း၊ သန့်ရှင်းရာတွင် ဝစ္ဆဝစ္ဆာဖြစ်ခြင်း၊ အဝတ်အထည်များ မသန့်လူးထိသည့်ကိစ္စကို ပုံကြီးချဲ့တတ်ပြီး၊ အစားအသောက်များ ဟလာလ်ဖြစ်ခြင်း ဟရာမ်ဖြစ်ခြင်းကိုမူ ခပ်ပေါ့ပေါ့သဘောထားခြင်း–စသည်တို့ပါဝင်သည်။ အီဗ်နေ့မတ်စအူဒ်ﷺသခင်၏ဤမိန့်ဆိုမှုသည် မှန်လှပေသည်။ သခင်က 'စိတ်အလိုဆန္ဒက ပညာ၏နောက်သို့လိုက်သော ခေတ်ကာလတွင် ယနေ့အသင်တို့ ရှိနေကြသည်။ ထို့နောက် ခေတ်တစ်ခေတ်သည် အလျင်အမြန်ရောက်ရှိလာလိမ့်မည်။ ထိုခေတ်တွင် ပညာသည် စိတ်အလိုဆန္ဒ၏နောက်သို့ လိုက်မည်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ﷺသခင်ကမူ– 'ပညာကို စွန့်ထားကြလိမ့်မည်။ အထူးအဆန်းကိစ္စများတွင် စိတ်ဝင်စားကြလိမ့်မည်။ ထိုကိစ္စများတွင် ပညာအနည်းငယ်မျှသာပါရှိသည်။ အလ္လာဟ်အရှင် ကူတော်မူပါစေ'ဟု ပြောဆိုလေ့ရှိသည်။

အိမာမ်မာလိက်ٰ သခင်က မိန့်ဆိုသည်မှာ 'ယနေ့ခေတ်လူတို့ မေးမြန်းကြသည့်အရာများကို ကုန်လွန်ခဲ့သည့်ခေတ်ကလူတို့ မမေးခဲ့ကြပေ။ ထိုခေတ်က ဓမ္မပညာရှင်များသည် ဟရာမ်၊ ဟလာလ်အကြောင်းများကိုလည်း မပြောဆိုခဲ့ကြပေ။ သို့သော် ထိုပုဂ္ဂိုလ်များက မွတ်စတဟဗ်နှင့် မက္ကရူဟ်အကြောင်း ပြောဆိုသည်ကို ကျွန်ုပ်တွေ့ခဲ့ရသည်။'

သခင်က ဆိုလိုသည်မှာ ထိုပညာရှင်တို့သည် မက္ကရူဖြစ်ခြင်းနှင့်မွတ်စတဟဗ်ဖြစ်ခြင်း၏အနုစိတ်ကိစ္စရပ်များကို စူးစိုက်ခဲ့ကြသည်။ ဟရာမ်မှ ရှောင်ရှားရန်မှာမူ ထင်ရှားပြီးဖြစ်သည်။

ဟိရာမ်အိဗ်နေ့အုရ်ဝါٰ သခင် ဆိုမိန့်လေ့ရှိသည်မှာ 'ယနေ့ခေတ်ပညာရှင်များထံမှ ၎င်းတို့၏တွင်လုံးများကို မမေးကြနှင့်။ ထိုအကြောင်းမေးလျှင် ၎င်းတို့က လက်တန်းအဖြေကိုသာ ပေးကြလိမ့်မည်။ ၎င်းတို့ထံမှ စွန္နတ်နှင့်သက်ဆိုင်ရာများကို မေးကြကုန်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် စွန္နတ်ကို မသိကြပေ။' အဗူဆုလိုင်မာန်ဒါရာနီٰ သခင်ကမူ 'တစ်စုံတစ်ဦးသည် မိမိ၏စိတ်တွင် ကောင်းသောကိစ္စရပ်တစ်ခု ပေါ်လာရုံဖြင့် လက်တွေ့ကျင့်သုံးခြင်းမပြုသင့်သေးချေ။ ထိုကိစ္စသည် ဟဒီစ်သြဝါဒတွင် ဖေါ်ပြထားကြောင်း ကြားသိရပြီဆိုမှသာ ကျင့်သုံးသင့်သည်။ မိမိစိတ်တွင် ပေါ်လာသောကိစ္စသည် ထိုသို့ကိုက်ညီမှုရှိကြောင်း သိရသည့်အခါ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ရမည်'ဟု ဆိုမိန့်လေ့ရှိခဲ့သည်။ ယခုအခါတွင် အတွေးအမြင်အသစ်အဆန်းများ ပေါ်ထွက်လျက်ရှိသဖြင့် အဗူဆုလိုင်မာန်ဒါရာနီٰ သခင်က ဤသို့ဆိုမိန့်ခြင်းဖြစ်သည်။ လူတို့သည် ထိုအတွေးအမြင်များကို ကြားကြပြီး စိတ်နှလုံးများတွင် စွဲယူထားလိုက်ကြသည်။ စိတ်နှလုံးများက ကြည်လင်စင်ကြယ်မှု လျော့နည်းနေသည့်အပေါ်မှာ အချို့အချိန်အခါများတွင် အမှားကို အမှန်ဟု ထင်မြင်တတ်သည်။ သို့ဖြစ်ရာ ထိုအတွေးအမြင်များကို ဂရုပြုအပ်သည်။ သြဝါဒများ၏ထောက်ခံအတည်ပြုချက်ရရှိမှသာ လက်တွေ့ကျင့်သုံးအပ်သည်။

ထိုကြောင့်ပင် မရ်ဝါန်က အီဒ်နမာဇ်အတွက် အီဒ်ဂါကွင်းပြင်တွင် မင်န်ဘရ်တရားပလ္လင်ကို ပြုလုပ်စေသောအခါ အဗူစအီဒ်ခွဒ်ရီ ﷺ သခင်က ထရပ်ခဲ့သည်။ သခင်က 'အို မရ်ဝါန်၊ ဤအရာသည် ဗိဒအတ်မဟုတ်ပါသလော'ဟု ပြောဆိုခဲ့သည်။ ထိုအခါ မရ်ဝါန်က 'ဤအရာသည် ဗိဒအတ်မဟုတ်ပါ။ ဤအရာသည် အသင်သိထားသည်ထက် ပိုကောင်းသောအရာဖြစ်သည်။ လူဦးရေ များလာပြီ။ လူအားလုံးထံ အသံရောက်ရန် ကျွန်ုပ်လိုလားသည်'ဟု အဖြေပေးသည်။ ထိုအခါ အဗူစအီဒ်ခွဒ်ရီ ﷺ သခင်က 'အလ္လာဟ်ကစမ်၊ ငါသိထားသည်ထက် ပိုကောင်းအောင် အသင်ဘယ်တော့မှ လုပ်နိုင်မည်မဟုတ်ပါ။ ထို့ပြင် အလ္လာဟ်ကစမ်၊ ယနေ့ ငါသည် သင်၏နောက်က နမာဇ်ဖတ်မည်မဟုတ်ပါ'ဟု ပြောလေသည်။ အဗူစအီဒ်ခွဒ်ရီ ﷺ သခင် ထိုကဲ့သို့ငြင်းဆန်ရခြင်းမှာ တမန်တော်မြတ် ﷺ သည် အီဒ်နှင့်မိုးဆုပန်နမာဇ်များ၏ခွတ္တဘာကို မင်န်ဘရ်ဖြင့် မိန့်မြွက်ခဲ့ခြင်းမရှိသောကြောင့်ဖြစ်သည်။ တမန်တော်မြတ် ﷺ သည် လေးကိုင်း သို့မဟုတ် တောင်ဝှေးကို ထောက်၍မြွက်ကြားခဲ့သည်။ (၂)

ကျော်ကြားသောဟဒီစ်တစ်ပုဒ်တွင် ပါရှိသည်မှာ—

من أحدث فى ديننا ما ليس منه فهو رد . (خ.م)

'အကြင်သူ ငါ၏သာသနာတွင် မရှိခဲ့သောအရာကို အသစ်ထွင်ခဲ့လျှင် ထိုသူသည် ချေဖျက်ရမည့်သူဖြစ်သည်။'

ထို့ပြင် ဟဒီစ်တစ်ပုဒ်တွင် တမန်တော်မြတ် ﷺ မိန့်ဆိုထားသည်မှာ—

من غش أمتي فعليه لعنة الله و الملائكة و الناس أجمعين ، قيل : يا رسول الله وما غش أمتك ؟ قال : أن يبيدع بدعة يحمل الناس عليها . (قط)

'အကြင်သူသည် ငါ၏အွမ္မတ်ကို လိမ်ဆယ်ဖြားယောင်းလျှင် ထိုသူ့အပေါ် အလ္လာဟ်အရှင့်လအ်နတ်၊ ကောင်းကင်တမန်များနှင့် လူသားအပေါင်း၏လအ်နတ်ကျိမ်ဆိုမှုများ ကျရောက်မည်ဖြစ်သည်။ ထိုသို့မိန့်

ဆိုသောအခါ တမန်တော်မြတ်ﷺအား 'အို အလ္လာဟ်၏ရစူလ်တမန်တော်၊ ကိုယ်တော့်အွမ္မတ်ကို လီဆယ်ဖြားယောင်းခြင်းသည် မည်သို့ပါလဲ'ဟု မေးမြန်းခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ဗိဒအတ်ကို တီထွင်ခြင်း၊ ထို့နောက် လူတို့အား ထိုဗိဒအတ်ကို ကျင့်သုံးရန် လှုံ့ဆော်ပေးကြခြင်းဖြစ်သည်'ဟု အဖြေပေးခဲ့သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن لله عز وجل ملكاً ينادي كل يوم من خالف سنة رسول الله ﷺ لم تنله شفاعته .

'အလ္လာဟ်အရှင်မြတ်တွင် ကောင်းကင်တမန်တစ်ဦးရှိသည်။ ထိုကောင်းကင်တမန်က နေ့စဉ်နေ့တိုင်း ဟစ်ကြွေးသည်မှာ 'အကြင်သူသည် အလ္လာဟ့်တမန်တော်ﷺ၏စွန္နတ်ကို ဆန့်ကျင်လျှင် ထိုသူသည် တမန်တော်၏တောင်းပန်ချတ်ကယ်ခြင်းကို ခံရမည်မဟုတ်။'*

သာသနာရေးတွင် စွန္နတ်ကို ဆန့်ကျင်ပြီး ဗိဒအတ်ကို တီထွင်သူနှင့် အပြစ်ဒုစရိုက်ကျူးသူတို့၏ကွာခြားပုံ ဥပမာသည် ဘုရင့်ထီးနန်းကို တော်လှန်ပုံကန်သူနှင့်ဘုရင့်အမိန့်ကို မနာခံသူတို့ ကွားခြားသကဲ့သို့ဖြစ်သည်။ ဘုရင့်အမိန့် မနာခံသူအား ဘုရင်က ခွင့်လွှတ်မည်ဆိုက ဖြစ်နိုင်သော်လည်း ထီးနန်း ပုံကန်ခြားနားသူအတွက်ကား ခွင့်လွှတ်မှုရှိမည်မဟုတ်ပေ။ အချို့သောပညာရှိများက ပြောဆိုကြသည်မှာ 'ရှေးသူဟောင်းတို့ ဆိုမိန့်ခဲ့သောကိစ္စတွင် ဆိတ်ဆိတ်နေခြင်းသည် မတရားမှုဖြစ်သည်။ တဖန် ရှေးသူဟောင်းတို့ ဆိတ်ဆိတ်နေခဲ့သောကိစ္စကို ပြောဆိုခြင်းသည် ဒုက္ခမရှိ ဒုက္ခရှာခြင်းဖြစ်သည်။' ထို့ပြင် ပညာရှင်တစ်ပါးက 'အမှန်တရားသည် အလေးချိန်စီးသောအရာဖြစ်သည်။ အကြင်သူ အမှန်တရားထက် ကျော်လွန်လျှင် ထိုသူသည် မတရားပြုသူဖြစ်သည်။ အကြင်သူ အမှန်တရားထက် လျော့လျှင် ထိုသူသည် အစွမ်းအစ မရှိသူဖြစ်သည်။ အမှန်တရားအပေါ် ရပ်တည်သူသည်သာ အမှန်တရားဖြင့် လုံလောက်မှုရရှိသူဖြစ်သည်။' တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

عليكم بالنمط الأوسط الذي يرجع إليه العالي ويرتفع إليه التالي . (أخرجه أبو عبيد)

'အသင်တို့သည် အလယ်အလတ်လမ်းကို စွဲစွဲမြဲမြဲ လျှောက်လှမ်းကြရမည်။ ထိုလမ်း၏ရှေ့တွင် တိုးနေသူသည် နောက်သို့ ပြန်လှည့်ရမည်။ ထိုလမ်း၏နောက်မှ ကျန်ခဲ့သူသည် ရှေ့သို့ တိုးရလိမ့်မည်။'

အီဗ်နေ့အဗ္ဗာစ်ﷺသခင်က 'လမ်းမှားနေသူများ၏နှလုံးသားများတွင် လမ်းမှားခြင်းသည် ချိုမြသောအရာဖြစ်သည်'ဟု ပြောခဲ့ဖူးသည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿وَذَرِ الَّذِينَ اتَّخَذُوا دِينَهُمْ لَعِبًا وَلَهْوًا﴾

**'မိမိတို့၏သာသနာကို ကစားစရာနှင့် ပျော်ဖြေမှုဖြစ်အောင် ပြုလုပ်သူများကို စွန့်ပယ်ထားကြကုန်။'**

(စူရာအန်အာမ် ၊ ၇၀)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿أَفَمَنْ زُيِّنَ لَهُ سُوءُ عَمَلِهِ فَرَآهُ حَسَنًا﴾

**'မိမိ၏မကောင်းသောလုပ်ရပ်ကို အမြင်ကောင်းအောင်လုပ်လိုက်သဖြင့် ထိုလုပ်ရပ်ကိုကို အကောင်းမြင်လာသူမည်သူနည်း။'**

(စူရာဖါတွေရ် ၊ ၈)

ဆွဟာဗဟ်သခင်များﷺ၏နောက် အသစ်ပေါ်သမျှအားလုံးနှင့်လိုအပ်ချက်ထက် ကျော်လွန်သောအရာအားလုံးသည် ကစားခုန်စားနှင့်အပျော်အပါးကိစ္စများချည်းဖြစ်သည်။ အလ္လာဟ်အရှင့်လအ်နတ်ကျသူ အီဗ်လီစ်နှင့်ပတ်သက်၍ဖြစ်

---

* အီရာကီသခင်ﷺက 'ကျွန်ုပ် ဤဟဒီစ်၏ရင်းမြစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။

ရပ်တစ်ခုလာရှိသည်။ ဆွဟာဗဟ်များ(رض)၏ခေတ်အချိန်က အီဗ်လီစ်သည် မိမိ၏တပ်ဖွဲ့ကို ဆွဟာဗဟ်များအတွင်းသို့ ဖြန့်ကျက်စေလွှတ်ခဲ့သည်။ ထိုတပ်ဖွဲ့သည် အီဗ်လီစ်ထံ စိတ်ပျက်လက်ပျက်ဖြင့် ပြန်လာခဲ့ကြသည်။ အီဗ်လီစ်က 'အသင်တို့ ဘယ်လိုဖြစ်ကြသလဲ'ဟု မေးရာ တပ်ဖွဲ့ဝင်များက 'ကျွန်ုပ်တို့သည် ဤဆွဟာဗဟ်ကဲ့သို့သောသူများကို မတွေ့ဖူးကြပါ။ ကျွန်ုပ်တို့သည် သူတို့ကို တစ်စုံတစ်ရာ ထိခိုက်အောင် မလုပ်နိုင်ခဲ့ကြပါ။ ကျွန်ုပ်တို့သာ ပင်ပန်းခဲ့ကြပါသည်'ဟု ပြောပြကြသည်။ ထိုအခါ အီဗ်လီစ်က–

'အသင်တို့သည် သူတို့အပေါ် တတ်နိုင်ကြမည်မဟုတ်ပါ။ သူတို့သည် သူတို့၏တမန်တော်ﷺနှင့် ပေါင်းဖော်ခဲ့ကြရသူများဖြစ်သည်။ ထို့ပြင် သူတို့၏ရဗ်အရှင်ထံမှ ကုရ်အာန်ကျမ်းတော် ချပေးသည်ကို မျက်မြင်ကိုယ်တွေ့ကြုံခဲ့ကြရသူများဖြစ်သည်။ သို့သော် သူတို့၏နောက် မကြာမီတွင် လူ့အစုအဝေးတစ်ခု ရောက်လာလိမ့်မည်။ ထိုသူတို့ထံမှ အသင်တို့၏လိုလားချက်ကို ရရှိမည်'ဟု ပြောဆိုခဲ့လေသည်။ တာဘိအီများ၏ခေတ်သို့ ရောက်သောအခါ အီဗ်လီစ်သည် မိမိ၏တပ်ဖွဲ့ကို ဖြန့်ကျက်စေလွှတ်ခဲ့သည်။ ထိုတပ်ဖွဲ့သည် အီဗ်လီစ်ထံ မှိုင်တွေချပြီး ပြန်လာခဲ့ကြသည်။ တပ်ဖွဲ့ဝင်များက–

'ကျွန်ုပ်တို့သည် ဤသို့သော ထူးဆန်းသူများကို မမြင်ဖူးကြပါ။ ကျွန်ုပ်တို့သည် သူတို့ကို တစ်စုံတစ်ရာ ထိခိုက်အောင် မလုပ်နိုင်ခဲ့ကြပါ။ သူတို့ကို ဒုစရိုက်မှုများ ကျူးလွန်အောင် ဖျားယောင်းနိုင်ခဲ့သော်လည်း သူတို့သည် တစ်နေ့တာ ကုန်ဆုံးသည့်အခါ အလ္လာဟ်အရှင့်ထံ ခွင့်လွှတ်မှုတောင်းခံကြပါသည်။ ထိုအခါ အလ္လာဟ်အရှင်က သူတို့၏မကောင်းမှုများကို ကောင်းမှုများနှင့် လဲလှယ်ပေးတော်မူခဲ့သည်'ဟု ပြောကြသည်။ ထိုအခါ အီဗ်လီစ်က–

'အသင်တို့သည် ထိုသူတို့ထံက ဘာမှ ရကြမည်မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် သူတို့၏တောင်ဟီဒ်ခံယူချက်သည် မှန်ကန်ပြီး သူတို့သည် မိမိတို့နဗီတမန်တော်၏စွန္နတ်ကို လိုက်နာကြသောကြောင့်ဖြစ်သည်။ သို့သော် ထိုသူတို့၏နောက် များမကြာမီ လူ့အစုအဝေးတစ်ခု ရောက်လာလိမ့်မည်။ သူတို့ကြောင့် အသင်တို့၏မျက်စိများ အေးမြကြရမည်။ အသင်တို့သည် သူတို့ကို ကောင်းစွာလှည့်ပတ်ကစားနိုင်ကြသည်။ သူတို့၏စိတ်အလိုဆန္ဒတည်းဟူသော ဇက်ကြိုးဖြင့် အသင်တို့က သူတို့ကို ကြိုက်သလို ကြိုးဆွဲခိုင်းစေနိုင်လိမ့်မည်။ သူတို့သည် အလ္လာဟ်အရှင့်ထံ ခွင့်လွှတ်မှုတောင်းခံကြမည်။ အမှားများကို တောင်ဗဟ်ပြု စွန့်လွှတ်ကြမည်ကားမဟုတ်။ အလ္လာဟ်အရှင်သည် သူတို့၏မကောင်းမှုများကို ကောင်းမှုများဖြင့် လဲလှယ်ပေးတော်မူမည်'ဟု ရှင်းပြသည်။

ဤအကြောင်းကို ဆင့်ပြန်သူက ဆက်လက်ပြောဆိုသည်မှာ 'ပထမရာစုနှစ်၏နောက်တွင် ရှိလာကြသောလူ့အစုအဝေးထဲသို့ ရှိုင်တွာန်က စိတ်ကြိုက်ကျင့်သုံးမှုများ ဖြန့်ချိပေးခဲ့သည်။ သူတို့ကို ဗိဒအတ်များဖြင့် ဆင်ယင်ပေးခဲ့သည်။ သို့ဖြင့် ၎င်းတို့က ဗိဒအတ်ကို ပြုပိုင်သောကိစ္စဟု လက်ခံခဲ့ကြသည်။ ဗိဒအတ်လုပ်ခြင်းကို သာသနာရေးလုပ်ငန်းစဉ်များအဖြစ် စွဲယူခဲ့ကြသည်။ ၎င်းတို့သည် ထိုဗိဒအတ်လုပ်ရပ်များမှ အလ္လာဟ်အရှင့်ထံခွင့်လွှတ်မှု တောင်းခံကြမည်လည်း မဟုတ်။ တောင်ဗဟ်ပြုကြမည်လည်း မဟုတ်ပေ။ သို့နှင့်အမျှ ရန်သူများက ၎င်းတို့အပေါ် လွှမ်းမိုးချယ်လှယ်နိုင်ကြမည်။ ၎င်းတို့ကို အလိုရှိရာသို့ ဆွဲခေါ်သွားကြမည်။'

အကယ်၍ စာရှုသူက 'ဤအကြောင်းကို ဆင့်ပြန်သူသည် အီဗ်လီစ်ကို မြင်လည်းမမြင်ဖူး၊ ၎င်းနှင့် စကားပြောရခြင်းလည်းမရှိဘဲ ဤအကြောင်းကို အဘယ်မှသိရသနည်း'ဟု မေးမြန်းမည်ဆိုက ကျွန်ုပ်က ဤသို့အဖြေပေးမည်။ နှလုံးရည်ရှင်များသည် ဝိဉာဉ်လောက၏အတွင်းရေးအခြေအနေများကို သိရှိကြရသည်။ ဤသို့သိရှိခြင်းသည် ရုံဖန်ရံခါ အီလ်ဟာမ်နည်းလမ်းဖြင့်ဖြစ်သည်။ ထိုနည်းလမ်းသည် မိမိတို့မသိသေးသည့်အရာများ စိတ်ထဲတွင် ဝင်ရောက်လာခြင်းဖြစ်သည်။ ရံဖန်ရံခါ မှန်ကန်သောအိပ်မက်များဖြင့် သိရှိရခြင်းဖြစ်သည်။ ရံဖန်ရံခါ နိုးကြားနေစဉ်ပင် အိပ်မက်တွင် ရှိသကဲ့သို့ ပုံဆောင်ချက်များ မြင်တွေ့ပြီး အဓိပ္ပါယ်အလိုသဘောကို သိရှိရခြင်းဖြစ်သည်။ ဤသို့သိရခြင်း

သည် အဆင့်အမြင့်ဆုံးဖြစ်သည်။ ဤအဆင့်သည် နဖ္စဝ်၏မြင့်မားသောအဆင့်အတန်းများထဲမှ တစ်ခုဖြစ်သည်။ ပမာအားဖြင့် မှန်ကန်သောအိပ်မက်များသည် နဗ္ဗဝ်၏အစိတ်အပိုင်းပေါင်း လေးဆယ့်ခြောက်ခုအနက်မှ တစ်ခုဖြစ်သကဲ့သို့ဖြစ်သည်။ အသင်သည် မိမိ၏မသိနားမလည်မှုကြောင့် အလှမ်းမမီနိုင်သည့်အပေါ်မှာ ထိုသိရမှုနည်းလမ်းကို ငြင်းဆန်ခြင်းမပြုမိရန် သတိထားပါ။ ဤကိစ္စတွင် ပညာရှင်ပဂေးကြီးများ ပျက်စီးခဲ့ကြပြီ။ ၎င်းတို့သည် မိမိတို့ကိုယ်ကို အသိပညာအရာတွင် တစ်ဘက်ကမ်းခပ်တတ်မြောက်သူများဟု ကြွေးကြော်နေသူများဖြစ်သည်။ အလ္လာဟ်၏အချစ်တော်ဝလီသူတော်စင်များအတွက်ဖြစ်သည့် ထိုကဲ့သို့ကိစ္စများကို ငြင်းဆန်ရန် အသိဉာဏ်ရှိနေခြင်းထက် လုံးဝအသိမရှိခြင်းက ပို၍ကောင်းသည်။ အကြင်သူသည် ဝလီသူတော်စင်များ၏ထိုကိစ္စရပ်များကို ငြင်းဆန်မည်ဆိုလျှင် ထိုသူသည် နဗီတမန်တော်များကိုလည်း ငြင်းဆန်လာမည်ဖြစ်ပြီး ထိုသူသည် သာသနာမှ လုံးလုံးလျားလျားထွက်သွားတော့မည်ဖြစ်သည်။

အာရီဖ်သူတော်စင်အချို့က မိန့်ဆိုကြသည်မှာ 'အဗ်ဒါလ်အဆင့်မှ ဝလီကြီးများသည် မြေပြင်၏အစွန်အဖျားလူအများ၏မြင်ကွင်းမှ ဝေးရာတွင် နေထိုင်ကြသည်။ ဤသို့ရှိခြင်းမှာ ထိုသခင်တို့သည် မျက်မှောက်ခေတ်ပညာရှင်များအား တွေ့မြင်ကြည့်ရှုနေရမည်ကို ဒဏ်မခံနိုင်သောကြောင့်ဖြစ်သည်။ အဗ်ဒါလ်သခင်များထံတွင် ထိုပညာရှင်ဆိုသူများသည် အလ္လာဟ်အရှင်ကို မသိသူများဖြစ်ကြသည်။ မိမိတို့ကိုယ်တိုင်နှင့် ပညာဉာဏ်မရှိသူများထံတွင်သာ 'အိုလမာပညာရှင်များ'ဟု သတ်မှတ်ခေါ်တွင်နေခြင်းဖြစ်သည်။ စဟ်လ်တွစ်တုရီ သခင်က 'အကြီးကျယ်ဆုံးပြစ်မှုဒုစရိုက်သည် မိမိမသိသည့်အဖြစ်ကို မသိခြင်း၊ လူသာမန်တို့ထံမှ မျှော်ကိုးခြင်း၊ အမှေ့ဆိုက်နေသူများ၏စကားကို နားထောင်ခြင်းဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ဒွန်နယာတွင် နစ်မွန်းနေသော ပညာရှင် ဆိုသူတိုင်း၏စကားကို ဂရုစိုက်နားထောင်ခြင်းမပြုသင့်ချေ။ သို့သာမက ထိုပညာရှင် ပြောသမျှစကားများကို မယုံမသင်္ကာရှိရမည်။ အဘယ်ကြောင့်ဆိုသော် လူတိုင်းလူတိုင်းသည် မိမိတို့ချစ်ခင်မြတ်နိုးအရာတွင် နစ်မွန်းကြစမြဲဖြစ်သည်။ မိမိတို့ချစ်ခင်မြတ်နိုးသောအရာနှင့် ကိုက်ညီမှု မရှိသောကိစ္စကို ဆန့်ကျင်တတ်ကြသည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မိန့်တော်မူသည်မှာ–

﴿وَلَا تُطِعْ مَنْ أَغْفَلْنَا قَلْبَهُ عَنْ ذِكْرِنَا وَاتَّبَعَ هَوَاهُ كَانَ أَمْرُهُ فُرُطًا﴾

**'ငါအရှင်က ထိုသူ၏စိတ်နှလုံးကို ငါအရှင့်အား သတိရတသခြင်းမှ မေ့လျော့စေသူ၊ ထို့ပြင် မိမိ၏အလိုဆန္ဒကို နာခံသူ၊ ထိုသူ၏လုပ်ကိုင်ဆောင်ရွက်မှုက စည်းကမ်းဘောင်အတိုင်းမရှိသူ–ထိုသူ၏စကားကို အသင် မလိုက်နာလေနှင့်။'** (စူရာကဟ်ဖ် ၊ ၂၈)

စစ်မှန်သောသာသနာ၏လမ်းကို မသိဘဲ မိမိတို့ကိုယ်ကို ပညာရှင်ဟု သတ်မှတ်ထားသူများထက် အပြစ်ဒုစရိုက်သားလူသာမန်များက သာသေးသည်။ အဘယ်ကြောင့်ဆိုသော် အပြစ်ဒုစရိုက်သားလူသာမန်များက မိမိတို့၏အပြစ်ကိုသိသည်။ သို့ဖြစ်ရာ ခွင့်လွှတ်မှုတောင်းခံသည်။ အမှား ဝန်ခံသည်။ မိမိကိုယ်ကို ပညာရှင်ဟု ထင်နေသောလူ့ဗာလကမူ မိမိ၏ဒွန်နယာရေး အထောက်အကူဖြစ်မည့်ပညာရပ်များတွင် မွေ့လျော်လျက်ရှိပြီး သာသနာ့လမ်း လျှောက်လှမ်းရမည်ကို မေ့လျော့နေသည်။ သို့ဖြစ်ရာ သူသည် အမှားကိုလည်း ဝန်မခံ။ ခွင့်လွှတ်ရန်လည်း တောင်းပန်ခြင်းမပြု။ သေသည်အထိ ထိုအတိုင်းသာရှိနေသည်။ အလ္လာဟ်အရှင် စောင့်ထိန်းတော်မူသောသူမှလွဲ၍ လူအများစုသည် ဤအတိုင်းသာရှိကြရာ ၎င်းတို့၏ပြုပြင်ရေးမှာ မျှော်လင့်စရာမရှိပေ။ သို့ဖြစ်ရာ သာသနာကိုင်းရှိုင်းသူအတွက် စိတ်ချရသောနည်းလမ်းသည် ၎င်းတို့အား ဥပက္ခာပြုပြီး ကင်းကင်းရှင်းရှင်း ခွဲခွါနေရန်ဖြစ်သည်။ အလ္လာဟ်အရှင့်အလိုတော်ဖြင့် ဥပက္ခာကဏ္ဍတွင် ဤအကြောင်းကို ရှင်းလင်းဖော်ပြမည်။

ထိုအကြောင်းကြောင့်ပင် ယူစွဖ်အီဗ်နေ့အဗ်စ်ဘာတွ်က ဟုဇိုင်ဖဟ်မရ်အရှိထံ စာရေးသည်မှာ 'အသင်သည်

ကျွန်ုပ်အပေါ် မည်သို့ထင်မြင်ပါသလဲ။ ကျွန်ုပ်မှာ မိမိနှင့်အတူ အလ္လာဟ်အရှင်အား သတိရတာသရန် တစ်စုံတစ်ဦးကိုမှ မတွေ့ရဘဲရှိနေသည်။ တွေ့ပြန်လျှင်လည်း ထိုသူနှင့်အတူ ဇီက်ရ်လုပ်ခြင်းသည် အပြစ်ဒုစရိုက်ဖြစ်နေသည်။ ဤသို့ရှိခြင်းမှာ ဇီက်ရ်နှင့်ထိုက်တန်သူကို မတွေ့ရသောကြောင့်ဖြစ်သည်။'

ဤသို့ရေးသားခြင်းသည် မှန်ပေသည်။ အဘယ်ကြောင့်ဆိုသော် လူတို့နှင့် ရောနှောတွေ့ဆုံရာတွင် အတင်းပြောခြင်းနှင့် အတင်းနားထောင်ခြင်း၊ မကောင်းမှုကို တွေ့မြင်ပြီး နှုတ်ပိတ်နေရခြင်းများမှ မကင်းတတ်ပေ။

အကောင်းဆုံးမှာ လူသားသည် ပညာကို ဆည်းပူးနေရန်ဖြစ်သည်။ သို့မဟုတ် အခြားသူကို သင်ကြားပေးနေရန်ဖြစ်သည်။ အကယ်၍ သင်ယူသူ၏ ရည်ရွယ်ချက်သည် ပညာဖြင့် ဒွန္နယာရှာရန်ဖြစ်နေမည်၊ သို့မဟုတ် ပညာကို မကောင်းသောကိစ္စတွင် အသုံးချရန်ဖြစ်နေကြောင်း သင်ပေးသူက သိရလျှင် သင်ပေးခြင်းကို ရပ်ဆိုင်းရမည်။ ထိုသို့သိပါလျက် သင်ပေးနေဦးမည်ဆိုလျှင် သင်ပြသူဆရာသည် ဓါးပြကို ဓါးရောင်းသူကဲ့သို့ မကောင်းမှုတွင် အပေါင်းအပါ ကူညီအားပေးသူဖြစ်လိမ့်မည်။ ပညာသည် ဓါးနှင့် အလားတူသည်။ ပညာက ကောင်းမွန်သောကိစ္စအတွက် အသုံးဝင်သည်ဆိုရာမှာ ဓါးက တိုက်ပွဲတွင် အသုံးဝင်သကဲ့သို့ဖြစ်သည်။ သို့နှင့်အမျှ လူတစ်ယောက်သည် ထိုဓါးဖြင့် ဓါးပြတိုက်ရန် ကြံစည်နေကြောင်း သူ၏အခြေအနေကို ထောက်ရှု၍ သိရမည်ဆိုပါက ထိုသူ့ကို ဓါးရောင်းရန် အခွင့်မရှိတော့ချေ။

ယခုအထိ ဖေါ်ပြခဲ့သည်တို့မှာ အာခိရတ်ပညာရှင်များ၏ အချင်းလက္ခဏာ ဆယ့်နှစ်ရပ်ဖြစ်သည်။ ဤအချင်းလက္ခဏာအားလုံးသည် ရှေးသူဟောင်းပညာရှင်တို့၏ အကျင့်စာရိတ္တများတွင် တစုတရုံးတည်း ပါဝင်လျက်ရှိသည်။ အသင်တို့သည် ထိုအချင်းလက္ခဏာများနှင့် ပြည့်စုံသူ ဖြစ်လျှင်ဖြစ်၊ သို့မဟုတ် ထိုအချင်းလက္ခဏာများကို လက်ခံအသိအမှတ်ပြုပြီး မိမိ၏ ချွတ်ယွင်းချက်ကို ဝန်ခံသူ ဖြစ်ပါ။ ဤနှစ်ဦးမှလွဲ၍ တတိယလူ မဖြစ်ပါစေနှင့်။ တတိယလူဖြစ်မည်ဆိုလျှင် အသင်၏ စိတ်ထဲတွင် သာသနာသည် ဒွန္နယာရေးအတွက် အသုံးချစရာဟု ထင်မှတ်လာလိမ့်မည်။ မုသာဝါဒီတို့၏ အကျင့်စာရကို ရင့်ကျက်မျှော်မြင်ပညာရှင်များ၏ အကျင့်စာရဖြစ်သည်ဟု ထင်မှတ်မှားပေလိမ့်မည်။ အသင်၏ မသိမိုက်မဲမှုနှင့်ငြင်းပယ်မှုက အသင့်အား ပျက်စီးဆုံးရှုံးသူများ၏ အုပ်စုတွင် ပူးတွဲဖက်စပ် ပါဝင်စေလိမ့်မည်။

*ကျွန်ုပ်တို့သည် ရှိုင်တွာန်၏ ပရိယာယ်မှကင်းဝေးရန် အလ္လာဟ်အရှင့်ထံ ခိုလှုံကြပါသည်။ လူအများတို့သည် ထိုပရိယာယ်တွင် ကျရောက်ပြီး ပျက်စီးကြရသည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် လောကီသက်တမ်း၏ လှည့်ဖျားမှုနှင့်ရှိုင်တွာန်၏ ပရိယာယ်ထဲသို့ ကျရောက်ခြင်းမရှိသူတို့တွင် ကျွန်ုပ်တို့အား ထည့်သွင်းတော်မူရန် အလ္လာဟ်အရှင်မြတ်ထံ ဒိုအာတောင်းခံကြပါသည်။*



အခန်း ခုနစ်

# အသိဉာဏ်အကြောင်း

## အသိဉာဏ်၏မြွက်ထွက်ခြင်း၊ ယင်း၏အရင်းမူလသဘော နှင့် အမျိုးအစားများ

### အသိဉာဏ်၏မြွက်ထွက်ခြင်း

အသိဉာဏ်၏မြွက်ထွက်ခြင်းကို တကူးတကန့်ထုတ်ဖော်နေရန်ပင် မလိုအပ်ပေ။ အထူးသဖြင့် ပညာ၏မြွက်ထွက်မှုကို ပေါ်လွင်သိရှိပြီးနောက် အသိဉာဏ်၏မြွက်ထွက်မှုကို ဖော်ပြရန် ပို၍မလိုအပ်ပေ။ အသိဉာဏ်သည် ပညာ၏စမ်းပေါက်ဝဖြစ်သည်။ ပညာ၏ပေါ်ထွက်ရာ အခြေခံပင်ရင်းဖြစ်သည်။ ပညာနှင့်အသိဉာဏ်၏ဆက်စပ်မှုသည် အသီးနှင့်သစ်ပင် ဆက်စပ်သကဲ့သို့ဖြစ်သည်။ အလင်းရောင်နှင့်နေမင်း ဆက်စပ်သကဲ့သို့ဖြစ်သည်။ ကြည့်မြင်ခြင်းနှင့်မျက်စိ ဆက်စပ်သကဲ့သို့ဖြစ်သည်။ သို့ဖြစ်ရာ ဒွန္နယာနှင့်အာခိရတ်တွင် ချမ်းသာသုခ ရရှိခံစားရန် အကြောင်းခံဖြစ်သောအရာသည် အဘယ်မှာ ထွက်မြွက်မှုမရှိဘဲနေမည်နည်း။ မည်သူသည် အသိဉာဏ်၏ထွက်မြွက်မှုနှင့်အရေးပါမှုကို ငြင်းပယ်နိုင်ပါသနည်း။ တိရိစ္ဆာန်များပင် ၎င်းတို့၏ခွဲခြားသိမြင်မှု အားနည်းသည့်အပေါ်မှာ အသိဉာဏ်ကို အလေးအမြတ်ပြုကြသည်။ ခန္ဓာကိုယ်အကြီးမားဆုံးနှင့် အပြင်းထန်ဆုံးအန္တရာယ်ပေးရန်ပြုတတ်သော တိရိစ္ဆာန်ကြီးများသည်ပင် လူသား၏ရုပ်သဏ္ဍာန်ကို တွေ့မြင်သည့်အခါ တွန့်ဆုတ်သွားကြသည်။ ဤသို့ရှိရခြင်းမှာ လူသားသည် မိမိအား လွှမ်းမိုးအနိုင်ယူနိုင်ကြောင်း တိရိစ္ဆာန်က သိသည်။ အဘယ်ကြောင့်ဆိုသော် လှည့်စားဖျားယောင်းသည့်အတတ်ကို လူသားကသာ သီးသန့်တတ်ကျွမ်း၍ဖြစ်သည်။ ထိုအတွက် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الشيخ في قومه كالنبي في أمته. (حب.ديلمى)

'လူ့အစုအဝေးတွင် သက်ကြီးပုဂ္ဂိုလ်ရှိခြင်းသည် အုမ္မတ်တွင် နဗီတမန်တော်ရှိနေသကဲ့သို့ဖြစ်သည်။'

ဤနေရာတွင် သက်ကြီးပုဂ္ဂိုလ်ဟု ဆိုရာမှာ ပစ္စည်းဉစ္စာအများအပြားရှိခြင်းကိုငင်း၊ ခန္ဓာကိုယ်ထွားကြိုင်းခြင်းကိုငင်း၊ အင်အားဗလကြီးမားခြင်းကိုငင်း မဆိုလိုပေ။ စင်စစ်၌ အတွေ့အကြုံများပြားခြင်းကို ဆိုလိုသည်။ ထိုအတွေ့အကြုံဆိုသည်မှာ အသိဉာဏ်မှထွက်ပေါ်သည့် အသီးအပွင့်အကျိုးရလဒ်သာဖြစ်ပေသည်။ ထိုအတွက်ကြောင့်ပင် တူရကီများ၊ ကဒ်များ၊ အရပ်ကျေးတောသားများနှင့် အခြားပညာမဲ့အားလုံးသည် စာပေပညာမတတ်ကျွမ်းကြသည့်ကြားက ဗီဇသဘာဝအလျောက် သက်ကြီးပုဂ္ဂိုလ်များကို လေးစားကြသည်။ ထိုအတွက်ကြောင့်ပင် ရန်သူများက တမန်တော်မြတ်ﷺကို သတ်ဖြတ်ရန် ကြံစီကြသောအခါ၊ ၎င်းတို့၏မျက်စေ့များ ကိုယ်တော့်မျက်နှာတော်ကို ကြည့်မိကြပြီး ရွှေမျက်နှာတော်၏အရောင်အဝါကို တွေ့မြင်ရကာ ထိပ်လန့်တကြားဖြစ်သွားခဲ့ကြသည်။ ၎င်းတို့သည် ရွှေမျက်နှာတော်မှ နဗူဝပ်ရောင်ခြည်တော်ကို အနီးကပ်မြင်တွေ့ပြီး ကြောက်ရွံ့သွားခဲ့ကြခြင်းဖြစ်သည်။ အမှန်မှာကား ထိုရောင်ခြည်

တော်သည် တမန်တော်မြတ်ﷺ၏ ပင်ကိုယ်တော်အတွင်း အသိဉာဏ်၏ အလင်းရောင်ကဲ့သို့ပင် ဖုံးအုပ်စွာတည်ရှိနေ ပေသည်။

ဤနေရာတွင် ကျွန်ုပ်တို့၏ ရည်ရွယ်ချက်သည် အသိဉာဏ်၏ မြတ်ထွတ်မှုကို ဖေါ်ပြရန်ဖြစ်သည်။ သို့ဖြစ်ရာ ယင်းမြတ်ထွတ်မှုကို ညွှန်ပြသည့်အာယတ်နှင့်ဟဒီစ်များကို ဖေါ်ပြရမည်ဖြစ်သည်။ အလ္လာဟ်အရှင်၏ မိန့်ကြားမှုများတွင် အသိဉာဏ်ကို 'အလင်းရောင်'ဟု သုံးနှုံးတော်မူသည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿اَللّٰهُ نُوْرُ السَّمٰوٰتِ وَالْاَرْضِ مَثَلُ نُوْرِهٖ كَمِشْكٰوةٍ﴾

**'အလ္လာဟ်အရှင်သည် မိုးကောင်းကင်များနှင့်ကမ္ဘာမြေပြင်၏ အလင်းရောင်ဖြစ်တော်မူသည်။ ထိုအရှင့် အလင်းရောင်၏ ဥပမာသည် မီးလင်းဖုစ်ကဲ့သို့ဖြစ်သည်။'** (နူရာနူရ် ၊ ၃၅)

ထို့ပြင် ထိုအသိဉာဏ်ဖြင့် ရရှိလာသောအသိပညာကို 'ဝိဉာဉ်'၊ 'ဝဟီ'၊ 'အသက်'ဆိုသောအမည်များဖြင့် ဖေါ်ပြတော်မူသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَكَذٰلِكَ اَوْحَيْنَا اِلَيْكَ رُوْحًا مِّنْ اَمْرِنَا﴾

**'ဤနည်းအလားတူ ငါအရှင်သည် ငါ၏ အမိန့်တော်မှဖြစ်သော ဝိဉာဉ်ကို အသင့်ထံသို့ ပို့ချတော်မူခဲ့ သည်။'** (စူရာရှူရာ ၊ ၅၂)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿اَوَمَنْ كَانَ مَيْتًا فَاَحْيَيْنٰهُ وَجَعَلْنَا لَهٗ نُوْرًا يَّمْشِيْ بِهٖ فِي النَّاسِ﴾

**'အကြင်သူသည် သူသေဖြစ်ခဲ့သည်။ ထိုသူကို ငါအရှင်က ပြန်ရှင်စေခဲ့သည်။ ထို့ပြင် ထိုသူ့အတွက် အလင်းရောင်ကို ပြုလုပ်ပေးတော်မူခဲ့သည်။ ထိုသူသည် ထိုအလင်းရောင်ဖြင့် လူတို့အကြားတွင် သွားလာ ခဲ့သည်။'** (စူရာအာန်အာမ် ၊ ၁၂၂)

ထို့ပြင် ကျမ်းမြတ်ကုရ်အာန်တွင် အလင်းရောင်နှင့် အမိုက်မှောင်ဟု ဖေါ်ပြထားလေသမျှသည် အသိပညာနှင့် အသိပညာမဲ့ခြင်းကို ဆိုလိုသည်။ ဥပမာ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿يُخْرِجُهُمْ مِّنَ الظُّلُمٰتِ اِلَى النُّوْرِ﴾

**'၎င်းတို့အား အမိုက်မှောင်မှ အလင်းရောင်ဆီသို့ ထုတ်ယူပို့ဆောင်တော်မူသည်။'** (စူရာဗကရာ ၊ ၂၅၇)

ထို့နောက် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

يا أيها الناس اعقلوا عن ربكم و تواصوا بالعقل تعرفوا ماأمرتم به و مانهيتم عنه و اعلموا أنه ينجدكم عند ربكم و اعلموا أنّ العاقل من أطاع الله و إن كان دميم المنظر حقير الخطر دنيء المنزلة رث الهيئة ، و أنّ الجاهل من عصى الله تعالى و إن كان جميل المنظر عظيم الخطر شريف المنزلة حسن الهيئة فصيحاً نطوقاً فالقردة و الخنازير أعقل عند الله تعالى ممن عصاه ، ولا تغتر بتعظيم أهل الدنيا إياهم فإنهم من الخاسرين . (أخرجه داود بن المجبر)

'အို လူသားတို့၊ မိမိတို့၏ အရှင်ကို သိကြကုန်။ အသင်တို့သည် တစ်ဦးနှင့် တစ်ဦး အသိဉာဏ်ရှိကြရန်အတွက် သွန်သင်ကြကုန်။ အသင်တို့အား အမိန့်ပေးထားသည့်အရာကိုရင်း၊ အသင်တို့အား တားမြစ်ထားသည့်အရာကိုင်း သိရှိကြကုန်။ အသင်တို့၏ ရဗ်အရှင်ထံတွင် အသင်တို့ကို အသိဉာဏ်က ဂုဏ်ရှိန်ကြီးမြင့်စေမည်ဖြစ်ကြောင်း သိကြကုန်။ ထို့ပြင် အကျည်းတန်သည်ဖြစ်စေ၊ သိမ်ငယ်သည်ဖြစ်စေ၊ အဆင့်နိမ့်သည်ဖြစ်စေ၊ အသိဉာဏ်ရှိသူဆိုသည်မှာ အလ္လာဟ်အရှင့်ကို နာခံသူဖြစ်ကြောင်းသိကြကုန်။ ထို့ပြင် ရုပ်

ရည်ချောမောသည်ဖြစ်စေ၊ ဂုဏ်သတင်းကြီးသည်ဖြစ်စေ၊ အဆင့်မြင့်သည်ဖြစ်စေ၊ နှုတ်ရေးကြွယ်၍အပြော ကောင်းသည်ဖြစ်စေ အလ္လာဟ်အရှင့်ကို မနာခံသူသည် အသိဉာဏ်မဲ့သူသာဖြစ်၏။ သို့ဖြစ်ရာ အလ္လာဟ် အရှင့်ထံတွင် အမိန့်ဖီဆန်သောလူသားထက် မျောက်နှင့်ဝက်များက ပို၍ အသိဉာဏ်ရှိကြသည်။ ဒွန်ယာ လိုက်စားသူများ၏ဂုဏ်ပေးလေးစားခြင်းက အသင်တို့ကို မလှည့်စားစေနှင့်။ ထိုသူတို့သည်ကား ဆုံးရှုံးနစ် နာသူများဖြစ်ကြကုန်သည်။'

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ –

أوّل ما خلق الله العقل ، فقال له : أقبل فأقبل ، ثم قال له : أدبر فأدبر ، ثم قال الله عز وجل وعزتي وجلالي ما خلقت خلقاً أكرم عليّ منك ، بك آخذ وبك أعطي وبك أثيب وبك أعاقب . (طس)

'အလ္လာဟ်အရှင်သည် ပထမဦးဆုံး အသိဉာဏ်ကို ဖန်ဆင်းတော်မူသည်။ ထိုသို့ဖန်ဆင်းပြီး အလ္လာဟ် က အသိဉာဏ်အား 'အသင် ရှေ့သို့တိုးလော့'ဟု မိန့်တော်မူခဲ့သည်။ ထိုအခါ အသိဉာဏ်သည် ရှေ့တိုးခဲ့ သည်။ ထို့နောက် အလ္လာဟ်အရှင်က 'အသင် နောက်သို့ဆုတ်လော့'ဟု မိန့်တော်မူခဲ့သည်။ ထိုအခါ အသိ ဉာဏ်သည် နောက်ပြန်ဆုတ်ခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်က အသိဉာဏ်အား 'ငါ၏ဂုဏ်ဒြပ်တော် နှင့် ကြီးကျယ်မြင့်မြတ်မှုကို တိုင်တည်မိန့်ဆိုအံ့။ ငါဖန်ဆင်းခဲ့သည့် အဖန်ဆင်းခံများတွင် အသင့်လောက် မွန်မြတ်သည့်အရာ ငါ့ထံတွင် မရှိပါ။ ငါသည် အသင့်ကို အကြောင်းပြု၍ ယူတော်မူမည်။ အသင့်ကို အ ကြောင်းပြု၍ ပေးတော်မူမည်။ ထိုပြင် အသင့်ကို အကြောင်းပြုပြီး စွဝါဗ်ကုသိုလ်ပေးတော်မူမည်။ အသင့် ကို အကြောင်းပြုပြီး အဇာဗ်ပြစ်ဒဏ်ခတ်တော်မူမည်'ဟု မိန့်တော်မူခဲ့သည်။'

အကယ်၍ စာရှုသူအသင်က 'ဤအသိဉာဏ်ဆိုသည်မှာ အခြားအရာကို မှီတွယ်ရပ်တည်အရာ ဖြစ်သည်ဆို လျှင် အဘယ်ကြောင့် ကိုယ်ကာယများ၏အလျင် ဖန်ဆင်းရသနည်း။ တဖန် တကယ်၍ အသိဉာဏ်သည် ရုပ်ဖြစ် သည်ဆိုလျှင် အဘယ်ကြောင့် မိမိကိုယ်တိုင် သီးသန့်နေရာယူ ရပ်တည်ခြင်းမပြုရသနည်း'ဟု မေးမြန်းပြောဆိုခဲ့မည် ဆိုပါက၊ ဤမေးခွန်းပါအကြောင်းအရာသည် မုကာရှိဖတ်ပညာနှင့်သက်ဆိုင်လျက်ရှိသည်။ မုအာမိလတ်ပညာတွင် ဤအကြောင်းဖော်ပြခြင်းသည် ဆီလျော်ခြင်းမရှိပေ။ ယခုကျွန်ုပ်တို့၏ရည်ရွယ်ချက်သည် မုအာမိလတ်ပညာရပ်များ ကို ဖော်ပြရန်သာဖြစ်သည်။

အနပ်စ်ﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်မှာ 'တမန်တော်မြတ်ﷺမိန့်ဆိုခဲ့၏ –

وعن أنس ﷺ قال: ((أثنى قوم على رجل عند النبي ﷺ حتى بالغوا فقال ﷺ كيف عقل الرجل؟ فقالوا: نخبرك عن اجتهاده في العبادة وأصناف الخير وتسألنا عن عقله ؟ فقال ﷺ إنّ الأحمق يصيب بجهله أكثر من فجور الفاجر وإنما يرتفع العباد غداً في الدرجات الزلفى من ربهم على قدر عقولهم )).

(أخرجه ابن المجبر)

'လူတစ်စုသည် တမန်တော်မြတ်ﷺ၏အပါးတော်တွင် လူတစ်ဦး၏အကြောင်း အလွန်အကျွံချီးကျူး ပြောဆိုခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ထိုလူ၏အသိဉာဏ်သည် အဘယ်သို့ရှိသလဲ'ဟု မေး မြန်းခဲ့၏။ ထိုအခါ လူတို့က 'ကျွန်တော်မျိုးများသည် ထိုသူ၏အိဗာဒတ်နှင့်ကောင်းမှုအဝဝတွင် ကြိုးပမ်း အားထုတ်သည့်အကြောင်း ပြောဆိုခဲ့ကြပါသည်။ ကိုယ်တော်က ထိုသူ၏အသိဉာဏ်အကြောင်း မေးမြန်း ပါသည်'ဟု ပြောကြ၏။ ထိုအခါ တမန်တော်မြတ်ﷺက 'ဉာဏ်တုံးသူသည် မိမိ၏မသိမိုက်မဲမှုအပေါ်မှာ ဒုစရိုက်သမား၏ဒုစရိုက်များထက် ပို၍ များပြားသော ပြစ်မှုများကို ကျူးလွန်ရတတ်ပေသည်။ မနက်ဖြန် ကိယာမတ်နေ့တွင် လူတို့သည် မိမိတို့ရဗ်အရှင်ထံတွင် မိမိတို့၏အသိဉာဏ်များနှင့် လျော်ညီစွာပေါက်

မြောက်အောင်မြင်ပြီး အဆင့်အတန်း မြင့်မားကြရမည်။'

အိုမရ်ﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်။ 'တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ما اكتسب رجل مثل فضل عقل يهدي صاحبه إلى الهدى ويرده عن ردي وما تم إيمان عبد ولا استقام دينه حتى يكمل عقله . (أخرجه ابن المجبر)

'လူသားက ရှာဖွေရရှိသောအရာများတွင် အသိဉာဏ်ကဲ့သို့ ထွက်မြတ်သည့်အရာ ဘာမှမရှိပါ။ အသိဉာဏ်က လူသားအား တရားလမ်းမှန်၏လမ်းကို ညွှန်ပြသည်။ ပျက်စီးမှုမှ ဝေးကွာအောင် ပြုပေးသည်။ လူတစ်ဦး၏အသိဉာဏ် ပြည့်စုံခြင်းမရှိပါက ထိုသူ၏အီမာန်သည် မပြည့်စုံနိုင်။ ထိုသူ၏သာသနာသည်လည်း မမှန်ကန်နိုင်ပေ။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن الرجل ليدرك بحسن خلقه درجة الصائم القائم ولايتم لرجل حسن خلقه حتى يتم عقله فعند ذلك تم إيمانه و أطاع وبه وعصى عدوّه إبليس . (أخرجه ابن المجبر. ت)

'လူသားသည် မိမိ၏အကျင့်စာရကောင်းမွန်သည့်အပေါ်မှာ ရိုဇာစောင့်ထိန်းသူ၊ မအိပ်မနေအိဗာဒတ်ပြုသူ၏အဆင့်အတန်းကို ရရှိနိုင်သည်။ လူသားတစ်ဦးအဖို့ သူ၏အသိဉာဏ်မပြည့်ဝမချင်း သူ၏အကျင့်စာရသည် မကောင်းမွန်နိုင်ပေ။ အသိဉာဏ်ပြည့်ဝသည့်အခါမှသာ သူ၏အီမာန်သည် ပြည့်ဝလာသည်။ သူသည် မိမိ၏ရဗ်အရှင်ကို အမိန့်နာခံလာသည်။ မိမိ၏ရန်သူ အီဗ်လီစ်ကို ဖီဆန်လာသည်။'

အဗူစအီဒ်ခွဒ်ရီﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်။ 'တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

لكل شيء دعامة ودعامة المؤمن عقله فبقدر عقله تكون عبادته أما سمعتم قول الفجار في النار.
﴿لَوْ كُنَّا نَسْمَعُ أَوْ نَعْقِلُ مَا كُنَّا فِي أَصْحَابِ السَّعِيرِ﴾ . (أخرجه ابن المجبر)

'အရာအားလုံးတွင် ဒေါက်တိုင်များရှိသည်။ လူသား၏ဒေါက်တိုင်သည် သူ၏အသိဉာဏ်ဖြစ်သည်။ လူသား၏အိဗာဒတ်သည် သူ့တွင် အသိဉာဏ်ရှိသလောက်ဖြစ်သည်။ ငရဲအတွင်းမှ ဒုစရိုက်သမားက – **'ငါတို့ နားထောင်ခဲ့ကြလျှင်၊ သို့မဟုတ် ငါတို့ အသိဉာဏ်ရှိခဲ့ကြလျှင်၊ ငါတို့သည် ငရဲသားများဖြစ်ရမည် မဟုတ်ပါတကား'**–ဟူသောပြောဆိုမှုကို အသင်တို့မကြားကြသလော။'

အိုမရ်ﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်။ ၎င်းက တမီးမ်ဒါရီﷺသခင့်အား–

ماالسؤددفيكم؟ قال : العقل قال : صدقت سألت رسول اللهﷺ كما سألتك فقال كما قلت ، ثم قال سألت جبريلﷺ ما السؤدد ؟ فقال : العقل . (أخرجه ابن المجبر)

'အသင်တို့အတွင်း အုပ်ချုပ်ဦးဆောင်မှုသည် ဘာလဲ'ဟု မေးခဲ့သည်။ တမီးမ်ဒါရီﷺသခင်က 'အသိဉာဏ်ဖြစ်သည်'ဟု ဖြေခဲ့သည်။ ထိုအခါ အိုမရ်ﷺသခင်က 'အသင် မှန်သည်။ အသင့်ကို မေးသကဲ့သို့ တမန်တော်မြတ်ﷺအား မေးခဲ့သည်။ တမန်တော်မြတ်ﷺကလည်း အသင်ဖြေသကဲ့သို့ပင် အဖြေပေးခဲ့ပါသည်။ ထို့နောက် တမန်တော်မြတ်ﷺက 'ငါတမန်တော်သည် ဂျိဗ်ရီလ်ﷺအား 'ဦးဆောင်အုပ်ချုပ်မှုသည် ဘာလဲ'ဟု မေးခဲ့သည်။ ထိုအခါ ဂျိဗ်ရီလ်ﷺက 'အသိဉာဏ်ဖြစ်သည်'ဟု အဖြေပေးခဲ့သည်။'

ထို့ပြင် ဘရာအ်အိဗ်နေ့အာဇိဗ်ﷺသခင့်ထံမှ ဆင့်ပြန်လာရှိသည်။

كثرت المسائل يوماً على رسول اللهﷺ فقال : ((ياأيها الناس إنّ لكل شيء مطية ومطية المرء العقل و أحسنكم دلالة ومعرفة بالحجة أفضلكم عقلاً)) . (أخرجه ابن المجبر)

'တစ်ရက်တွင် လူတို့သည် တမန်တော်မြတ်ﷺအား မေးခွန်းအများအပြားကို မေးမြန်းခဲ့ကြသည်။ ထိုတွင် တမန်တော်မြတ်ﷺက 'အိုလူတို့။ အရာရာတိုင်းတွင် အစီးအနင်းတစ်ခုစီရှိကြသည်။ လူသား၏အစီးအနင်းသည် အသိဉာဏ်ဖြစ်သည်။ အသင်တို့တွင် အထောက်အထားသာဓကကို အကောင်းဆုံးသိကျွမ်းသူသည် အသိဉာဏ်အရှိဆုံးသူဖြစ်သည်။'

ထို့ပြင် အဗူဟုရိုင်ရဟ်ﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်။

لما رجع رسول الله ﷺ من غزوة أُحُد سمع الناس يقولون : فلان أشجع من فلان وفلان أبلى ما لم يبل فلان ونحو هذا فقال رسول الله ﷺ : ((أما هذا فلا علم لكم به)) ، قالو : وكيف ذلك يا رسول الله ؟ فقال ﷺ : ((إنهم قاتلوا على قدر ما قسم الله لهم من العقل وكانت نصرتهم ونيتهم على قدر عقولهم فأصيب منهم من أصيب على منازل شتى فأذا كان يوم القيامة القتسموا المنازل على قدر نياتهم وقدر عقولهم . (أخرجه ابن المجبر)

'တမန်တော်မြတ်ﷺအိုဟူဒ်တိုက်ပွဲမှ ပြန်လာသောအခါ လူတို့ တစ်ဦးနှင့်တစ်ဦး 'မည်သူသည် မည်သူထက်ပို၍ ရဲစွမ်းသတ္တိရှိသည်၊ မည်သူ၏ကြိုးရမှုထက် မည်သူထက်ကြိုးရမှုက ပို၍ပြင်းထန်သည်'စသည်ဖြင့် ပြောဆိုနေကြသည်ကို ကိုယ်တော်ကြားသိခဲ့ရသည်။ သို့ဖြစ်ရာ ကိုယ်တော်မြတ်ﷺက 'သည်အထဲတွင် အသင်တို့ မသိကြသည့်ကိစ္စ ရှိသေးသည်'ဟု ပြောဆိုခဲ့သည်။ ဆွဟာဗဟ်များက 'အဘယ်သို့ပါလဲ ရစူလ်ကိုယ်တော်'ဟု မေးမြန်းကြသည်။ ထိုတွင် တမန်တော်မြတ်ﷺက 'ၾင်းတိုက်ခိုက်ကြသူများသည် အလ္လာဟ်အရှင်က ၎င်းတို့အား ပေးထားသည့် အသိဉာဏ်ပမာဏနှင့်အညီ တိုက်ခိုက်ကြခြင်းဖြစ်သည်။ ၎င်းတို့၏အောင်မြင်မှုနှင့်၎င်းတို့၏ရည်စူးမှုများသည် ၎င်းတို့၏အသိဉာဏ်ရှိသလောက်သာဖြစ်သည်။ သို့ဖြစ်၍ပင် ၎င်းတို့ရရှိသော အဆင့်အတန်းများသည်လည်း အမျိုးမျိုးရှိကြခြင်းဖြစ်သည်။ ကိယာမတ်နေ့တွင် ၎င်းတို့သည် မိမိတို့၏ရည်စူးမှုများ၊ မိမိတို့၏အသိဉာဏ်များနှင့် ကိုက်ညီသော အဆင့်အတန်းများကို ရရှိကြပေမည်။'

ထို့ပြင် အဗူဟုရိုင်ရဟ်ﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

جَدَّ الملائكة واجتهدوا في طاعة الله سبحانه وتعالى بالعقل وجَدَّ المؤمنون من بني آدم على قدر عقولهم فأعملهم بطاعة الله عزوجل أوفرهم عقلا . (البغوي،ابن المجبر)

'အလ္လာဟ်အရှင်မြတ်အား အမိန့်နာခံကြရာတွင် ကောင်းကင်တမန်များ၏ကြိုးစားအားထုတ်မှုသည် အသိဉာဏ်အရဖြစ်သည်။ အာဒမ်သခင်၏သားမြေး အီမာန်ရှင်တို့၏ကြိုးစားမှုသည် ၎င်းတို့၏အသိဉာဏ်အလျောက်ဖြစ်သည်။ သို့ဖြစ်ရာ ၎င်းတို့အနက် အသိဉာဏ်အပြည့်ဝဆုံးသူသည် အလ္လာဟ်အရှင်၏အမိန့်နာခံမှုတွင် အများဆုံးကျင့်မှုသူဖြစ်သည်။'

ထို့ပြင် အာအိရှာﷺသခင်ထံမှ ဆင့်ပြန်လာရှိသည်မှာ–

قلت يا رسول الله بم يتقاضل الناس في الدنيا ؟ قال : بالعقل ، قلت : وفي الآخرة قال : بالعقل ، قلت : ((أليس إنما يجزون بأعمالهم ؟ فقال رسول الله ﷺ : يا عائشة وهل عملوا إلا بقدرما أعطاهم عزو جل من العقل ؟ فبقدر ما أعطوا من العقل كانت أعمالهم وبقدرما عملوا يجزون . (ابن المجبر. ت)

'ကျွန်ုပ်က တမန်တော်မြတ်ﷺအား 'အို ရစူလ်ကိုယ်တော်၊ ဒွန်နယာလောကတွင် လူသားတို့၏မြင့်မြတ်ကြခြင်းသည် အဘယ်အရာဖြင့်ဖြစ်ပါသလဲ'ဟု မေးမြန်းခဲ့၏။ ထိုအခါ တမန်တော်မြတ်ﷺက 'အသိဉာဏ်ဖြင့်ဖြစ်သည်'ဟု ဖြေခဲ့သည်။ ထိုအခါ ကျွန်ုပ်က 'လူတို့၏မြတ်ခြင်းသည် သူတို့၏ကျင့်မှုရာများ၏အစား

ရလဒ် မဟုတ်ပါသလော'ဟု မေးခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အို အာအိရှာ၊ သူတို့၏ကျင့်မှုရာများသည်လည်း သူတို့အား အသိဉာဏ် ပေးထားသလောက်သာဖြစ်သည်။ သို့ဖြစ်ရာ ၎င်းတို့သည် မိမိတို့အားပေးထားသော အသိဉာဏ်၏ပမာဏနှင့်အညီ ကျင့်မှုကြလိမ့်မည်။ ထိုကျင့်မှုရာများ၏ပမာဏနှင့်အညီ ၎င်းတို့အစားပေးခြင်းခံရမည်။'

ထို့ပြင် အီဗ်နေ့အဗ္ဗာစ်ﷺသခင့်ထံမှ ဆင့်ပြန်လာရှိသည်။ 'တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

لكل شيء آلة وعدة و إن آلة المؤمن العقل ، ولكل شيء مطية ومطية المرء العقل ، لكل شيء دعامة دعامة الدين العقل ، ولكل قوم غاية و غاية العباد العقل ، لكل قوم دا ع و داعي العابدين العقل ، ولكل تاجر بضاعة و بضاعة المجتهدين العقل ، لكل أهل بيت قيّم ، و قيّم بيوت الصديقين العقل ، لكل خراب عمارة وعمارة الآخرة العقل ، ولكل امرىء عقب ينسب إليه ويذكر به وعقب الصدّيقين الذي ينسبون إليه ويذكرون به العقل ، ولكل سفر فسطاط وفسطاط المؤمنين العقل . (البغوي . ابن المجبر)

'အရာရာတိုင်းတွင် လက်နက်ကိရိယာနှင့်အထောက်အကူပြုတန်ဆာပလာရှိသည်။ အီမာန်ရှင်တို့၏လက်နက်ကိရိယာသည် အသိဉာဏ်ဖြစ်သည်။ အရာရာတိုင်းတွင် အစီးအနင်းတစ်ခုစီရှိကြသည်။ လူသား၏အစီးအနင်းသည် အသိဉာဏ်ဖြစ်သည်။ အရာရာတိုင်းတွင် ဒေါက်တိုင်များရှိသည်။ သာသနာ၏ဒေါက်တိုင်သည် အသိဉာဏ်ဖြစ်သည်။ လူသားအုပ်စုတိုင်းတွင် ရည်မှန်းချက်တစ်ခုစီရှိကြသည်။ အီမာန်ရှင်တို့၏ရည်မှန်းချက်သည် အသိဉာဏ်ဖြစ်သည်။ လူသားအုပ်စုတိုင်းတွင် ဆော်ဩသူအသီးသီးရှိကြသည်။ တရားကျင့်သူများ၏ဆော်ဩသူသည် အသိဉာဏ်ဖြစ်သည်။ ကုန်သည်တိုင်းတွင် ကုန်စည်အရင်းအနှီးများရှိကြသည်။ အီဂျ်တိဟာဒ်-ကြိုးပမ်းရှာဖွေသူ၏ကုန်စည်အရင်းအနှီးသည် အသိဉာဏ်ဖြစ်သည်။ အိမ်တိုင်းတွင် အိမ်ထောင်ဦးစီးတစ်ဦးရှိသည်။ သစ္စာဝါဒီတို့နေထိုင်ရာ အိမ်များ၏အိမ်ထောင်ဦးစီးသည် အသိဉာဏ်ဖြစ်သည်။ လူတိုင်းလူတိုင်းတွင် နောက်လိုက်နောက်သားရှိကြသည်။ ထိုလူတို့ကို ထိုနောက်လိုက်နောက်သားဖြင့် စပ်လျဉ်းခေါ်ဆိုကြရသည်။ သစ္စာရှင်များအား စပ်လျဉ်းဖော်ပြရသည့် နောက်လိုက်နောက်သားသည် အသိဉာဏ်ဖြစ်သည်။ လမ်းခရီးတိုင်းတွင် စခန်းချနားခိုရာရှိသည်။ အီမာန်ရှင်တို့၏စခန်းချနားခိုရာသည် အသိဉာဏ်ဖြစ်သည်။'

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن أحب المؤمنين إلى الله عزوجل من نصب في طاعة الله عزوجل و نصح لعباده و كمل عقله ونصح نفسه فأبصر وعمل به أيام حياته فأفلح و أنجح . (ديلمى . ابن المجبر)

'အီမာန်ရှင်တို့တွင် အလ္လာဟ်အရှင် အချစ်အနှစ်သက်ဆုံးသူသည် အလ္လာဟ်အရှင့်အမိန့်ကို မြဲစွဲနာခံသူဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်၏ကျေးကျွန်လူသားများကို ကောင်းကျိုးလိုလားသူဖြစ်သည်။ အသိဉာဏ်ပြည့်ဝသူဖြစ်သည်။ မိမိ၏စေတသိတ်ကို ကောင်းကျိုးလိုလားသူဖြစ်သည်။ သို့ဖြစ်ရာ ကြည့်လော့။ မိမိ၏သက်တမ်းအချိန်ကာလကို အသိဉာဏ်နှင့်အညီ ကျင့်သုံးနေထိုင်သူသည် အောင်မြင်လွတ်မြောက်မှုရရှိမည်ဖြစ်သည်။'

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

أتمكم عقلاً أشدّكم لله تعالى خوفاً و أحسنكم فيما أمركم به ونهى عنه نظراً و إن كان أقلكم تطوعًا (ابن المجبر)

'အသင်တို့အနက် အသိဉာဏ်အပြည့်ဝဆုံးသူသည် အလ္လာဟ်အရှင်ကို အကြောက်ဆုံးသူဖြစ်သည်။

ထို့ပြင် ထိုသူသည် အပိုကျင့်စဉ်များတွင် နည်းကောင်းနည်းမည်ဖြစ်သော်လည်း အသင်တို့အပေါ် အမိန့်ပေးခိုင်းစေထားသောအရာနှင့် တားမြစ်ထားသောအရာကို အကောင်းဆုံးဂရုစိုက် ကျင့်သုံးသူဖြစ်သည်။'

## အသိဉာဏ်၏အရင်းမူလသဘောနှင့် အမျိုးအစားများ

အသိဉာဏ်ကို အဓိပ္ပါယ်ဖွင့်ဆိုပြီး ယင်း၏အရင်းမူလသဘောကို ရှင်းလင်းဖော်ပြရာ၌ လူတို့တွင် ကွဲလွဲမှုများ ရှိနေကြသည်။ လူအများစုသည် အသိဉာဏ်၏အရင်းမူလသဘောကို ရေးကြီးခွင်ကျယ်လုပ်ရန် မလိုအပ်ဟု မှတ်ယူလျက်ရှိပြီး အသိဉာဏ်ဆိုသောစကားလုံးကို အဓိပ္ပါယ်အမျိုးမျိုးဖြင့် သုံးစွဲလျက်ရှိသည်ကိုလည်း ဂရုမမူမိကြချေ။ ထိုသို့ အဓိပ္ပါယ်အမျိုးမျိုးဖြင့် သုံးစွဲနေခြင်းကြောင့်လည်း အသိဉာဏ်အပေါ် အယူအဆအမျိုးမျိုး ကွဲလွဲလာရခြင်းဖြစ်သည်။ ဤကိစ္စအတွက် သစ္စာကြတ်ဖွင့် အစစ်အမှန်သဘောသည် ဤသို့ဖြစ်သည်။ 'عقل' (အသိဉာဏ်)ဆိုသောစကားလုံးသည် အဓိပ္ပါယ်လေးမျိုးဖြင့် သုံးစွဲသော အနက်ပွါမ်းဝေါဟာရဖြစ်သည်။ 'عين'ဆိုသည့်စကားလုံးကို 'မျက်စိ၊ စမ်းချောင်း'စသည်ဖြင့် အဓိပ္ပါယ်အမျိုးမျိုးဖြင့် သုံးစွဲကြသကဲ့သို့ဖြစ်သည်။ ဤနေရာတွင် အသိဉာဏ်၏ အဓိပ္ပါယ်လေးခုစလုံးကို ပေါင်းရုံးဖော်ပြရန် မသင့်တော်ချေ။ ထိုအစား အဓိပ္ပါယ်တစ်မျိုးချင်းကို သီးခြားစီဖော်ပြခြင်းက ပို၍သင့်တော်သည်။

**ပထမအမျိုးအစား–** အသိဉာဏ်တည်းဟူသော ဝိသေသဖြင့် လူသည် အခြားတိရိစ္ဆာန်အားလုံးနှင့် ကွဲပြားခြားနားရလေသည်။ ဤဝိသေသဖြင့် လူသားသည် တတ်သိမှုပညာများကို လက်ခံရယူခြင်းနှင့် တွေးခေါ်မြော်မြင်မှုများကို ဖေါ်ထုတ်နိုင်သည့်အရည်အချင်းများ ရှိလာခြင်းဖြစ်သည်။ ကျော်ကြားသောဒဿနပညာရှင် ဟိရ်စ်အီဗ်နေ့မုဟာစိဘီကလည်း ဤအတိုင်းပင် ဖွင့်ဆိုခဲ့သည်။ အသိဉာဏ်၏ဖွင့်ဆိုချက်နှင့်ပတ်သက်၍ ၎င်းက ပြောဆိုခဲ့သည်မှာ 'အသိဉာဏ်ဆိုသည်မှာ ဗီဇသတ္တိတစ်ခုဖြစ်သည်။ ယင်းကို အခြေခံပြီး လူသားသည် အသိပညာရပ်များကို သိရှိရန် အသင့်ဖြစ်လာရသည်။ ပမာဆိုသော် အသိဉာဏ်သည် နှလုံးသားတွင် ထည့်သွင်းပေးထားသော အလင်းရောင်တစ်ခုကဲ့သို့ဖြစ်သည်။ ထိုအလင်းရောင်ဖြင့် လူသားသည် အရာရာကို သိလာရသည်။' ဤဖွင့်ဆိုမှုကို ငြင်းဆန်ပြီး 'အသိဉာဏ်ဆိုသည်မှာ သိမှုများကို သိရှိမှုသက်သက်သာဖြစ်သည်'ဟု ဖေါ်ပြခြင်းသည် မှုတမှုမရှိချေ။ အဘယ်ကြောင့်ဆိုသော် သိမှုများကို မေ့သွားသူနှင့် အိပ်ပျော်နေသူတို့တွင် သိမှုများ မရှိတော့သည့်တိုင် ဤဗီဇသတ္တိရှိနေသေးသည့်အတွက် 'အသိဉာဏ်ရှိသူ'ဟုသာ ခေါ်ရလေသည်။

အသိဉာဏ်သည် အသက်ဇီဝကဲ့သို့ ဗီဇသတ္တိတစ်ခုဖြစ်သည်။ အသက်ဇီဝရှိနေသောကြောင့် ကိုယ်ခန္ဓာသည် လှုပ်ရှားသွားလာနိုင်ပြီး အာရုံများက ထိတွေ့သိရှိနေကြခြင်းဖြစ်သည်။ ဤနည်းအတူ ဗီဇသတ္တိတစ်ခုဖြစ်သောအသိဉာဏ်ရှိနေသောကြောင့် အချို့သောတိရိစ္ဆာန်များသည် ဘာသာဘာဝအလျှောက် တတ်သိမှုများကို သိရှိရန်စွမ်းနိုင်ကြခြင်းဖြစ်သည်။ အကယ်၍ တစ်စုံတစ်ဦးက 'ဗီဇသတ္တိနှင့်အာရုံများကို ထိတွေ့သိရှိနိုင်ခြင်းတွင် လူနှင့်မြည်းသည် အတူတူဖြစ်သည်။ အလ္လာဟ်အရှင်က မိမိ၏အလေ့တော်အရ လူသားတွင် အသိပညာများကို ဖန်ဆင်းပေးတော်မူပြီး၊ မြည်းနှင့် တိရိစ္ဆာန်များတွင် ဖန်ဆင်းမပေးခြင်းမှလွဲ၍ ဤသက်ရှိနှစ်မျိုးတွင် ဘာမှကွာခြားမှုမရှိပါ'ဟု ပြောဆိုလာမည်ဆိုလျှင်၊ မြည်းနှင့်ကျောက်ခဲစသည့် အစိုင်အခဲများသည် အသက်ရှိရာတွင် အတူတူဖြစ်သည်ဟုလည်း ပြောနိုင်ပေတော့မည်။ ကွာခြားသည်မှာ အလ္လာဟ်အရှင်၏ပြုတော်မူမြဲထုံးစံတော်အရ မြည်းတွင် လှုပ်ရှားသွားလာနိုင်စွမ်း ဖန်ဆင်းပေးအပ်ထားခြင်းသာဖြစ်သည်။

သို့နှင့်အမျှ အကယ်၍ မြည်းကို မလှုပ်မရှက်သေနေသောကျောက်တုံးတစ်တုံးအဖြစ် မှတ်ယူကြည့်မည်ဆိုပါ

က၊ အလ္လာဟ်အရှင်သည် ထိုကျောက်တုံးတွင် မြင်သာထင်သာလှုပ်ရှားမှုကို ဖန်ဆင်းဖြစ်ပေါ်စေရန် စွမ်းတော်မူသော အရှင်ဖြစ်သည်ဟု မလွဲမသွေပြောဆိုနိုင်မည်ဖြစ်သည်။ ထို့ပြင် မြည်းတွင် အသက်ဇီဝဟု ခေါ်တွင်သော ဗီဇသတ္တိရှိနေသဖြင့် လှုပ်ရှားသွားနိုင်မှုတွင် ကျောက်ခဲအစရှိသည့် အစိုင်အခဲအရာများနှင့် ကွာခြားနေခြင်းဖြစ်သည်ဟု မလွဲမသွေပြောဆိုရသည့်ပမာဖြစ်သည်။ ဤနည်းအလားတူ လူနှင့် တိရိစ္ဆာန်တို့သည် အသိပညာများကို သိရှိနိုင်စွမ်းတွင် ဗီဇသတ္တိအားဖြင့် ကွာခြားမှုရှိလေသည်။ ထိုဗီဇသတ္တိကို အသိဉာဏ်ဟု ခေါ်ဆိုခြင်းဖြစ်သည်။

အသိဉာဏ်သည် တစ်နည်းအားဖြင့် ကြည့်မှန်တစ်ချပ်ကဲ့သို့ဖြစ်သည်။ အခြားအရာဝတ္ထုများနှင့်ကွာခြားသည်မှာ ကြည့်မှန်သည် ရုပ်သဏ္ဌာန်နှင့်အရောင်အဆင်းများကို ဖော်ပြနိုင်ခြင်းဖြစ်သည်။ ကြည့်မှန်တွင်သာရှိသော ယင်းထူးခြားသည့် ဂုဏ်သတ္တိကို ပုံရိပ်ထင်ခြင်းဟု ခေါ်သည်။ ဤနည်းအတူ မျက်လုံးနှင့် နဖူး၏ကွာခြားချက် ဝိသေသလက္ခဏာသည် မြင်ခြင်းဖြစ်သည်။ **အသိဉာဏ်နှင့်**အသိပညာတို့၏ဆက်နွယ်မှုသည် မျက်လုံးနှင့် မြင်ခြင်း၏ဆက်နွယ်မှုအတိုင်းဖြစ်သည်။ **ကုရ်အာန်ကျမ်းမြတ်၊** **ရှရီအတ်**နှင့် ဤအသိဉာဏ်ဆိုသောဗီဇသတ္တိတို့၏ကွာခြားချက်သည် **နေ၏အလင်းရောင်နှင့်မျက်စိအလင်းတို့၏ကွာခြား**သလိုပင်ဖြစ်သည်။ ဤဗီဇသတ္တိကို ယခုရှင်းပြသည့်အတိုင်း နားလည်ရန်ကြိုးစားပါ။

**ဒုတိယအမျိုးအစား–** အသိဉာဏ်**ဆိုသည်မှာ ခွဲခြားနိုင်စွမ်းရှိ**သော ကလေးတိုင်း၏ပင်ကိုယ်တွင် ရှိနေသည့်အသိများဖြစ်သည်။ ခွဲခြားနိုင်စွမ်းဆိုသည်မှာ **ဖြစ်နိုင်သောအရာကို ဖြစ်နိုင်မှန်း၊** **မဖြစ်နိုင်သောအရာကို** မဖြစ်နိုင်မှန်းသိခြင်းဖြစ်သည်။ ဥပမာ နှစ်သည် တစ်ထက် ပိုများကြောင်း **သိခြင်းမျိုးဖြစ်သည်။** လူပုဂ္ဂိုလ်တစ်ဦးသည် တစ်ချိန်တည်းတွင် နေရာနှစ်ခု၌ မရှိနိုင်ကြောင်း သိခြင်းမျိုးဖြစ်သည်။ **ဤအခ်ပွါယ်အတိုင်းပင် အချို့သော ကလာမ်ပညာရှင်များ**က အသိဉာဏ်ကို ဖွင့်ဆိုထားသည်။ ၎င်းတို့က ‘အသိဉာဏ်ဆိုသည်မှာ ဖြစ်နိုင်သောကိစ္စ၏ဖြစ်နိုင်ခြင်း၊ မဖြစ်နိုင်သောကိစ္စ၏မဖြစ်နိုင်ခြင်းတို့ကို သိသောသိမှုများ’ဟု အဆိုပြုကြသည်။ ဤသို့ဖွင့်ဆိုခြင်းလည်း **တစ်နည်းအားဖြင့်** မှန်ကန်ပါသည်။ အဘယ်ကြောင့်ဆိုသော် ထိုသိမှုများသည် လက်တွေ့တွင် ရှိနေသည်။ ထိုသိမှုများကို အသိဉာဏ်ဟု အမည်ပေးခြင်းလည်း မှန်သည်။ သို့သော် ဤဖွင့်ဆိုချက်တွင် မှားနေသောအချက်မှာ ထိုသိမှုများကိုသာ အသိဉာဏ်ဖြစ်သည်ဟု ဆိုကာ ထိုသိမှုများမှလွဲ၍ အခြားဘာမှမရှိဟု ပြောဆိုပြီး အထက်ပါဗီဇသတ္တိကို ငြင်းဆိုထားခြင်းဖြစ်သည်။

**တတိယအမျိုးအစား– အသိဉာဏ်**ဆိုသည်မှာ နိစ္စရူဝအတွေ့အကြုံများမှ ရရှိသော အသိများဖြစ်သည်။ အဘယ်သို့ဆိုသော် အတွေ့အကြုံရင့်ကျက်သူနှင့် ဘဝနေထိုင်မှုနည်းလမ်းများသိရှိသူကို အသိဉာဏ်ရှင်ဟု ခေါ်ကြရိုးထုံးစံရှိသောကြောင့်ဖြစ်သည်။ တဖန် ဤအရည်အချင်းများ မရှိသူကို တုံးအသူ၊ ဉာဏ်ကန်းသူ၊ အသိဉာဏ်မရှိသူဟု ခေါ်တွင် နေကြသောကြောင့်ဖြစ်သည်။ သို့နှင့် သိမှု၏ဤအမျိုးအစားကိုလည်း အသိဉာဏ်ဟုပင် အမည်ပေးကြသည်။

**စတုတ္ထအမျိုးအစား–** ကိစ္စရပ်များ၏အကျိုးဆက်ရလဒ်ကို တွေးဆနိုင်ပြီး ကာမဂုဏ်ဘက်သို့ ဆွဲဆောင်သည့်ရမ္မက်ဆန္ဒကို ဇက်သပ်ထိန်းချုပ်နိုင်စွမ်းရှိသူကို အသိဉာဏ်ရှိသူဟု ခေါ်သည်။ ထိုသူ၏သွားလာလုပ်ကိုင်သမျှသည် ဖြစ်ပေါ်လာမည့်အကျိုးဆက်ရလဒ်ကို တွေးဆ၍ဖြစ်သည်။ ကာမဂုဏ်အာရုံများ၏ဆန္ဒစိတ်က ဆောင်၍ မဟုတ်ပေ။ ဤတို့မှာ လူသား၏သီးသန့်အရည်အချင်းများဖြစ်သည်။ ဤအရည်အချင်းများ ရှိနေသောကြောင့်လည်း လူသားသည် အခြားတိရိစ္ဆာန်များအားလုံးနှင့် ကွဲပြားခြားနားသွားခြင်းဖြစ်သည်။

ယခု ရှင်းလင်းဖော်ပြခဲ့သည်တို့တွင် ပထမအမျိုးအစားသည် အခြေခံအုတ်မြစ်ဖြစ်သည်။ စမ်းပေါက်ဝဖြစ်သည်။ ဒုတိယအမျိုးအစားသည် ပထမအမျိုးအစားနှင့်နီးစပ်သော ဆင့်ပွါးအခွဲအလက်ဖြစ်သည်။ တတိယအမျိုးအစားသည် ပထမနှင့်ဒုတိယအမျိုးအစားတို့၏အကိုင်းအလက်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဗီဇပါအစွမ်းသတ္တိ

နှင့် အခံအသိတို့က အတွေ့အကြုံမှ အသိပညာများကို ရယူသောကြောင့်ဖြစ်သည်။ စတုတ္ထအမျိုးအစားသည် အဆုံးရလဒ်နှင့် ရည်မှန်းချက်ပန်းတိုင်ဖြစ်သည်။ ဤသို့ရှိသဖြင့် အလီكرم الله وجههသခင်က စပ်ဆိုသည်မှာ–

رأيت العقل عقلين فمطبوع ومسموع
ولا ينفع مسموع إذا لم يك مطبوع
كما لا تنفع الشمس وضوء العين ممنوع

*'ကျွန်ုပ်သည် အသိဉာဏ်ကို **နှစ်မျိုးနှစ်စား** တွေ့မြင်သည်။*
*ဗီဇသဘာဝပါဉာဏ်နှင့် ကြားနာရရှိသောဉာဏ်ဖြစ်သည်။*
*သင့်မှာ ဗီဇဉာဏ် မရှိသ၍ ကြားဉာဏ်က အကျိုးမပြုပါ။*
*မျက်စိအလင်းမဲ့လျှင် နေမင်းက အကျိုးမပြုသကဲ့သို့ပင်။'*

ပထမအမျိုးအစားအသိဉာဏ်ကို ရည်ညွှန်းဖော်ပြသော တမန်တော်မြတ်ﷺ၏ မိန့်ဆိုချက်မှာ–

ما خلق الله عزوجل خلقاً أكرم عليه من العقل. (ت)

'အလ္လာဟ်အရှင်မြတ်သည် အသိဉာဏ်ထက်ပို၍ ထွတ်မြတ်သောအရာကို ဖန်ဆင်းတော်မမူခဲ့ပေ။'

ထို့နောက် စတုတ္ထအမျိုးအစားအသိဉာဏ်ကို ရည်ညွှန်းဖော်ပြသော တမန်တော်မြတ်ﷺ၏ မိန့်ဆိုချက်များမှာ–

إذا تقرب الناس بأبواب البر والأعمال الصالحة فتقرب أنت بعقلك. (نع)

'လူသားသည် ကောင်းမှုကုသိုလ်များ၊ ကောင်းမြတ်သောကျင့်မှုရာများဖြင့် အလ္လာဟ်အရှင့်ထံနီးကပ်မှုကို ရရှိသည်။ သို့ရှိရာ အသင်သည် မိမိ၏အသိဉာဏ်ဖြင့် အလ္လာဟ်အရှင့်ထံ နီးကပ်မှုရယူပါလေ။'

ထို့ပြင် တမန်တော်မြတ်ﷺက အဗူဒရ်ဒါအ်ﷺသခင်အား–

ازدد عقلًا تزدد من ربك قرباً، فقال: بأبي أنت وأمي وكيف لي بذلك؟. فقال: اجتنب محارم الله تعالى وأدّ فرائض الله سبحانه تكن عاقلًا واعمل بالحات من الأعمال تزدد في عاجل الدنيا رفعة وكرامة وتنل في آجل العقبى بها من ربك عزوجل القرب والعز. (ابن المجبر)

'သင်သည် အသိဉာဏ်ကို များပြားအောင်လုပ်ပါ။ သို့ဆိုလျှင် သင်၏ရစ်အရှင်နှင့် သင်နီးကပ်မှုများပြားလိမ့်မည်'ဟု မိန့်ဆိုခဲ့သည်။ ထိုအခါ အဗူဒရ်ဒါအ်ﷺသခင်က 'ကျွန်ုပ်၏ဖခင်နှင့်မိခင်ကို တိုင်တည်ပြောဆိုပါမည်။ ဤအရာသည် ကျွန်ုပ်အဖို့ မည်သို့ ဖြစ်နိုင်ပါသနည်း'ဟု ပြန်လည်လျှောက်ထားခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အလ္လာဟ်အရှင်က ဟရာမ်ပြုထားသောအရာများကို အသင်ရှောင်ရှားပါ။ ထို့နောက် အလ္လာဟ်အရှင် ချမှတ်ထားသောတာဝန်ဝတ္တရားများကို ကျေပြွန်ပါ။ ဤနည်းဖြင့် အသင်အသိဉာဏ်ရှိသူဖြစ်မည်။ ထို့နောက် ကောင်းမြတ်သောကျင့်မှုရာများကို ကျင့်ဆောင်ပါ။ ထိုအခါ အသင်သည် ဒွန်နယာတွင် အဆင့်အတန်းမြင့်မားပြီး ဂုဏ်ရှိမည်။ ထို့ပြင် အာခိရတ်တွင် အသင်၏ရစ်အရှင်နှင့် နီးကပ်မှုရမည်။'

စအီဒ်အိဗ်နေ့မုဆိုင်ယီဘ်ﷺသခင်က ဆင့်ပြန်ပြောပြသည်မှာ–

أن عمر وأبيّ بن كعب وأبا هريرة دخلوا على رسول الله ﷺ فقالوا: يا رسول الله من أعلم الناس؟ فقال ﷺ: العاقل. قالوا: فمن أعبد الناس؟ قال: العاقل. قالوا: فمن أفضل الناس؟ قال: العاقل. قالوا: أليس من تمت مروءته وظهرت فصاحته وجادت كفه وعظمت منزلته فقال ﷺ: ﴿وَإِنْ كُلُّ ذَلِكَ لَمَّا مَتَاعُ الحَيَاةِ الدُّنْيَا وَالآخِرَةُ عِنْدَ رَبِّكَ لِلْمُتَّقِينَ﴾ إن العاقل هو المتقي وإن كان في الدنيا خسيساً ذليلا. (ابن المجبر)

'အိုမရ်သခင်၊ အိုဗိုင်အ်အိဗ်နေ့ကအ်ဘ်သခင်နှင့်အဗူဟုရိုင်ရဟ်သခင်﵃တို့သည် တမန်တော်မြတ်ﷺ ထံ ခစားခဲ့ကြသည်။ ၎င်းတို့က 'အို ရစူလ်ကိုယ်တော်၊ လူတို့တွင် မည်သူအသိဆုံးပါလဲ'ဟု မေးမြန်းခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အသိဉာဏ်ရှိသူဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့နောက် ၎င်းတို့က 'လူတို့တွင် မည်သူအိဗာဒတ်အပြုဆုံးပါလဲ'ဟု မေးမြန်းခဲ့ကြသည်။ ထိုအခါတွင် တမန်တော်မြတ်ﷺက– 'အသိဉာဏ်ရှိသူဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့နောက် ၎င်းတို့က 'လူတို့တွင် အမြတ်ဆုံးမည်သူပါလဲ'ဟု မေးမြန်းခဲ့ကြပြန်သည်။ ထိုအခါတွင်လည်း တမန်တော်မြတ်ﷺက 'အသိဉာဏ်ရှိသူဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထိုအခါ ၎င်းတို့က 'အသိဉာဏ်ရှိသူဆိုသည်မှာ လူမှုဆက်ဆံရေးပြည့်ဝသူ၊ အပြောအဆိုပြေပြစ်သူ၊ ရက်ရောသူ၊ အဆင့်အတန်းမြင့်သူမဟုတ်ပါလား'ဟု မေးမြန်းခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်ﷺက ကျမ်းမြတ်ကုရ်အာန်မှ–

**'ထိုအရာအားလုံးသည် လောကီသက်တမ်း၏ အသုံးအဆောင်များသာဖြစ်သည်။ အသင်၏ ရဗ်အရှင်ထံတွင် အာခိရတ်သည် မွတ္တကီများအတွက်သာဖြစ်၏။'** (ဇူခရုဖ်ရှ်ဖ် ၊၃၅)

အာယတ်ကို ရွတ်ဖတ်ပြီးနောက် မိန့်ဆိုသည်မှာ 'အသိဉာဏ်ရှိသူကသာ မွတ္တကီဖြစ်သည်။ ၎င်းသည် ဒွန်ယာလောကတွင် အောက်ကျသေးသိမ်သူဖြစ်ချင်ဖြစ်ခဲ့ပါစေ။'

နောက်ဟဒီစ်တစ်ပုဒ်တွင် တမန်တော်**မြတ်ﷺမိန့်ဆိုသည်မှာ–**

إنما العاقل من آمن بالله وصدق رسله وعمل بطاعته . (ابن المحبر)

'အသိဉာဏ်ရှိသူဆိုသည်မှာ **အလ္လာဟ်အရှင်နှင့် ထိုအရှင်၏** ရစူလ်တမန်တော်များကို အီမာန်သက်ဝင်ပြီး ထိုအရှင်အား အမိန့်နာခံကျင့်**ဆောင်သူ**ဖြစ်သည်။'

ဤနေရာတွင် 'عقل'**အသိဉာဏ်ဆိုသောစကား**လုံးသည် မူလအားဖြင့် အထက်တွင် ဖော်ပြခဲ့သောဗီဇသတ္တိအတွက် ထားခဲ့ဟန်တူသည်။ **ဤစကားလုံးကို** ပညာရပ်များတွင် သုံးစွဲခြင်းသည် ထိုပညာရပ်များမှ သီးပွင့်ထွက်ပေါ်လာသောရလဒ်များကို **အခြေခံ၍ဖြစ်**သည်။ အဘယ်ကြောင့်ဆိုသော် ကိစ္စရပ်တစ်ခုကို ယင်းမှ ထွက်ပေါ်သည့် ရလဒ်ဖြင့်လည်း **ဖွင့်ဆိုရှင်းပြရသောကြောင့်**ဖြစ်သည်။ ဥဒါဟရဏ်အားဖြင့် ပညာကို အလ္လာဟ်အရှင့်အား ကြောက်ရွံ့ခြင်းဟု၎င်း၊ ပညာရှင်ကို **အလ္လာဟ်အရှင်အား** ကြောက်ရွံ့သူဟု၎င်း ပြောဆိုခြင်းမျိုးဖြစ်သည်။ ဤသို့ဆိုရခြင်းမှာ အလ္လာဟ်အရှင်အား ကြောက်ရွံ့ခြင်းသည် ပညာမှ ထွက်ပေါ်သော အသီးအပွင့်ရလဒ်ဖြစ်သောကြောင့်ပင်။ ဤနည်းအလားတူ အသိဉာဏ်ကို ယင်းမှထွက်ပေါ်သည့် ရလဒ်တစ်ခုခုအတွက် အသုံးပြုခြင်းသည် တင်စားပြောဆိုသောသဘောဖြစ်သည်။ အဟုတ်တကယ်သဘောမဟုတ်ပေ။ ဤနေရာတွင် အသိဉာဏ်ဆိုသောဝေါဟာရကို အဘိဓာန်ရှုဒေါင့်မှ စစ်ဆေးသုံးသပ်ရန် ရည်ရွယ်ခြင်းမရှိပါ။

ရည်ရွယ်ချက်မှာ အထက်တွင် ဖော်ပြထားသော အသိဉာဏ်၏အမျိုးအစားလေးခုသည် အမှန်တကယ်ရှိပြီး ဤအမျိုးအစားအားလုံးကို 'အသိဉာဏ်'ဟု သုံးနှုန်းခြင်း ပိုင်ကြောင်းသာဖြစ်သည်။ ထို့ပြင် ထိုအမျိုးအစားလေးခုတွင် ပထမအမျိုးအစားမှလွဲ၍ ကျန်သုံးခု၏တည်ရှိခြင်းတွင် အကွဲအလွဲမရှိချေ။ ထို့ပြင် ပထမအမျိုးအစား၏တည်ရှိခြင်းမှာလည်း အမှန်ဖြစ်သည်။ သို့သာမက ယင်းသည် အမျိုးအစားလေးခုတွင် မူလအခြေခံဖြစ်သည်။ ထိုအသိများအားလုံးသည် အဆိုပါဗီဇသတ္တိတွင် သဘာဝအားဖြင့် စုပေါင်း ပါဝင်လျက်ရှိသည်။ သို့သော် ယင်းတို့သည် ဖော်ထုတ်ပေးမည့် အကြောင်းခံရှိသောအခါမှ ထင်ရှားပေါ်ထွက်လာသည်။ ဥဒါဟရဏ်အားဖြင့် ရေသည် မြေကြီးထဲတွင် ရှိနေသည်။ ထိုရေသည် ရေတွင်းတူးသောအခါ ထွက်ပေါ်လာသည်။ မြင်တွေ့ထိကိုင်၍ ရလောက်အောင် စုစည်းမိလာသည်။ ဤသို့ရှိခြင်းမှာ အပြင်ပမှ အရာတစ်ခုခု ထိုတွင်းထဲသို့ ထည့်လိုက်သောကြောင့်မဟုတ်ပေ။ ဤအတွက်

နောက်ထပ်ဥပမာများမှာ ဗာဒံသီးအတွင်း၌ ရှိနေသောအဆီနှင့် နှင်းဆီပန်းအတွင်း၌ ရှိနေသော မွှေးရနံ့တို့ဖြစ်သည်။ ဤအတွက်ကြောင့်ပင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَإِذْ أَخَذَ رَبُّكَ مِنْ بَنِي آدَمَ مِنْ ظُهُورِهِمْ ذُرِّيَّتَهُمْ وَأَشْهَدَهُمْ عَلَى أَنْفُسِهِمْ أَلَسْتُ بِرَبِّكُمْ قَالُوا بَلَى﴾

**'ထို့ပြင် သတိရလော့။ အသင်၏ ရစ်အရှင်က အာဒမ်၏ သားမြေးတို့၏ ကျောကုန်းများမှ ၎င်းတို့၏ အဆက်အနွယ်များကို ထုတ်ယူတော်မူခဲ့သည်။ ထို့နောက် ၎င်းတို့ကိုယ်တိုင်ကို ၎င်းတို့အတွက် သက်သေပြုတော်မူ၍ 'ငါသည် အသင်တို့၏ ရစ်အရှင်မဟုတ်သလော'ဟု မိန့်ကြားတော်မူခဲ့သည်။ ထိုအခါ ၎င်းတို့က 'အမှန်ပင် ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးတို့၏ ရစ်အရှင်ဖြစ်တော်မူပါသည်'ဟု လျှောက်တင်ခဲ့ကြသည်။'** (စူရာအအ်ရာဖ် ၊၁၇၂)

ဤအာယတ်၌ အလ္လာဟ်အရှင်တစ်ပါးတည်းရှိတော်မူကြောင်း ... ဟုခဲ့ကြသည်ဟု ဆိုရာတွင် စိတ်သဏ္ဍာန်များ၏ ဝန်ခံမြွက်ဟမှုကို ဆိုလိုခြင်းဖြစ်သည်။ နှုတ်လျှာဖြင့် ဝန်ခံမြွက်ဟမှုကို မဆိုလိုပေ။ အဘယ်ကြောင့်ဆိုသော် နှုတ်လျှာအားဖြင့် ဝန်ခံရေးတွင် လက်ခံသူနှင့်ငြင်းဆန်သူဟူ၍ ရှိနေသောကြောင့်ဖြစ်သည်။ သို့ဖြစ်၍ပင် အလ္လာဟ်အရှင်က– ﴿وَلَئِنْ سَأَلْتَهُمْ مَنْ خَلَقَهُمْ لَيَقُولُنَّ اللهُ﴾

**'ထို့ပြင် အကယ်၍ အသင်က 'မည်သူက ၎င်းတို့အား ဖန်ဆင်းခဲ့သနည်း'ဟု ၎င်းတို့အား မေးမြန်းမည်ဆိုလျှင် ၎င်းတို့က 'အလ္လာဟ်ပင်ဖြစ်တော်မူသည်'ဟု မုချဖြေကြလိမ့်မည်။'** (စူရာလုဥ္မာန် ၊၂၅။ စူရာဇုခရ်ဖ် ၃၀)

ဟု မိန့်တော်မူခြင်းဖြစ်သည်။ ဆိုလိုသည်မှာ လူတို့၏ဖြစ်ရပ်အခြေအနေများကို ထောက်ရှုပြောဆိုမည်ဆိုလျှင် ၎င်းတို့၏ စိတ်သဏ္ဍာန်များနှင့် အတွင်းအဇ္ဈတ္တများက အလ္လာဟ်အရှင်တစ်ပါးတည်း ရှိတော်မူကြောင်းကို ဝန်ခံလျက်ရှိသည်သာဖြစ်၏။ တဖန် အလ္လာဟ်အရှင် မိန့်ကြားတော်မူထားသည်မှာ–

﴿فِطْرَةَ اللهِ الَّتِي فَطَرَ النَّاسَ عَلَيْهَا﴾

**'လူသားတို့အား ဖန်ဆင်းပေးတော်မူခဲ့သော အလ္လာဟ်အရှင်၏ သဘာဝဓမ္မ(ဘက်သို့ လှည့်ပါလော့)။'** (စူရာရူမ် ၊၃၀)

ဆိုလိုသည်မှာ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးကို အလ္လာဟ်အရှင်အား အီမာန်သက်ဝင်ယုံကြည်ရန် ဗီဇသဘာဝဖြင့် ဖန်ဆင်းတော်မူထားသည်။ သို့သာမက အရာရာတိုင်း၏ မူလဘူတကို သိကျွမ်းနိုင်သည့် ဗီဇသဘာဝဖြင့် ဖန်ဆင်းတော်မူထားသည်။ ထို့နောက် စိတ်သဏ္ဍာန်များ၌ ဗီဇသဘာဝပါ အီမာန်စွဲကပ်ခဲ့မှုအရ လူသားသည် နှစ်မျိုးနှစ်စားကွဲသွားသည်။ လူတစ်မျိုးသည် ဥပက္ခာပြုပြီး မိမိတို့၏ဗီဇပါအရာကို မေ့ပစ်ခဲ့ကြသည်။ ထိုသူတို့မှာ ကာဖိရ်များဖြစ်ကြသည်။ ထို့နောက် ဒုတိယလူတစ်မျိုးမှာ စဉ်းစဉ်းစားစားဆင်ဆင်ခြင်ခြင်ရှိသူဖြစ်သည်။ သို့ဖြစ်ရာ ၎င်းက သတိရသည်။ ထိုသူ၏ဥပမာသည် ကတိဝန်ခံချက်တစ်ခုကို မေ့သွားပြီးနောက် တဖန်ပြန်၍သတိရသူကဲ့သို့ ဖြစ်သည်။ ထိုအတွက်ကြောင့် အလ္လာဟ်အရှင်က ကျမ်းမြတ်ကုရ်အာန်၌ 'သတိတရား'ဆိုသည့်စကားလုံးကို အများအပြားသုံးနှုန်းတော်မူခြင်းဖြစ်သည်။ ဥပမာအားဖြင့်–

﴿لَعَلَّهُمْ يَتَذَكَّرُونَ﴾

**'သို့မှသာ ၎င်းတို့သည် သတိတရားရကြရန်ဖြစ်၏။'** (စူရာဗကရာ ၊၂၂၁)

﴿وَلِيَتَذَكَّرَ أُولُوا الأَلْبَابِ﴾

**'ထို့ပြင် ဉာဏ်ရှင်များ သတိတရားရကြရန်ဖြစ်၏။'** (စူရာဆွာဒ် ၊၂၉)

﴿وَاذْكُرُوا نِعْمَةَ اللهِ عَلَيْكُمْ وَمِيثَاقَهُ الَّذِي وَاثَقَكُمْ بِهِ﴾

**'ထိုပြင် အသင်တို့အပေါ်ရှိ အလ္လာဟ်အရှင်၏ကျေးဇူးတော်များကို သတိရကြကုန်။ ထိုပြင် အသင်တို့နှင့် ကတိကဝတ်ပြုခဲ့သော ပဋိညာဉ်ကိုလည်း သတိရကြကုန်။'** (စူရာမာအိဒဟ် ၊၇)

﴿وَلَقَدْ يَسَّرْنَا الْقُرْآنَ لِلذِّكْرِ فَهَلْ مِنْ مُدَّكِرٍ﴾

**'ငါး ငါအရှင်သည် ကုရ်အာန်ကို သတိတရားရရန်အတွက် လွယ်ကူမှုပြုထားတော်မူသည်။ သို့ရှိရာ သတိတရားရယူမည့်သူ ရှိသလော။'** (စူရာကမရ် ၊၁၇)

ဤတရားသဘောအား **'သတိတရား'**ဟု အမည်ပေးခြင်းကို နားမလည်နိုင်စရာမရှိပေ။ သတိရခြင်းသည် နှစ်မျိုးရှိသည်။ ပထမတစ်မျိုးသည် စိတ်နှလုံးထဲတွင် ရှိနေသော မှတ်ဉာဏ်ပုံရိပ်က သတိအာရုံတွင် ပေါ်လာခြင်းဖြစ်သည်။ သို့သော် ယင်းပုံရိပ်သည် ရှိပြီးနောက် ကွယ်ပျောက်သွားသည်။ ဒုတိယတစ်မျိုးမှာ လူသား၏အတွင်းတွင် ဗီဇသဘာဝအရ ဖုံးအုပ်စွာငသည်ရှိနေသော မှတ်ဉာဏ်ပုံရိပ်က သတိအာရုံတွင် ပေါ်လာခြင်းဖြစ်သည်။ ဤအရင်းခံသဘောများသည် အတွင်းပ‌ကျ်စိ၏အလင်းရောင်ဖြင့် ကြည့်ရှုသူအတွက် ပေါ်လွင်ထင်ရှားသောအရာများဖြစ်သည်။ ထိုသို့မဟုတ်ဘဲ အကြားသက်သက်ဖြင့်ငင်း၊ နောက်လိုက်မှုသက်သက်ဖြင့်ငင်း လက်ခံလိုက်နာနေမည်ဆိုလျှင်ကား ဤအာယတ်များသည် နားလည်ရန် ခက်ခဲလေးလံသောအရာများဖြစ်သည်။ သို့အတွက် အဆိုပါအာယတ်မျိုးတွင် လွဲမှားချွတ်ချော်ကြရသည်။ ခဲရာခက်ဆစ်ဖြစ်ကြရသည်။ သတိတရားနှင့်စိတ်သညာန်များ၏ဝန်ခံမြွက်ဟခဲ့ခြင်းကို အဓိပ္ပါယ်ကြံဆကောက်ယူရာ၌ အမျိုးမျိုးသောခဲရာခက်ဆစ်များ ကြုံကြရသည်။ အာယတ်နှင့်ဟဒီစ်များတွင် ဝိရောဓိများရှိနေသည်ဟူသောယူဆချက်များ ဖြစ်ပေါ်လာရသည်။ နောက်ဆုံးတွင် ထိုယူဆချက်များက လွှမ်းမိုးအားကောင်းပြီး ထိုအာယတ်များနှင့်ဟဒီစ်များကို အထင်သေးသည့်အကြည့်ဖြင့် ကြည့်လာသည်အထိဖြစ်သည်။ ထိုအကြောင်းအရာများသည် အဓိပ္ပါယ်မဲ့၊ အခြေအမြစ်မရှိသည့်အရာများဖြစ်သည်ဟု ယုံကြည်လာသည်အထိဖြစ်သည်။

ထိုကဲ့သို့သောသူမျိုးကို အိမ်တစ်အိမ်အတွင်းသို့ ရောက်သွားသော မျက်မမြင်တစ်ယောက်နှင့် ဥပမာပေးနိုင်သည်။ အိမ်ထဲတွင် အိုးများကို တန်းစီချထားရာ မျက်မမြင်က ဝင်တိုက်မိခဲ့သည်။ ထိုအခါ မျက်မမြင်က 'အိုးတွေကို လမ်းပေါ်မှာ ဘာလို့ထားရသလဲ။ ဘာလို့ သူ့နေရာနဲ့သူ မထားရသလဲ'ဟု ပြောဆိုလေသည်။ ထိုတွင် သူ့အား 'အိုးတွေက သူ့နေရာနဲ့သူ ရှိနေတာပဲ။ ခင်ဗျားရဲ့မျက်စိက ချို့ယွင်းနေတာပါ'ဟု ပြန်ပြောလေသည်။ အတွင်းမျက်စိနှင့်ပတ်သက်၍ ဆိုရလျှင်လည်း ဤနည်းအလားတူဖြစ်သည်။ အတွင်းမျက်စိတည်းဟူသော ထိုးထွင်းမြော်မြင်နိုင်မှုမရှိသည့်အပေါ်မှာ အာယတ်များနှင့်ဟဒီစ်များကို အကွဲကွဲအလွဲလွဲအရာများ၊ ကပြောင်းကပြန်အရာများအဖြစ် ရှုမြင်နေခြင်းဖြစ်သည်။ အမှန်မှာ ထိုအာယတ်များနှင့်ဟဒီစ်များတွင် ကွဲလွဲမှု ဝိရောဓိဖြစ်မှုဟူ၍ တစ်စုံတစ်ရာမပါရှိပေ။ ဤသို့ဖြစ်ရသည်မှာ အသိချို့တဲ့မှုကြောင့်သာဖြစ်သည်။

အတွင်းမျက်စိ၏ချို့ယွင်းမှုသည် အပြင်မျက်စိ၏ချို့ယွင်းမှုထက် ပို၍ နစ်နာဆုံးရှုံးစေသည်။ စိတ်မနောသည် မြင်းစီးသူကဲ့သို့ဖြစ်သည်။ ခန္ဓာကိုယ်သည် မြင်းကဲ့သို့ဖြစ်သည်။ မြင်းစီးသူ မျက်မမြင်ဖြစ်ခြင်းသည် မြင်းမျက်မမြင်ဖြစ်ခြင်းထက်ပို၍ အန္တရာယ်ကြီးမားသည်။ အတွင်းမျက်စိ၏မြင်ခြင်းနှင့် အပြင်မျက်စိ၏မြင်ခြင်းတွင် တူဆင်သောအရာနှစ်ခုဖြစ်လေသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿مَا كَذَبَ الْفُؤَادُ مَا رَأَى﴾

**'စိတ်နှလုံးက မြင်တွေ့သောအရာတွင် မှားယွင်းမှုမရှိပေ။'** (စူရာနဂျ်မ် ၊၁၁)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَكَذَٰلِكَ نُرِيٓ إِبْرَاهِيمَ مَلَكُوتَ السَّمَاوَاتِ وَالْأَرْضِ﴾

**'ဤနည်းအလားတူ ငါအရှင်သည် တမန်တော်အိဗ်ရာဟီမ်အား မိုးများနှင့်မြေကမ္ဘာရှိ ဖန်ဆင်းစိုးပိုင်မှု**

**များကို မြင်တွေ့စေတော်မူခဲ့သည်။'** (စူရာအန်အာမ် ၊ ၇၅)

ထိုသို့အတွင်းမျက်စိဖြင့် မြင်ရခြင်း၏ဆန့်ကျင်ဘက်ကို အလ္လာဟ်အရှင်က ကန်းခြင်းဟု အမည်ပေးတော်မူခဲ့သည်။ အရှင်မြတ်က မိန့်တော်မူသည်မှာ–

﴿فَإِنَّهَا لَا تَعْمَى الْأَبْصَارُ وَلَكِنْ تَعْمَى الْقُلُوبُ الَّتِي فِي الصُّدُورِ﴾

**'ဤသည်မှာ မျက်စိများ၏ကန်းခြင်းမဟုတ်ပေ။ စင်စစ်တွင်ကား ရင်များအတွင်းရှိ နှလုံးသားများ၏ ကန်းခြင်းမျှသာဖြစ်သည်။'** (စူရာဟဂျ် ၊ ၄၆)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَمَنْ كَانَ فِي هَٰذِهِ أَعْمَىٰ فَهُوَ فِي الْآخِرَةِ أَعْمَىٰ وَأَضَلُّ سَبِيلًا﴾

**'အကြင်သူသည် ဤဒွန္နယာလောကတွင် အကန်းဖြစ်ခဲ့မည်ဆိုလျှင် ထိုသူသည် အာခိရတ်တွင်လည်း အကန်းဖြစ်မည်။ ထို့ပြင် ၎င်းသည် အလွန်လမ်းမှားသူလည်းဖြစ်မည်။'** (စူရာဗနီအီစ္စရာအီလ် ၊ ၇၂)

ဤသည်တို့မှာ နဗီတမန်တော်များ ﷺ အတွက် အသိပွင့်ပေါ်မှုများဖြစ်သည်။ ယင်းတို့အနက် အချို့ကို မံသမျက်စိဖြင့် မြင်တွေ့ရခြင်းဖြစ်သည်။ အချို့ကို အတွင်းမျက်စိဖြင့် မြင်ခဲ့ရခြင်းဖြစ်သည်။ သို့သော် အလ္လာဟ်အရှင်က အားလုံးကို 'မြင်ခြင်း'ဟု သုံးနှုန်းတော်မူထားသည်။ အချုပ်ဆိုရသော် အကြင်သူ့တွင် အတွင်းမျက်စိ စူးရှခြင်းမရှိပါက ထိုသူသည် သာသနာ၏အခွံနှင့်အကာကိုသာ တွေ့ရမည်။ သာသနာ၏အနှစ်သားနှင့် အရင်းမူလသဘောကို ထိုသူ တွေ့ရမည်မဟုတ်ပေ။

ဤအထိမှာ အသိဉာဏ်ဆိုသော စကားလုံးကို အဓိပ္ပါယ်အမျိုးမျိုးဖြင့် သုံးနှုန်းနေခြင်းအကြောင်းဖြစ်သည်။

## လူတို့တွင် အသိဉာဏ် အနည်းအများ ကွာခြားကြခြင်းအကြောင်း

အသိဉာဏ်၏အနည်းအများကွာခြားမှုနှင့်ပတ်သက်၍ လူတို့တွင် အယူအဆကွဲလွဲမှုများရှိနေလေသည်။ သို့သော် ဤကိစ္စတွင် အသိနည်းပါးသူတို့၏ပြောဆိုမှုများကို ကိုးကားနေခြင်းသည် အကျိုးမရှိလှပေ။ စင်စစ်တွင် ရှင်းလင်းမှန်ကန်သောအချက်ကို ထုတ်ဖော်ခြင်းသာ သင့်တော်ပြီး အဓိကကျသည်။ ဤကိစ္စနှင့်ပတ်သက်၍ ရှင်းလင်းမှန်ကန်သောအချက်မှာ အသိဉာဏ်သည် အမျိုးအစားလေးခုရှိသည့်အနက် ဒုတိယအမျိုးအစားမှလွဲ၍ ကျန်အမျိုးအစားသုံးခုတွင် အနည်းအများကွာခြားမှု ဖြစ်နိုင်လေသည်။ ယင်းဒုတိယအမျိုးအစားမှာ ဖြစ်နိုင်သောအရာကို ဖြစ်နိုင်ကြောင်း၊ မဖြစ်နိုင်သောအရာကို မဖြစ်နိုင်ကြောင်း ထင်းလင်းစွာ သိရသော အသိများဖြစ်သည်။ ဆိုလိုသည်မှာ တစ်စုံတစ်ဦးက နှစ်သည် တစ်ထက် များကြောင်း သိခြင်းမျိုး၊ ရုပ်ခန္ဓာတစ်ခုသည် နေရာနှစ်ခုတွင် တစ်ပြိုင်တည်း မရှိနိုင်ကြောင်းကို သိခြင်းမျိုး၊ အရာဝတ္ထုတစ်ခုသည် တစ်ချိန်တည်းတွင် ပကတူးတည်ရှိမှုနှင့် အသစ်ဖြစ်မှု နှစ်ရပ်စလုံးမဖြစ်နိုင်ကြောင်း သိခြင်းမျိုးနှင့် ဤနည်းအလားတူ ဒွိဟသံသယမရှိလောက်အောင် အတိအကျသိရသည့်သိမှုများဖြစ်သည်။

ကျန်အမျိုးအစားသုံးမျိုးတွင် အသိဉာဏ်သည် အတိုးအလျှော့ဖြစ်နိုင်သည်။ စတုတ္ထအမျိုးအစားတွင်ဆိုလျှင် ရာဂဆန္ဒများကို ချိုးနှိမ်ထိန်းချုပ်နိုင်စွမ်းပင်ရှိလေသည်။ ဤသို့ချိုးနှိမ်ထိန်းချုပ်နိုင်စွမ်းတွင် လူတစ်ဦးနှင့်တစ်ဦး မတူကြပေ။ သို့သာမက လူတစ်ဦးတည်းမှာပင် အခြေအနေအချိန်အခါအပေါ် မူတည်ပြီး ချိုးနှိမ်ထိန်းချုပ်နိုင်စွမ်းသည် ကွာခြားလေသည်။ ဤသို့ကွာခြားရခြင်းသည် ရံဖန်ရံခါ လူတို့၏ရာဂဆန္ဒကွာခြားမှုအပေါ် မူတည်လျက်ရှိသည်။ အဘယ်သို့ဆိုသော် အသိဉာဏ်ရှိသူတစ်ဦးသည် အချို့သောရာဂဆန္ဒများကို စွန့်လွှတ်နိုင်သော်လည်း၊ အချို့သော

ရာဂဆန္ဒများကိုမူ စွန့်လွှတ်ရန် မစွမ်းနိုင်ဘဲရှိတတ်သည်။ သို့နှင့်တိုင် ထိုရာဂဆန္ဒများကို စွန့်လွှတ်ခြင်းသည် သူ့အတွက် လုံးဝမတတ်စွမ်းနိုင်သောကိစ္စလည်း မဟုတ်ပေ။

လူငယ်တစ်ဦးသည် ဖေနာကို မစွန့်လွှတ်နိုင်ဘဲရှိခဲ့သည်။ ထို့နောက် ၎င်းသည် အသက်အရွယ်ကြီးပြင်းပြီး အသိဉာဏ်ပြည့်ဝလာသောအခါ ဖေနာကို စွန့်လွှတ်နိုင်လာသည်။ သို့နှင့်ပင် အသက်ကြီးလာသည်နှင့်အမျှ သူ၏ ထင်ပေါ်လိုစိတ်နှင့် အကြီးအမှူးဖြစ်လိုစိတ်များသည် လျော့ပါးမသွားဘဲ ကြီးထွားသည်ထက် ကြီးထွား၍လာသည်။ ဤသို့ရှိဖြစ်ခြင်းသည် ရံဖန်ရံခါ သက်ဆိုင်ရာပုဂ္ဂိုလ်က ရာဂဆန္ဒများ၏ ဆိုးကျိုးပေးနိုင်ပုံကို သိထားသောအသိ ကွာခြားမှုကြောင့်ဖြစ်သည်။ ဤအတွက်ကြောင့်ပင် ဆရာဝန်သည် အန္တရာယ်ဖြစ်စေမည့်အစားအစာများကို ရှောင်ကျဉ်နိုင်စွမ်းရှိသည်။ သို့သော် ထိုဆရာဝန်နှင့်တန်းတူ အသိဉာဏ်ရှိသူကမူ ထိုအစားအစာများသည် အန္တရာယ်ဖြစ်စေနိုင်ကြောင်း သိထားပါလျက် မရှောင်နိုင်ချေ။ အမှန်မှာ ဆရာဝန်၏အသိသည် ပြည့်စုံမှုရှိသဖြင့် သူ၏အကြောက်သည် ပြင်းထန်လေသည်။ သို့ဖြစ်ရာ ထိုအကြောက်သည် အလိုဆန္ဒများကို ချိုးနှိမ်ထိန်းချုပ်ရာတွင် အသိဉာဏ်အတွက် တပ်သားနှင့်လက်နက်ကိရိယာဖြစ်လာသည်။ ဤနည်းအလားတူ ပညာရှင်တစ်ဦးသည် ပညာမဲ့တစ်ဦးထက် အပြစ်ဒုစရိုက်များကို ပို၍ ရှောင်ကျဉ်နိုင်စွမ်းရှိသည်။ အဘယ်ကြောင့်ဆိုသော် ပညာရှင်က အပြစ်ဒုစရိုက်များ၏ ဆိုးကျိုး အန္တရာယ်ကို သိထားသောကြောင့်ဖြစ်သည်။ ဤနေရာတွင် ပညာရှင်ဟု ဆိုရာ၌ စစ်မှန်သောပညာရှင်ကို ဆိုလိုခြင်းဖြစ်သည်။ အင်္ကျီရှည်ဝတ်ထားသူများနှင့် ဖောင်းထုပ်ပေါင်းထားသူများကို ဆိုလိုခြင်းမဟုတ်ပါ။

သို့ရှိရာ ကွာခြားမှုသည် ရာဂဆန္ဒများကြောင့်ဖြစ်မည်ဆိုလျှင် ယင်းသည် အသိဉာဏ်၏ကွာခြားမှုနှင့် သက်ဆိုင်ခြင်း မရှိတော့ချေ။ အကယ်၍ ယင်းကွာခြားမှုသည် ပညာကို အခြေခံမည်ဆိုလျှင် ကျွန်ုပ်တို့သည် ထိုပညာအမျိုးအစားကိုလည်း အသိဉာဏ်ဟု ခေါ်ဆိုရမည်သာဖြစ်သည်။ အကြောင်းမှာ ထိုပညာသည် အသိဉာဏ်ဟူသောဗီဇသတ္တိကို အားကောင်းအောင် ပြုလုပ်ပေးသောကြောင့်ဖြစ်သည်။ သို့ရှိရာ ထိုပညာ၏အနည်းအများကွာခြားမှုသည် အသိဉာဏ်၏ကွာခြားမှုပင်ဖြစ်သည်။ ထို့ပြင် ရံဖန်ရံခါဤကွာခြားမှုသည် အသိဉာဏ်၏အင်အား ကွာခြားမှုအပေါ် အခြေခံသည်။ ပမာဆိုသော် ထိုအသိဉာဏ်သည် အင်အားကောင်းနေမည်ဆိုလျှင် ရာဂဆန္ဒကို ချိုးနှိမ်ရာတွင်လည်း ပြင်းထန်အားကောင်းမည်ဖြစ်သည်။

အသိဉာဏ်၏တတိယအမျိုးအစားသည် အတွေ့အကြုံအရ သိသော အသိများဖြစ်သည်။ သို့ဖြစ်ရာ လူတို့သည် ဤအမျိုးအစားအသိဉာဏ်တွင် အနည်းအများ ကွာခြားကြရသည်။ အချို့လူတို့သည် ပြောဆိုသည့်အကြောင်းအရာကို မြန်မြန်နားလည်ကြသည်။ ထိုသူတို့သည် များသောအားဖြင့် မှန်လည်းမှန်ကြသည်။ အချို့လူတို့မှာမူ ဤသို့မဟုတ်ပေ။ ဤသို့ရှိသည်မှာ ငြင်းပယ်၍မရနိုင်သောအချက်ဖြစ်သည်။ ထို့ပြင် ဤသည်မှာ အသိဉာဏ်ကွာခြားနေသောကြောင့်လည်း ဖြစ်သည်။ သို့မဟုတ် ကျင့်သားရစွဲမြဲရှိမှု ကွာခြားသောကြောင့်လည်းဖြစ်သည်။

အသိဉာဏ်၏ပထမအမျိုးအစားသည် မူလအခြေခံဖြစ်သည်။ ဆိုလိုသည်မှာ ဗီဇပါအသိဉာဏ်ဖြစ်သည်။ သို့ဖြင့် ဤအမျိုးအစားတွင်လည်း လူတို့ကွာခြားကြမည်မှာ ငြင်း၍မရနိုင်သောအချက်ဖြစ်သည်။ ဤအမျိုးအစားကို သာဓကဆောင်ရသော် စိတ်သဏ္ဍာန်မှ ပေါ်ထွက်သော အလင်းရောင်တစ်ခုကဲ့သို့ဖြစ်သည်။ ထိုအလင်းရောင်သည် အကောင်းအဆိုးခွဲခြားနိုင်သည့်အရွယ်တွင် စတင်ပြူထွက်သည်။ ထို့နောက် ထိုအလင်းရောင်သည် အသက်ရလာသည်နှင့်အမျှ တိုး၍လင်းဝင်းလာသည်။ အသက်လေးဆယ် ချဉ်းသောအခါ ထိုအလင်းရောင်သည် အပြည့်အဝ ထွန်းလင်းလေတော့သည်။ ထိုအလင်းရောင်၏ဥပမာသည် မနက်ခင်း၏လင်းရောင်ခြည်ကဲ့သို့ဖြစ်သည်။ အစပထမတွင် ထိုအလင်းရောင်သည် မှိန်ပြပြသာဖြစ်သည်။ ထိုအချိန်မျိုးတွင် ထိုအလင်းရောင်ကို ရှိမှန်းပင်သိနိုင်ဖို့ခက်ခဲသည်။ ထို့နောက် တဖြည်းဖြည်းတိုးလာပြီး ထိုအလင်းရောင်သည် နေလုံးထွက်ပေါ်ချိန်တွင် အပြည့်ဝဆုံးထွန်းလင်းလေသည်။

မံသစက္ခု၏အလင်းရောင်တွင် လူတစ်ဦးနှင့်တစ်ဦး ကွာခြားသကဲ့သို့ပင် အတွင်းမျက်စိ၏အလင်းရောင်တွင် တစ်ဦးနှင့်တစ်ဦး ကွာခြားချက်ရှိလေသည်။ မျက်စိမှုံသူနှင့်မျက်စိစူးရှသူတို့၏အမြင်အာရုံနှစ်ခုသည် အလွန်ပင် ကွာသည်။ အမှန်စင်စစ် မိမိဖန်ဆင်းတော်မူသောအရာအားလုံးအပေါ် အလ္လာဟ်အရှင်၏ပြုတော်မူမြဲ ဓလေ့တော်သည် အဆင့်ဆင့်ဖြစ်ပေါ် တိုးတက်စေခြင်းသာဖြစ်သည်။ ကလေးဘဝတွင် လိင်စိတ်ပေါ်ပေါက်ခြင်းသည် တစ်ပြိုင်နက် တစ်ချက်တည်း ပေါ်ထွက်လာသည် မဟုတ်ပေ။ အမှန်မှာ ထိုစိတ်သည် အနည်းငယ်ချင်းစီ ပေါ်ထွက်လာခြင်းဖြစ်သည်။ ကျန်အင်အားများနှင့် အရည်အချင်းများသည်လည်း ဤနည်းအတိုင်းသာဖြစ်သည်။

အကြင်သူသည် လူသားတို့အတွင်း ဤဗီဇသတ္တိကွာခြားမှုရှိခြင်းကို ငြင်းပယ်မည်ဆိုလျှင် ထိုသူသည် အသိဉာဏ်လုံးဝကင်းမဲ့သူဖြစ်သည်။ တဖန် အကြင်သူသည် တမန်တော်မြတ်ﷺ၏အသိဉာဏ်ကို ကျေးတောသား၊ လူရိုင်းတို့၏အသိဉာဏ်နှင့် အတူတူပင်ဖြစ်သည်ဟု မှတ်ယူမည်ဆိုလျှင် သူသည် လူရိုင်းတို့ထက် အသိဉာဏ်နိမ့်ကျသူဖြစ်သည်။ အသိဉာဏ်ကွာခြားမှုကို ငြင်းပယ်ရန်မည်သို့မျှ မဖြစ်နိုင်ပေ။ အသိဉာဏ်ကွာခြားမှုမရှိလျှင် လူတို့သည် ပညာရပ်များကို နားလည်တတ်မြောက်ရာတွင် ကွဲပြားမှုရှိကြတော့မည်မဟုတ်ပေ။ ထို့ပြင် ဆရာက အချိန်ကြာရှည်စွာအပင်ပန်းခံပြီး ရှင်းလင်းသင်ပြပါမှ နားလည်နိုင်သော ဉာဏ်ထိုင်းသူ၊ သာမန်အရိပ်အမြွက်လောက် ပြောလိုက်ရုံဖြင့် နားလည်သောဉာဏ်ထက်သူ၊ သင်ပေးစရာပင်မလိုဘဲ အစစ်အမှန်သဘောများကို ကိုယ်တိုင်နားလည်နိုင်သည့် ဉာဏ်ကြီးရှင်ဟူ၍ အသိဉာဏ်ကို အခြေခံပြီး လူအမျိုးမျိုးကွဲပြားနေမည်လည်း မဟုတ်တော့ပေ။ ဉာဏ်ကြီးရှင်များဖြစ်ကြသည့် နဗီတမန်တော်များ ﷺနှင့်ပတ်သက်၍ အလ္လာဟ်အရှင် မိန့်တော်မူခဲ့သည်မှာ–

﴿يَكَادُ زَيْتُهَا يُضِيءُ وَلَوْ لَمْ تَمْسَسْهُ نَارٌ نُّورٌ عَلَىٰ نُورٍ﴾

**'ယင်း၏အဆီသည် မီးနှင့်မထိရသော်လည်း လင်းလက်လုမတတ်ရှိနေသည်။ အလင်းပေါ် အလင်းဆင့်လျက်ရှိတော့သည်။'** (နူရာနှရ် ၊ ၃၅)

ဤသည်မှာ နဗီတမန်တော်များ ﷺ၏အသိဉာဏ်ကို သာဓကဆောင်တော်မူခြင်းဖြစ်သည်။ ထိုသခင်တို့၏အတွင်းအစွမ်းတွေများထဲတွင် နက်ရှိုင်းသောကိစ္စရပ်များသည် သင်ယူရခြင်းလည်းမရှိ၊ ကြားနာရသဖြင့်လည်းမဟုတ်ဘဲ ထင်းလင်းပေါ်ထွက်လျက်ရှိသည်။ ထိုသို့အသိပွင့်ပေါ်ခြင်းကို အီလ်ဟာမ်ဟု ခေါ်ဆိုသုံးနှုန်းသည်။ ထိုသို့အသိပွင့်ပေါ်ခြင်းမျိုးကို တမန်တော်မြတ်ﷺက ရည်ညွှန်းဖော်ပြခဲ့သည်မှာ–

إن روح القدس نفث في روعي : أحبب من أحببت فإنك مفارقه وعش ما شئت فإنك ميت و اعمل ما شئت فإنك مجزي به ۔ (طبراني)

'ရူဟုလ်ကွဒ်စ်က ငါ၏စိတ်မနောတွင် အသိထည့်သွင်းပေးသည်မှာ 'ကိုယ်တော် ချစ်ခင်နှစ်သက်သူကို အဆွေခင်ပွန်းဖွဲ့ပါ။ သို့သော် ကိုယ်တော်သည် ထိုသူနှင့် ခွဲခွါရမည်သာဖြစ်သည်။ ကိုယ်တော် ဆန္ဒရှိသည်ခန့် အသက်ရှင်နေထိုင်ပါ။ သို့သော် ကိုယ်တော်သည် သေမျိုးဖြစ်ပါသည်။ ကိုယ်တော် ကျင့်ဆောင်လိုရာကို ကျင့်ဆောင်အားထုတ်ပါ။ ကိုယ်တော်သည် ထိုအတွက် အစားပေးခြင်းခံရမည်ဖြစ်ပါသည်။'

ကောင်းကင်တမန်များက နဗီတမန်တော်များ ﷺအား ဤနည်းဖြင့် အသိပေးခြင်းသည် ဝဟီပို့ချခြင်းနှင့် မတူပေ။ ဝဟီကျရောက်ရာတွင် အကြားအာရုံက အသံကို ကြားရသည်။ အမြင်အာရုံက ကောင်းကင်တမန်ကို မြင်ရသည်။ အီလ်ဟာမ်တွင် ဤကဲ့သို့မရှိပေ။ သို့ဖြစ်သောကြောင့် တမန်တော်မြတ်ﷺက 'ငါ၏စိတ်မနောတွင် အသိထည့်သွင်းပေးသည်'ဟု မိန့်ဆိုခြင်းဖြစ်သည်။

ဝဟီတွင် အဆင့်အတန်းများစွာရှိသည်။ ထိုအကြောင်းအရာတွင် စိတ်ဝင်စားငုတ်လျှိုးခြင်းသည် မုအာမိလတ်ပညာနှင့် မသက်ဆိုင်ချေ။ အမှန်မှာ ထိုအကြောင်းအရာသည် မုကာရှိဖတ်ပညာနှင့်သာ သက်ဆိုင်သည်။ ဝဟီ၏အ

ဆင့်အတန်းများကို သိကျွမ်းခြင်းအား ဝဟီ၏အရိုက်အရာ ရရှိခြင်းဖြစ်သည်ဟု မထင်မှတ်သင့်ချေ။ နားလည်ရန် မခက်လှသော ဥပမာတစ်ခုမှာ ရောဂါဝေဒနာရှင် ဆေးဆရာတစ်ဦးသည် ကျန်းမာမှု၏အဆင့်အတန်းများကို သိထားသည်။ မသမာသူပညာရှင်တစ်ဦးသည် သမ္မာတရား၏အဆင့်အတန်းများကို သိထားသည်။ ထိုသို့ သိထားကြရုံခြင်း ဆရာဝန်သည် ကျန်းမာရေး ရှိမသွားပေ။ ပညာရှင်သည်လည်း သမ္မာတရား ရှိမသွားပေ။ အရာတစ်ခုကို သိခြင်းက တခြား၊ သိသောအရာကို ရှိခြင်းက တခြားဖြစ်သည်။ နဗီဖြစ်ခြင်းကို သိသူနှင့် ဝလီဖြစ်ခြင်းကို သိသူအားလုံးသည် နဗီသို့မဟုတ်ဝလီဖြစ်မသွားပေ။ တက္ကဝါရှောင်ကျဉ်မှု၏အသေးစိတ်ကို သိကျွမ်းသူအားလုံးသည် မွတ္တကီမဖြစ်ပေ။

အချို့လူတို့သည် မိမိတို့ဖာသာ သိကျွမ်းနားလည်နိုင်သည့် အရည်အချင်းရှိထားကြသည်။ အချို့လူတို့သည် ရှင်းလင်းသင်ကြားပေးခြင်းမရှိဘဲ နားလည်သဘောပေါက်ခြင်း မရှိကြပေ။ အချို့လူတို့မှာကား ရှင်းလင်းသင်ကြားပေးသည့်တိုင်အောင် အကျိုးဖြစ်ထွန်းမလာပေ။ ဤသို့ လူအမျိုးမျိုးရှိခြင်းသည် မြေအမျိုးမျိုးရှိနေသကဲ့သို့ဖြစ်သည်။ မြေတစ်မျိုးသည် ရေကို စုဆောင်းထိန်းသိမ်းထားနိုင်သည်။ ထိုစုဆောင်းထားသောရေသည် အင်အားကောင်းလာသည့်အခါ စိမ့်ရေစမ်းရေအဖြစ်ပင် ပန်းထွက်လေသည်။ နောက်မြေတစ်မျိုးသည် ရေထွက်ရန်အတွက် ရေတွင်းတူးဖို့လိုသည်။ နောက်မြေတစ်မျိုးသည် တွင်းတူးသော်လည်း ရေမထွက်ပေ။ အခြောက်အတိုင်းသာရှိသည်။ ထိုသို့ရှိခြင်းမှာ မြေ၏ဓါတ်သဘာဝများ မတူကြသောကြောင့်ဖြစ်သည်။ ဤနည်းအလားတူ လူတို့တွင်လည်း အသိဉာဏ်ဗီဇသတ္တိများ တစ်ဦးနှင့်တစ်ဦး မတူကြပေ။

အာဂမအထောက်အထားတစ်ခုကလည်း လူတို့တွင် အသိဉာဏ်အနည်းအများ ကွာခြားမှုရှိကြောင်း ညွှန်ပြလျက်ရှိသည်။ အဗ်ဒွလ္လာဟ်အိဗ်နေ့စလာမ်ခ ဆင့်ပြန်သည့်ဟဒီစ်တစ်ပုဒ်တွင်ဖြစ်သည်။ ထိုရှည်လျားသော ဟဒီစ်၏အဆုံးပိုင်းတွင် အရ္ရှ်တော်၏ကြီးကျယ်ကြောင်းကို ဖော်ပြထားသည်။ ထိုအခါ ကောင်းကင်တမန်များက အလ္လာဟ်အရှင်ထံ–

وإن الملائكة قالت : يا ربنا هل خلقت شيئاً أعظم من العرش ؟ قال : نعم : العقل ، قالوا : وما بلغ من قدره ؟ قال : هيهات لا يحاط بعلمه هل لكم علم بعدد الرمل ؟ قالوا : لا ، قال الله عزوجل فإني : خلقت العقل أصنافًا شتى كعدد الرمل فمن الناس من أعطي حبة ومنهم من أعطي جبتين ومنهم من أعطي الثلاث والأربع ومنهم من أعطي فرقًا ومنهم من أعطي وسقاً ومنهم من أعطي أكثر من ذلك.

(ابن المجبر - ت)

'အို ကျွန်တော်မျိုးတို့၏ရှင်အရှင်၊ ကိုယ်တော်အရှင်သည် အရ္ရှ်တော်ထက် ကြီးကျယ်သည့်အရာကို ဖန်ဆင်းတော်မူပါသလား'ဟု လျှောက်ထားခဲ့ကြသည်။ ထိုအခါ အလ္လာဟ်အရှင်က 'ငါအရှင် အသိဉာဏ် ဖန်ဆင်းတော်မူသေးသည်'ဟု မိန့်ကြားတော်မူခဲ့သည်။ ထိုအခါ ကောင်းကင်တမန်များက 'အသိဉာဏ်၏ ကြီးကျယ်မှုအတိုင်းအတာသည် မည်မျှအထိဖြစ်ပါသလဲ'ဟု လျှောက်ထားကြသည်။ ထိုအခါ အလ္လာဟ်အရှင်က 'ထိုအသိဉာဏ်ကို လွှမ်းခြုံသိရှိနိုင်ရန် အသင်တို့ စွမ်းနိုင်ကြမည်မဟုတ်ပေ။ အသင်တို့ သဲပွင့်၏အရည်အတွက်ကို သိနိုင်ကြသလော'ဟု မိန့်ကြားတော်မူသည်။ ကောင်းကင်တမန်များက 'မသိနိုင်ကြပါ'ဟု ဖြေကြသည်။ ထိုတွင် အလ္လာဟ်အရှင်မြတ်က 'ငါအရှင်သည် အသိဉာဏ်ကို သဲပွင့်အရေအတွက်နှင့် အမျှ အမျိုးမျိုးအထွေထွေ ဖန်ဆင်းထားတော်မူသည်။ အချို့လူများကို ငါအရှင် တစ်စေ့ပေးတော်မူသည်။ အချို့လူများကို ငါအရှင် နှစ်စေ့ပေးတော်မူသည်။ အချို့ကို ငါအရှင် သုံးစေ့၊ အချို့ကို လေးစေ့ပေးတော်မူသည်။ အချို့ကို ငါအရှင် တစ်တောင်းပေးတော်မူသည်။ အချို့ကို ငါအရှင် ကုလားအုတ်တစ်စီးနိုင် ပေးတော်မူသည်။ အချို့ကို ငါအရှင် ထို့ထက်များပြားစွာ ပေးတော်မူသည်။'

အကယ်၍ စာရှုသူက 'အသိဉာဏ်သည် ဤမျှကြီးကျယ်သောအရာဖြစ်ပါလျက် ဆူဖီများက အသိဉာဏ်နှင့်

အသိပညာများကို အဘယ်ကြောင့်ပြစ်တင်ရှုံ့ချကြပါသနည်း'ဟု စောဒကတက်ကောင်း တက်လိမ့်မည်။ ထိုစောဒက အတွက် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။ 'ထိုသို့ပြစ်တင်ရှုံ့ချရကြခြင်းမှာ လူတို့သည် အသိဉာဏ်နှင့်အသိပညာ ဆိုသောစကားလုံး၏မူရင်းအဓိပ္ပါယ်ကို စွန့်ပြီး စကားစစ်ထိုးခြင်းနှင့်မုနာဇရာ၏အဓိပ္ပါယ်သို့ ပြောင်းပစ်ခဲ့ကြသော ကြောင့်ဖြစ်သည်။ ထိုစကားစစ်ထိုးခြင်းနှင့်မုနာဇရာ၏အမည်မှာ ကလာမ်ပညာဖြစ်သည်။ ယခုအခါ အသိပညာဆို သည့်စကားလုံးသည် အငြင်းအခုန်လုပ်ခြင်း၊ တစ်ဘက်ပုဂ္ဂိုလ်ကို ထိုးနှက်ခြင်းနှင့် ထိုးနှက်မှုကို တုန့်ပြန်ချေပခြင်းဆို သည့်အဓိပ္ပါယ်အတွက် ဖြစ်လျက်ရှိသည်။ ဆူဖီသခင်များအနေဖြင့် ထိုပုဂ္ဂိုလ်များသို့ 'သင်တို့သည် ကလာမ်ပညာ ကို အသိပညာဟု မှားယွင်းစွာ သတ်မှတ်ခေါ်ဝေါ်နေကြသည်'ဟု ပြောဆိုခြင်းငှါ မစွမ်းနိုင်ကြပေ။ အဘယ်ကြောင့် ဆိုသော် ၎င်းတို့အဖို့ ထိုစကားလုံးများသည် စိတ်နှလုံးတွင် မြဲနေပြီး နှုတ်လျှာတွင်လည်း စွဲနေပြီဖြစ်သောကြောင့်ပင်။ သို့ဖြစ်ရာ ဆူဖီသခင်တို့၏ပြောဆိုမှုဖြင့် ၎င်းတို့သည် မိမိတို့၏စွဲမြဲမှုများကို စွန့်လွှတ်ရန်ဆိုသည်မှာ ဖြစ်နိုင်ခြင်းမရှိ ပေ။ ထို့ကြောင့်ပင် ဆူဖီသခင်များက ၎င်းတို့ထံတွင် တွင်တွင်ကျယ်ကျယ်သုံးနှုန်းနေသော အသိဉာဏ်နှင့်အသိပညာ ဆိုသည့်စကားလုံးများကို ပြစ်တင်ရှုံ့ချကြရခြင်းဖြစ်သည်။

အလ္လာဟ်အရှင်အား မအ်ရိဖတ်သိကျွမ်းခြင်းသည် အတွင်းမျက်စိ၏အလင်းရောင်ဖြင့်သာ ဖြစ်နိုင်လေသည်။ ထို့ပြင် နဗီတမန်တော်များ ﷺ၏မှန်ကန်မှုကို သိရသည်မှာလည်း ထိုအလင်းရောင်ဖြင့်သာဖြစ်သည်။ သို့ဖြစ်ရာ ထို အလင်းရောင်ကို ဆူဖီသခင်များက ပြစ်တင်ရှုံ့ချရန်ဆိုသည်မှာ အဘယ်သို့ဖြစ်နိုင်သနည်း။ တဖန် အလ္လာဟ်အရှင် ကိုယ်တိုင်က ထိုအသိအလင်းကို ချီးကျူးတော်မူထားသည်။ ဤအရာမျိုးကို အကယ်၍ ပြစ်တင်ရှုံ့ချမည်ဆိုလျှင် ချီး မွမ်းထောမနာ ပြုစရာဟူ၍ အဘယ်မှာရှိတော့မည်နည်း။ ချီးမွမ်းထောမနာ ပြုအပ်သည်မှာ ရှရီအတ်တရားတော်သာ ဖြစ်ပါသည်ဟု ဆိုပြန်လျှင်လည်း၊ ရှရီအတ်တရားတော်၏စစ်မှန်ကြောင်းကို အသိဉာဏ်ဖြင့် သိရှိရခြင်းဖြစ်သည်။ သို့နှင့်အမျှ အကယ်၍ အသိဉာဏ်ကို မကောင်းသောအရာအဖြစ် သတ်မှတ်မည်ဆိုပါက ရှရီအတ်တရားတော်သည် လည်း မကောင်းသောအရာဖြစ်ရပေတော့မည်။

အကယ်၍ တစ်စုံတစ်ယောက်က 'ရှရီအတ်တရားတော်၏စစ်မှန်ကြောင်းကို သိရသည်မှာ ဒိဋ္ဌယုံမှုစက္ခုနှင့် အီမာန်၏အလင်းရောင်တို့ဖြင့် ဖြစ်သည်၊ အသိဉာဏ်ဖြင့် မဟုတ်ပါ'ဟု ပြောမည်ဆိုလျှင် ကျွန်ုပ်တို့က အသိဉာဏ် ဟု ပြောဆိုရာ၌ ထိုဒိဋ္ဌယုံမှုစက္ခုနှင့် အီမာန်၏အလင်းရောင်ကို ဆိုလိုခြင်းဖြစ်သည်။ ထိုအရာသည် အဓ္ဓ္ယတ္တ၏ဂုဏ် ထူးဝိသေသဖြစ်သည်။ ဤအရာဖြင့် လူနှင့် အဟိတ်တိရိစ္ဆာန်ကို ခွဲခြားသိရှိရခြင်းဖြစ်သည်။ ထို့ပြင် အရာရာတို့၏ အရင်းခံသဘောကို ဤအရာဖြင့် သိနားလည်ရခြင်းဖြစ်သည်။

အထက်မှ ထင်ယောင်ထင်မှားဖြစ်မှု အများစု ပေါ်ထွက်လာခြင်းသည် လူတို့၏မသိနားမလည်မှုကြောင့်ဖြစ် သည်။ အစစ်အမှန်သဘောကို စကားလုံးများမှ တဆင့် ကြည့်ရှုကြသောကြောင့်ဖြစ်သည်။ စကားလုံးများကို အကွဲ ကွဲအလွဲလွဲသုံးနှုန်းနေကြသည့်အပေါ်မှာ အစစ်အမှန်သဘောကိုလည်း အကွဲကွဲအလွဲလွဲနားလည်နေကြသောကြောင့် ဖြစ်သည်။ အသိဉာဏ်အကြောင်း ရှင်းပြရာတွင် ဤဖော်ပြချက်သည် လုံလောက်သောအတိုင်းအတာပင်ဖြစ်သည်။ အလ္လာဟ်အရှင်သည် အသိဆုံးဖြစ်တော်မူပါ၏။

والحمدالله أوّلًا وآخرًا وصلى الله على سيدنا محمد وعلى كل عبد مصطفى من أهل الأرض والسماء .

---

بسم الله الرحمن الرحيم

အိဗာဒတ်အပိုင်း၊ ဒုတိယကဏ္ဍ

# အကီဒဟ်အခြေခံ

ဤကဏ္ဍတွင် အခန်းလေးခုပါသည်။

# ကလိမာရှဟာဒတ်နှင့်သက်ဆိုင်ရာ အဟ်လိစ္စုန္နတ်၏အကီဒဟ်အညွှန်း

ဤကလိမာရှဟာဒတ်သည် အစ္စလာမ့်အမြစ်တ[illegible]ငါးခုအနက် တစ်ခုဖြစ်သည်။

အလ္လာဟ်အရှင်၏ စွမ်းအားပေးမှုကို အားကိုး၍ ကျွန်ုပ် ဆိုပါအံ့။ ချီးမွမ်းထောမနာမှုအားလုံးသည် အလ္လာဟ်အရှင့်အဖို့သာဖြစ်တော်မူပါသည်။ ထိုအရှင်သည် စတင်ရာအရှင် ဖြစ်တော်မူသလို၊ ဆိုက်ရောက်ရာအရှင်လည်း ဖြစ်တော်မူသည်။ မိမိဆန္ဒရှိရာကို ပြုလုပ်တော်မူသောအရှင် ဖြစ်သည်။ ကြီးကျယ်သောအရရှ်တော်၏ ပိုင်ရှင်ဖြစ်တော်မူသည်။ ပြင်းထန်စွာ ဖမ်းဆီးအရေးယူတော်မူသောအရှင် ဖြစ်တော်မူသည်။ ထိုအရှင်သည် မိမိ၏ ကျေးကျွန်များထဲမှ ရွေးကောက်တော်မူထားသောသခင်အား တရားလမ်း ညွှန်ကြားတော်မူသောအရှင်၊ ဖြောင့်မှန်စွာ ထိန်းကြပ်ပေးတော်မူသောအရှင်ဖြစ်သည်။ မိမိအား တစ်ပါးတည်းသောအရှင်ဖြစ်တော်မူကြောင်း ဝန်ခံမြွက်ဟသူ ကျေးကျွန်လူသားများကို ဒွိဟများ၊ ဇဝေဇဝါဖြစ်မှုများ၏ အမိုက်မှောင်ထဲသို့ မကျရောက်ရန်အတွက်၊ ၎င်းတို့၏ အကီဒဟ်ကို ကာကွယ်စောင့်ထိန်းပေးတော်မူခြင်းဖြင့် အကျိုးထူးစည်းစိမ်ချီးမြှင့်တော်မူသောအရှင်ဖြစ်သည်။

ထို့ပြင် အလ္လာဟ်အရှင်သည် မိမိ၏ ကျေးကျွန်လူသားများအား ရွေးကောက်တော်မူခြင်းခံရသော တမန်တော်မြတ်ﷺ၏ နောက်မှ လိုက်နာကြရန် အလေးအနက်ပြုတော်မူပြီး၊ ၎င်းတို့အား ထိုတမန်တော်ﷺ၏ ဆွဟာဗဟ်များؓ၏ နောက် ဖဝါးခြေထပ် လျှောက်လှမ်းနိုင်ရန်လည်း ဖြောင့်တန်းစွာ ထိန်းကျောင်းပေးတော်မူသောအရှင်ဖြစ်သည်။ ထိုဆွဟာဗဟ်များؓကား ဂုဏ်ပြုခံထိုက်သူများတွင် ဂုဏ်အရှိဆုံးဖြစ်ကြသည်။

အလ္လာဟ်အရှင်သည် မိမိ၏ ပြကတေ့တော်ကိုငှ်း၊ လုပ်ရပ်တော်များကိုငှ်း၊ ကောင်းမြတ်သောဂုဏ်တော်များကိုငှ်း လူသားတို့ထံ ထင်းလင်းပေါ်လွင်စေတော်မူသောအရှင်ဖြစ်သည်။ ဤအရာများကား စိတ်ဝင်တစားနားစိုက်ထောင်သူများမှအပ အခြားသူများ သိနိုင်ခြင်းမရှိပေ။ ထိုအရှင်ကား မျက်မှောက်တွင် ရှိနေတော်မူသောအရှင်ပင်ဖြစ်သည်။

ထို့ပြင် အလ္လာဟ်အရှင်က မိမိသည် ပြကတေ့အားဖြင့် တစ်ပါးတည်း ရှိတော်မူပြီး၊ တုဘက်သူ မရှိကြောင်း၊ တစ်သီးပုဂ္ဂလဖြစ်တော်မူပြီး နှိုင်းယှဉ်စရာမရှိကြောင်း၊ မည်သူ့ကိုမှ မှီခိုခြင်းမရှိသောအရှင်ဖြစ်ပြီး ထိုအရှင်နှင့် ဆန့်ကျင်ကွဲလွဲနိုင်သူ မရှိကြောင်း၊ ထိုအရှင်သည် တစ်ပါးရှင်ဖြစ်တော်မူပြီး အလားတူမရှိကြောင်း၊ ထို့ပြင် ထိုအရှင်သည် ရှေးမဆွကတည်းက တစ်ပါးတည်း တည်ရှိတော်မူခဲ့ပြီး ထိုအရှင့်ထက် ရှေးကျသူမရှိကြောင်း၊ ထိုအရှင်သည် ပကတူးဖြစ်တော်မူပြီး ထိုအရှင့်ထက် အစအဦးဟူ၍ မရှိကြောင်း၊ ထိုအရှင်သည် အစဉ်သဖြင့် တည်ရှိတော်မူမည့်အရှင်ဖြစ်ပြီးပြီး ထိုအရှင့်ထက် နောက်ကျသူ မရှိကြောင်း၊ ထိုအရှင်သည် ဆုံးစမဲ့အရှင်ဖြစ်ပြီး ထိုအရှင့်တွင် နိဂုံးကမ္ဘတ်ဟူ၍ မရှိ

ကြောင်း၊ ထိုအရှင်သည် အမြဲတည်တံ့တော်မူမည့်အရှင်ဖြစ်ပြီး ထိုအရှင့်တွင် ပြတ်လပ်မှုဟူ၍ မရှိကြောင်း၊ ထို့ပြင် ထိုအရှင်သည် ထာဝရအရှင်ဖြစ်ပြီး ထိုအရှင့်အဖို့ ရပ်ဆိုင်းခြင်းဟူ၍ မရှိကြောင်း၊ အာနုဘော်ကြီးမားတော်မူခြင်း၏ ဝိသေသများဖြင့် ပြည့်ဝစုံလင်ခြင်းတည်းဟူသော- ဂုဏ်တော်များသည် ထိုအရှင့်တွင် အမြဲထာဝရရှိနေမည်။ ထို့ပြင် ထာဝစဉ်ဆိုသည်များ ကျော်လွန်ပြီး အချိန်ကာလများ ကုန်ဆုံးသွားခြင်းကြောင့် ပြီးစီး ချုပ်ငြိမ်း ဆုံးခန်းတိုင်သွားမည့် အရှင် မဟုတ်ကြောင်းများကို- ထိုအရှင်ကိုယ်တိုင်က လူသားတို့အား အသိပေးတော်မူသောအရှင်ဖြစ်သည်။ စင်စစ် တွင် အလ္လာဟ်အရှင်၏-

﴿هُوَ الْأَوَّلُ وَالْآخِرُ وَالظَّاهِرُ وَالْبَاطِنُ وَهُوَ بِكُلِّ شَيْءٍ عَلِيمٌ﴾

**'ထိုအရှင်သည် အားလုံး၏ အစပထမဖြစ်တော်မူသည်။ ထိုအရှင်သည် အားလုံး၏ အဆုံးသတ်လည်း ဖြစ်တော်မူသည်။ ထို့ပြင် ပေါ်လွင်တော်မူသောအရှင်နှင့် ငုတ်ကွယ်တော်မူသောအရှင်ဖြစ်သည်။ ထို့ပြင် ထို အရှင်သည် အရာအားလုံးကို သိတော်မူသောအရှင်ဖြစ်သည်။'** (စူရာဟဒီဒ် ၊ ၃)

ဟူသော မိန့်ကြားတော်မူချက်အတိုင်းပင်ဖြစ်သည်။

## ကင်းရှင်းတော်မူခြင်း

အလ္လာဟ်အရှင့်တွင် ပုံသဏ္ဍာန်ရုပ်ကာယဟူ၍ မရှိ။ ကန့်သတ်ချက်ရှိသော သတ်မှတ်ချက်ရှိသော ဒြပ်အထည် ဟူ၍လည်း မရှိ။ ထိုအရှင်နှင့်နှိုင်းခိုင်းစရာ ရုပ်သဏ္ဍာန်ဟူ၍ လက်တွေ့ မရှိသလို၊ ပုံဖော်ယူနိုင်ခြင်းလည်း မရှိချေ။ ထို့ပြင် ထိုအရှင့်ကို ခွဲထုတ်ရန်မဖြစ်နိုင်။ ထိုအရှင်သည် ဒြပ်အထည်မဟုတ်။ ထိုအရှင့်တွင် ဒြပ်အထည်က ပေါင်း စပ်နိုင်ခြင်းမရှိ။ ထိုအရှင်သည် အခြားအရာကို မှီခိုရပ်တည်သည့်အရာမဟုတ်။ အခြားအရာကို မှီခိုရပ်တည်သည့် အရာက ထိုအရှင့်တွင် ပေါင်းစပ်နိုင်ခြင်းမရှိ။ ထိုအရှင့်တွင် သဏ္ဍာန်တူဟူ၍ မတည်မရှိ။ တည်ရှိနေသောအရာက လည်း ထိုအရှင်နှင့် သဏ္ဍာန်တူ မဖြစ်ပါ။ အလ္လာဟ်အရှင်မြတ်ကိုယ်တိုင်-

﴿لَيْسَ كَمِثْلِهِ شَيْءٌ﴾

**'ထိုအရှင်နှင့် ပမာတူဆင်သောအရာဟူ၍ တစ်စုံတစ်ရာ မရှိပါ။'** (စူရာရှူရာ ၊ ၁၁)

ဟု မိန့်တော်မူသည့်အတိုင်း အလ္လာဟ်အရှင်သည် တစ်စုံတစ်ခုနှင့် ပမာတူခြင်းမရှိ။ မည်သည့် တိုင်းတာပိုင်းခြားမှု ကမှ အလ္လာဟ်အရှင့်ကို တိုင်းတာပိုင်းခြားခြင်းမပြုနိုင်။ မည်သည့်အရပ်ဒိသာကမျှ ထိုအရှင့်ကို လွှမ်းခြုံနိုင်ခြင်းမရှိ။ မိုးကောင်းကင်များနှင့် မြေပထဝီများကလည်း ထိုအရှင့်ကို ဝိုင်းရံခြင်း မပြုနိုင်။ အလ္လာဟ်အရှင်သည် အရ္ရှ်တော်၏ အပေါ်တွင် 'စံ'နေတော်မူသည်ဟု အလ္လာဟ်အရှင်ကိုယ်တိုင် မိန့်ကြားထားသည်။ ထိုသို့မိန့်ကြားရာတွင် အလ္လာဟ် အရှင်က အရဗီစကားလုံး 'إِسْتِوَاء' (အိစ်တိဝါအ်)ကို သုံးနှုန်းတော်မူသည်။ အရှင်မြတ်က ထိုစကားလုံးကို သုံးနှုန်းခြင်း ဖြင့် ထိုအရ္ရှ်နှင့် ထိတွေ့တော်မူခြင်း၊ အရ္ရှ်ပေါ်တွင် တည်နေတော်မူခြင်း၊ အရ္ရှ်၌ နေရာယူတော်မူခြင်း၊ အရ္ရှ်ပေါ် သို့ သက်ဆင်းတော်မူခြင်း၊ အခြားတစ်နေရာမှ အရ္ရှ်သို့ ရွေ့လာတော်မူခြင်းများမှ ကင်းရှင်းတော်မူသည့် အဓိပ္ပါယ် များကို ရည်ရွယ်တော်မူသည်။ အရ္ရှ်က ထိုအရှင့်ကို ထမ်းဆောင်ထားခြင်းမဟုတ်။ အမှန်မှာ အရ္ရှ်ကို ထမ်းဆောင် ကြရသောကောင်းကင်တမန်များအားလုံးသည် အလ္လာဟ်အရှင်၏ အစွမ်းပေးမှု ကျေးဇူးတော်ဖြင့် ထမ်းဆောင်နေခြင်း ဖြစ်သည်။ ၎င်းတို့သည် အလ္လာဟ်အရှင်၏ အာဏာစက်တွင် ချုပ်ကိုင်ခြင်းခံရသူများဖြစ်သည်။ ထိုအရှင်သည် အရ္ရှ် နှင့် မိုးအထပ်ထပ်၏ အပေါ်တွင် ရှိတော်မူသည်။ စကြဝဠာအဇ္ဈောကျယ်သ၍ ရှိရှိသမျှအရာအားလုံး၏ အပေါ်တွင် ရှိတော်မူသည်။ ထိုသို့ 'အပေါ်တွင် ရှိတော်မူသည်'ဟု ဆိုလိုက်ခြင်းကြောင့် အလ္လာဟ်အရှင်သည် အရ္ရှ်၊ ၎င်း မိုး

အထပ်ထပ်နှင့် နီးကပ်ရာမှာ ပိုပြီးနီးသွားသည်လည်းမဟုတ်။ အလားတူ မြေပထဝီနှင့် ဝေးကွာမှု ပိုသွားသည်လည်း မဟုတ်ပေ။ သို့သာမက အလ္လာဟ်အရှင်သည် ကမ္ဘာမြေ၏အထက်တွင် ဝေးကွာမြင့်မားမှု ရှိသလောက်ပင်၊ အရရှ် တော်ထက်ငင်း၊ မိုးအထပ်ထပ်ထက်ငင်း လွန်မင်းစွာမြင့်မားတော်မူသည်။ တစ်ပြိုင်တည်းမှာပင် ထိုအရှင်သည် အရာ အားလုံးနှင့် နီးကပ်စွာရှိနေတော်မူသည်။ လူသားနှင့်လူသား၏လည်ကုပ်ကြော နီးကပ်သည်ထက်ပို၍ အလ္လာဟ်အရှင် သည် လူသားနှင့် နီးကပ်တော်မူသည်။ အလ္လာဟ်အရှင်က–

﴿وَهُوَ عَلَى كُلِّ شَيْءٍ شَهِيدٌ﴾

**'ထို့ပြင် အရာအားလုံးသည် ထိုအရှင်၏မျက်မှောက်၌ ရှိသည်။'** (စူရာဆဘာအ် ၊ ၄၇)

ဟု မိန့်ကြားတော်မူရာ၌ အလ္လာဟ်အရှင်၏နီးကပ်မှုသည် ရုပ်ကာယများ၏နီးကပ်တည်ရှိမှုနှင့် တူဆင်ခြင်း မရှိပေ။ ထိုအရှင်၏ပြကတေ့တည်ရှိမှုသည် ရုပ်ဝတ္ထုများ၏တည်ရှိမှုနှင့် မတူဆင်သကဲ့သို့ဖြစ်သည်။ ထို့ပြင် ထိုအရှင်သည် မည်သည့်အရာထဲကိုမှ ကိန်းဝပ်ခြင်းမရှိ။ မည်သည့်အရာကမှလည်း ထိုအရှင့်တွင် ကိန်းဝပ်ခြင်းမရှိပေ။

ထိုအရှင်သည် အချိန်၏ကန့်သတ်ဘောင်ခတ်ခြင်းမှ ကင်းစင်တော်မူသကဲ့သို့၊ နေရာတစ်ခုခု၏ခြံပိုက်နိုင်မှု ထက် မြင့်မားတော်မူသောအရှင်ဖြစ်သည်။ စင်စစ်တွင် ထိုအရှင်သည် အချိန်နှင့် နေရာကို မဖန်ဆင်းမီအလျှင်ကပင် ရှိနေတော်မူသောအရှင်ဖြစ်သည်။ ထိုအရှင်သည် ယခုလည်း ထိုစဉ်က ရှိခဲ့သည့်အတိုင်း ရှိနေသည်။ အလ္လာဟ်အရှင် သည် မိမိ၏ဂုဏ်တော်များအားဖြင့် မိမိဖန်ဆင်းတော်မူသောအရာများနှင့် ခြားနားတော်မူသည်။ အရှင်၏ပြကတေ့ တည်ရှိမှုတွင် အရှင့်အပြင် အခြားမရှိပေ။ အရှင့်အပြင် အခြားတွင်လည်း ထိုပြကတေ့ မရှိပေ။

ထို့ပြင် အလ္လာဟ်အရှင်သည် အပြောင်းအလဲဖြစ်ခြင်း၊ ရွှေ့ပြောင်းခြင်းများမှ ကင်းစင်တော်မူသည်။ အသစ်အ သစ်ဖြစ်ပေါ်မှုများက ထိုအရှင့်တွင် ဝင်ရောက်ပေါင်းစပ်ခြင်းမရှိ။ အခြားအရာကို မှီခိုရမှ တည်နိုင်သည့်အရာများက ထိုအရှင့်ထံတွင် ပူးပေါင်းဆက်စပ်နိုင်ခြင်းမရှိ။ သို့သာမက ထိုအရှင်၏ကြီးကျယ်ခြင်း ဂုဏ်တော်များသည် အနိစ္စ သဘော ပျောက်ကွယ်ပျက်စီးမှုမှ အမြဲကင်းရှင်းတော်မူသည်။ ထို့ပြင် ထိုအရှင်၏ကုံလုံပြည့်စုံခြင်း ဂုဏ်တော်များ သည် ထပ်မံဖြည့်စွက်ဖို့လိုအပ်ခြင်းမှ အမြဲကင်းရှင်းတော်မူသည်။ အလ္လာဟ်အရှင်၏ပြကတေ့တည်ရှိမှုသည် အသိ ဉာဏ်အားဖြင့် ထင်ရှားစွာ သိရသောအရာဖြစ်တော်မူသည်။ ထို့ပြင် မျက်စေ့များဖြင့် ထိုအရှင်၏ပြကတေ့တည်ရှိမှု ကို မြင်တွေ့ရမည့်အရှင်ဖြစ်တော်မူသည်။ ဤနည်းဖြင့် ဂျန္နတ်တွင် ထိုအရှင်က စည်းစိမ်ချီးမြှင့်ပြီး ကျေးဇူးပြုခံရသူ ပုဂ္ဂိုလ်မြတ်တို့အား အရှင်၏မျက်နှာတော်ကို ဖူးမြင်စေတော်မူမည်။

## ရှင်နေတော်မူခြင်း နှင့် စွမ်းတော်မူခြင်း

အလ္လာဟ်အရှင်သည် ရှင်နေတော်မူသောအရှင်၊ စွမ်းနိုင်တော်မူသောအရှင်၊ လွှမ်းမိုးနိုင်နင်းတော်မူသောအရှင် ဖြစ်တော်မူသည်။ ထိုအရှင့်တွင် လိုအပ်လစ်ဟင်းမှုဟူ၍ငင်း၊ မစွမ်းသောအရာဟူ၍ငင်း မရှိပေ။ ထိုအရှင်သည် ငိုက် မြည်းခြင်း၊ အိပ်စက်ခြင်းလည်းမရှိ။ ထိုအရှင့်တွင် ပျက်စီးခြင်း၊ သေဆုံးခြင်းများလည်း ဖြစ်ပေါ်ခြင်းမရှိ။ ထို့ပြင် ထို အရှင်သည် ပိုင်ဆိုင်တော်မူသောအရှင်၊ စိုးပိုင်တော်မူသောအရှင်၊ ဂုဏ်သိန်ရှိတော်မူသောအရှင်၊ ကြီးစိုးနိုင်နင်းတော် မူသောအရှင် ဖြစ်တော်မူသည်။ အာဏာပိုင်ခြင်း၊ အာဏာစိုးမိုးခြင်း၊ ဖန်ဆင်းခြင်းနှင့် အရေးအရာကိစ္စအားလုံးသည် အလ္လာဟ်အရှင်၏ပိုင်ဆိုင်မှုများဖြစ်တော်မူသည်။ မိုးကောင်းကင်များသည် ထိုအရှင်၏လက်ျာလက်တော်တွင် လိပ် ခေါက်လျက်ရှိနေသည်။ အဖန်ဆင်းခံအားလုံးသည် ထိုအရှင်၏ချုပ်ကိုင်မှုအတွင်း စိုးမိုးချုပ်ကိုင်ခြင်းခံရလျက်ရှိနေ သည်။

ဖန်ဆင်းခြင်းနှင့် တီထွင်ခြင်းသည် ထိုအရှင်တစ်ပါးတည်း၏ လုပ်ဆောင်ချက်ဖြစ်သည်။ မရှိခဲ့သောအရာကို ရှိလာအောင်လုပ်ခြင်းနှင့် မဖြစ်ခဲ့သည့်အရာကို စတင်ဖြစ်ပေါ်အောင်လုပ်ခြင်းသည် ထိုအရှင်၏ သီးသန့်လုပ်ရပ်တော် ဖြစ်သည်။ အဖန်ဆင်းခံများကိုငင်း၊ ထိုအဖန်ဆင်းခံများ၏ ပြုမူလုပ်ကိုင်မှုများကိုငင်း ထိုအရှင်က ဖန်ဆင်းတော်မူခဲ့ ခြင်းဖြစ်သည်။ ထိုအဖန်ဆင်းခံများ၏ ရိက္ခာများနှင့် သက်တမ်းများကို ထိုအရှင်ကပင် သတ်မှတ်ထားတော်မူခြင်းဖြစ် ဖြစ်သည်။ မည်သည့် အပြဋ္ဌာန်းခံအရာမှ ထိုအရှင်၏ ချုပ်ကိုင်မှုမှ ကွဲကွာတည်နိုင်ခြင်းမရှိပေ။ မည်သည့်အရေးကိစ္စ အပြောင်းအလဲမှလည်း ထိုအရှင်၏ အာနုဘော်မှ လွတ်ကင်းခြင်းမရှိပေ။ ထိုအရှင်၏ စွမ်းတော်မူခြင်းအာနုဘော်များ သည် အသချေ်ရေတွက်၍ မကုန်နိုင်ပေ။ ထို့ပြင် ထိုအရှင်၏ အသိတော်များသည် အဆုံးမရှိပေ။

## သိတော်မူခြင်း

အလ္လာဟ်အရှင်သည် သိရမည့်အရာအားလုံးကို သိတော်မူသောအရှင်ဖြစ်သည်။ ထိုအရှင်၏ အသိတော်သည် ကမ္ဘာလောကများ၏ နယ်စပ်အဆုံးနှင့် မိုးအထပ်ထပ်၏ အထက် ရှိသမျှသောအရာများအပေါ် သိုင်းခြုံလျက်ရှိသည်။ မိုးနှင့်မြေတွင် ရှိနေသောမြူတစ်မှုန်ပင်လျှင် ထိုအရှင်၏ အသိတော်၌ ဖုံးကွယ်ခြင်းမရှိပေ။ သို့မျှမက အလ္လာဟ်အရှင် သည် ပုရွက်ဆိတ်အနက်တစ်ကောင် ညဦးအမှောင်တွင် မာကျစ်သောကျောက်ဖျာပေါ်၌ တစ်ရွေ့ရွေ့သွားနေသည်ကို သိတော်မူသောအရှင်ဖြစ်သည်။ ထို့ပြင် လေဟာပြင်တွင် မြူမှုန်ကလေးလှုပ်ရှားနေသည်ကို သိမြင်တော်မူသောအရှင် ဖြစ်သည်။

ထိုအရှင်သည် လျှို့ဝှက်ထားခြင်းကိုငင်း၊ ဖုံးကွယ်ထားခြင်းကိုငင်း သိတော်မူသည်။ စိတ်မနောများထဲမှ စိတ် ကူးစိတ်သန်းများ၊ ဝိတက်ဝိစာရများနှင့် အတွင်းရေးဖုံးကွယ်မှုများကို သိရှိတော်မူသည်။ ထိုအသိကိုလည်း အလ္လာဟ် အရှင်သည် ဆုံးစမရှိ ရှေးမဆွကတည်းက သိနေတော်မူခြင်းဖြစ်သည်။ အလ္လာဟ်အရှင်သည် ထိုသိတော်မူခြင်း၏ ဂုဏ်တော်ဖြင့် ရှေးဦးပကတူးကပင် ပြည့်စုံတော်မူသည်။

## ဆန္ဒပြုတော်မူခြင်း

အလ္လာဟ်အရှင်သည် ဖြစ်တည်နေမှုအားလုံးကို ဆန္ဒတော်ဖြင့် ဖြစ်တည်စေတော်မူသောအရှင်ဖြစ်သည်။ ထို အရှင်သည်ပင် အသစ်ဖြစ်ပေါ်မှုများကို စီမံတော်မူသောအရှင်ဖြစ်သည်။ သို့ဖြစ်ရာ စိုးပိုင်မှုနှင့် လွှမ်းမိုးအုပ်ချုပ်မှုတွင် ဖြစ်ပေါ်သမျှ နည်းသောအရာဖြစ်စေ၊ များသောအရာဖြစ်စေ၊ သေးသောအရာဖြစ်စေ၊ ကြီးသောအရာဖြစ်စေ၊ ကောင်း သောအရာဖြစ်စေ၊ မကောင်းသောအရာဖြစ်စေ၊ အကျိုးရှိအရာဖြစ်စေ၊ အန္တရာယ်အရာဖြစ်စေ၊ အီမာန်ရှိသည်ဖြစ်စေ၊ ကုဖ်ရ်ဖြစ်သည်ဖြစ်စေ၊ အသိတရားဖြစ်စေ၊ ငြင်းပယ်မှုဖြစ်စေ၊ အောင်မြင်မှုဖြစ်စေ၊ ဆုံးရှုံးမှုဖြစ်စေ၊ တိုးပွါးမှုဖြစ်စေ၊ ဆုတ်ယုတ်မှုဖြစ်စေ၊ နာခံမှုဖြစ်စေ၊ ဖီဆန်မှုဖြစ်စေ–ဖြစ်ပျက်မှုအပေါင်းသည် အလ္လာဟ်အရှင်၏ အမိန့်တော်ဖြင့်၊ ထို အရှင်၏ ပြဋ္ဌာန်းချက်ဖြင့်၊ ထိုအရှင်၏ ဟီကမ်မတ်တော်ဖြင့်၊ ထိုအရှင်၏ အလိုတော်ဖြင့် ဖြစ်ပျက်နေခြင်းဖြစ်သည်။ သို့ နှင့်အမျှ အလ္လာဟ်အရှင် အလိုရှိတော်မူသောအရာသည် ဖြစ်လာပြီး အလိုတော်မရှိသောအရာက ဖြစ်မလာပါ။ မည် သည့်အရာမှ ထိုအရှင်၏ အလိုတော်ရှိမှုမှ မျက်စေ့တစ်မှိတ် စိတ်ကူးတစ်ချက်စာ လွတ်ထွက်ခြင်းမရှိပါ။

စင်စစ်၌ ထိုအရှင်သည် စတင်ရာဖြစ်တော်မူသောအရှင်နှင့် ပြန်လည်ဆိုက်ရောက်ရာအရှင် ဖြစ်တော်မူသည်။ ထိုအရှင်သည် မိမိဆန္ဒတော်ရှိသည့်အတိုင်း ပြုတော်မူသည်။ ထိုအရှင်၏ အမိန့်ကို မည်သူမှ မပယ်နိုင်။ ထိုအရှင်၏

ဆုံးဖြတ်ချက်ကို မည်သူမှ မဖျက်သိမ်းနိုင်။ ထိုအရှင်၏ ရှောင်ကျဉ်နိုင်စွမ်းပေးမှုနှင့် သနားဂရုဏာမပါရှိဘဲ မည်သည့်လူသားတစ်ဦးမှ သူကျူးလွန်ရန်ရှိသည့် အမိန့်ဖီဆန်မှုမှ ရှောင်တိမ်းရန် မစွမ်းနိုင်။ ထိုအရှင်၏ အလိုတော်နှင့် ဆန္ဒတော်မပါဘဲ မည်သည့်လူသားတစ်ဦးမှ သူ၏ နာခံကျင့်သုံးမှုအတွက် အင်အားမရှိနိုင်။ သို့ဖြစ်ရာ လူသားများ၊ ဂျင်န်များ၊ မလာအိကာများ၊ ရှိုင်တွာန်များ အားလုံးတို့က လောကတွင် ရှိနေသော မြူမှုန်တစ်မှုန်ကို ရွှေ့လျားရန်၊ သို့မဟုတ် ငြိမ်သက်ရန် ဝိုင်း၍ကြိုးစားကြမည်ဆိုလျှင်လည်း၊ အလ္လာဟ်အရှင်၏ ဆန္ဒတော်နှင့်အလိုတော်မပါလျှင် ဖြစ်မြောက်လိမ့်မည်မဟုတ်ပေ။

အလ္လာဟ်အရှင်၏ ဆန္ဒတော်သည် အရှင်၏ အခြားဂုဏ်တော်အပေါင်းနှင့်အတူ အရှင်၏ ပြကတေ့တည်ရှိမှု၌ တည်လျက်ရှိသည်။ အလ္လာဟ်အရှင်သည် ထိုဆန္ဒတော်ရှိခြင်း၏ ဂုဏ်ပုဒ်နှင့် အမြဲထာဝရပင် ပြည့်စုံတော်မူခဲ့သည်။ အရာရာကို သူ့အချိန်နှင့်သူဖြစ်ပေါ်လာရန်အတွက် ပကတူးကပင် အလ္လာဟ်အရှင်၏ ဆန္ဒတော်က သတ်မှတ်ခဲ့ခြင်းဖြစ်သည်။ ထိုသို့ပကတူးက ဆန္ဒတော်ရှိခဲ့သည့်အတိုင်း စောခြင်းလည်းမရှိ နောက်ကျခြင်းလည်းမရှိဘဲ အချိန်ကိုက်ဖြစ်လာရသည်။ သို့သာမက တစ်စုံတစ်ရာလွဲချော်ပြောင်းလဲခြင်း မဖြစ်ဘဲ အလ္လာဟ်အရှင်၏ အသိတော်၊ ဆန္ဒတော်များနှင့်အညီ တိကျစွာဖြစ်ရသည်။ ထိုအရှင်သည် အရေးကိစ္စများကို စီမံခန့်ခွဲရာ၌ စဉ်းစားပြင်ဆင်ခြင်းများ၊ အချိန်ယူစီစဉ်ခြင်းများ မလိုအပ်ပေ။ သို့ဖြစ်ရာ အရေးကိစ္စတစ်ခုကြောင့် အခြားအရေးကိစ္စတစ်ခုကို ပျက်ကွက်လစ်ဟင်းသည်ဟူ၍ မရှိပေ။

## ကြားတော်မူခြင်း နှင့် မြင်တော်မူခြင်း

အလ္လာဟ်အရှင်သည် ကြားတော်မူသောအရှင်၊ မြင်တော်မူသောအရှင်ဖြစ်သည်။ ကြားနေတော်မူသည်။ မြင်နေတော်မူသည်။ ကြားရမည့်အရာသည် မည်မျှပင် တိုးမျှင်းသော်လည်း၊ မြင်ရမည့်အရာသည် မည်မျှပင် သေးမွှားသော်လည်း၊ ထိုတိုးမျှင်းမှုနှင့် သေးမွှားမှုက အရှင်၏ ကြားတော်မူခြင်း မြင်တော်မူခြင်းကို အဟန့်အတားမပြုနိုင်ပါ။ တဖန် ဝေးကွာမှုက ကြားတော်မူခြင်းကို မကာဆီးနိုင်သလို၊ မှောင်မိုက်မှုက မြင်တော်မူခြင်းကို မကွယ်ဖုံးနိုင်ပါ။ မြင်တော်မူသည်ဆိုရာ၌ မံသအကြည့်၊ မျက်ခွံမျက်တောင်များဖြင့် မြင်ခြင်း မဟုတ်ပါ။ ကြားတော်မူသည် ဆိုရာ၌လည်း နားပေါက်နှင့် နားရွက်များကြောင့် ကြားခြင်းမဟုတ်ပါ။ ပမာအားဖြင့် အလ္လာဟ်အရှင်က သိတော်မူသည်ဆိုရာတွင် စိတ်နှလုံး မရှိဘဲ သိတော်မူသကဲ့သို့၎င်း၊ ဖမ်းဆီးအရေးယူတော်မူသည်ဆိုရာတွင် ကိုယ်လက်အင်္ဂါ မရှိဘဲ ဖမ်းဆီးအရေးယူတော်မူသကဲ့သို့၎င်း၊ ဖန်ဆင်းသည်ဆိုရာတွင် လက်နက်ကိရိယာမပါဘဲ ဖန်ဆင်းတော်မူသကဲ့သို့၎င်း မှတ်ယူပါလေ။ ထိုအရှင်၏ ပကတိတည်ရှိတော်မူခြင်းသည် အဖန်ဆင်းခံများ၏ ပကတိတည်နေမှုနှင့် တူဆင်ခြင်း မရှိသကဲ့သို့ ထိုအရှင်၏ ဂုဏ်တော်ဝိသေသများသည် အဖန်ဆင်းခံတို့၏ ဂုဏ်ပုဒ်ဝိသေသများနှင့် တူဆင်ခြင်းမရှိပေ။

## စကားဆိုတော်မူခြင်း

အလ္လာဟ်အရှင်သည် စကားဆိုတော်မူသောအရှင်ဖြစ်သည်။ ရှေးမဆွရှိခဲ့သော ပကတူးပြောဆိုမှုများအဖြစ်ဖြင့် အမိန့်ပေးတော်မူသောအရှင်၊ တားမြစ်တော်မူသောအရှင်၊ ကတိပြုတော်မူသောအရှင်၊ ကြိမ်းဝါးတော်မူသောအရှင်ဖြစ်သည်။ စကားဆိုခြင်းဟူသောဂုဏ်ပုဒ်သည် အရှင်၏ ပြကတေ့တည်ရှိမှုနှင့်အတူ ရှိနေခြင်းဖြစ်သည်။ အလ္လာဟ်အရှင်၏ ပြောဆိုခြင်းသည် အဖန်ဆင်းခံများ၏ ပြောဆိုခြင်းနှင့် တူဆင်မှုမရှိပေ။ လေ၏ စီးဆင်းမှုနှင့် အရာဝတ္ထုများ၏ ပွတ်

တိုက်မှုကြောင့် ဖြစ်ပေါ်လာသော အသံမျိုးဖြင့် ပြောဆိုတော်မူခြင်းမဟုတ်ပေ။ ထို့ပြင် နှုတ်ခမ်းကို ဖွင့်ချီပိတ်ချီပြု၍ ၎င်း၊ လျှာကို လှုပ်ရှား၍၎င်း ထုတ်လွှင့်လိုက်သော စကားလုံးဖြင့် ပြောဆိုတော်မူခြင်းလည်းမဟုတ်ပေ။

ကုရ်အာန်ကျမ်းတော်၊ တောင်ရတ်ကျမ်းတော်၊ အီနဂျီလ်ကျမ်းတော်၊ ဇဗူရ်ကျမ်းတော်များသည် အလ္လာဟ်အရှင်၏ ကျမ်းတော်များဖြစ်ပြီး ထိုအရှင်က မိမိ၏ရစူလ်တမန်တော်များ ﷺ အပေါ် ချပေးတော်မူခဲ့ခြင်းဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်ကို နှုတ်လျှာဖြင့် ဖတ်ရွတ်ရသည်။ စာရွက်ပေါ်မှာ ရေးသားရသည်။ စိတ်နှလုံးထဲ ကျက်မှတ်ရသည်။ ထိုသို့ရှိသည့်တိုင် ထိုကျမ်းတော်သည် ရှေးမဆွကတည်းက အလ္လာဟ်အရှင်၏ပြကတေ့တည်ရှိမှုနှင့်အတူ တည်ရှိနေခဲ့ခြင်းဖြစ်သည်။ ထိုသို့ရှိနေရာမှ ကွဲထွက်ခွဲခွာပြီး နှလုံးသားများနှင့် စာရွက်များဆီသို့ ကူးပြောင်းသွားရန် ဆိုသည်မှာ မဖြစ်နိုင်ပါ။

တမန်တော်မူဆာ ﷺ သခင်သည် အလ္လာဟ်အရှင်၏မိန့်ကြားမှုကို အသံနှင့် စာလုံးအက္ခရာမပါဘဲ ကြားနာခဲ့ရသည်။ ပမာအားဖြင့် အာခိရတ်၌ သူတော်စင်များက အလ္လာဟ်အရှင်၏ပြကတေ့တော်ကို မြင်တွေ့ရမည်ဆိုရာတွင် ရုပ်သဘောလည်းမဟုတ်၊ နာမ်သဘောလည်းမဟုတ်သောအဖြစ်နှင့် မြင်တွေ့ရခြင်းမျိုးဖြစ်သကဲ့သို့ မှတ်ယူနိုင်သည်။ အလ္လာဟ်အရှင့်တွင် အဆိုပါဂုဏ်တော်များ ရှိနေသည့်တံထွာ၊ အရှင်မြတ်သည် မိမိ၏ပြကတေ့ တည်ရှိတော်မူခြင်းသက်သက်ဖြင့် မဟုတ်ဘဲ၊ ရှင်တော်မူခြင်းဟူသော ဂုဏ်တော်ဖြင့် ရှင်နေတော်မူခြင်းဖြစ်သည်။ စွမ်းတော်မူခြင်းဟူသောဂုဏ်တော်ဖြင့် စွမ်းနေတော်မူခြင်းဖြစ်သည်။ သိတော်မူခြင်းဟူသောဂုဏ်တော်ဖြင့် သိနေတော်မူခြင်းဖြစ်သည်။ ဆန္ဒထားတော်မူခြင်းဟူသောဂုဏ်တော်ဖြင့် ဆန္ဒထားတော်မူခြင်းဖြစ်သည်။ ကြားတော်မူခြင်းဟူသောဂုဏ်တော်ဖြင့် ကြားနေတော်မူခြင်းဖြစ်သည်။ မြင်တော်မူခြင်းဟူသောဂုဏ်တော်ဖြင့် မြင်နေတော်မူခြင်းဖြစ်သည်။ စကားဆိုတော်မူခြင်းဟူသောဂုဏ်တော်ဖြင့် စကားဆိုတော်မူခြင်းဖြစ်သည်။

## လုပ်ဆောင်တော်မူခြင်း

အလ္လာဟ်အရှင့်အပြင် ရှိနေသော အရာအားလုံးသည် ထိုအရှင်၏လုပ်ဆောင်မှုကြောင့် ဖြစ်ပေါ်လာရခြင်းဖြစ်သည်။ အရာအားလုံးသည် အလ္လာဟ်အရှင်၏တရားမျှတတော်မူခြင်း၏အကျိုးဆက်များဖြစ်သည်။ တဖန် အလ္လာဟ်အရှင်သည် အရာအားလုံးကို အကောင်းဆုံး၊ အပြည့်ဝဆုံး၊ အစုံလင်ဆုံး၊ မျှတမှုအရှိဆုံး အနေအထားဖြင့် ပေါ်ပေါက်စေတော်မူသည်။ အလ္လာဟ်အရှင်သည် မိမိ၏လုပ်ဆောင်မှုများတွင် ဟီကမတ်တော်ရှင်ဖြစ်တော်မူသည်။ မိမိ၏ဆုံးဖြတ်မှုများတွင် သမ္မာသမတ်ရှိတော်မူသောအရှင်ဖြစ်သည်။

အလ္လာဟ်အရှင်၏တရားမျှတမှုကို လူသား၏တရားမျှတမှုနှင့် နှိုင်းယှဉ်သုံးသပ်ခြင်းမပြုနိုင်ပေ။ လူသားအဖို့ မိမိ မပိုင်ဆိုင်သောအရာကို လုပ်ကိုင်ခြင်းဖြင့် မတရားမှုဖြစ်ပေါ်နိုင်သည်။ အလ္လာဟ်အရှင့်ထံတွင်မူ အခြားသူ၏ပိုင်ဆိုင်မှုဟူ၍ မရှိသဖြင့် အရှင်မြတ်၏လုပ်ဆောင်မှုများကို မတရားဟုဆိုရန်မှာ စဉ်းစားပုံဖော်၍ပင်မရပေ။ လူ၊ ဂျင်န်၊ ကောင်းကင်တမန်၊ ရှိုင်တွာန်၊ မိုး၊ မြေ၊ သတ္တလောက၊ ရုက္ခလောက၊ ဘူမိလောက၊ ဒြပ်အထည်ရှိအရာ၊ မီတွယ်သောအရာ၊ ထိတွေ့သိရှိရသောအရာ၊ ခံစားသိရှိရသောအရာ– အလ္လာဟ်အရှင်၏အပြင် ရှိရှိသမျှ အရာအားလုံးတို့သည်၊ လုံးဝမရှိခဲ့ရာမှ၊ ထိုအရှင်က မိမိ၏အစွမ်းတော်ဖြင့် တီထွင်ဖော်ထုတ်မှုကြောင့် ပေါ်ပေါက်ဖြစ်ရှိလာခြင်းဖြစ်သည်။ ဘာဆိုဘာမှ မရှိခဲ့သည့်အဖြစ်မှ ဖြစ်တည်လာအောင် ဖန်ဆင်းတော်မူလိုက်သဖြင့် ဖြစ်တည်လာခြင်းဖြစ်သည်။

အလ္လာဟ်အရှင်သည် မိမိနှင့်အတူ အခြားတစ်စုံတစ်ရာ မရှိခဲ့ဘဲ တစ်ပါးတည်း ရှိတော်မူခဲ့ပြီး၊ ထို့နောက်တွင်မှ မိမိ၏အစွမ်းတော်ကို ဖော်ထုတ်ရန်အတွက် အဖန်ဆင်းခံများကို ဖန်ဆင်းဖြစ်ပေါ်စေတော်မူခြင်းဖြစ်သည်။ ဤသို့

ဖန်ဆင်းတော်မူခြင်းသည် အရှင့်တွင်ရှိခဲ့သောဆန္ဒတော်ကို အကောင်အထည်ဖေါ်ရန်နှင့် ပကတူးကမိန့်ကြားခဲ့သော အရှင်၏မိန့်မြွက်ချက် လက်တွေ့ဖြစ်လာရန်အတွက်ဖြစ်သည်။ အဖန်ဆင်းခံများက အလ္လာဟ်အရှင့်အတွက် မရှိမဖြစ်လိုအပ်နေ၍ ဖန်ဆင်းရခြင်း မဟုတ်ပေ။ ထိုသို့ဖန်ဆင်းတော်ခြင်း၊ အစပြုတီထွင်တော်မူခြင်း၊ တာဝန်အသီးသီးသတ်မှတ်တော်မူခြင်းသည် ထိုအရှင်၏ကျေးဇူးပြုမှုသာဖြစ်သည်။ ဤသို့ဆောင်ရွက်ရန် ထိုအရှင့်အပေါ်မှာ ဝတ္တရားရှိနေ၍ မဟုတ်ပေ။ စည်းစိမ်ချီးမြှင့်ခြင်းနှင့် အကောင်းပြုတော်မူခြင်းများသည် ထိုအရှင်၏ရက်ရောမှုသာဖြစ်သည်။ ဤသို့ချီးမြှင့်ရန် မလုပ်မနေရ တာဝန်ရှိ၍ မဟုတ်ပေ။ သို့နှင့်အမျှ ကျေးဇူးပြုမှု၊ အကောင်းပြုမှုနှင့်စည်းစိမ်ချီးမြှင့်မှုများအားလုံးသည် ထိုအရှင့်အဖို့သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်သည် လူသားတို့အား အမျိုးမျိုးသော ပြစ်ဒဏ်များ ချမှတ်တော်မူမည်ဆိုလျှင်ငင်း၊ ဒုက္ခဝေဒနာအတန်တန်ဖြင့် စမ်းသပ်တော်မူမည်ဆိုလျှင်ငင်း စွမ်းတော်မူသောအရှင်ဖြစ်သည်။ အကယ်၍ ထိုသို့ပြုတော်မူခဲ့မည်ဆိုလျှင်လည်း၊ ထိုသို့ပြုခြင်းသည် ထိုအရှင့်ဘက်မှ တရားသဖြင့် လုပ်ဆောင်မှုဖြစ်သည်။ ထိုသို့ပြုခြင်းသည် ထိုအရှင့်ဘက်မှ မကောင်းပြုမှု၊ မတရားမှုမဟုတ်ပေ။

အလ္လာဟ်အရှင်သည် မိမိ၏အီမာန်ရှင်ကျေးကျွန်များကို အမိန့်နာခံမှုများအပေါ်တွင် ရပ်တည်နိုင်စွမ်းချီးမြှင့်ခြင်းသည် မိမိ၏အသနားတော်၊ ပဋိညာဉ်တော်အရဖြစ်သည်။ လူသားများဘက်မှ ရပိုင်ခွင့်များရှိသဖြင့် မဟုတ်ပေ။ ထိုအရှင့်တွင် တာဝန်ဝတ္တရားများ ရှိနေသောကြောင့်လည်း မဟုတ်ပေ။ မည်သူတစ်ဦးတစ်ယောက်အတွက် တစ်စုံတစ်ခုလုပ်ပေးရန် ထိုအရှင့်အပေါ်တွင် တာဝန်မရှိပေ။ ထိုအရှင့်ဘက်မှ မတရားမှုဖြစ်ပေါ်ရန်ဆိုသည်မှာလည်း စဉ်းစား၍ပင် မရနိုင်သောကိစ္စဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင့်အပေါ်တွင် တစ်စုံတစ်ယောက်အတွက် ဆောင်ရွက်ပေးရန်တာဝန်မရှိချေ။

လူသားအပေါ်တွင် တာဝန်ဖြစ်သည့်အမိန့်နာခံမှုများသည် အလ္လာဟ်အရှင်က မိမိ၏နဗီတမန်တော်များ ﷺ ၏နှုတ်လျှာများမှ တာဝန်ပေးချက်အရ ဖြစ်လာခြင်းဖြစ်သည်။ ထိုတာဝန်များကို အသိဉာဏ်အရ စဉ်းစားဖေါ်ထုတ်ထားခြင်း မဟုတ်ပေ။ သို့သာမက ထိုအရှင်သည် ရစူလ်တမန်တော်များ ﷺ ကို စေလွှတ်တော်မူခဲ့သည်။ ထိုရစူလ်တမန်တော်များ ﷺ အမှန်အကန်ဖြစ်ကြောင်း ပေါ်လွင်ထင်ရှားသော မုအ်ဂျိဇာများဖြင့် ထုတ်ဖေါ်တော်မူသည်။ ထိုတမန်တော်များ ﷺ က အလ္လာဟ်အရှင်၏အမိန့်တော်၊ တားမြစ်ချက်၊ ကတိပေးချက်၊ သတိပေးကြိမ်းဝါးမှုများကို လူသားများထံသို့ ပို့ချကြသည်။ သို့ဖြစ်ရာ လူသားများက ထိုသခင်များ ﷺ ကို မှန်ကန်ကြောင်းထောက်ခံရန်နှင့် ထိုသခင်တို့ဆောင်ကျဉ်းလာသည့် တရားဓမ္မကို ယုံကြည်သက်ဝင်ရန် တာဝန်ရှိလာရပေသည်။

## ကလေမာတော်ဒုတိယပိုင်း၏အဓိပ္ပါယ်

ဤအပိုင်းသည် အလ္လာဟ်အရှင်က တမန်တော်များအား ရိစာလတ်တာဝန်ဖြင့် စေလွှတ်တော်မူခြင်း မှန်ကန်ကြောင်း ဝန်ခံမြွက်ဟချက်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်သည် စာပေမသင်ခဲ့ရသူ ကုရိုက်ရှ်နွယ်ဖွါး တမန်တော်မုဟမ္မဒ် ﷺ သခင်အား သခင်၏ရိစာလတ်တာဝန်နှင့်အတူ အရဗ်များ၊ အရဗ်မဟုတ်သူများ၊ ဂျင်န်နှင့်လူသားအားလုံးထံ ပို့လွှတ်တော်မူခဲ့သည်။ ထို့နောက် ရှေးအထက်ကရှိခဲ့သော ရှရီအတ်တရားလမ်းစဉ်များကို တမန်တော်မုဟမ္မဒ် ﷺ သခင်၏ရှရီအတ်တရားလမ်းစဉ်ဖြင့် အစားထိုးဖျက်သိမ်းတော်မူခဲ့သည်။ သို့သော် ရှေးတရားလမ်းစဉ်များအနက်မှ ဆက်လက်အတည်ပြုသည့် တရားပညတ်များကိုမူ ချွင်းချန်ထားသည်။ တဖန် အလ္လာဟ်အရှင်က တမန်တော်မြတ် ﷺ ကို အားလုံးသောတမန်တော်များထက် ထွတ်မြတ်မှုပေးတော်မူသည်။ ထို့ပြင် လူသားမျိုးနွယ်၏ဦးစီးဦးဆောင်အဖြစ် ပြုတော်မူသည်။

အလ္လာဟ်အရှင်တစ်ပါးတည်း ရှိတော်မူကြောင်း ဝန်ခံမြွက်ဟရုံဖြင့် အီမာန်ပြည့်စုံခြင်းမရှိပါ။ ကလေမာတော် **﴿لَا إِلٰهَ إِلَّا اللّٰهُ﴾(အလ္လာဟ်အရှင်မှအပ ကိုးကွယ်ရာအရှင်မရှိ)**-ကို တမန်တော်ဖြစ်ခြင်း မှန်ကန်ကြောင်း ဝန်ခံချက် **﴿مُحَمَّدٌ رَسُولُ اللّٰهِ﴾ (မုဟမ္မဒ်သခင်သည်အလ္လာဟ်အရှင်၏ ရစူလ်တမန်တော်ဖြစ်သည်)**နှင့် ပေါင်းစပ်မှသာ ပြည့်စုံသော အီမာန်ဖြစ်မည်။ ထို့ပြင် အလ္လာဟ်အရှင်က လူသားတို့အား တမန်တော်မြတ်ﷺပို့ချထုတ်ပြန်သော ဒွန္နယာရေးနှင့် အာခိရတ်ရေးကိစ္စများကို ထောက်ခံယုံကြည်ရန် တာဝန်ပေးတော်မူသည်။ သေပြီးနောက် တွေ့ကြုံရမည့်ဖြစ်ရပ်အခြေအနေများနှင့်သက်ဆိုင်ရာ တမန်တော်မြတ်ﷺပို့ချထုတ်ပြန်သမျှကို ယုံကြည်သက်ဝင်မှု မပြုမချင်း အလ္လာဟ်အရှင်သည် လူသားတစ်ဦး၏အီမာန်ကို လက်ခံတော်မူမည်မဟုတ်ပေ။

သေပြီးနောက် ပထမဆုံး ကြုံတွေ့ရမည်မှာ မွန်ကရ်နှင့် နကီရ်အမည်ရှိ ကောင်းကင်တမန်နှစ်ပါး၏ စစ်မေးမှုဖြစ်သည်။ ထိုကောင်းကင်တမန်နှစ်ပါး၏ ရုပ်သွင်သည် အလွန်ကြောက်ရွံ့ထိတ်လန့်ဖွယ်ဖြစ်သည်။ ၎င်းတို့က လူသားကို သူ၏သင်္ချိုင်းဂူအတွင်း၌ ဝိဉာဉ်နှင့် ခန္ဓာကိုယ်ပူးတွဲလျက် ရှိနေသောအဖြစ်နှင့် မတ်မတ်ထိုင်စေမည်။ ထို့နောက် သူ့ကို ကောင်းကင်တမန်နှစ်ပါးက တောင်ဟီဒ်နှင့်ပတ်သက်၍၎င်း၊ ရိစာလတ်နှင့်ပတ်သက်၍၎င်း မေးမြန်းကြမည်။ ထိုနှစ်ပါးက သူ့အား 'သင်၏ရဗ်အရှင်သည် မည်သူလဲ'၊ 'သင်၏သာသနာသည် ဘာလဲ'၊ 'သင်၏နဗီသည် မည်သူလဲ'ဟု မေးမြန်းကြမည်။* ထိုနှစ်ပါးသည် ကဗာရ်၏စမ်းသပ်မှုနှစ်ခုဖြစ်သည်။† ထိုနှစ်ပါး၏ မေးမြန်းမှုသည် သေပြီးနောက် ပထမကြုံတွေ့ရမည့် စမ်းသပ်ချက်ဖြစ်သည်။‡

တဖန် အကြင်သူသည် ကဗာရ်တွင် ပြစ်ဒဏ်ပေးမှုရှိကြောင်း ယုံကြည်ခြင်း မပြုသည်၊ အလ္လာဟ်အရှင်သည် ထိုသူ၏အီမာန်ကို လက်ခံတော်မူမည် မဟုတ်ပေ။§ ကဗာရ်၏ပြစ်ဒဏ်သည် အမှန်တကယ် ရှိနေပြီး၊ ခန္ဓာကိုယ်နှင့်

---

* မွန်ကရ်နှင့်နကီရ် ကောင်းကင်တမန်နှစ်ပါး စစ်မေးမည့်အကြောင်း ဟဒီစ်ကို တိရ်မေဇီကျမ်းတွင် ဖော်ပြထားသည်။ ထို့ပြင် အီဗ်ဟစ်ဗာန်ꜛက အဗူဟုရိုင်ရဟ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြသည်မှာ–

إذا قبر الميت ـ أو قال أحدكم أتاه ملكان أسودان أزرقان يقال لأحدهما النكر وللآخر النكير

(သေဆုံးသူကို မြှုပ်နှံသင်္ဂြိုလ်ပြီးသည့်အခါ သူ့ထံသို့ မည်းကြုတ်ပြီး မျက်လုံးပြာသောကောင်းကင်တမန်နှစ်ပါးရောက်လာမည်။ တစ်ပါး၏အမည်မှာ မွန်ကရ်ဖြစ်ပြီး နောက်တစ်ပါး၏အမည်မှာ နကီရ်ဖြစ်သည်။)

ထို့ပြင် ဗုခါရီနှင့်မွတ်စ်လင်မ် ကျမ်းတော်နှစ်စောင်တွင် အနာစ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြသည်မှာ–

إن العبد إذا وضع في قبره وتولى عنه أصحابه وأنه ليسمع قرع نعالهم أتاه ملكان فيقعدانه

(သေသူကို သူ့ကဗာရ်တွင်းသို့ ချပြီးသောအခါ လိုက်ပို့သူများက သူ့ထံမှ လှည့်ပြန်သွားကြမည်။ ထိုအခါ သေသူသည် ၎င်းတို့၏ခြေသံများကို ကြားနေရလိမ့်မည်။ ထို့နောက် သူ့ထံသို့ ကောင်းကင်တမန်နှစ်ပါးရောက်လာပြီး သူ့ကို ထထိုင်စေမည်။ ... )

† ဤအကြောင်းအရာပါဟဒီစ်သည် အိမာမ်အဟ်မဒ်ꜛ၏မုအတ်တွာကျမ်းလာဖြစ်သည်။ အီဗ်နေ့ဟစ်ဗာန်ꜛက အီဗ်နေ့အိုမရ်ﷺသခင်၏ဟဒီစ်–أن رسول الله ﷺ ذكر فتاني القبر فقال عمر : أترد علينا عقولنا

(တမန်တော်မြတ်ﷺက ကဗာရ်၏စမ်းသပ်မှုနှစ်ခုအကြောင်း မိန့်ဆိုသောအခါ အိုမရ်သခင်က 'ထိုအခါ ကျွန်ုပ်မျိုးတို့၏အသိဉာဏ်များကို ကျွန်ုပ်မျိုးတို့အား ပြန်ထည့်ပေးမှာလား'ဟု မေးမြန်းခဲ့သည်။)–ကိုဖော်ပြခဲ့၏။

‡ အိရာကီသခင်ꜛက ဤဖော်ပြချက်အပေါ် 'ဟဒီစ် မတွေ့ရပါ'ဟု ဆိုသည်။

§ ကျမ်းတော်နှစ်စောင်၌ အာအိရှာﷺသခင်မ ဆင့်ပြန်သော– إنكم تفتنون أو تعذبون في قبوركم (အသင်တို့၏ကဗာရ်များထဲတွင် သင်တို့ မုချစမ်းသပ်ခြင်းခံရကြရမည်။ သို့မဟုတ် ပြစ်ဒဏ်ပေးခြင်းခံကြရမည်။)-ကို ဖော်ပြထားသည်။ ထို့ပြင် တမန်တော်မြတ်ﷺက ကဗာရ်၏ပြစ်ဒဏ်မှကင်းရန်ဆုပန်ခဲ့ကြောင်း (استعاذته ﷺ من عذاب القبر)– အဗူဟုရိုင်ရဟ်သခင်ﷺဆင့်ပြန်ချက်ကိုလည်း ကျမ်းတော်နှစ်စောင်၌ ဖော်ပြထားသည်။

ဝိဉာဉ် **နှစ်ရပ်စလုံးအပေါ်** အလ္လာဟ်အရှင် အလိုရှိတော်မူသောပုံစံဖြင့် ဟိကမတ်ငင်း တရားမျှတမှုရှိစွာ သက်ရောက် **ခံစားရမည်ဖြစ်ကြောင်း** ယုံကြည်သက်ဝင်ရမည်။

**တဖန်** အကြင်သူသည် ချိန်ခွက်နှစ်ခုနှင့် လျှာတစ်ခုပါသော မီဇာန် ခေါ် ချိန်ခွင်တော်ရှိကြောင်း ယုံကြည်ခြင်း **မပြုသ၍** အလ္လာဟ်အရှင်သည် ထိုသူ၏အီမာန်ကို လက်ခံတော်မူမည်မဟုတ်ပေ။ ထိုခေါ် ချိန်ခွင်တော်၏ကြီးကျယ်မှု ဝဏ်ပုဒ်မှာ မိုးအထပ်ထပ်နှင့် မြေပထဝီ၏အဆင့်အထပ်များလောက်ဖြစ်သည်။ အလ္လာဟ်အရှင်သည် ကွဒ်ရတ်တန် ခိုးတော်ဖြင့် ကျင့်မှုရာများကို ချိန်စက်မည်။ ထိုချိန်ခွင်တော်၏အလေးသည် မြူမှုန့်နှင့် မုံညင်းစေ့၏အလေးချိန်ကို ပင် ချိန်တွယ်နိုင်ပြီး ထိုနေ့တွင် တရားမျှတမှု အပြည့်အဝရှိကြောင်း သက်သေထူလိမ့်မည်။ ကောင်းမှု၏စာလွှာများ သည် လှပသောအသွင်သဏ္ဍာန်ရှိပြီး ၎င်းတို့ကို နူရ်၏ချိန်ခွက်ဖြင့် ချိန်စက်လိမ့်မည်။ ထိုအခါ အလ္လာဟ်အရှင့်ထံ တွင် ရှိထားသော အဆင့်အတန်းအလျောက် အလ္လာဟ်အရှင့်အသနားတော်ဖြင့် ထိုစာလွှာများသည် ချိန်ခွင်တော်ပေါ် ၌ အလေးချိန်စီးမည်။ မကောင်းမှု၏စာလွှာများသည် ဆိုးဝါးသောအသွင်သဏ္ဍာန်ရှိပြီး မည်းနက်သောချိန်ခွက်တွင် ပစ်ထည့်ချိန်တွယ်လိမ့်မည်။ ထိုအခါ အလ္လာဟ်အရှင်၏တရားမျှတမှုအရ ထိုစာလွှာများသည် ပေါ့လိမ့်မည်။*

တဖန် အကြင်သူသည် ဆွေရာတ်တံတားတော်ရှိကြောင်း ယုံကြည်ခြင်းမပြုသ၍ အလ္လာဟ်အရှင်သည် ထို **သူ၏အီမာန်ကို** လက်ခံတော်မူမည်မဟုတ်ပေ။ **ထိုတံတားသည်** ဂျဟန္နမ်၏ကျောပေါ်တွင် ဖြတ်၍ ထိုးထားခြင်းဖြစ်

---

* အိမာမ်ဗိုင်ဟကီ ~ သခင်က ဘအ်ဆ်ကျမ်းတွင် အိုမရ်သခင် ؓ ၏ဆင့်ပြန်မှုကို ဖော်ပြသည်မှာ–

الايمان أن تؤمن بالله وملائكته ورسله وتؤمن بالجنة و النارو الميزان ذي الكفتين و اللسان و صفته في العظم أنه مثل طباق السموات و الأرض .

(အီမာန်ဆိုသည်မှာ အလ္လာဟ်အရှင်ကိုငင်း၊ ထိုအရှင်၏ကောင်းကင်တမန်များ၊ ရစူလ်တမန်တော်များကို သက်ဝင်ယုံကြည်ခြင်းဖြစ်သည်။ ထို့ပြင် ဂျန္နတ်ကိုငင်း၊ ဂျဟန္နမ်ကိုငင်း၊ မီဇာန်ချိန်ခွင်တော်ကိုငင်း သက်ဝင် ယုံကြည်ခြင်းဖြစ်သည်။ ထိုချိန်ခွင်တော်သည် ချိန်ခွက်နှစ်ခုနှင့် လျှာတစ်ခု ပါရှိသည်။ ထိုချိန်ခွင်တော်၏ကြီး ကျယ်ပုံမှာ မိုးနှင့်မြေ၏အထပ်လောက်ဖြစ်သည်။)

ဤဟဒီဇ်၏မူလဖော်ပြရာသည် မွတ်စလင်မ်ကျမ်းဖြစ်သည်။ သို့သော် မွတ်စလင်မ်ကျမ်းတွင် 'الميزان –ချိန်ခွင်တော်' ကို ဖော်ပြထားခြင်းမရှိပါ။ ထို့ပြင် အဗူဒါဝုဒ်ကျမ်းတွင် အာအိရှာ ؓ သခင်မ ဆင့်ပြန်သောဟဒီဇ်ကို ဖော်ပြသည်မှာ–

أما في ثلاثة مواطن لا يذكر أحد أحداً عندالميزان حتى يعلم أيخف ميزانه أم يثقل

(သုံးခုသောနေရာတွင် လူတို့သည် တစ်ဦးကိုတစ်ဦး သတိရနိုင်ကြမည်မဟုတ်ပါ။ မီဇာန်ချိန်ခွင်တော်တွင် မိမိ၏ကောင်းမှုချိန်တွယ်မှုက ပေါ့မည်လား၊ လေးမည်လား မသိရမချင်း၊ မည်သူ့ကိုမှ သတိရမည်မဟုတ်ပါ။)

အိဗ်နေ့မရ်ဒဝီ ~ က မိမိ၏တဖ်စီရ်တွင် အာအိရှာသခင်မ ؓ ၏မိန့်ဆိုမှုကို တိုးချဲ့ဖော်ပြသည်မှာ–

أي حتى قد علمنا الموازين هي الكفتان فيوضع في هذه الشيء فترجح إحداهما وتخف الأخرى

(ဆိုလိုသည်မှာ ကျွန်ုပ်တို့အလေးချိန်များကို သိရသည်အထိဖြစ်၏။ ယင်းအလေးချိန်သည် ချိန်ခွက်နှစ်ခု ဖြစ်၏။ ထိုအထဲသို့ တစ်စုံတစ်ခုထည့်လိုက်လျှင် တစ်ခုက အလေးသာပြီး နောက်တစ်ခုက ပေါ့သွားသည်။)

တိရ်မဇီကျမ်းတွင် အနပ်စ် ؓ သခင် ဆင့်ပြန်ခဲ့သည့် တမန်တော်မြတ် ﷺ ၏– واطلبني عند الميزان (မီဇာန်ချိန်ခွင်တွင် လူတို့သည် ငါတမန်တော်ကို ရှာဖွေကြလိမ့်မည်)ဟူသောမိန့်ဆိုမှုကို ဖော်ပြထားသည်။ အဗ်ဒွလ္လာဟ်အိဗ်နေ့အိုမရ် ؓ သခင်ဆင့်ပြန်သော ဟဒီဇ်တွင်– فتوضع السجلات في كفة و البطاقة في كفة

(မှတ်တမ်းများကို ချိန်ခွက်တစ်ခုတွင် ထည့်မည်။ စာချွန်လွှာကို နောက်ချိန်ခွက်တစ်ခုတွင် ထည့်မည်။)

အိဗ်နေ့ရာဟီန် ~ ကလည်း ကိတာဘွစ်စွန္နဟ်တွင် အိဗ်နေ့အဗ္ဗါစ်သခင် ~ ဆင့်ပြန်သော– كفة الميزان كأطباق الدنيا كلها

(မီဇာန်ချိန်ခွင်တော်၏ချိန်ခွက်သည် ဒွန္နယာလောက၏အထပ်များ အားလုံးလောက်ပင် မြင့်မားသည်။)

ပြီး ဓါးသွားထက် ပါးလွှာကာ ဆံပင်ထက် သေးမျှင်သည်။ အလ္လာဟ်အရှင်၏ အမိန့်တော်ဖြင့် ထိုတံတားပေါ်တွင် ကာဖိရ်တို့၏ ခြေထောက်များ ချော်ကုန်ကြလိမ့်မည်။ ထိုအခါ ဂျဟန္နမ်သို့ ကျကြရမည်။ တဖန် အလ္လာဟ်အရှင်၏ အသနားတော်ဖြင့် အီမာန်ရှင်တို့၏ ခြေထောက်များသည် ထိုတံတားပေါ်တွင် ခိုင်မြဲစွာ ရှိကြမည်။ ထို့နောက် ထို အီမာန်ရှင်တို့အား အမြဲထာဝရနေထိုင်ရာဖြစ်သော ဂျန္နတ်သို့ ပို့ပေးမည်။ *

တဖန် အကြင်သူသည် အီမာန်ရှင်များ ကြုံတွေ့ကြရမည့် ကန်တော်တစ်ခုရှိကြောင်း ယုံကြည်ခြင်းမပြုသ၍၊ အလ္လာဟ်အရှင်သည် ထိုသူ၏ အီမာန်ကို လက်ခံတော်မူမည် မဟုတ်ပေ။ ထိုကန်တော်သည် တမန်တော်မြတ်ﷺ၏ ကန်တော်ပင်ဖြစ်သည်။ အီမာန်ရှင်များသည် တံတားတော်ကို ဖြတ်အပြီး ဂျန္နတ်သို့မဝင်မီအလျင် ထိုကန်တော်မှ ရေကို သောက်ကြရမည်။† ထိုကန်တော်မှ ရေကို တစ်ကြိမ်သောက်ပြီးသူသည် နောင်တွင်ဘယ်တော့မှ ရေငတ်လိမ့်မည် မဟုတ်တော့ပေ။ ထိုကန်တော်၏ အလျားသည် တစ်လခရီးရှိသည်။ ထိုကန်တော်၏ ရေအရောင်သည် နို့ရည်ထက်ပို၍ ဖြူဖွေးပြီး ပျားရည်ထက်ပို၍ ချိုမြသည်။ ထိုကန်တော်၏ ပတ်ဝန်းကျင်တွင် မိုးကောင်းကင်ရှိ ကြယ်များ၏ အရေအတွက်နှင့်အမျှ ခွက်များ ရှိနေမည်။‡ ထိုကန်တော်ထဲသို့ ဂျန္နတ်ရှိ ကောင်စရ်စမ်းချောင်းမှ ရေတံလျှောက်နှစ်ခု စီး

---

* ဗုခါရီနှင့်မွတ်စ်လင်မ် ကျမ်းတော်နှစ်စောင်တွင် အဗူဟုရိုင်ရာؓသခင် ဆင့်ပြန်သောဟဒီစ်ကို ဖေါ်ပြသည်မှာ–

الايمان بالصراط وهو جسر ممدود على متن جحنم أحد من السيف و أدق من الشعر

(အီမာန်သက်ဝင်ယုံကြည်ရမည့် ဆွေရာတ်တံတားသည် ဂျဟန္နမ်၏ ကျောပေါ်တွင် ဖြတ်၍ ထိုးထားခြင်း ဖြစ်ပြီး ဓါးသွားထက် ပါးလွှာကာ ဆံပင်ထက် သေးမျှင်သည်။)

ကျမ်းတော်နှစ်စောင်၌ပင် အဗူစအီဒ်ခွဒ်ရီသခင်ؓဆင့်ပြန်သောဟဒီစ်- ويضرب الصراط بين ظهراني جحنم

(ဆွေရာတ်တံတားကို ဂျဟန္နမ်၏ ပုခုံးနှစ်ဘက်ပေါ်တွင် ဖြတ်၍ ခင်းထားခြင်းဖြစ်သည်)–ကို ဖေါ်ပြထားသည်။

မွတ်စလင်မ်ကျမ်းတွင် အဗူစအီဒ်ခွဒ်ရီؓ၏ ဆင့်ပြန်ချက်ကို ဖေါ်ပြရာ၌–إن الجسر أدق من الشعر و أحد من السيف

(တံတားသည် ဆံပင်ထက် သေးမျှင်၍ ဓါးသွားထက် ပါးလွှာသည်)–ဟု အပိုစာသားပါရှိသည်။

† ကန်တော်ကို အီမာန်ယူကြရမည့်အကြောင်းနှင့် ထိုကန်တော်မှ ရေကို အီမာန်ရှိသူများ သောက်ကြရမည့်အကြောင်း အနှတ်စ်ؓသခင် ဆင့်ပြန်ခဲ့သည့်ဟဒီစ်ကို ဆွဟီမွတ်စလင်မ်ကျမ်းတွင် ဖေါ်ပြထားသည်။ ကျမ်းမြတ်ကုရ်အာန်၏ စူရာ ကောင်စရ်《إنا اعطيناك الكوثر》ကျရောက်လာချိန်တွင် တမန်တော်မြတ်ﷺ မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ထိုဟဒီစ်တွင်–

هو حوض ترد عليه أمتي يوم القيامة آنيته عدد النجوم

(ကိယာမတ်နေ့တွင် ထိုကန်တော်သို့ ငါ၏ အွမ္မတ်သားများ ဆိုက်ရောက်ကြမည်။ ထိုကန်တော်၏ ခွက်များသည် ကြယ်နက္ခတ်များ၏ အရေအတွက် ရှိမည်။)

တမန်တော်မြတ်ﷺ၏–أنا فرطكم على الحوض (ငါသည် အသင်တို့၏ ရှေ့ကဦးပြီး ကန်တော်တွင် ရောက်နေမည်)ဟူသောမိန့်ဆိုမှုကို အိဗ်နေ့မပ်စအုဒ်ؓသခင်အပြင် အခြားဆွဟာဗဟ်သုံးပါးတို့က ဆင့်ပြန်ခဲ့ကြသည်။ အိဗ်နေ့အိုမရ်ؓ သခင်၏ ဆင့်ပြန်ချက်တွင်–أما لكم حوض كما بين جرباء و أذرج (သိမှတ်ကြကုန်။ အသင်တို့အတွက် ဂျရ်ဘာနှင့်အဒ်ရဂ်ျအကြား အကျယ်အဝန်းရှိ ရေကန်တော် ရှိနေသည်)–ဟူသော တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုကို ဖေါ်ပြထားသည်။

‡ ကျမ်းတော်နှစ်စောင်တွင် အဗ်ဒုလ္လာဟ် အိဗ်နေ့အိုမရ်ؓသခင် ဆင့်ပြန်သောဟဒီစ် ဖေါ်ပြပါရှိသည်မှာ–

من شرب منه شربة لم يمظأ بعدها أبداً عرضه مسيرة شهر أشد بياضاً اللبن و أحلى من العسل حوله أباريق عدد نجوم السماء

(ထိုကန်တော်ရေကို တစ်ကြိမ်သောက်ပြီးသူသည် နောင်ဘယ်တော့မှ ရေငတ်မည်မဟုတ်ပေ။ ထိုကန်တော်၏ အလျားသည် တစ်လခရီးရှိသည်။ ထိုကန်တော်ရေ၏ အရောင်သည် နို့ထက်ပို ဖြူဖွေးပြီး ပျားရည်ထက်ပို ချိုမြသည်။ ထိုကန်တော်၏ ဘေးပတ်လည်တွင် ကောင်းကင်ရှိ ကြယ်အရေအတွက်နှင့်အမျှ ခွက်များရှိနေမည်။)

မွတ်စလင်မ်ကျမ်း၏ ဟဒီစ်တစ်ပုဒ်တွင်မူ– أكثر من عدد نجوم (ခွက်များ၏ အရည်အတွက်သည် ကြယ်များထက် ပို၍ များပြားသည်)ဟု ဖေါ်ပြထားသည်။

ဆင်းကျနေမည်။*

တဖန် အကြင်သူသည် စာရင်းစစ်ဆေးခြင်းခံရမည်ဖြစ်ကြောင်း ယုံကြည်ခြင်းမရှိသည်၊ အလ္လာဟ်အရှင်သည် ထိုသူ၏အီမာန်ကို လက်ခံတော်မူမည်မဟုတ်ပေ။ ထိုစာရင်းစစ်ဆေးမှုကို လူတို့သည် ကွဲပြားစွာကြုံကြရမည်။ အချို့ကို အသေးစိတ် စစ်ဆေးခြင်းပြုမည်။ အချို့ကို ပေါ့ပေါ့ပါးပါး စစ်ဆေးခြင်းပြုမည်။ အချို့မှာမူ စာရင်းစစ်ဆေးခြင်း ပင်မပြုဘဲ ဂျန္နတ်သို့ ဝင်ကြရမည်။ ထိုသူတို့သည် မုကရ်ရဗျူန် ခေါ် အလ္လာဟ်အရှင်၏အပါးတော်မြဲ သူတော်ကောင်းများဖြစ်သည်။†

---

* မွတ်စလင်မ်ကျမ်းတွင် စောင်ဘာန်သခင်၏ဟဒီစ်ဆင့်ပြန်ချက်ကို ဖော်ပြထားသည်မှာ–

بغت فيه ميز اتان يمدانه من الجنة أحدهما من ذهب و الآخر من ورق

(ထိုကန်တော်ထဲသို့ ဂျန္နတ်မှ ရေတံလျှောက်နှစ်ခု တရှိန်ထိုးစီးကျနေမည်။ ရေတံလျှောက်တစ်ခုသည် ရွှေဖြင့် ပြုလုပ်ထားခြင်းဖြစ်ပြီး နောက်တစ်ခုသည် ငွေဖြင့်ပြုလုပ်ထားခြင်းဖြစ်သည်။)

† ဗိုင်ဟကီ သခင်က ဘအ်စ်ကျမ်းတွင် အိုမရ်သခင် ဆင့်ပြန်သည့်ဟဒီစ်ကို ဖော်ပြထားသည်မှာ–

فقال يا رسول الله ما الايمان قال : أن تؤمن بالله وملائكته وكتبه ورسله وبالموت و البعث من بعد الموت و الحساب و الجنة و النار و القدر كله

(အို တမန်တော်၊ အီမာန်ဆိုသည်မှာ မည်သည့်အရာပါလဲဟု မေးမြန်းသောအခါ၊ တမန်တော်မြတ်က– 'အီမာန်ဆိုသည်မှာ အလ္လာဟ်အရှင်ကိုင်၊ ထိုအရှင်၏ကောင်းကင်တမန်များကိုင်၊ ထိုအရှင်၏ကျမ်းတော်များကိုင်၊ ထိုအရှင်၏ရစူလ်တမန်တော်များကိုင်၊ သေပြီးနောက် တဖန်ပြန်ရှင်ရမည်ကိုင်၊ စာရင်းစစ်ဆေးမည်ကိုင်၊ ဂျန္နတ်ကိုင်၊ ဂျဟန္နမ်ကိုင်၊ တက္ကဒီကိုင်အလုံးစုံတို့ကို အီမာန်သက်ဝင်ယုံကြည်ခြင်းဖြစ်သည်။)

ဤဟဒီစ်ကို မွတ်စလင်မ်ကျမ်းတွင်လည်း ဖော်ပြထားပြီး 'الحساب'(စာရင်းစစ်ဆေးမှု)ဆိုသည့် စကားလုံး မပါရှိပေ။

ဗုခါရီနှင့်မွတ်စလင်မ်ကျမ်းနှစ်စောင်တွင် အာအိရှာသခင်မကြီး ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

من نوقش الحساب عذب ، قالت : يقول الله تعالى ﴿فسوف يحاسب حساباً يسيراً﴾ قال ذلك العرض

('စာရင်းအင်းကို အသေးစိတ်စစ်ဆေးခြင်းခံရသူသည် ပြစ်ဒဏ်ပေးခြင်းခံရမည်'ဟု မိန့်ဆိုရာ၊ ကျွန်မက– **'သို့ရှိရာ မကြာမြင့်မီ လွယ်ကူပေါ့ပါးစွာ စာရင်းစစ်ဆေးခြင်း ခံကြရအံ့'**ဟု အလ္လာဟ်အရှင် မိန့်ကြားတော်မူကြောင်း ပြောဆိုခဲ့၏။ ထိုအခါ ကိုယ်တော်က 'ယင်းမှာ စာရင်း ပြရုံသာပြခြင်း ဆိုလိုသည်'ဟု မိန့်ဆိုခဲ့သည်။)

ထို့ပြင် ကျမ်းတော်နှစ်စောင်၌ပင် အဗူအဗ္ဗာစ်သခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

عرضت على الأمم فقيل هذه أمتك ومعهم سبعون ألفاً يدخلون الجنة بغير حساب ولا عذاب

(ငါ့အား အွမ္မတ်သားများ ပြပြီး 'ၚင်းတို့သည် ကိုယ်တော်၏အွမ္မတ်ဖြစ်ပါသည်။ ၚင်းတို့အနက်မှ ပုဂ္ဂိုလ်ခုနစ်သောင်းသည် စာရင်းစစ်ဆေးမှုမရှိဘဲ ပြစ်ဒဏ်ခံရခြင်းမရှိဘဲ ဂျန္နတ်တွင် ဝင်ရောက်ကြရမည်ဖြစ်သည်' ဟု ပြောဆိုခဲ့သည်။)

မွတ်စလင်မ်ကျမ်း၌ အဗူဟုရိုင်ရာနှင့်အင်မ်ရာန်အီဗ်နေ့ဟဆိုင်န်သခင်တို့ ဆင့်ပြန်သောဟဒီစ်ဖော်ပြပါရှိသည်မှာ–

يدخل من أمتي الجنة سبعون ألفاً بغير حساب

(ငါ၏အွမ္မတ်ထဲမှ လူခုနစ်သောင်းသည် စာရင်းစစ်ဆေးခြင်း မပြုရဘဲ ဂျန္နတ်သို့ ဝင်ရောက်မည်။)

ထို့ပြင် ဗိုင်ဟကီ သခင်က ဘအ်စ်ကျမ်း၌ အိုမရ်သခင်နှင့်အီဗ်နေ့ဟဇ်မ်သခင်တို့ထံမှ စာသားအပိုဖြင့် လာရှိသော ဤဟဒီစ်ကို ဖော်ပြသည်မှာ– و أعطاني مع كل احد من سبعون ألفاً سبعين ألفاً

(ထိုလူခုနစ်သောင်း၏တစ်ယောက်ချင်းစီကို နောက်ထပ်လူခုနစ်သောင်း ချွတ်ကယ်ခွင့် ငါ့အားချီးမြှင့်ခဲ့၏။)

နဗီတမန်တော်များထဲမှ အလ္လာဟ်အရှင် အလိုရှိသူအား ရိစာလတ်ပို့ချမှုနှင့်စပ်လျဉ်း စစ်ဆေးမေးမြန်းမည်။ ထို့ပြင် ကာဖိရ်များထဲမှ အလိုရှိသူအား တမန်တော်များအပေါ် မုသားစွပ်စွဲမှုနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းမည်။* ထို့ပြင် ဗိဒအတ်သမားများအား စွန္နတ်လမ်းစဉ်နှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းမည်။† တဖန် မွတ်စလင်မ်များအား ကျင့်မူရာများနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းမည်။‡

တဖန် အကြင်သူ တောင်ဟီဒ်ဝါဒီများကို ဂျဟန္နမ်မှ ထုတ်ယူမည်ဖြစ်ကြောင်း လက်ခံယုံကြည်ခြင်းမပြုသ၍၊ အလ္လာဟ်အရှင်သည် ထိုသူ၏အီမာန်ကို လက်ခံတော်မူမည်မဟုတ်ပေ။ ကိုးကွယ်ရာအရှင် တစ်ပါးတည်းရှိသည်ဟု ခံယူသူ တောင်ဟီဒ်ဝါဒီများသည် ပြစ်ဒဏ်ခံရန်ရှိသည်ကို ခံပြီးနောက်၊ အလ္လာဟ်အရှင်၏ကျေးဇူးတော်ဖြင့် ဂျဟန္နမ်

---

* سؤال من شاء من الأنبياء عن تبليغ الرسالة ومن شاء من الكفار عن تكذيب المرسلين

(နဗီတမန်တော်များထဲမှ အလ္လာဟ်အရှင် အလိုရှိသူအား ရိစာလတ်ပို့ချမှုနှင့်စပ်လျဉ်း မေးမြန်းစစ်ဆေးမည်။ ထို့ပြင် ကာဖိရ်များထဲမှ အလ္လာဟ်အရှင် အလိုရှိသူအား တမန်တော်များအပေါ် မုသားစွပ်စွဲမှုနှင့်စပ်လျဉ်း၍ မေးမြန်းစစ်ဆေးမည်။)

ဤအကြောင်းနှင့်စပ်လျဉ်း၍ **ဗုခါရီကျမ်းတွင် အဗူစအီဒ်**ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

يدعى نوح يوم القيامة فيقول لبيك وسعديك يا رب فيقول هل بلغت، فيقول نعم : فيقال لأمته فيقولون ما أتانا من نذير فيقول من يشهد لك فيقول محمد وأمته

(ကိယာမတ်နေ့တွင် တမန်တော်နူဟ်ﷺသခင်ကို ခေါ်တော်မူမည်။ ထိုအခါ နူဟ်ﷺသခင်က 'အိုရဗ်အရှင်၊ ကျွန်တော်မျိုး အသင့်ရှိပါသည်။ ကိုယ်တော့်အား ငံ့လင့်လျက်ရှိပါသည်'ဟု လျှောက်ထားမည်။ ထိုအခါ အလ္လာဟ်အရှင်က 'အသင် ပို့ချဖြန့်ချိခဲ့ပါ၏လော'ဟု မေးတော်မူမည်။ ထိုအခါ နူဟ်ﷺသခင်က – 'မှန်ပါ။ ပို့ချဖြန့်ချိခဲ့ပါသည်'ဟု ဖြေကြားမည်။ ထိုအခါ အလ္လာဟ်အရှင်က နူဟ်ﷺသခင်၏အွမ္မတ်သားကို မေးမြန်းမည်။ ထိုအခါ အွမ္မတ်သားများက 'ကျွန်တော်မျိုးတို့ထံ သတိပေးနှိုးဆော်သူအဖြစ်ရောက်ရှိလာခဲ့ပါသည်'ဟု ပြောဆိုကြမည်။ **ထိုအခါ** အလ္လာဟ်အရှင်က တမန်တော်နူဟ်ﷺသခင်အား 'အသင့်ကို သက်သေခံမည့်သူ မည်သူရှိသနည်း'ဟု မေးမြန်းတော်မူလိမ့်မည်။ တမန်တော်နူဟ်ﷺသခင်က 'ကျွန်တော်မျိုးအား တမန်တော်မုဟမ္မဒ်ﷺနှင့် ထိုသခင်၏အွမ္မတ်သားများရှိပါသည်'ဟု ဖြေကြားမည်။)

† سؤال المبتدعة عن السنة (ဗိဒအတ်သမားများအား စွန္နတ်လမ်းစဉ်နှင့်စပ်လျဉ်း၍ မေးမြန်းစစ်ဆေးမည်။)

ဤအကြောင်းနှင့်စပ်လျဉ်း၍ အာအိရှာﷺသခင်မ၏ဟဒီစ်ကို အီဗ်နေ့မာဂျာကျမ်းတွင် ဆင့်ပြန်ဖော်ပြသည်မှာ–

من تكلم شيء من القدر سئل عنه يوم القيامة

(အကြင်သူ တက္ကဒီရ်နှင့်ပတ်သက်၍ တစ်စုံတစ်ရာပြောဆိုဆွေးနွေးခြင်းပြုခဲ့လျှင် ထိုသူသည် ကိယာမတ်နေ့တွင် စစ်ဆေးမေးမြန်းခြင်းခံရမည်။)

ထို့ပြင် အဗူဟုရိုင်ရာﷺသခင် ဆင့်ပြန်သော ဟဒီစ်လာရှိသည်မှာ–

ما من داع يدعو إلى شيء إلا وقف يوم القيامة لازمًا لدعوة ما دعا إليه وإن دعا رجل رجلًا

(အကြင်သူသည် တစ်စုံတစ်ခုဘက်သို့ ဖိတ်ခေါ်ခဲ့မည်ဆိုလျှင် ကိယာမတ်နေ့တွင် ထိုသူသည် မိမိ၏ဖိတ်ခေါ်မှုအတွက် အစစ်ဆေးခံရန် ထရပ်ရလိမ့်မည်။ လူတစ်ယောက်က လူတစ်ယောက်ကို ခေါ်ခဲ့ခြင်းအတွက်ပင် ဤအတိုင်းရှိလိမ့်မည်။)

‡ سؤال المسلمين عن أعمال (မွတ်စလင်မ်များကို ကျင့်ဆောက်တည်မှုနှင့်ပတ်သက်၍ မေးမြန်းမည်။)

ဤအကြောင်းအရာအပေါ် စုနန်ကျမ်းရှင်က အဗူဟုရိုင်ရာﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြသည်မှာ–

إن أول ما يحاسب به العبد يوم القيامة من عمله صلاته

(ကိယာမတ်နေ့၌ လူသား၏ကျင့်မူရာများအနက် ပထမဆုံး စစ်ဆေးမည့်အရာမှာ နမာဇ်ဖြစ်သည်။)

မှ **တစ်ယောက်မကျန်ပြန်ထွက်ရမည်။** တောင်ဟီဒ်ဝါဒီသည် ဂျဟန္နမ်တွင် အမြဲထာဝရနေရမည် မဟုတ်ပေ။ *

**တဖန်** အကြင်သူသည် ရှဖါအတ် အသနားခံတောင်းပန်ပေးမှုအစီအစဉ် ရှိကြောင်း ယုံကြည်လက်ခံခြင်းမပြုသ**၍၊ အလ္လာဟ်အရှင်**သည် ထိုသူ၏အီမာန်ကို လက်ခံတော်မူမည်မဟုတ်ပေ။ ရှဖါအတ်ပြုရာတွင် ပထမဦးဆုံး **နဗီတမန်တော်များ**၏အစီအစဉ်ဖြစ်သည်။ ထို့နောက် ဓမ္မပညာရှင်များ၏အစီအစဉ်ဖြစ်သည်။ ထို့နောက် ရှဟီဒီများ၏**အစီအစဉ်**ဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင့်ထံတွင် ဂုဏ်သတင်းနှင့် အဆင့်အတန်းများ ရရှိကြသည့် အီမာန်ရှင်**များအားလုံး**သည် မိမိတို့၏ဂုဏ်အဆင့်အတန်းအလျောက် အသနားခံတောင်းပန်ခွင့် ရရှိကြမည်။ အီမာန်ရှိသူတစ်ဦး**တွင်** ရှဖါအတ်ပြုပေးမည့်သူမရှိလျှင်လည်း ၎င်းသည် ဂျဟန္နမ်တွင် အမြဲအစဉ်နေရမည် မဟုတ်ဘဲ၊ အလ္လာဟ်အရှင်**၏**အသနားတော်ဖြင့် ထုတ်ယူခြင်းခံရမည်။ စင်စစ်မှာကား နှလုံးသားတွင် မုန်ညင်းစေ့ခန့် အီမာန်ရှိမည်ဆိုလျှင် ထိုသူသည် ဂျဟန္နမ်မှ ထုတ်ယူခြင်းခံရမည်သာဖြစ်သည်။†

ထို့ပြင် ဆွဟာဗဟ်များ၏ထွတ်မြတ်မှုနှင့် ထိုသခင်များတွင် ထွတ်မြတ်မှုများ အဆင့်ဆင့်ရှိခြင်းကို ခံယူစွဲမြဲရမည်။ တမန်တော်မြတ်၏နောက် လူသားအပေါင်းတွင် အထွတ်မြတ်ဆုံးသည် အဗူဗကရ်သခင်ဖြစ်သည်။

---

* إخراج المحدين من النار حتى لا بقى فيها موحد بفضل الله سبحانه

(တောင်ဟီဒ်ဝါဒီများကို ဂျဟန္နမ်မှ ထုတ်ယူစေတော်မူမည်။ အလ္လာဟ်အရှင်၏ကျေးဇူးတော်ဖြင့် နောက်ဆုံး ဂျဟန္နမ်တွင် တောင်ဟီဒ်ဝါဒီတစ်ဦးတစ်ယောက်မှ မကျန်အောင် ထုတ်ယူစေတော်မူမည်ဖြစ်သည်။)

ဤအကြောင်းအရာအပေါ် အီမာမ်ဗုခါရီ နှင့်အီမာမ်မွတ်စလင်မ် သခင်နှစ်ပါးက အဗူဟုရိုင်ရာသခင် ဆင့်ပြန်သော ဟဒီစ်ကို ဖေါ်ပြသည်မှာ–

إذا فرغ الله من القضاء بين العباد وأراد أن يخرج برحمته من أراد من أهل النار أمر الملائكة أن يخرجوا من النار من كان لا يشرك بالله شيئًا ممن أراد الله أن يرجعه ممن يقول لاإله إلا الله

(အလ္လာဟ်အရှင်သည် လူသားများ၏အကြား စီရင်ဆုံးဖြတ်ရန်ရှိသည်များ ပြီးစီးတော်မူသောအခါ မိမိ၏အသနားတော်ဖြင့် ဂျဟန္နမ်၌ ကျနေသူများကို ထုတ်ယူရန် ဆန္ဒပြုတော်မူလိမ့်မည်။ ထိုအခါ အလ္လာဟ်အရှင်သည် အလ္လာဟ်အရှင်နှင့်တစ်စုံတစ်ရာကို တွဲဖက်ကိုးကွယ်ခြင်းမပြုခဲ့သူ၊ 'လာအိလာဟအိလ္လလ္လာဟ်'ဖတ်ရွတ်ခဲ့သူများကို ထုတ်ယူကြရန် ကောင်းကင်တမန်များအား အမိန့်ပေးတော်မူမည်။)

† شفاعة الأنبياء ثم العلماء ثم الشهداء ثم سائر المؤمنين على حسب جاهه ومنزلته عندالله تعالى ومن بقي من المؤمنين ولم يكن لهم شفيع أخرج بفضل الله فلا يجلد في النار مؤمن بل يخرج منها من كان في قلبه مثقال ذرة من الايمان .

(နဗီတမန်တော်များက ရှဖါအတ်ပြုကြရမည်။ ထို့နောက် ပညာရှင်များ၊ ထို့နောက် ရှဟီဒီများက ပြုကြရမည်။ ထို့နောက် အလ္လာဟ်အရှင့်ထံ၌ ဂုဏ်သတင်းနှင့်အဆင့်အတန်းရှိသည့်အလျောက် အီမာန်ရှင်များအားလုံး ရှဖါအတ်ပြုကြရမည်။ ရှဖါအတ်ပြုပေးမည့်သူ မရှိလျှင်လည်း အီမာန်ရှိသူတစ်ဦးသည် ဂျဟန္နမ်တွင် ထာဝရနေရမည်မဟုတ်ဘဲ၊ အလ္လာဟ်အရှင်၏အသနားတော်ဖြင့် ထုတ်ယူခြင်းခံရမည်။ နှလုံးသားတွင် အီမာန်သည် မုန်ညင်းစေ့ခန့်မျှ ရှိမည်ဆိုလျှင် ထိုသူသည် ဂျဟန္နမ်မှ ထုတ်ပေးခြင်းခံရမည်ဖြစ်သည်။)

ဤအကြောင်းအရာအတွက် အီဗ်နေ့မာဂျာကျမ်းတွင် အွစ္စမာန်သခင်ဆင့်ပြန်သော ဟဒီစ်ရှိသည်မှာ–

يشفع يوم القيامة ثلاثة : الأنبياء ثم العلماء ثم الشهداء . (ق)

(ကိယာမတ်နေ့၌ သုံးဦးသောသူတို့၏အသနားခံပေးမှုကို လက်ခံတော်မူမည်။ ယင်းတို့မှာ တမန်တော်များ၊ ၎င်းနောက် ပညာရှင်များ၊ ၎င်းနောက် ရှဟီဒီများဖြစ်သည်။)–ဤဟဒီစ်ကို ပညာကဏ္ဍတွင်လည်း ဖေါ်ပြခဲ့ပြီးပြီ။

အီမာမ်ဗုခါရီ နှင့်အီမာမ်မွတ်စလင်မ် သခင်နှစ်ပါးတို့ ဖေါ်ပြသည့် အဗူစအီဒ်ခွဒ္ဒရီသခင် ဆင့်ပြန်သောဟဒီစ်မှာ–

من وجدتم في قلبه مثقال حبة من خردل من الايمان فأخرجوه

(အသင်တို့အနက် နှလုံးသားတွင် အီမာန် မုန်ညင်းစေ့ခန့်တွေ့ရသူကို ဂျဟန္နမ်မှ ထုတ်ယူမည်ဖြစ်သည်။)

ထို့နောက် အိုမရ်ﷺသခင်ဖြစ်သည်။ ထို့နောက် အွစ္စမာန်ﷺသခင်ဖြစ်သည်။ ထို့နောက် အလီﷺသခင်ဖြစ်သည်။*
ထို့ပြင် ဆွဟာဗဟ်သခင်အားလုံးﷺအပေါ် ကောင်းမွန်သောထင်မြင်ချက်ထားရှိရမည်။ ထိုသခင်များအားလုံးတို့အား အလ္လာဟ်အရှင်နှင့် ထိုအရှင်၏တမန်တော်မြတ်ﷺက ချီးမွမ်းထောပနာပြုသည့်အတိုင်း ချီးမွမ်းထောပနာပြုရမည်။✝

အထက်ပါယုံကြည်လက်ခံရမည့်အရာများအားလုံးသည် ဟဒီစ်တော်များတွင် ဖော်ပြထားချက်များဖြစ်သည်။ ထိုအချက်များကို ဆွဟာဗဟ်များﷺ၏ဩဝါဒဆိုမိန့်မှုများကလည်း ထောက်ခံလျက်ရှိသည်။ သို့ဖြစ်ရာ အကြင်သူသည် ဤအချက်အားလုံးကို ကေန်အမှန်ဖြစ်ကြောင်း စွဲယူယုံကြည်ခဲ့လျှင် ထိုသူသည် သစ္စာဝါဒီများတွင် အပါအဝင်ဖြစ်မည်။ ထိုအခါ ထိုသူသည် စွန္နတ်၏ဘက်တော်သားတစ်ဦးဖြစ်လိမ့်မည်။ ထိုအခါ ထိုသူသည် လမ်းမှားအသင်းနှင့်၎င်း၊ ဗိဒအတ်အုပ်စုနှင့်၎င်း ကွဲပြားခြားနားသူဖြစ်မည်။

*ကျွန်ုပ်တို့သည် အလ္လာဟ်အရှင့်ထံတွင် ပြည့်ဝသောယကီန်ယုံကြည်ချက်နှင့် သာသနာအပေါ် ကောင်းမွန်စွာ ကြံ့ခိုင်ရပ်တည်နိုင်စွမ်းကို ကျွန်ုပ်တို့အား ချီးမြှင့်ရန်၎င်း၊ အားလုံးသောမွတ်စလင်မ်များအား ချီးမြှင့်ရန်၎င်း၊ အလ္လာဟ်အရှင်၏ရဟ်မတ်ဂရုဏာတော်အားဖြင့် တောင်းခံကြပါ၏။ ထိုအရှင်သည် သနားကြင်နာသူများတွင် သနားဂရုဏာအရှိဆုံးအရှင်ဖြစ်တော်မူပါသည်။*

وصلى الله على سيدنا محمد وعلى كل عبد مصطفى

---

* ဤအကြောင်းအရာအတွက် ဗုခါရီကျမ်းတွင် **အီဗ်နေ့အိုမရ်ﷺသခင်၏မိန့်ဆိုမှုကို** ဖော်ပြထားသည်မှာ–
كنا نخير بين الناس في زمن النبي ﷺ فنخير أبابكر ثم عمر بن الخطاب ثم عثمان بن عفان
(ကျွန်ုပ်တို့သည် တမန်တော်မြတ်ﷺ၏ခေတ်ကာလက ပုဂ္ဂိုလ်များတွင် အကောင်းဆုံးမည်သူဖြစ်သည်ကို ရွေးချယ်ခဲ့ကြသည်။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် အဗူဗကရ်ﷺသခင့်ကို ပထမအကောင်းဆုံး၊ အိုမရ်ﷺသခင့်ကို ဒုတိယအကောင်းဆုံး၊ အွစ္စမာန်ﷺသခင့်ကို တတိယအကောင်းဆုံးအဖြစ် ရွေးချယ်ခဲ့ကြသည်။)
ဤအကြောင်းကိုပင် အဗူဒါဝုဒ်ကျမ်းတွင် ဖော်ပြထားသည်မှာ–
كنا نقول ورسول الله ﷺ حي أفضل أمة النبي ﷺ أبوبكر ثم عمر عثمان رضي الله عنهم
(တမန်တော်မြတ်ﷺသက်တော်ထင်ရှားရှိစဉ်မှာပင် ကျွန်ုပ်တို့သည် တမန်တော့်ﷺအွမ္မတ်တွင် အမြတ်ဆုံးသည် အဗူဗကရ်၊ ထို့နောက် အိုမရ်၊ ထို့နောက် အွစ္စမာန်ﷺသခင်တို့ဖြစ်သည်ဟု ပြောဆိုလေ့ရှိခဲ့ကြသည်။)
တွစ်ဗ်ရာနီကျမ်းတွင် စာသားအပိုပါရှိသည်မှာ– ويسمع ذلك النبي ﷺ ولاينكره (ကျွန်ုပ်တို့ပြောဆိုသည်ကို တမန်တော်မြတ်ﷺလည်း ကြားခဲ့သည်။ ထိုပြောဆိုမှုကို တမန်တော်မြတ်ﷺ ငြင်းဆိုခြင်းမပြုခဲ့ပါ။)

✝ إحسان الظن بجميع الصحابة و الثناء عليهم (ဆွဟာဗဟ်သခင်အားလုံးﷺအပေါ် ကောင်းမွန်သော ထင်မြင်ချက်ထားရှိရမည်။ ထို့ပြင် ၎င်းတို့အား ချီးမွမ်းထောပနာပြုရမည်။)
ဤအကြောင်းအရာအပေါ်မှာ တိရ်မဇီကျမ်းတွင် အဗ်ဒွလ္လာဟ်အီဗ်နေ့မုဂဖ်ဖလ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြသည်မှာ– الله الله في أصحابي لا تتخذوهم عرضا بعدي
(အလ္လာဟ်အရှင်အား ကြောက်ရွံ့ရှိသေကြကုန်။ အလ္လာဟ်အရှင်အား ကြောက်ရွံ့ရှိသေကြကုန်။ ငါမရှိသည့်နောက် အသင်တို့သည် ငါ၏ဆွဟာဗဟ်များကို ပစ်မှတ်ထား ထိုးနှက်ခြင်းမပြုကြနှင့်။)
ထို့ပြင် အိမာမ်ဗုခါရီ꙳နှင့် အိမာမ်မွတ်စလင်မ်꙳သခင်နှစ်ပါးက အဗူစအီဒ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြကြသည်မှာ– لاتسبوا أصحابي
(အသင်တို့ ငါ၏ဆွဟာဗဟ်များကို ဆဲရေးတိုင်းထွာခြင်း မပြုကြနှင့်။)
တဖန် တွစ်ဗရာနီကျမ်းတွင်လည်း အီဗ်နေ့မတ်စအုဒ်ﷺသခင် ဆင့်ပြန်သောဟဒီစ် – إذا ذكر أصحابي فأمسكوا (ငါ၏ဆွဟာဗဟ်များအကြောင်း ပြောဆိုလာသည့်အခါ နှုတ်ပိတ်နေကြပါ)– ကို ဖော်ပြထားသည်။

ဒုတိယအခန်း

# လမ်းညွှန်သင်ပြမှု အဆင့်ဆင့် နှင့် စွဲယူယုံကြည်မှုတွင် အဆင့်အတန်းများ ရှိရခြင်းအကြောင်း

ပထမအခန်းတွင် ကျွန်ုပ်တို့ဖော်ပြခဲ့သော အကီဒဟ်ခံယူချက်များကို ကလေးငယ်အား လူမှန်းသိတတ်စကပင် ကျက်မှတ်နိုင်းထားရမည်။ ထိုသို့ကျက်မှတ်ထားခြင်းဖြင့် ကလေးငယ်သည် ကြီးပြင်းလာသောအခါ အကီဒဟ်များ၏အဓိပ္ပါယ်ကို တစ်စတစ်စ သိမြင်သဘောပေါက်လာလိမ့်မည်။ ဆိုလိုသည်မှာ ပထမအဆင့်သည် မှတ်မိသိရှိခြင်းဖြစ်သည်။ ထို့နောက် နားလည်သဘောပေါက်ခြင်းဖြစ်သည်။ ထို့နောက်မှ ခံယူခြင်း၊ သက်ဝင်ခြင်းနှင့် ဒိဋ္ဌမှန်ကန်ကြောင်းယုံကြည်ခြင်း၏အဆင့်များဖြစ်သည်။ ကလေးဘဝတွင် ရရှိသောအရာသည် အထောက်အထား မပါသည့် ယုံကြည်မှုဖြစ်သည်။ သို့ရှိရာ လူမှန်းသိတတ်စအချိန်တွင် အထောက်အထားသာဓက တစ်စုံတစ်ရာမပါဘဲ၊ လူသား၏နှလုံးသားကို အီမာန်အတွက် ဖွင့်ပေးခြင်းသည် အလ္လာဟ်အရှင်၏ကျေးဇူးတော်ဖြစ်သည်။ ဤအချက်ကို ငြင်း၍ မရနိုင်ပါ။

လူသာမန်အားလုံးတို့၏ခံယူယုံကြည်မှုများသည် သင်ပြမှုသက်သက်၊ အခြားသူထံမှ နောက်လိုက်နည်းယူ၍ အရိုးအစဉ်ယုံကြည်မှုအဖြစ် စတင်ခဲ့ခြင်းဖြစ်သည်။ နောက်လိုက်နည်းယူမှုသက်သက်ဖြင့် ရရှိထားသောယုံကြည်မှုသည် အစပထမတွင် အားနည်းချက်တစ်မျိုးမျိုးနှင့် ကင်းနိုင်မည် မဟုတ်ပေ။ ဆိုလိုသည်မှာ အကယ်၍ ထိုလူမျိုး၏နှလုံးသားတွင် သူ၏မူလယုံကြည်မှုနှင့် ဆန့်ကျင်ဘက်အရာကို ထည့်လိုက်မည်ဆိုလျှင် မူလလက်ခံထားသော ယုံကြည်မှု ပျောက်ကွယ်သွားနိုင်သည်။ သို့ဖြစ်ရာ ကလေးငယ်နှင့်လူသာမန်တို့၏စိတ်နှလုံးအတွင်း၌ စွဲယူယုံကြည်မှုများသည် အားကောင်းခိုင်မာပြီး မယိမ်းမယိုင်ရှိနေရန် မုချလိုအပ်သည်။

မုနာဇရာနှင့် ကလာမ်အတတ်ကို သိအောင်လုပ်ခြင်းသည် အကီဒဟ်ခံယူချက်များ အားကောင်းခိုင်မာလာရန် နည်းလမ်းမဟုတ်ပါ။ ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ ကျမ်းမြတ်၏အဖွင့်တဖ်စီရ်ကို ဆည်းပူးခြင်း၊ ဟဒီစ်တော်ကို ဖတ်ရှုပြီး အနက်အဓိပ္ပါယ်ကို လေ့လာလိုက်စားခြင်းဖြင့်သာ အကီဒဟ်ခံယူချက်များ အားကောင်းခိုင်မာမည်ဖြစ်သည်။ ထို့ပြင် နေ့စဉ်ကျင့်မူရသော အိဗာဒတ်ကျင့်စဉ်များဖြင့် ထိုသူ၏အကီဒဟ်ခံယူချက်များအပေါ် စွဲမြဲမှု တိုးပွါးသည်ထက် တိုးပွါးမည်ဖြစ်သည်။ ဤနည်းဖြင့် ကျမ်းမြတ်ကုရ်အာန်၏အထောက်အထားသာဓကများသည် သူ၏နားထဲတွင် ရိုက်ခတ်နေလိမ့်မည်။ ဟဒီစ်တော်များထဲမှ သက်သေလက္ခဏာများနှင့်အကျိုးအာနိသင်များသည် သူ့အသိတွင် ပေါ်လွင်လိမ့်မည်။ အိဗာဒတ်များနှင့် ကျင့်စဉ်များ၏နူရ်အလင်းရောင်များက သူ့အပေါ်မှာ လင်းဝင်းလိမ့်မည်။ ထို့ပြင် သူတော်ကောင်းတို့၏ထိုင်ဝိုင်းများ၊ ၎င်းတို့၏အမှတ်အသားများ၊ ၎င်းတို့ထံမှ ကြားနာရမှုများ၊ ၎င်းတို့၏ဘဝသရုပ်များနှင့် နီးကပ်ထိတွေ့မှုရှိခြင်းဖြင့်လည်း အလ္လာဟ်အရှင်အား ရိုကျိုးမှု၊ ကြောက်ရွံ့မှုနှင့် ကျိုးငဲ့မှုများ သူ့တွင် စီးဝင်ကူးစက်လိမ့်မည်။

သို့ဖြစ်ရာ ကလေးဘဝမှာ ဖွဲ့ဆော်ဦး သွန်သင်ပေးခြင်းသည် ရင်ထဲတွင် မျိုးစေ့ချလိုက်ခြင်းနှင့်အလားတူပေ

သည်။ ထို့နောက် အထက်ပါစွဲမြဲကျင့်သုံးမှုများက ထိုမျိုးစေ့ကို ရေလောင်း၊ ပျိုးထောင်ပေးသကဲ့သို့ဖြစ်သည်။ ဤနည်းဖြင့် မျိုးစေ့သည် ရှင်သန်၊ အားကောင်းလာသည်။ ထို့နောက် ပီပြင်သောသစ်ပင် တစ်ပင်အဖြစ် မားမားစွင့်စွင့်ထွက်ပေါ်လာသည်။ သစ်ပင်တစ်ပင်၏အမြစ်သည် မြေဝင်နက်မည်ဆိုလျှင် ထိုအပင်သည် ခိုင်မာစွဲမြဲမှုရှိပြီး အပင်၏အကိုင်းအလက်များကလည်း မိုးပေါ်သို့ ဖြာထွက်နေမည်ဖြစ်သည်။ ကလေးငယ်တို့၏အကြားအာရုံကို စကားစစ်ထိုးခြင်းနှင့်ကလာမ်ပညာမှ အတတ်နိုင်ဆုံး ထိန်းသိမ်းကာကွယ်ရမည်။ အဘယ်ကြောင့်ဆိုသော် စကားစစ်ထိုးမှု၊ ကလာမ်ပညာတို့ဖြင့် အကီဒဟ်ကို အားကောင်းအောင်လုပ်ခြင်း၏အလားပမာသည် သစ်ပင်ကို အားကောင်းအောင်ဟုဆိုကာ အမြစ်ကို တူနှင့် ထုနှက်သကဲ့သို့ဖြစ်သည်။ ထိုသို့ထုနှက်ပြီး တုတ်ခိုင်သန်မာလာအောင် ရည်ရွယ်ခြင်းဖြစ်သည်။ သို့သော် သစ်ပင်သည် အစိတ်စိတ်အမွှာမွှာဖြစ်ကာ ပြိုလဲပျက်စီးသွားမည်သာဖြစ်သည်။

အများဆုံးဖြစ်နေသည်မှာ ဤအတိုင်းသာ။ မျက်မြင်ကိုယ်တွေ့ကြုံတွေ့ရမှုက သင့်အတွက် လုံလောက်နေပြီဖြစ်ရာ နောက်ထပ်ရှင်းလင်းဖေါ်ပြရန် မလိုအပ်လှပါ။ တဖန် လူသာမန်တို့အထဲမှ လူကောင်းသူကောင်းများ၊ ရှောင်ကျဉ်သူများ၏အကီဒဟ်ကို ကလာမ်ပညာရှင်များ၊ မုနာဇရာပညာရှင်များ၏အကီဒဟ်နှင့် နှိုင်းယှဉ်ကြည့်ပါ။ ထိုသို့သောလူသာမန်တို့၏အကီဒဟ်သည် သဘာဝအေးဒဏ်များနှင့်လျှပ်ပြက်ထစ်ချုန်းမှုများကြောင့် တုန်လှုပ်ချောက်ချားမှုမရှိသောတောင်ထွတ်ကဲ့သို့ဖြစ်သည်။ ကလာမ်ပညာရှင်ကမူ **သူ၏အကီဒဟ်ကို မုနာဇရာဖြင့်** ထိန်းသိမ်းနေခြင်းဖြစ်သည်။ သူ၏အကီဒဟ်သည် လေတိုက်ခပ်ရာဘက်သို့ **ယိမ်းယိုင်သော ချည်မျှင်ကဲ့သို့ဖြစ်**သည်။ ဤသို့ရှိရခြင်းမှာ သူသည် မိမိ၏အကီဒဟ်ကို အခြားသူ၏နောက်မှ **တက္ကလီဒ်လိုက်ခဲ့သကဲ့သို့၊ အကီဒဟ်၏အထောက်အထားများ**ကိုလည်း အခြားသူထံမှပင် တက္ကလီဒ်လိုက်ခဲ့ခြင်းကြောင့်ဖြစ်သည်။ ဆိုလိုသည်မှာ သူ့အတွက် အထောက်အထားကို သင်ယူခြင်းနှင့် အထောက်အထားက ညွှန်ပြသောအရာကို သင်ယူခြင်းတို့သည် ဘာမှမကွဲပြားတော့ပါ။ ဤနေရာတွင် အထောက်အထားကို အခြားသူနောက်က တက္ကလီဒ်လိုက်၍ သိခြင်းနှင့် မိမိကိုယ်တိုင် ကြံဆဖေါ်ထုတ်မှုတို့သည် အလွန်ပင်ကွာခြားသော အရာနှစ်ခုဖြစ်သည်။

ကလေးငယ်သည် ဤအကီဒဟ်စွဲယူမှုအတိုင်း ကြီးပြင်းခဲ့ရပြီး နောင်တွင်လည်း ဥစ္စာပစ္စည်းရှာဖွေမှုတွင် လုံးပမ်းအချိန်ကုန်သွားမည်ဆိုလျှင် ၎င်းအဖို့ ထိုစွဲယူမှုမှလွဲ၍ အခြားအရာကို လက်ခံတော့မည် မဟုတ်ပါ။ သို့နှင့်အမျှ ထိုကလေးငယ်သည် အမှန်တရား၏ဘက်တော်သားများ စွဲယူသည့်အကီဒဟ်များဖြင့် အာခိရတ်တွင် ထာဝရသုခချမ်းသာကို ရရှိနိုင်မည်ဖြစ်သည်။ တရားတော်ကလည်း အရဗ်ကျေးတောသားများအား အဆိုပါပေါ်ပေါ်လွင်လွင်ရှိနေသောအကီဒဟ်ကို မမိုတ်မသုံ ယုံကြည်လက်ခံရန်ထက် ပိုပြီး တာဝန်မပေးပါ။ သို့ဖြစ်ရာ သုံးသပ်လေ့လာခြင်း၊ စူးစမ်းစိစစ်ခြင်းနှင့် အထောက်အထားများကို ဒုက္ခခံဖေါ်ထုတ်ရန် သူ့အပေါ်မှာ လုံးလုံးတာဝန်မရှိတော့ပါ။

အကယ်၍ ထိုသူသည် အာခိရတ်၏လမ်းလိုက်သူတစ်ဦးဖြစ်ရန် ရည်ရွယ်လျှင်၊ တဖန် အလ္လာဟ်အရှင့်ဘက်မှလည်း ကျင့်မှုနိုင်စွမ်းပေးတော်မူမည်ဆိုလျှင်၊ ထိုသူသည် ကျင့်မှုရာများဖြင့် လုံးပန်းရလိမ့်မည်။ တက္ကဝါတရားကို စွဲမြဲရမည်။ မိမိ၏နဖ်စ်ကို အလိုဆန္ဒများမှ တားဆီးရမည်။ ထို့ပြင် လေ့ကျင့်အားထုတ်မှုများနှင့်ဖွဲ့ခတ်ကြိုးပမ်းမှုများတွင် နစ်မွန်းရမည်။ ဤနည်းဖြင့်သာ ထိုသူ့အဖို့ ဟိဒါယတ်တရားလမ်းမှန်၏တံခါးပေါက်များ ဖွင့်ပေးခြင်းခံရမည်။ ထို့ပြင် သူ၏ဖွဲ့ခတ်ကြိုးပမ်းမှုကို အကြောင်းပြုပြီး အလ္လာဟ်အရှင့်ဘက်မှ နူရ်အလင်းရောင်တစ်ခုဖြင့် သူ၏နှလုံးသားထဲတွင် အဆိုပါအကီဒဟ်များ၏အရင်းခံသဘောများ ပွင့်လင်းပေါ်ထွက်လာမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဖွဲ့ခတ်ကြိုးပမ်းခြင်းဖြင့် ထိုအလင်းရောင်က နှလုံးသားတွင် ဝင်ရောက်မည်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင် ကတိတော် ရှိထားသည်မှာ– ﴿وَالَّذِينَ جَاهَدُوا فِينَا لَنَهْدِيَنَّهُمْ سُبُلَنَا وَإِنَّ اللَّهَ لَمَعَ الْمُحْسِنِينَ﴾

**'တဖန် ငါအရှင့်အတွက် စွဲခတ်ကြိုးပမ်းကြသူများကိုကား ငါအရှင်သည် ၎င်းတို့အား ငါ၏လမ်းများ**

**ကို ညွှန်ပြတော်မူမည်။ ထို့ပြင် အလ္လာဟ်အရှင်သည် သူတော်ကောင်းများနှင့်အတူ ရှိတော်မူပေသည်။'**

(စူရာအန်ကာဘူတ် ၊၆၉)

ထိုနူရ်အလင်းရောင်သည် အလွန် အဖိုးအနဂ္ဃထိုက်တန်သောအရာဖြစ်သည်။ သစ္စာရှင်များ၊ မုကရ်ရဘီန်ခေါ် အလ္လာဟ်အရှင်နှင့် နီးကပ်မှုရထားကြသော သူတော်စင်များ၏ အထွတ်အထိပ်အီမာန်သည် ထိုအလင်းရောင်ပင်ဖြစ်သည်။ အဗူဗကရ်ဆွစ်ဒီက် ﷺသခင်က လူသားအားလုံးထက် ထွတ်မြတ်ရခြင်း၏ အတွင်းရေးလျှို့ဝှက်ချက်သည် ၎င်း၏ ရင်ထဲတွင် စွဲမြဲတည်ရှိနေသောအရာကြောင့်ဖြစ်သည်ဆိုရာမှာလည်း ထိုအလင်းရောင်ကို ရည်ညွှန်းခြင်းဖြစ်သည်။ ဤအတွင်းရေးလျှို့ဝှက်ချက်ကို ပွင့်ပေါ်သိရှိရခြင်း၊ သို့သာမက အတွင်းသဘောအားလုံးကို သိရခြင်းသည် အဆင့်အတန်းများ အဆင့်ဆင့်ရှိသည်။ လူသား၏ ဖွံ့ခတ်ကြိုးပမ်းမှု၊ လူသား၏ အတွင်းအဇ္ဈတ္တကို အလ္လာဟ်မှအပ အခြားအရာများမှ ကင်းစင်သန့်ရှင်းစွာထားရှိမှု၊ ယကီန်၏ နူရ်အလင်းရောင် လင်းဝင်းရရှိမှု–အဆင့်အတန်းများအလျှောက် အတွင်းရေးလျှို့ဝှက်ချက်များကို ပွင့်ပေါ်သိရှိရမည်ဖြစ်သည်။

ပမာအားဖြင့် ဆေးပညာ၊ ဖိကဟ်ပညာနှင့် ပညာရပ်အသီးသီး၏ အတွင်းရေးများကို လူသားဘက်မှ ကြိုးပမ်းအားထုတ်မှု ကွာခြားသလောက်၊ သူသား၏ အသိဉာဏ်နှင့် ထိုးထွင်းဉာဏ် ထက်သန်မှု ကွာခြားသလောက်၊ သိနားလည်မှုများ ကွာခြားသကဲ့သို့ မှတ်ယူနိုင်သည်။ ထိုသို့ပညာရပ် သိနားလည်မှု အဆင့်အတန်းများသည် မရေမတွက်နိုင်အောင်ရှိနေသကဲ့သို့ အီမာန်၏ အလင်းရောင်ဖြင့် ရရှိသည့် အသိတရားအဆင့်အတန်းများသည်လည်း မဆုံးနိုင်အောင်ရှိနေပေသည်။

**မေးခွန်းပုစ္ဆာ**– အကယ်၍ စာရှုသူက **'စကားစစ်ထိုးမှုနှင့် ကလာမ်ပညာ သင်ခြင်းက နက္ခတ်ပညာသင်ခြင်းကဲ့သို့ ဆိုးယုတ်မှုဖြစ်သလား။ သို့မဟုတ် မုဘာဟ်ခွင့်ပြုချက်ဖြစ်သလား။ သို့မဟုတ် မွစ်တဟဗ်ဖြစ်သလား'** ဟုမေးခဲ့သော် ကျွန်ုပ်ရှင်းပြမည်မှာ– **လူတို့သည် ဤကိစ္စနှင့်ပတ်သက်၍** အစွန်းနှစ်ဘက်တွင် ရှိနေကြသည်။ ဆိုလိုသည်မှာ အချို့က ဤပညာ သင်ယူခြင်းအား **ဗိဒအတ်ဖြစ်**သည်၊ သို့မဟုတ် ဟရာမ်ဖြစ်သည်။ လူတစ်ဦးသည် ရှရီက်မှလွဲ၍ အခြားပြစ်မှုအားလုံးကို ကျူးလွန်ပြီး **အလ္လာဟ်အရှင်**၏ ရှေ့တော်သို့ ရောက်ရှိခြင်းသည်၊ ကလာမ်ပညာဖြင့် အလ္လာဟ်အရှင်၏ ရှေ့တော်သို့ ရောက်ခြင်းထက်ပို၍ကောင်းသည်ဟု ဆိုကြ၏။ ထို့ပြင် အချို့က ထိုပညာကို သင်ယူခြင်းသည် ဝါဂျိဗ်ဖြစ်သည်၊ ဖရာဇ်ကိဖာယာ သို့မဟုတ် ဖရာဇ်အိုင်န်ဖြစ်သည်။ တဖန် ထိုပညာသည် လက်တွေ့ကျင့်ဆောင်မှုများ၊ စွဝါဗ်ရမည့်လုပ်ငန်းများထက် ပို၍ကောင်းသည်။ အဘယ်ကြောင့်ဆိုသော် ဤပညာသည် တောင်ဟီဒ်ပညာကို စူးစမ်းခြင်းဖြစ်သည်။ အလ္လာဟ်အရှင်၏ သာသနာဘက်မှ ခုခံတိုက်ခိုက်မှုဖြစ်သည်'ဟု ဆိုကြသည်။

ဤပညာကို အိမာမ်ရှာဖအီ ﵀သခင်၊ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ﵀သခင်၊ စွဖ်ယန်စော်ရီ ﵀သခင်နှင့် ရှေးသူဟောင်းများထဲမှ ဟဒီစ်ပညာရှင်အားလုံးက ဟရာမ်ဖြစ်သည်ဟု ဆိုကြသည်။ အိဗ်နေ့အဗ်ဒွလ်အအ်လာ ﵀သခင်က 'မှအ်တဇိလာဂိုဏ်းမှ ကလာမ်ပညာရှင် ဟဖ်စ်ဖရ်ဒ်နှင့် မုနာဇရာပြုလုပ်သည့်နေ့တွင် အိမာမ်ရှာဖအီ ﵀သခင် ပြောဆိုသည်ကို ကျွန်ုပ်ကြားခဲ့ရသည်မှာ 'လူသားတစ်ဦးသည် ရှရီက်ပြစ်မှုမှအပ အခြားအပြစ်ဒုစရိုက်အားလုံး ကျူးလွန်ပြီး အလ္လာဟ်အရှင့်ထံသို့ ရောက်ရှိခြင်းသည် ကလာမ်ပညာဆိုင်ရာတစ်စုံတစ်ခုကို ဆောင်ယူပြီး အလ္လာဟ်အရှင့်ထံသို့ ရောက်ရှိခြင်းရထက် ပို၍ကောင်းသည်'။ အိဗ်နေ့အဗ်ဒွလ်အအ်လာ ﵀သခင်က ဆက်လက်ပြောဆိုသည်မှာ 'ကျွန်ုပ်သည် ဟဖ်စ်ဖရ်ဒ်ထံမှလည်း စကားတစ်ခွန်း ကြားခဲ့သေးသည်။ သို့သော် ကျွန်ုပ်သည် ထိုစကားကို ပြန်ပြောပြရန်ပင် မတတ်စွမ်းနိုင်ပါ။' ထို့ပြင် အိမာမ်ရှာဖအီ ﵀သခင်က 'ကြားသိရလိမ့်မည်ဟု လုံးဝမမျှော်လင့်ဖူးသော အရာများကို ကျွန်ုပ်သည် ကလာမ်သမားများထံမှ ကြားသိခဲ့ရသည်။ ရှရီက်မှတစ်ပါး အလ္လာဟ်အရှင် တားမြစ်ထားသောအရာအားလုံးတွင် နစ်မွန်းခြင်းက ကလာမ်ပညာကို စူးစားခြင်းထက် ပို၍ကောင်းသည်'ဟု သခင်က ပြောဆိုခဲ့သည်။

ကရာဘီဆီက ပြောပြသည်မှာ 'အိမာမ်ရှာဖအီ ' သခင့်အား တစ်စုံတစ်ယောက်က ကလာမ်ပညာနှင့်စပ်လျဉ်း၍ မေးမြန်းသောအခါ သခင်သည် ဒေါသဖြစ်သွားခဲ့သည်။ ထို့နောက် သခင်က 'ဒီအကြောင်းကို ဟဖ်စ်ဖရ်ဒ်နဲ့ သူ့လူတွေဆီ သွားမေးချေ။ အလ္လာဟ်အရှင် သူတို့ကို အရှက်တကွဲပြုတော်မူပါစေ'ဟု ပြောဆိုခဲ့သည်။ အိမာမ်ရှာဖအီ ' သခင် မကျန်းမမာဖြစ်သောအခါ ဟဖ်စ်ဖရ်ဒ်သည် သခင့်ထံ ရောက်လာခဲ့သည်။ သခင်က သူ့အား 'သင်မည်သူလဲ' ဟုမေးခဲ့သည်။ သူက 'ဟဖ်စ်ဖရ်ဒ်ပါ'ဟု ဖြေသောအခါ သခင်က 'အသင့်ကို အလ္လာဟ်အရှင် မထိန်းသိမ်းပါစေနဲ့။ အသင်နစ်မွန်းနေတဲ့ကိစ္စမှ တောင်ဗဟ်မပြုမချင်း အလ္လာဟ်အရှင် အသင့်ကို ထောက်ညှာခြင်း မပြုပါစေနဲ့'ဟု ပြောဆိုခဲ့သည်။

အိမာမ်ရှာဖအီ ' သခင်ကပင် ဆိုမိန့်ခဲ့သည်မှာ 'ကလာမ်ပညာထဲတွင် ရှိနေသောဗိဒအတ်များကိုသာ လူတို့သိကြလျှင် ခြင်္သေ့ကို မြင်ပြီး ပြေးသလို ထိုပညာမှ ထွက်ပြေးကြလိမ့်မည်။' တဖန် သခင်က မိန့်ခဲ့သည်မှာ 'လူတစ်ဦးက 'ဤအရာက ပညတ်ဖြစ်သည်။ ထိုအရာက ပရမတ်ဖြစ်သည်'–စသဖြင့် ပြောဆိုသည်ကို အသင်ကြားရလျှင် ထိုသူသည် ကလာမ်သမားဖြစ်ပြီး ထိုသူ့ထံတွင် သာသနာမရှိဟု မှတ်လိုက်ပေတော့။'

ဇအ်ဖရာနီက ပြောပြသည်မှာ– 'အိမာမ်ရှာဖအီ ' သခင်က 'ကလာမ်ပညာ တတ်ကျွမ်းသူများနှင့်ပတ်သက်၍ ကျွန်ုပ်၏အဆုံးအဖြတ်ကို ပြောရမည်ဆိုလျှင်၊ ၎င်းတို့ကို စွန်ပလွန်ရိုးတံဖြင့် ရိုက်နှက်ရန်ဖြစ်သည်။ ထို့နောက် ၎င်းတို့ကို မျိုးနွယ်စုအားလုံးရှေ့သို့ ရောက်အောင် လှည့်ပတ်ပြီး 'ဤပြစ်ဒဏ်သည် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီစ်တော်ကို စွန့်ပယ်၍ ကလာမ်ပညာကို လေ့လာလိုက်စားသည့်အတွက် ချမှတ်သောပြစ်ဒဏ်ဖြစ်သည်'ဟု ကြေညာရန် ဖြစ်သည်။ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ' သခင်ကမူ 'ကလာမ်သမားများသည် ဘယ်တော့မှ အောင်မြင်မှုရကြမည် မဟုတ်ပါ။ ကလာမ်ပညာတွင် စိတ်ဝင်စားသူ အားလုံးလိုလို၏စိတ်နှလုံးတွင် အကွေ့အကောက်အလှည့်အပတ်များ ဝင်ရောက်လျက်ရှိကြောင်း အသင်တွေ့ရလိမ့်မည်'ဟု ဆိုမိန့်ခဲ့သည်။

ဟာရစ်မုဟာစိဘီ ' သည် ဒွန္ဒယာစွန့်သူ၊ ရှောင်ကျဉ်သူတစ်ဦးဖြစ်သည်။ သို့နှင့်တိုင် ၎င်းသည် ဗိဒအတ်သမားများအား ချေပသည့်ကျမ်းတစ်စောင် ရေးသားပြုစုခဲ့သည့်အတွက် အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ' သခင်က ၎င်းကို တွေ့ဆုံခြင်းမပြုတော့ပေ။ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ' သခင်၏ကလာမ်ပညာကို ဆန့်ကျင်မှုသည် ဤမျှပြင်းထန်ပေသည်။ သခင်က ၎င်းကို 'လူညံ့။ အသင်သည် ပထမဦးစွာ ၎င်းတို့၏ဗိဒအတ်များကို ကိုးကားဖော်ပြရသည်မဟုတ်လား။ ထို့နောက်မှ ၎င်းကို သင့်ဘက်က ချေပသည်။ သို့ရှိရာ သင်က လူတို့အား သင်၏အရေးအသားများဖြင့် ဗိဒအတ်ကို လေ့လာကြဖို့ လှုံ့ဆော်ရာ မရောက်ပါသလော။ ထိုဒွိဟပွါးဖွယ်ကိစ္စများတွင် စဉ်းစားတွေးခေါ်ကြဖို့ လှုံ့ဆော်ရာမရောက်ဘူးလား။ ဤသို့ချေပခြင်းသည် လူတို့တွင် အယူအဆသုံးသပ်ချက် အမျိုးမျိုးဖြစ်ပေါ်လာရန် အသင်က ဖိတ်ခေါ်လိုက်ခြင်းဖြစ်သည်။'

အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် ' သခင်ကပင် 'ကလာမ်ပညာရှင်များသည် သာသနာပျက်များဖြစ်ကြ၏'ဟု ဆိုမိန့်ခဲ့သေးသည်။ အိမာမ်မာလိက် ' သခင်ကမူ 'သင်စဉ်းစားရမှာက အကယ်၍ မုနာဇရာသမားသည် သူ့ထက်ပိုပြီး မုနာဇရာတတ်ကျွမ်းသူ ရောက်လာမည်ဆိုလျှင် ထိုသာသနာအသစ်အတွက် သူသည် မိမိ၏သာသနာကို နေ့စဉ်စွန့်လွှတ်မှာလား'ဟု ဆိုခဲ့သည်။ အိမာမ်မာလိက် ' သခင် ဆိုလိုသည်မှာ 'မုနာဇရာငြင်းခုံသူတို့၏ ပြောဆိုမှုများသည် တစ်ဦးနှင့်တစ်ဦး ဆန့်ကျင်ကွဲလွဲလျက်ရှိသည်'ဟု ဖြစ်သည်။ ထို့ပြင် အိမာမ်မာလိက် ' သခင်ကပင် 'ဗိဒအတ်သမားနှင့် စိတ်အကြိုက်လိုက်သူတို့၏သက်သေခံချက်သည် တရားမဝင်ပါ'ဟု ဆိုမိန့်ခဲ့သည်။ ဤစကားအပေါ် သခင်၏တပည့်အချို့က 'ဆရာသခင်၏ဆိုမိန့်မှုတွင် စိတ်အကြိုက်လိုက်သူဆိုသည်မှာ လမ်းစဉ်အမျိုးမျိုးပေါ်တွင် ရှိနေသော ကလာမ်ပညာသမားများကို ဆိုလိုခြင်းဖြစ်သည်'ဟု အဓိပ္ပါယ်ကောက်ယူခဲ့သည်။

အိမာမ်အဗူယူစွဖ်ㅡသခင်က 'အကြင်သူသည် ကလာမ်ပညာဖြင့် အသိပညာကို ရရန် အလိုထားမည်ဆိုလျှင် သူသည် ဘာသာပျက်သူဖြစ်သည်'ဟု မိန့်ခဲ့သည်။ ဟစ်အီဗ်နေ့ဖေယဒ်ㅡသခင်ကလည်း 'စိတ်ကြိုက်လိုက်သူတို့နှင့် မငြင်းခုံကြနှင့်။ သူတို့နှင့်အတူ မထိုင်ကြနှင့်။ သူတို့၏စကားကို နားမထောင်ကြနှင့်'ဟု ဆိုခဲ့သည်။ ရှေးသူတော်စင် ဟဒီစ်ပညာရှင်များအားလုံးသည် ဤစကားရပ်အတိုင်းပင် တစ်ညီတစ်ညွတ်တည်းရှိခဲ့ကြသည်။ ထိုပုဂ္ဂိုလ်များထံမှ ဤအကြောင်းရပ်အပေါ် အပြင်းအထန်သတိပေးတားမြစ်ထားသော အဆိုအမိန့်ပြောဆိုမှုများသည် မရေမတွက်နိုင်အောင်ပင်ရှိနေလေသည်။

၎င်းတို့က ပြောဆိုသည်မှာ 'ထိုပညာရပ်အပေါ် ဆွဟာဗဟ်များ ဆိတ်ဆိတ်နေခဲ့ကြသည်။ အကြောင်းမှာ ထိုပညာမှ ဆိုးကျိုးရလဒ်များ ပေါ်ထွက်မည်ကို ထိုသခင်များ သိထားသောကြောင့်ဖြစ်သည်။ သို့နှင့်တိုင် ထိုသခင်တို့သည် အစစ်အမှန်သဘောကို အသိကျွမ်းဆုံးပုဂ္ဂိုလ်များဖြစ်ပြီး ဝေါဟာရစကားလုံးများ သုံးနှုန်းရာတွင် အခြားသူများထက်ပို၍ အတ္ထာလင်္ကာရမြောက်ကြသူများဖြစ်သည်။ ထိုအတွက်ပင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ—

هلك المتنطعون ، هلك المتنطعون ، هلك المتنطعون . (၉)

'လက်ကုန်နှိုက်သူများ ပျက်စီးကြရမည်။ လက်ကုန်နှိုက်သူများ ပျက်စီးကြရမည်။ လက်ကုန်နှိုက်သူများ ပျက်စီးကြရမည်'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ဤဟဒီစ်တွင် 'လက်ကုန်နှိုက်သူများ'ဆိုသည်မှာ သုံးသပ်ပြောဆိုမှုများကိုအဆုံးစွန်ထိအောင် နှိုက်နှိုက်ချွတ်ချွတ်ပြုလုပ်သူများဖြစ်သည်။

ဟဒီစ်ပညာရှင်များဘက်မှ နောက်ထပ် သက်သေသာဓကတစ်ခု ပြကြသေးသည်မှာ 'အကယ်၍ ထိုကလာမ်ပညာသည် သာသနာတွင် ပါဝင်မည်ဆိုပါက တမန်တော်မြတ်ﷺသည် အမိန့်ပေးညွှန်ကြားမှုများထဲတွင် ထိုပညာကို အရေးတကြီးကိစ္စအဖြစ် ထည့်သွင်းမည်သာဖြစ်သည်။ ထို့ပြင် ထိုပညာကို ကိုယ်တော်ﷺက သင်ပြပေးမည်ဖြစ်သာသည်။ ထို့ပြင် ကိုယ်တော်ﷺသည် ထိုပညာရှင်၊ ထိုပညာတတ်ကျွမ်းသူများကို ချီးကျူးဦးမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺသည် ဆွဟာဗဟ်များ❀ကို ကိုယ်လက်သုပ်သင်မှုကအစ သင်ပြခဲ့သောကြောင့်ဖြစ်သည်။ ထို့ပြင် တမန်တော်မြတ်ﷺသည် အမွေခွဲတမ်းကို မှတ်သားကြရန် တိုက်တွန်းခဲ့သည်။ တဖန် တမန်တော်မြတ်ﷺက တက္ကဒီရ်အကြောင်း ပြောဆိုဆွေးနွေးခြင်းမပြုရန်တားမြစ်ခဲ့သည်။ ကိုယ်တော်ﷺက 'တက္ကဒီရ်အကြောင်းနှင့်ပတ်သက်လာလျှင် ခပ်မဆိတ်နေကြရန်' မိန့်ဆိုခဲ့သည်။ ဤသို့မိန့်ဆိုသွန်သင်ခဲ့သည့်အတိုင်းလည်း ဆွဟာဗဟ်များ❀ တစ်လျှောက်လုံးရှိခဲ့ကြသည်။

ဆရာ့ထက် တပည့်က ရှေ့သို့ရောက်ခြင်းသည် အရိုသေမဲ့ခြင်း၊ တရားမဲ့ပြုခြင်းဖြစ်သည်။ ဆွဟာဗဟ်များﷺသည် ဆရာသခင်များဦးစီးရှေ့ဆောင်ပုဂ္ဂိုလ်များဖြစ်ကြသည်။ ကျွန်ုပ်တို့သည် နောက်လိုက်များ၊ တပည့်များဖြစ်ကြသည်။

ထို့ပြင် ကလာမ်ပညာကို အကောင်းမြင်သော နောက်အုပ်စုတစ်ခုက သာဓကအဖြစ် ထောက်ပြကြသည်မှာ— 'ကလာမ်ပညာတွင် ချွတ်ယွင်းချက်ရှိသည်မှာ ' الجوهر (ဒြပ်ဝတ္ထု)'၊' العرض (မှီတွယ်ရပ်တည်သောအရာ)' စသည့် ဝေါဟာရများဖြစ်သည်။ ဤအဆန်းတကြယ်အသုံးအနှုန်းများသည် ဆွဟာဗဟ်များ❀၏ခေတ်က မရှိခဲ့ပါ။ ဤကိစ္စသည် သာမန်ကိစ္စသာဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ပညာရပ်တိုင်းတွင် ထိုပညာရပ်ကို နားလည်သဘောပေါက်ရန်အတွက် ဝေါဟာရအသုံးအနှုန်းများ အသစ်တီထွင်ရသည်။ ဥဒါဟရဏ်အားဖြင့် ဟဒီစ်၊ တဖ်စီရ်၊ ဖိကဟ် ဆိုသောဝေါဟာရများဖြစ်သည်။ အကယ်၍ ဆွဟာဗဟ်များ❀အား 'النقض(ဖေရ်ဖြင့် ဖတ်ရခြင်း)'' الكسر (ဖေရ်) 'التركيب(ဝါကျသရုပ်ခွဲခြင်း)''التعدية(ကံလိုကြိယာပြုခြင်း)'၊ မူတည်အဓိပ္ပါယ်၏အပြင် အခြားအဓိပ္ပါယ်ယူလျှင် မူတည်အဓိပ္ပါယ်ပျက်သည်–ဆိုသည့်သဘောထားများကို တင်ပြခဲ့မည်ဆိုလျှင် ဆွဟာဗဟ်သခင်တို့ သိနားလည်

ကြလိမ့်မည်မဟုတ်ပေ။'

'မှန်ကန်သောရည်ရွယ်ချက်ကို ဖေါ်ညွှန်းရန် စာသားစကားလုံးတီထွင်ခြင်းသည် ခွင့်ပြုသောကိစ္စတွင် အသုံးပြုရန်အတွက် အိုးခွက်ပုံစံအသစ်တီထွင်ခြင်းနှင့်အလားတူသည်။ ဤသို့တီထွင်သဖြင့် မည်သည့်ထိခိုက်မှုမှမဖြစ်ပေ။ အကယ်၍ ကလာမ်ပညာ၏ချွတ်ယွင်းချက်သည် စကားလုံးကြောင့်မဟုတ်ဘဲ အဓိပ္ပါယ်အလိုသဘောနှင့် ဦးတည်ရည်ရွယ်ချက်ကြောင့်ဖြစ်သည်ဆိုလျှင် ကျွန်ုပ်တို့၏ရည်ရွယ်ချက်သည် လောကဖြစ်တည်ခြင်း၏သက်သေသာဓက၊ တစ်ပါးတည်းသောဖန်ဆင်းရှင် တည်ရှိတော်မူခြင်း၏သက်သေသာဓကနှင့် ထိုဖန်ဆင်းရှင်၏ဂုဏ်တော်ဝိသေသများ၏သက်သေသာသာဓကများကို တရားတော်တွင်လာရှိသည့်အတိုင်း သိနားလည်ရန်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်ကို သက်သေသာဓကဖြင့် သိခြင်းတွင် ဘယ်မှာ ဟရာမ်ဖြစ်ပါသလဲ။'

'အကယ်၍ ကလာမ်ပညာ၏ချွတ်ယွင်းချက်သည် စိတ်ဝမ်းကွဲခြင်း၊ တစ်ယူသန်အစွန်းရောက်ခြင်း၊ ရန်လိုမုန်းတီးမှုများ ပေါ်ထွက်သောကြောင့် ဖြစ်သည်ဆိုခဲ့လျှင်၊ ထိုအရာများသည် မုချဟရာမ်ဖြစ်ပြီး ထိုအရာများမှ ရှောင်ရှားရန် မလွှဲမသွေတာဝန်ဖြစ်သည်။ ဥပမာအားဖြင့် ဟဒီစ်ပညာ၊ တဖ်စီရ်ပညာနှင့် ဖိကဟ်ပညာများကို သင်ယူရာတွင် မာနဝင်ခြင်း၊ မိမိကိုယ်ကိုအထင်ကြီးခြင်း၊ ပြစားဝင့်ကြွားခြင်း၊ အကြီးအမှူးဖြစ်လိုခြင်းများ ပေါ်ထွက်သကဲ့သို့ပင်ဖြစ်သည်။ ထိုအရာများသည်လည်း ဟရာမ်ဖြစ်ပြီး ထိုပညာများမှ ရှောင်ရှားရန် မလွှဲမသွေတာဝန်ဖြစ်ကြောင်း သံသယဖြစ်စရာမရှိပါ။ သို့နှင့်တိုင် ထိုအရာများ၏ထိခိုက်မှုဖြစ်နိုင်ချေရှိ၍ဖြင့် အဆိုပါပညာရပ်များကို ပိတ်ပင်တားမြစ်ခြင်း မပြုပါ။ သို့နှင့်အမျှ သက်သေသာဓကကို ဖေါ်ထုတ်ခြင်း၊ ထိုသက်သေသာဓကကို တောင်းခံခြင်း၊ ထိုသက်သေခံ၏အနေအထားကို ဆွေးနွေးသုံးသပ်ခြင်းများအား ပိတ်ပင်တားမြစ်ရန် အဘယ်သို့ဖြစ်နိုင်ပါသနည်း။ အလ္လာဟ်အရှင်မိန့်တော်မူသည်မှာ– ﴿قُلْ هَاتُوا بُرْهَانَكُمْ إِنْ كُنْتُمْ صَادِقِينَ﴾

**(တမန်တော်မုဟမ္မဒ်ﷺ)'အသင်ပြောဆိုလော့–'အသင်တို့ မှန်ကန်သူများ ဖြစ်ကြပါလျှင် အသင်တို့၏သက်သေအထောက်အထား ယူဆောင်ပြသကြကုန်'။'**

(**စူရာဘာကရာ ၊၁၁၁။ စူရာအန်ဘီယာ၊ ၂၄။ စူရာနမ်လ်၊ ၆၄**)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿لِيَهْلِكَ مَنْ هَلَكَ عَنْ بَيِّنَةٍ وَيَحْيَا مَنْ حَيَّ عَنْ بَيِّنَةٍ﴾

**'သို့မှသာ သေကြေပျက်စီးရန် ရှိသူတစ်ဦးသည် ရှင်းလင်းသောသက်သေသာဓကတစ်ခုဖြင့် သေကြေပျက်စီးရန်ဖြစ်ပြီး၊ ရှင်သန်ကျန်ရစ်ရန် ရှိသူတစ်ဦးသည်လည်း ရှင်းလင်းသောသက်သေသာဓကတစ်ခုဖြင့် ရှင်သန်ကျန်ရစ်ရန်ဖြစ်သည်။'** (**စူရာအန်ဖာလ်၊ ၄၂**)

ထို့ပြင် ကာဖိရ်တို့က အလ္လာဟ်အရှင့်တွင် သားတစ်ဦးရှိသည်ဟု စွပ်စွဲသောအခါ အလ္လာဟ်အရှင် မိန့်ကြားသည်မှာ–

﴿إِنْ عِنْدَكُمْ مِنْ سُلْطَانٍ بِهَٰذَا﴾

**'ဤအတွက် အသင်တို့တွင် အနိုင်အမာရှိသည်ကား မဟုတ်ချေ။'** (**စူရာယူနုစ် ၊၆၈**)

ဆိုလိုသည်မှာ 'အသင်တို့၏စွပ်စွဲပြောဆိုမှုတွင် သက်သေအထောက်အထား မပါရှိပေ။' ထို့ပြင် အလ္လာဟ်အရှင်က တမန်တော်မြတ်ﷺအား မိန့်ကြားသည်မှာ–﴿قُلْ فَلِلَّهِ الْحُجَّةُ الْبَالِغَةُ﴾

**'အလ္လာဟ်အရှင်၏သာဓကသည်သာလျှင် ထိရောက်လုံလောက်သော သက်သေသာဓကဖြစ်သည်' ဟု အသင်ပြောပါလော့။'** (**စူရာအန်အာမ် ၊၁၄၉**)

တဖန် အလ္လာဟ်အရှင်က–

﴿أَلَمْ تَرَ إِلَى الَّذِي حَاجَّ إِبْرَاهِيمَ فِي رَبِّهِ أَنْ آتَاهُ اللَّهُ الْمُلْكَ إِذْ قَالَ إِبْرَاهِيمُ رَبِّيَ الَّذِي يُحْيِي وَيُمِيتُ قَالَ أَنَا أُحْيِي وَأُمِيتُ قَالَ إِبْرَاهِيمُ فَإِنَّ اللَّهَ يَأْتِي بِالشَّمْسِ مِنَ الْمَشْرِقِ فَأْتِ بِهَا مِنَ الْمَغْرِبِ فَبُهِتَ الَّذِي كَفَرَ﴾

**'တမန်တော်အီဗ်ရာဟီမ်အား အလ္လာဟ်အရှင်က အာဏာစက် ချီးမြှင့်လိုက်သဖြင့်၊ ၎င်း၏ ရဗ်အရှင်နှင့်စပ်လျဉ်း၍ အငြင်းအခုံပြုသူကို အသင်မမြင်သလော။ တမန်တော်အီဗ်ရာဟီမ်က 'ငါ၏ ရဗ်အရှင်သည် ရှင်စေတော်မူသောအရှင်နှင့် သေစေတော်မူသောအရှင်ဖြစ်တော်မူသည်'ဟု ပြောဆိုသောအခါ၊ ၎င်းက 'ငါသည်လည်း အသက်ရှင်အောင်ပြုလုပ်နိုင်သည်။ ထို့ပြင် သေအောင်ပြုလုပ်နိုင်သည်'ဟု ပြောဆိုခဲ့လေသည်။ တမန်တော်အီဗ်ရာဟီမ်က 'မုချ အလ္လာဟ်အရှင်သည် နေကို အရှေ့အရပ်မှ ထုတ်ယူတော်မူသည်။ သို့ဖြစ်ရာ အသင်က ထိုနေကို အနောက်အရပ်မှ ထုတ်ပြပါလော့'ဟု ပြောဆိုခဲ့လေသည်။ ထိုမှာပင် ထိုကာဖိရ်သည် လုံးဝနှုတ်မလှန်နိုင်အောင်ဖြစ်သွားခဲ့ပေသည်။'** (စူရာဗာကရာ ၊ ၂၅၈)

ဤအာယတ်တွင် အလ္လာဟ်အရှင်က တမန်တော်အီဗ်ရာဟီမ်ﷺ၏ အထောက်အထားပြဆိုမှု၊ ထိုးနှက်တိုက်ခိုက်မှု၊ အတိုက်အခံကို နှုတ်ပိတ်အောင်ချေပနိုင်မှုအပေါ် ထုတ်ဖော်ချီးမွမ်းတော်မူခဲ့သည်။ တဖန် အလ္လာဟ်အရှင်က တမန်တော်အီဗ်ရာဟီမ်ﷺနှင့်ပတ်သက်၍ပင် မိန့်တော်မူသည်မှာ–

﴿وَتِلْكَ حُجَّتُنَا آتَيْنَاهَا إِبْرَاهِيمَ عَلَى قَوْمِهِ﴾

**'ထို့ပြင် ယင်းသည် ငါအရှင်၏သက်သေသာဓကဖြစ်သည်။ ငါအရှင်သည် ထိုသက်သေသာဓကကို တမန်တော်အီဗ်ရာဟီမ်အား သူ၏အမျိုးသားနှင့် ဆန့်ကျင်လျက် ပေးအပ်တော်မူ၏။'** (စူရာအန်အာမ်၊ ၈၃)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿قَالُوا يَا نُوحُ قَدْ جَادَلْتَنَا فَأَكْثَرْتَ جِدَالَنَا﴾

**(တမန်တော်နူဟ်အား သူ၏ခေတ်ပြိုင် ကာဖိရ်များက) 'ပြောဆိုခဲ့ကြသည်မှာ 'အို နူဟ်၊ အသင်သည် ငါတို့ကို အငြင်းအခုံပြုခဲ့သည်။ ထို့ပြင် အသင်ကပင် ငါတို့၏ငြင်းခုံခြင်းကို များပြားစေခဲ့သည်။'**

(စူရာဟူဒ် ၊ ၃၂)

ဖိရ်အောင်န်၏ဖြစ်ရပ်တွင်လည်း ဖိရ်အောင်န်က တမန်တော်မူဆာﷺအား ပြောခဲ့သော–

﴿وَمَا رَبُّ الْعَالَمِينَ﴾

**'လောကအပေါင်းတို့၏ ရဗ်အရှင်ဆိုသည်မှာ ဘာလဲ'**

ဆိုသည့်စကားကိုရင်း၊ ဖိရ်အောင်အား တမန်တော်မူဆာﷺသခင်က တုန့်ပြန်ပြောဆိုခဲ့သော–

﴿أَوَلَوْ جِئْتُكَ بِشَيْءٍ مُبِينٍ﴾

**'ငါသည် အသင့်ထံ ရှင်းလင်းအောင်ပြပေးမည့်အရာကို ယူဆောင်လာခဲ့သည်ရှိသော်'**

(စူရာရှုအရာအ် ၊ ၃၀–၃၂)

ဆိုသည့်စကားရပ်များကို အလ္လာဟ်အရှင်က ပြန်လည်မိန့်ကြားဖော်ပြတော်မူခဲ့သည်။'

အချုပ်ဆိုရလျှင် ကျမ်းမြတ်ကုရ်အာန် အစမှအဆုံးသည် ကာဖိရ်တို့နှင့် သာဓကပြ ရှင်းလင်းမှုများဖြစ်သည်။ သို့နှင့်အမျှ ကလာမ်ပညာရှင်တို့ထံတွင် တောင်ဟီဒ်နှင့်ပတ်သက်၍ အကောင်းဆုံးအထောက်အထားသည် အလ္လာဟ်အရှင်၏မိန့်တော်မူချက်– ﴿لَوْ كَانَ فِيهِمَا آلِهَةٌ إِلَّا اللَّهُ لَفَسَدَتَا﴾

**'အကယ်၍ မိုးနှင့်မြေတွင် အလ္လာဟ်အရှင်၏အပြင် ကိုးကွယ်ရာအရှင် ရှိခဲ့မည်ဆိုလျှင် ထိုမိုးနှင့်မြေသည် မုချပျက်စီးခဲ့ပြီးဖြစ်မည်။'** (စူရာအန်ဘိယာ ၊ ၂၂)

ထို့ပြင် နဗူဝပ်နှင့်ပတ်သက်၍ အလ္လာဟ်အရှင်၏မိန့်ကြားချက် ရှိသည်မှာ–

﴿ وَإِن كُنتُمْ فِي رَيْبٍ مِّمَّا نَزَّلْنَا عَلَىٰ عَبْدِنَا فَأْتُوا بِسُورَةٍ مِّن مِّثْلِهِ ﴾

**'သို့ဖြစ်ရာ အသင်တို့သည် ငါအရှင်က ငါ၏ကျွန်အပေါ် ချပေးသောအရာ(ကျမ်းမြတ်ကုရ်အာန်)ကို သံသယရှိကြပါလျှင်၊ ထိုကျမ်းနှင့် အလားတူသော စူရာတစ်ပုဒ်ကို ယူလာကြကုန်။'** (စူရာဘာကရာ ၊ ၂၃)

ထို့ပြင် ရှင်ပြန်ထရမည့်အရေးနှင့်ပတ်သက်၍ အလ္လာဟ်အရှင်၏မိန့်ကြားချက် ရှိသည်မှာ–

﴿قُلْ يُحْيِيهَا الَّذِي أَنشَأَهَا أَوَّلَ مَرَّةٍ﴾

**'ပြောလော့။ ထိုအရာများကို ပထမအကြိမ် ဖန်ဆင်းတော်မူသောအရှင်ကပင် ထိုအရာများကို ပြန်ရှင် စေတော်မူမည်။'** (စူရာယာဆီန် ၊ ၇၉)

ဤသည်တို့အပြင်လည်း အာယတ်များနှင့် အထောက်အထားသာဓကများ ရှိသေးသည်။ အားလုံးသော ရစူလ်တမန်တော်တို့(عليهم السلام)သည် အမြဲတန်းပင် ငြင်းဆန်သူများအား သက်သေသာဓကများ ထုတ်ဖေါ်ပြီး စကားစစ်ထိုးခဲ့ကြသည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ– ﴿وَجَادِلْهُم بِالَّتِي هِيَ أَحْسَنُ﴾

**'အသင်သည် ၎င်းတို့အား အကောင်းဆုံးနည်းလမ်းဖြင့် ငြင်းခုံလော့။'** (စူရာနဟ်လ် ၊ ၁၂၅)

ဆွဟာဗဟ်သခင်တို့(رضي الله عنهم)သည်လည်း ငြင်းဆန်သူများနှင့် သက်သေသာဓကများ ထောက်ပြပြီး စကားစစ်ထိုးခဲ့ကြသည်။ သို့သော် လိုအပ်ချက်ရှိမှသာဖြစ်သည်။ သို့နှင့်တိုင် ဆွဟာဗဟ်သခင်တို့(رضي الله عنهم)ခေတ်တွင် ထိုအတွက် လိုအပ်ချက် နည်းခဲ့သည်။ ပထမဦးဆုံးဗိဒအတ်သမားများနှင့် စကားစစ်ထိုး၍ အမှန်တရားဘက်သို့ ဖိတ်ခေါ်သူသည် အလီ(كرم الله وجهه)သခင်ဖြစ်သည်။ သခင်က အီဗ်နေ့အဗ္ဗါစ်(رضي الله عنه)သခင်အား ခါရိဂျီခွဲထွက်ရေးသမားများနှင့် ဆွေးနွေးရန် စေလွှတ်ခဲ့သည်။ ထိုတွင် အီဗ်နေ့အဗ္ဗါစ်(رضي الله عنه)သခင်က 'သင်တို့က သင်တို့ခေါင်းဆောင်ကို အရေးယူရန် ဘာကြောင့် တောင်းဆိုတာလဲ'ဟု ပြောဆိုခဲ့သည်။ ခါရိဂျီတို့က 'သူက တိုက်တော့ တိုက်သည်။ သို့သော် ကျွန်တော်တို့ကို ကျွန်ပြုရန် သုံ့ပန်းလည်းမပေး။ သုံ့ရပစ္စည်းလည်း မပေးပါ'ဟု ပြောကြသည်။ ထိုအခါ အီဗ်နေ့အဗ္ဗာစ်(رضي الله عنه)သခင်က 'ဒါက ကာဖိရ်များနဲ့ တိုက်တဲ့အခါ လုပ်ရမဲ့အလုပ်ဘဲ။ သင်တို့စဉ်းစားကြ။ အကယ်၍ အာအိရှာ(رضي الله عنها)သခင်မကြီးကို ဂျမ္မလ် တိုက်ပွဲမှာ ဖမ်းမိပြီး အသင်တို့အထဲက တစ်ယောက်ယောက်ကို ခွဲဝေပေးခဲ့မယ်ဆိုရင်၊ အသင်တို့ပိုင် ကျွန်မတွေကို ဆက်ဆံသလို သခင်မကြီးကို ဆက်ဆံကြမလား။ ကျမ်းမြတ်ကုရ်အာန်ရဲ့ဖေါ်ပြချက်အရ ဒီသခင်မကြီးဟာ အသင် တို့ရဲ့မိခင်ကြီးဖြစ်တယ်'ဟု ရှင်းပြပြောဆိုခဲ့သည်။ ထိုအခါ ခါရိဂျီများက 'ဒီလိုလည်း မဟုတ်ပါ'ဟု ပြောခဲ့ကြသည်။ အီဗ်နေ့အဗ္ဗါစ်(رضي الله عنه)သခင်၏စကားစစ်ထိုးမှုကြောင့် ခါရိဂျီသူပုန် နှစ်ထောင် အလင်းဝင်ခဲ့သည်။

ဟစ်ဘာစ္စရီ(رحمه الله)သခင်သည် ကဒ္ဒရီယာခေါ် တက္ကဒီရ်ပယ်သူတစ်ဦးနှင့် မုနာဇရာပြုခဲ့ရာ ထိုပုဂ္ဂိုလ်သည် တက္ကဒီရ် ကို လက်ခံလာခဲ့သည်။ အလီ(كرم الله وجهه)သခင်သည်လည်း ကဒ္ဒရီယာဂိုဏ်းသားတစ်ဦးနှင့် မုနာဇရာလုပ်ခဲ့ဖူးသည်။ အဗ်ဒွလ္လာဟ်အီဗ်နေ့မတ်စအူဒ်(رضي الله عنه)သခင်သည် ယဇီဒ်အီဗ်နေ့အုမိုင်ရာနှင့် အီမာန်ရေးရာကိစ္စ မုနာဇရာပြုလုပ်ခဲ့သည်။ မတ်စအူဒ်(رضي الله عنه)သခင်က 'အကယ်၍ အသင်က ကျွန်ုပ်အီမာန်ရှင်ဖြစ်သည်ဟု ပြောဆိုလျှင်၊ အသင်သည် မိမိကိုယ်ကို ဂျန္နတ္တီဟု ပြောဆိုပေတော့'ဟု ပြောခဲ့သည်။ ထိုအခါ ယဇီဒ်အီဗ်နေ့အုမိုင်ရာက သခင့်အား ပြောသည်မှာ–

'အို တမန်တော်မြတ်ﷺ၏ ဆွဟာဗဟ်ကြီး။ ဤသည်မှာ အသင်၏လွဲချော်မှုပင်။ အီမာန်ဆိုသည်မှာ ကျွန်ုပ် တို့က အလ္လာဟ်အရှင်ကိုင်း၊ ထိုအရှင်၏ကောင်းကင်တမန်များကိုင်း၊ ထိုအရှင်၏ကျမ်းတော်များနှင့် ထိုအရှင်၏ တမန်တော်များ၊ သေပြီးနောက်ပြန်ရှင်ရမည့်အရေး၊ မြီဇာန်ချိန်ခွင်တော်–တို့ကိုင်း ယုံကြည်သက်ဝင်ခြင်းနှင့် နမာဇ်၊ ရိုဇာ၊ ဇကာတ်များကို ကျင့်ဆောင်မှုဖြစ်သည်။ သို့နှင့်ပင် ကျွန်ုပ်တို့တွင် အပြစ်ဂိုနာများက ရှိနေသည်။ ထိုအပြစ်ဂိုနာ

များမှ ကျွန်ုပ်တို့ကို ခွင့်လွှတ်တော်မူမည်ဟု အသေအချာသိရလျှင်တော့ ကျွန်ုပ်တို့သည် မိမိတို့ဂျူနွတ္တီများဖြစ်သည်ဟု သိနိုင်သည်။ ဤအတွက်ကြောင့် ကျွန်ုပ်တို့သည် မိမိတို့ကိုယ်ကို အီမာန်ရှိသူ မုအ်မင်န်များဖြစ်သည်ဟု ပြောဆိုရှိရသည်။ **မိမိတို့ကိုယ်ကို ဂျူနွတ္တီများဟု** ပြောဆိုရှိမရနိုင်ပါ။'

**ထိုအခါ အီဗ်နေ့မတ်စအူဒ်**※သခင်က 'အသင်မှန်သည်။ အလ္လာဟ်ကစမ်၊ ဒီကိစ္စမှာ ကျွန်ုပ် မှားသွားသည်' ဟု **ပြောဆိုဝန်ခံခဲ့သည်။**

'ဤနေရာတွင် ဖော်ပြရမည့်အချက်မှာ ဆွဟာဗဟ်သခင်များ※သည် မုနာဇရာနှင့် ကလာမ်ပညာတွင် လိုက်**စားမှု နည်းပါး**ခဲ့ကြသည်။ ဤပညာရပ်တွင် များများစားစား ငုတ်လျှိုးခြင်းမပြုခဲ့ကြပါ။ ဤအတွက် လိုအပ်ချက်ရှိခဲ့**လျှင် ရှည်**လျားအောင်မပြုဘဲ၊ အကျဉ်းရုံးလေ့ရှိကြသည်။ ဤပညာရပ်အပေါ် ကျမ်းစာပြုစုခြင်း၊ သခ်န်းစာပို့ချခြင်း**နည်း**လမ်းကို အသုံးပြုခြင်း မပြုခဲ့ကြပါ။ ဘာသာရပ်တစ်ခုအဖြစ်ပင် သတ်မှတ်ခြင်း မပြုခဲ့ကြပါ။ သို့ဖြစ်ရာ ကျွန်ုပ်**တို့က** 'ဆွဟာဗဟ်များ※ ဤကိစ္စတွင် ငုတ်လျှိုးမှု နည်းခဲ့ကြခြင်း၏အကြောင်းရင်းသည် ထိုခေတ်က လိုအပ်ချက်**နည်း**ခဲ့သောကြောင့်ဖြစ်သည်'ဟု ပြောဆိုနိုင်ပေသည်။ ထိုခေတ်က ဗိဒအတ်ဟူ၍ မရှိသလောက်ပင်ဖြစ်သည်။'

'ဆွဟာဗဟ်များ※ ဤကိစ္စတွင် အကျဉ်းရုံးခဲ့ကြသည် ဆိုရာမှာလည်း ဤပညာ၏ဦးတည်ချက်သည် တစ်ဘက်လူကို ပြန်မချေနိုင်အောင် နှုတ်ပိတ်ရန်၊ အမှားဝန်ခံစေရန်၊ အမှန်တရား ပေါ်ထွက်ရန်နှင့် ဒွိဟကို ချေဖျက်ရန်ဖြစ်သည်။ သို့နှင့်တိုင် တစ်ဘက်လူက ရှည်ရှည်လျားလျား စောဒကတက်မည်၊ အနိုင်လုပြောလာမည်ဆိုလျှင်ကားငင်းအပေါ် မဖြစ်မနေ ရှည်ရှည်လျားလျားတုန့်ပြန်ရမည်သာဖြစ်သည်။ ဆွဟာဗဟ်သခင်များ※သည် အကြောင်းချင်းရာကို အစပြုရုံသာပြုခဲ့ကြပြီး ၎င်းအတွက် အတိုင်းအတာပမာဏကိုမူ သတ်မှတ်ဖော်ပြထားခဲ့ကြခြင်းမရှိပေ။'

'ဆွဟာဗဟ်များ※ ဤကိစ္စတွင် သခ်န်းစာပို့ချခြင်း၊ ကျမ်းစာပြုစုခြင်းများ မပြုခဲ့ကြဆိုရာမှာ၊ ၎င်းတို့၏ကျင့်ထုံးသည် ဖိကဟ်ပညာ၊ တဖ်စီရ်ပညာနှင့် ဟဒီဆ်ပညာတွင်လည်း ဤအတိုင်းသာရှိခဲ့ကြသည်။ သို့ဖြစ်ရာ အကယ်၍ လိုအပ်ချက် ရှိလာသည့်အခါ အသုံးပြုရန်နှင့် ပညာသင်ယူသူများအတွက် ဉာဏ်ရည်ဉာဏ်သွေး ထက်မြက်လာရန် ရည်ရွယ်ခြင်းဖြစ်သည့်အတွက် ဖိကဟ်ကို ရေးသားပြုစုခြင်း ပြုပိုင်သည်ဟုဆိုလျှင်၊ ကျွန်ုပ်တို့ကလည်း ဒွိဟသံသယများကို ချေဖျက်ရာတွင်၎င်း၊ ဗိဒအတ်သမားတို့၏ဆူပူလှုံ့ဆော်မှုများကို ထိန်းချုပ်ရာတွင်၎င်း အသုံးဝင်ပြီး ပညာသင်ယူသူများ၏ဉာဏ်ရည်ဉာဏ်သွေးကို ထက်မြက်စေသည့်အတွက် စကားစစ်ထိုးမှုနည်းလမ်းများအား လေ့လာခြင်းသည် ပြုပိုင်သောကိစ္စဖြစ်သည်ဟု မှတ်ယူမည်ဖြစ်သည်။ ထိုသို့လေ့လာထားမှသာ လိုအပ်ချက်ရှိလာသောအခါ ဤနည်းလမ်းများကို ရုပ်ချည်း လက်တန်းပစ်အသုံးပြုနိုင်မည်ဖြစ်သည်။ တိုက်ပွဲအတွက် လက်နက်ကို တိုက်ပွဲမဝင်ခင် ကြိုတင်ပြင်ဆင်ထားခြင်းမျိုးဖြစ်သည်။'

ဤအထိမှာ မုနာဇရာနှင့်ကလာမ်ပညာအပေါ် ဘက်နှစ်ဘက်၏ဖော်ပြချက်များဖြစ်သည်။

အကယ်၍ စာရှုသူက 'အသင်၏ဦးစားပေးရွေးချယ်မှုသည် အဘယ်အရာဖြစ်သနည်း'ဟု ကျွန်ုပ်အား မေးလာခဲ့သော် ကျွန်ုပ်က အမှန်တရားကို ရှင်းပြလိုသည်မှာ– 'အခြေအနေအားလုံးတွင် ကလာမ်ပညာကို ဆိုးယုတ်သောပညာအဖြစ် ယတိပြတ်ပြောဆိုခြင်း၊ သို့မဟုတ် အခြေအနေအားလုံးတွင် ကလာမ်ပညာကို ကောင်းမြတ်သောပညာ**အဖြစ်** ယတိပြတ်ပြောဆိုခြင်းများသည် မှားပါသည်။ ဤအချက်ကို အနည်းငယ်ရှင်းပြရန်လိုသည်။ ပထမဦးစွာမှတ်**သား**ရမည်မှာ အရာဝတ္ထုတစ်ခု ဟရာမ်ဖြစ်သည်ဆိုရာ၌ နည်းလမ်းနှစ်မျိုးဖြင့်ဖြစ်သည်။ တစ်မျိုးမှာ အရာဝတ္ထုတစ်**ခု၏**ပင်ကိုယ်၌က ဟရာမ်ဖြစ်ခြင်းဖြစ်သည်။ ဥပမာပြရလျှင် အရက်နှင့်အသေသားဖြစ်သည်။ ဤနေရာတွင် ကျွန်ုပ်တို့က 'ပင်ကိုယ်၌က'ဟု သုံးနှုန်းခြင်းသည် ထိုအရာဝတ္ထုတစ်ခု၏ပင်ကိုယ်အားဖြင့် ရှိနေသောဂုဏ်သတ္တိ၏ဟရာမ်ဖြစ်ခြင်းကို ဆိုလိုသည်။ အလိုသဘောမှာ အရက်တွင် မူးယစ်စေခြင်း၏ဂုဏ်သတ္တိပါရှိနေပြီး ထိုဂုဏ်သတ္တိကပင်

ဟရာမ်ဖြစ်သည်။ ထို့နောက် အသေသားတွင် သေဆုံးပြီးဖြစ်ခြင်းဆိုသောဂုဏ်သတ္တိရှိနေပြီး ထိုဂုဏ်သတ္တိကြောင့် အသေသားက ဟရာမ်ဖြစ်ခြင်းဖြစ်သည်။ သို့ဖြစ်ရာ ဤကဲ့သို့သောအလားတူ အရာဝတ္ထုများနှင့်ပတ်သက်၍လည်း ကျွန်ုပ်တို့အား မေးမြန်းလာမည်ဆိုပါက ကျွန်ုပ်တို့က ဟရာမ်ဖြစ်သည်ဟု ယတိပြတ်ဖြေဆိုမည်ဖြစ်သည်။ ဤသို့ ဖြေဆိုရာတွင် မလွဲသာမရှောင်သာသည့်အခါ အသေသားကို စားသုံးခွင့်ရှိခြင်း၊ အပြင်းအထန်ရေငတ်နေပြီး အရက် အပြင် အခြားဘာမှ အာစွတ်ရန် မရှိသည့်အခါမျိုးမှာ လည်ချောင်းအတွင်း အရက်တစ်ငုံ မျှောချခွင့်ရှိခြင်းဆိုသည် များကို ထည့်သွင်းစဉ်းစားလိမ့်မည်မဟုတ်ပေ။

ဟရာမ်ဖြစ်ခြင်း၏ဒုတိယအမျိုးအစားသည် အပကိစ္စကြောင့်ဖြစ်ရသည်။ ဥပမာအားဖြင့် မွတ်စလင်မ်တစ်ဦး အား ရောင်းချပြီး ပစ္စည်းကို ထပ်မံရောင်းချခြင်း၊ ပွဲမွှာအာနေ့ အာဇာန်ချိန်တွင် အရောင်းအဝယ်လုပ်ခြင်း၊ မြေကြီးကို စားခြင်းဖြစ်သည်။ မြေကြီးကို စားခြင်းကို ဟရာမ်သတ်မှတ်ခြင်းသည် အန္တရာယ်ရှိသည့်အတွက်ဖြစ်သည်။ ဤနေရာ ၌ အန္တရာယ်ရှိ၍ တားမြစ်ရသည့် ဟရာမ်ဖြစ်ခြင်းသည် နှစ်မျိုးရှိသည်။ တစ်မျိုးမှာ အန္တရာယ်ဖြစ်မှုသည် နည်းသည် ဖြစ်စေ များသည်ဖြစ်စေ ဟရာမ်ဟု ယတိပြတ်ပြောဆိုရမည့်အရာဖြစ်သည်။ ဥဒါဟရဏ်အားဖြင့် အဆိပ်ဖြစ်သည်။ အဆိပ်သည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ လူကို အသက်အန္တရာယ်ပြုမည်သာဖြစ်သည်။ နောက်တစ်မျိုးမှာ သုံးစွဲမှုပမာဏ လွန်ကျူးများပြားသည့်အခါမှသာ အန္တရာယ်ဖြစ်နိုင်သည့်အရာဖြစ်သည်။ ထိုအရာမျိုးကို ခွင့်ပြုချက်ရှိ သောအရာအဖြစ် ယတိပြတ်ပြောဆိုဆုံးဖြတ်ရမည်။ ဤအတွက် ဥဒါဟရဏ်သည် ပျားရည်ဖြစ်သည်။ ပျားရည်ကို အများအပြားစားသုံးမိလျှင် အပူဓါတ်များနေသူအတွက် အန္တရာယ်ဖြစ်စေပေသည်။ ထို့ပြင် မြေကြီးကို စားခြင်းဖြင့် အန္တရာယ်ဖြစ်သကဲ့သို့ဖြစ်သည်။ အချုပ်မှာ မြေကြီးနှင့် အရက်ကို ဟရာမ်သတ်မှတ်ခြင်းနှင့် ပျားရည်ကို ဟလာလ် သတ်မှတ်ခြင်းများသည် လွှမ်းမိုးအားကောင်းမှုကို ထောက်ရှု၍ဖြစ်သည်။ သို့ဖြစ်ရာ အကယ်၍ အရာဝတ္ထုတစ်ခုတွင် ကောင်းကျိုးရှိမှု ဆိုးကျိုးရှိမှုနှစ်ရပ်သည် တစ်ခုနှင့်တစ်ခု ဆန့်ကျင်အားပြိုင်နေမည်ဆိုလျှင်၊ အကောင်းဆုံးနှင့် စိတ် ဇဝေဇဝါဖြစ်မှုမှ အကင်းရှင်းဆုံးဖြစ်စေမည့် နည်းလမ်းသည် ထိုနှစ်ခုအနက် တစ်ခုချင်း၏အခြေအနေကို အသေး စိတ်စိစစ်ရန်ဖြစ်သည်။

ယခု ကျွန်ုပ်တို့ ကလာမ်ပညာဘက်သို့ ပြန်သွားမည်။ ဤပညာတွင် ကောင်းကျိုးပြုမှုကိုလည်း တွေ့ရသည်။ ထို့ပြင် ဆိုးကျိုးဖြစ်မှုကိုလည်း တွေ့ရသည်။ သို့ဖြစ်ရာ ထိုပညာက ကောင်းကျိုးဖြစ်ထွန်းမှု ရှိနေသည့်အချိန်တွင် ထို ပညာကို အသုံးပြုခြင်း ဟလာလ်ဖြစ်သည်။ အခြေအနေလိုအပ်ချက်အပေါ် မူတည်၍ မွတ်စ်တဟဗ်ဖြစ်ချင်ဖြစ်မည်၊ သို့မဟုတ် ဝါဂျိဗ်ဖြစ်ချင်ဖြစ်မည်။ တဖန် ကလာမ်ပညာသည် တစ်ဘက်၌ ဆိုးကျိုးအန္တရာယ်ရှိနေသေးသည့်အပေါ် မှာ ဆိုးကျိုးသက်ရောက်စေမည့် အချိန်နှင့်နေရာတွင် ဤပညာကို အသုံးပြုခြင်းသည် ဟရာမ်ဖြစ်သည်။ ကလာမ် ပညာ၏ဆိုးကျိုးအန္တရာယ်များမှာ ဒွိဟသံသယများကို ပွါးများစေသည်။ အကီဒဟ်ခံယူချက်ကို ယိမ်းယိုင်လှုပ်ရှား စေသည်။ သန္နိဋ္ဌာန်နှင့် ခိုင်ကျည်မှုကို ပျက်ပြားစေသည်။ ဤသည်တို့မှာ အစပိုင်းအတွက် ရလဒ်များသာဖြစ်သည်။ ထိုအဆင့်သို့ ရောက်ပြီးနောက် အထောက်အထားသာဓကများကို လေ့လာခြင်းဖြင့် မူလအနေအထားသို့ ပြန်လည် ရောက်ရှိရန်ဆိုသည်မှာ မသေချာသောကိစ္စဖြစ်သည်။ ဖြစ်နိုင်ချေသည် လူပုဂ္ဂိုလ်ကို လိုက်၍ ကွဲပြားခြားနား သည်။ အချို့ပုဂ္ဂိုလ်များသည် အထောက်အထားသာဓကများကို တွေ့ရှိရပြီးနောက် မှန်ကန်သွားကြသည်။ အချို့မှာ မှန်ကန်လာခြင်း မရှိကြပေ။ သို့ဖြစ်ရာ ကလာမ်ပညာ၏ဆိုးကျိုးအန္တရာယ်သက်ရောက်မှုသည် လူပုဂ္ဂိုလ်တစ်ဦး၏ အမှန်တရားအပေါ် စွဲမြဲယုံကြည်မှုနှင့် သက်ဆိုင်လျက်ရှိသည်။

ဒုတိယဆိုးကျိုးအန္တရာယ်တစ်ခုမှာ မုနာဇရာပြုလုပ်သူနှင့် သက်ဆိုင်နေသည်။ ၎င်းက မုနာဇရာကို တစ်ယူ သန်သဘောထားဖြင့် ပြုလုပ်သည်။ ထိုသို့ပြုလုပ်သဖြင့် တဘက်အုပ်စုသည် အမှန်တရားကို သိမြင်ပါလျက် မိမိ၏ မှားယွင်းသောအယူအဆများကို အစွဲသန်သန်ဖြင့် ခိုင်မြဲစွာဖက်တွယ်နေတော့သည်။ သို့ဖြစ်သောကြောင့် လူသာမန်

ဗိဒအတ်သမားအား ၎င်း၏မှားယွင်းသောအကီဒဟ်ကို အချိန်တိုအတွင်း လွယ်လွယ်ကူကူဖြင့် ချေဖျက်ရန် ဖြစ်နိုင်ခြင်းဖြစ်သည်။ သို့သော် ဗိဒအတ်သမားတစ်ဦးသည် မုနာဇရာအငြင်းအခုံကိစ္စကို တစ်ယူသန်တစ်ဖွတ်ထိုးပြုမှုလေ့ရှိသောမြို့ရွာတစ်ခုတွင် မွေးဖွါးကြီးပြင်းမည်ဆိုပါက ထိုသို့လွယ်လွယ်နှင့်မဖြစ်နိုင်ကြောင်း အသင်မြင်တွေ့ရလိမ့်မည်။ အကယ်၍ ရေးလူနှောင်းလူ အားလုံးတို့က သူ့ထံသို့ စုဝေးလာရောက်ကြမည်ဆိုသော်လည်း သူ၏နှလုံးသားထဲမှ ဗိဒအတ်အစွဲကို ချွတ်ရန် တတ်စွမ်းနိုင်ကြမည်မဟုတ်ပေ။ သို့နှင့်အမျှ စိတ်အလိုဆန္ဒ၊ တစ်ယူသန်မှု၊ တစ်ဘက်က မုနာဇရာသမားများနှင့် ဆန့်ကျင်ဘက်အုပ်စုများကို မုန်းတီးစိတ်က သူ၏နှလုံးသားတွင် ကြီးစိုးလျက်ရှိပြီး အမှန်တရားကို မတွေ့မြင်နိုင်အောင် တားဆီးလျက်ရှိပေသည်။ နောက်ဆုံး ၎င်းအား–

'အလ္လာဟ်အရှင်က အသင့်အပေါ်တွင် ဖုံးကွယ်နေသည်ကို ဖွင့်လှစ်ပေးပြီး အမှန်တရားသည် အသင်ငြင်းခုံနေသော တစ်ဘက်လူနှင့်အတူရှိကြောင်း အသိပေးမည်ဆိုက၊ အသင် လိုလိုလားလားရှိပါမည်လား'ဟု ပြောဆိုမေးမြန်းခဲ့မည်ဆိုလျှင်၊ အသင်လုံးဝနှစ်မြို့နိုင်မည်မဟုတ်ပေ။ ဤသို့ရှိရခြင်းသည် တစ်ဘက်လူ ဝမ်းမြောက်ဝမ်းသာဖြစ်မည်ကို စိုးရိမ်ကြောက်ရွံ့လှသောကြောင့်ဖြစ်သည်။ ဤသည်မှာ ကုရာနတ္ထိဆေးမရှိသောရောဂါပင်ဖြစ်ပေသည်။ ဤရောဂါဆိုးသည် မြို့ရွာလူထုအကြားတွင် ပြန့်နှံ့လျက်ရှိသည်။ ထို့ပြင် ဤအရာသည် မုနာဇရာသမားများက တစ်ယူသန်မှုဖြင့် ဖော်ထုတ်ခဲ့သော ပျက်စီးမှုအမျိုးအစားတစ်ခုဖြစ်သည်။ သို့ဖြစ်ရာ ယင်းသည် ကလာမ်ပညာကြောင့် ဖြစ်ရသည့် ဘေးအန္တရာယ်ပင်ဖြစ်သည်။

ဤပညာက အကျိုးပြုသည်ဆိုရာမှာ ဤပညာ၏အကျိုးရလဒ်သည် အစစ်အမှန်သဘောများကို ပေါ်လွင်သိရှိရပြီး ထိုအရာများ၏ဖြစ်ရှိနေပုံကို အရင်းခံအတိုင်း သိရခြင်းဖြစ်သည်ဟု အထင်ရောက်စရာဖြစ်သည်။ သို့နှင့်တိုင် လက်တွေ့တွင် ကလာမ်ပညာက ဤရည်ရွယ်ချက်ပန်းတိုင်သို့ ပေါက်ရောက်အောင် မဆောင်ကျဉ်းနိုင်ပါ။ သို့သာမက ဤပညာကြောင့် ဖြစ်ရသော ကယောင်ကတမ်းဖြစ်ခြင်းနှင့် လမ်းမှားတိမ်းချော်ခြင်းသည် ဤပညာက ပေးသော အသိအလင်းရရှိမှုနှင့် သိရမှုများထက် ပိုများပါသည်။

ဤပြောဆိုမှုမျိုးကို ဟဒီစ်ပညာရှင်တစ်ဦးထံမှဖြစ်စေ၊ သို့မဟုတ် သာမန် မနူးမနပ် ပညာရှင်တစ်ဦးထံမှဖြစ်စေ အသင်ကြားရမည်ဆိုပါက အသင်၏စိတ်တွင် 'ဤလူတွေသည် မိမိတို့မသိနားမလည်သောအရာကို မကောင်းပြောရန်လုပ်တတ်ကြသည်'ဟု အောက်မေ့မိလိမ့်မည်။ သို့နှင့်တိုင် ကလာမ်ပညာကို ကောင်းစွာစမ်းစစ်ပြီးသူ၏စကားကိုမူ နားထောင်စေချင်သည်။ ၎င်းသည် ဤပညာနှင့်ပတ်သက်၍ ချေးခါးအူမ မကျန် သိထားသူဖြစ်သည်။ ထို့ပြင် ဤပညာနှင့်ဆက်စပ်သည့် အခြားပညာရပ်များကိုလည်း ထဲထဲဝင်ဝင် အကျွမ်းဝင်သူဖြစ်သည်။ သို့နှင့် နောက်ပိုင်းတွင် အစစ်အမှန်အသိတရားများဆီသို့ သွားရာလမ်းသည် ဤပညာကြောင့် ပိတ်ဆို့နေကြောင်း သိရှိလာသူဖြစ်သည်။*

ကလာမ်ပညာသည် အချို့သောကိစ္စရပ်များအပေါ် အသိအလင်းရခြင်း၊ ရှင်းလင်းသိရှိရခြင်းများ မုချရှိကြောင်း

* ဤနေရာတွင် အိမာမ်ဂဇာလီသခင်ﷺက မိမိကိုယ်ကို ရည်ညွှန်းရေးသားနေကြောင်း သိသာပါသည်။ အထက်တစ်နေရာတွင်လည်း ဤအကြောင်းကို အောက်ခြေမှတ်စု ရေးခဲ့ပြီးဖြစ်သည်။ ယခု စာဖတ်သူအား တစ်ခုသတိပေးလိုသည်မှာ အိမာမ်ဂဇာလီﷺသခင်၏အရေးအသားများကို ဖတ်ပြီး 'ဤပုဂ္ဂိုလ်သည် သူ့စာများတွင် မိမိတတ်မြောက်ထားသည့်ပညာအပေါ် မာနမထားရန်၊ ပညာရှင်များ ကျိုးငြံနိမ့်ချကြရန် ရေးတုန်းက ရေးပြီး၊ ယခုမူ မိမိတော်ကြောင်း မိမိတတ်ကြောင်းများ ထုတ်ဖော်ရေးသားနေသည်ဟု မထင်မှတ်ရန်ဖြစ်သည်။ ပညာရပ်သင်ကြားပို့ချရာတွင် ဆရာသည် တပည့်က မိမိအပေါ် ယုံကြည်မှုရှိစေရန် သင်ပြမည့်ပညာရပ်ကို မိမိ မည်မျှကျွမ်းကျင်တတ်မြောက်ကြောင်း လိုအပ်သည့်ခန့် ပြောဆိုခွင့်ရှိသည်။ ဤသို့ထုတ်ဖော်ပြောဆိုခြင်းကို မာနထားခြင်း ဝင့်ကြွားခြင်းဟု မသတ်မှတ်ပါ။ ယခုလည်း အိမာမ်ဂဇာလီﷺသခင်က ကလာမ်ပညာနှင့်သက်ဆိုင်ရာ မိမိ၏ရေးသားဖော်ပြမှုကို စာဖတ်သူ စိတ်ချလက်ချရှိစေရန်အတွက် မိမိ၏ကျွမ်းကျင်တတ်မြောက်မှုကို ဖော်ပြနေခြင်းဖြစ်သည်ဟု မှတ်ယူစေလိုသည်။ – ဘာသာပြန်သူ။

ကျွန်ုပ်ကျိမ်တွယ်၍ ပြောဝံ့ပါသည်။ သို့နှင့်တိုင် ထိုကိစ္စရပ်များသည် ရှားရှားပါးပါးကြုံတောင့်ကြုံခဲသာဖြစ်ပါသည်။ ထို့ပြင် ပေါ်လွင်ထင်ရှားသော ကိစ္စရပ်များမှာသာဖြစ်သည်။ ကလာမ်အတတ်ကို နက်နက်ရှိုင်းရှိုင်း မလိုက်စားဘဲနှင့်လည်း ဤကိစ္စများသည် နားလည်နိုင်သောအရာများဖြစ်သည်။ ကလာမ်ပညာကြောင့် အမှန်တကယ် အကျိုးရှိသည့် နေရာ တစ်နေရာသာရှိသည်။ ယင်းမှာ ကျွန်ုပ်တို့အထက်တွင် ဖော်ပြခဲ့သည့် အကီဒဟ်များအား လူသာမန်များထံမှ စောင့်ရှောက်ပေးပြီး ဗိဒအတ်သမား၏သို့လောသို့လောဖြစ်အောင် ထိုးနှက်မှုကို ခုခံတိုက်ခိုက်ခြင်းဖြင့် ထိုအကီဒဟ်များကို ထိမ်းသိမ်းပေးခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူသာမန်တို့သည် အသိပညာပိုင်းတွင် အားနည်းကြသည်။ ဗိဒအတ်သမားတို့၏ထိုးနှက်မှုက ၎င်းတို့ကို အယောင်အယောင်အမှားမှားဖြစ်အောင် လုပ်နိုင်သည်။ သို့ဖြစ်ရာ ကလာမ်ပညာကို အသုံးပြုမည်ဆိုလျှင် အဖျက်သဘောနည်းလမ်းဖြင့် ဖြစ်စေကာမူ သုံးပိုင်သည်။ ယင်းသည် အဖျက်သဘောနည်းလမ်းကို အသုံးပြုပြီး ထိုးနှက်လာသည့်အပေါ်မှာ အဖျက်သဘောနည်းလမ်းဖြင့် တုန့်ပြန်ခုခံလိုက်ခြင်းဖြစ်သည်။

ကျွန်ုပ်တို့ အထက်၍ဖော်ပြခဲ့သည့် အကီဒဟ်များကို လူသားတို့အတွက် အိဗါဒတ်နာခံကျင့်ဆောင်မှုအဖြစ် ထည့်သွင်းသတ်မှတ်ထားသည်။ ရှရီအတ်တရားတော်က ပြဆိုထားသော ဤအကီဒဟ်များသည် သာသနာရေးနှင့် ဒွန္နယာရေး နှစ်ခုစလုံး၏ကောင်းကျိုးအတွက်ဖြစ်သည်။ ရှေးသူဟောင်းသူတော်ကောင်းများသည် ဤအကီဒဟ်အပေါ်တွင် တညီတညွတ်တည်းရှိခဲ့ကြသည်။ ထို့နောက် ဓမ္မပညာရှင်များအတွက် ဗိဒအတ်သမားများ၏ထင်ယောင်ထင်မှားဖြစ်စေမှုများမှ လူထုကို ထိန်းသိမ်းပေးခြင်းသည် ၎င်းတို့၏အိဗာဒတ်ရေးဖြစ်သည်။ အာဏာပိုင်များအတွက် လူထု၏ဥစ္စာပစ္စည်းကို မတရားလုယက်သူများ၏ဘေးမှ ထိန်းသိမ်းစောင့်ရှောက်ပေးခြင်းသည် အိဗာဒတ်ရေးတွင် အကျုံးဝင်သကဲ့သို့ပင်တည်း။

ကလာမ်ပညာတွင် ဆိုးကျိုးနှင့်ကောင်းကျိုး နှစ်ရပ်လုံး ဒွန်တွဲလျက်ရှိနေသည်ကို သိထားလျှင်၊ ထိုပညာကို လိုက်စားလိုသူသည် ဝါရင့်သမားတော်၏ထုံးကို နှလုံးမူသင့်ပေသည်။ သမားတော်သည် အန္တရာယ်ဆေးဝါးကို နေရာဌာနအလိုက် လိုအပ်သည့်အချိန်တွင် လိုအပ်သည့်ပမာဏလောက်သာ အသုံးပြုလေ့ရှိသည်။ ဤနည်းအလားတူ ကလာမ်ပညာကိုလည်း လိုအပ်သည့်အချိန်တွင် လိုအပ်သလောက်သာ အသုံးပြုရမည်။ ဤအချက်ကို အနည်းငယ်ရှင်းပြရလျှင် လူသာမန်တို့သည် မိမိတို့၏လုပ်ငန်းကိုင်ငန်းများတွင် ၊ စိမွန်းနေကြသည်။ ၎င်းတို့ ခံယူစွဲမြဲထားသော အကီဒဟ်သည် ကျွန်ုပ်တို့ဖော်ပြခဲ့သည့် အကီဒဟ်အမှန်အတိုင်း ရှိနေပြီဆိုလျှင် ၎င်းတို့ကို ဤအတိုင်း လွှတ်ထားရမည်။ အကယ်၍ ၎င်းတို့အား ကလာမ်ပညာကို သင်ပေးခဲ့မည်ဆိုလျှင် ဤသည်မှာ ၎င်းတို့အတွက် အန္တရာယ်သက်သက်သာဖြစ်လိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ကလာမ်ပညာက ၎င်းတို့တွင် ဒွိဟာယနများကို ဖြစ်စေပြီး အကီဒဟ်ခံယူချက်ကိုပင် ယိုင်လဲအောင်ပြုလုပ်မည်ဖြစ်သောကြောင့်ပင်။ ဤအဆင့်သို့ ရောက်သွားပြီဆိုလျှင် အကီဒဟ်သည် ပဲ့ပြင်ဆုံးမမှုဖြင့် ပြန်လည်တည့်မတ်ရန် မဖြစ်နိုင်တော့ပေ။

ဗိဒအတ်တရားသစ်ကို လက်ခံလိုက်မိသည့် သာမန်လူတစ်ဦးကို အမှန်တရားဘက်သို့ နူးညံ့ငြင်သာစွာ ခေါ်ယူရမည်။ တစ်ယူသန် တစ်ဖွတ်ထိုးနည်းလမ်းဖြင့် ပြုရန်မသင့်ပါ။ စေတသိတ်ကို ရောင့်ရဲကျေနပ်စေပြီး နှလုံးသားကို အာနိသင်စူးရှမှုဖြစ်စေမည့် သိမ်မွေ့သော အပြောအဆိုဖြင့် ဖိတ်ခေါ်ရမည်။ ပြောဆိုတင်ပြပုံသည် ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီစ်တော်များမှ အထောက်အထားသာဓကများနှင့် နီးနီးစပ်စပ်ရှိရမည်။ ထို့ပြင် သွန်သင်ဆုံးမမှုနှင့်သတိပေးခြိမ်းခြောက်မှုများလည်း ပေါင်းစပ်ပါဝင်စေရမည်။ ဤနည်းသည် ကလာမ်ပညာရှင်များ ချမှတ်သည့်စည်းကမ်းအရဖြစ်သော စကားစစ်ထိုးမှုနည်းလမ်းထက် ပို၍ အကျိုးရှိသည်။

လူသာမန်တစ်ဦးသည် ကလာမ်ပညာရှင်၏အဆိုပါစကားမျိုးကို ကြားရသည့်အခါ 'ဤအပြောအဆိုမျိုးသည်

မုနာဇရာအတတ်မှ ပေါ်ထွက်လာခြင်းဖြစ်သည်။ ဤအတတ်ကို ကလာမ်ပညာရှင်က လူအများအား မိမိ၏အကီဒဟ်ဘက်သို့ တစ်ဆင့်ပြီးတစ်ဆင့် ဆွဲဆောင်ရန် သင်ယူထားခြင်းဖြစ်သည်။ အကယ်၍ ဤအပြောအဆိုများအပေါ် မိမိက အဖြေမပေးနိုင်သော်လည်း မိမိဘက်က အယူအဆတူသူ မုနာဇရာသမားတစ်ဦးကလည်း ထိုသူ့ကို ခုခံချေပနိုင်မည်သာဖြစ်သည်'ဟု စိတ်တွင် စွဲမှတ်သွားလိမ့်မည်။ သို့ရှိရာ ဤလူမျိုးနှင့်ရော ပထမလူမျိုးနှင့်ပါ မုနာဇရာပြုခြင်းဟရာမ်ဖြစ်သည်။ သို့ဖြစ်ရာ ဒွိဟသံသယတွင် ကျရောက်နေသူတစ်ဦးအား သူ၏ဒွိဟသံသယကို ကင်းရှင်းအောင်ပြုလုပ်ရန်အတွက် နည်းသိမ်မွေ့မှုရှိရမည်။ သွန်သင်ဆုံးမမှုဖြင့် ဖြစ်ရမည်။ အလုမ်းကွာပြီး နားလည်ရန်ခက်ခဲသောစကားရပ်များ မပါဝင်စေဘဲ၊ နားလည်ရန် လွယ်ကူနီးစပ်သည့်၊ လက်ခံထားပြီးဖြစ်သော အထောက်အထားသာဓကများဖြစ်ရမည်ဖြစ်သည်။

မုနာဇရာအတတ်ကို အဆုံးစွန်ထိ လိုက်ခြင်းသည် တစ်နေရာတည်းတွင်သာ အကျိုးရှိသည်။ ယင်းမှာ ပုံစံအားဖြင့် လူသာမန်တစ်ဦးသည် သူကြားခဲ့ရသည့် စကားစစ်ထိုးမှုနည်းအရ ဗိဒအတ်တရားသစ်ကို အစွဲဝင်သွားရာ၊ ထိုစကားစစ်ထိုးနည်းဖြင့်ပင် အလားတူ ရင်ဆိုင်ဖြေရှင်းခြင်းဖြစ်သည်။ သို့မှသာ ထိုသူသည် မှန်ကန်သောအကီဒဟ်ဘက်သို့ ပြန်လှည့်လာမည်ဖြစ်သည်။ ဤနည်းသည် မုနာဇရာအတတ်တွင် အထုံအလေ့ဖြစ်နေပြီး သွန်သင်ဆုံးမမှုများ၊ အများနှင့်သက်ဆိုင်ရာ သတိပေးခြိမ်းခြောက်မှုများဖြင့် ရောင့်ရဲနှစ်သိမ့်ခြင်း မရှိသူအတွက်ဖြစ်သည်။ ထိုသူမျိုးအဖို့ အခြေအနေသည် ဆုံးခန်းတိုင်နေပြီး မုနာဇရာ၏ဆေးမှလွဲ၍ အခြားကုထုံးကုနည်းမရှိတော့ပေ။ သို့ဖြစ်ရာ ထိုသူမျိုးအပေါ် မုနာဇရာပြုခြင်းသည် ခွင့်ပြုချက်ရှိသောကိစ္စဖြစ်သည်။

မြို့တစ်မြို့တွင် ဗိဒအတ်တရားသစ် နည်းပြီး၊ ထိုမြို့တွင် အယူအဆလမ်းစဉ်များ ကွဲလွဲမှုမရှိခဲ့လျှင် ကျွန်ုပ်တို့အထက်မှရှင်းပြခဲ့သည့်အကီဒဟ်များဖြင့် လုံလောက်တင်းတိမ်နိုင်သည်။ ထိုအခြေအနေမျိုးတွင် အထောက်အထားသာဓကများနောက်သို့ လိုက်ရန်မသင့်ပါ။ ဒွိဟသံသယဖြစ်လာမည့်အရေးကိုသာ ဂရုစိုက်စောင့်ကြပ်သင့်ပါသည်။ အကယ်၍ ဒွိဟသံသယများ ပေါ်ပေါက်လာပါက အထောက်အထားသာဓကများကို လိုအပ်သလောက် ဖော်ထုတ်ရမည်။ တဖန် ထိုတရားသစ်သည် ပြန့်နှံ့လာပြီး ကလေးငယ်များပါ နားယောင်ကုန်လိမ့်မည်ဟု စိုးရိမ်ရလျှင်မူ၊ ကျွန်ုပ်တို့က 'ရိစာလာကွဒ်စီယာကျမ်း'တွင် ရှင်းလင်းဖော်ပြထားသည့်ပမာဏခန့် ကလေးငယ်များအား သင်ပြပေးခြင်းဖြင့် အကျိုးမယုတ်နိုင်ပါ။ ဤမျှခန့်ဖြင့်လည်း ဗိဒအတ်သမား၏ထိုးနှက်မှုကို ကာကွယ်နိုင်ပါသည်။ ထိုကျမ်းတွင် ဖော်ပြထားသောအထောက်အထားများသည် အကျဉ်းချုပ်မျှသာဖြစ်သည်။ အကြောင်းမှာ ထိုကျမ်းကိုယ်တိုင်က အနှစ်ချုပ်ကျမ်းငယ်ဖြစ်သောကြောင့်ဖြစ်သည်။

သို့နှင့်အမျှ အကီဒဟ်ကို အစဦးလေ့လာသော သောသုဇနသည် ဉာဏ်ထက်ပြီး သူ၏အသိဉာဏ်က မေးခွန်းပုစ္ဆာ၏နေရာဌာနကို သိနိုင်သည့်အကင်းပါးမှုရှိမည်ဆိုလျှင်၊ သို့မဟုတ် သူ့စိတ်တွင် ဒွိဟပွါးမှု ဖြစ်နေမည်ဆိုလျှင်၊ ထိုအချိန်မျိုးတွင် စိုးရိမ်စရာ ရှိလာပြီဖြစ်၍ ခွင့်ပြုချက် ရှိလာပေသည်။ ထိုအချိန်မျိုးတွင် ကျွန်ုပ်တို့ 'အလ်အီကွ်တိဆွာဒ် ဖီလ်အဲအ်တိကာဒ်ကျမ်း'တွင် ဖော်ပြထားသည့် ပမာဏခန့် တိုးချဲ့လေ့လာခြင်းဖြင့် အကျိုးမယုတ်နိုင်ပါ။ ထိုကျမ်းသည် စာရွက်ရေ ငါးဆယ်ခန့်သာဖြစ်သည်။ ထိုကျမ်းတွင် အကီဒဟ်ဆိုင်ရာ ဥပဒေသများကိုသာ ဖော်ပြထားပြီး ကလာမ်ပညာရှင်များ၏ဆွေးနွေးသုံးသပ်ချက်များကို ထည့်သွင်းစဉ်းစားခြင်းမပြုပါ။ ထိုဖော်ပြချက်မျှဖြင့် ထိုသူရောင့်ရဲနှစ်သိမ့်မည်ဆိုလျှင် ထိုပမာဏသည် သူ့အဖို့ လုံလောက်မှုရှိပြီဖြစ်သည်။ အကယ်၍ ရောင့်ရဲနှစ်သိမ့်မှုမရှိဆိုလျှင်တော့ သူ၏ရောဂါသည် ရင့်နေ၊ ကျွမ်းနေ၊ ပြန့်နှံ့နေပြီဖြစ်သည်။

သို့ရှိရာ ဆေးဆရာက သူ့ကို အဖြစ်နိုင်ဆုံး ညင်ညင်သာသာ ကုသပေးရလိမ့်မည်။ ထို့ပြင် အလ္လာဟ်အရှင်၏အဆုံးအဖြတ်ကို စောင့်မျှော်ရမည်။ ယင်းမှာ အလ္လာဟ်အရှင့်ဘက်တော်မှ သတိပေးစေ့ဆော်မှုဖြင့် သူ့အား အမှန်

တရား ဖွင့်ဖော်ပေးခြင်း၊ သို့မဟုတ် တက္ကဒီရ်တွင်ရှိနေသည့်အတိုင်း ဒွိဟသံသယတွင် ဆက်လက်နစ်မျောနေခြင်းဖြစ်သည်။ 'အလ်အီက္တ်တိဆွာဒ် ဖီလ်အဲအ်တိကာဒ်ကျမ်း' နှင့် ကျမ်းပြုပုဂ္ဂိုလ်အသီးသီးတို့ ပြုစုထားသော အခြားမျိုးတူကျမ်းများတွင် ပါရှိသော အကြောင်းအရာများက ထိုသူမျိုးအတွက် အကျိုးဖြစ်ထွန်းမှုရှိလိမ့်မည်ဟု မျှော်လင့်ရပေသည်။

အကျိုးရှိမှု၏အပြင်ဘက်မှ ကိစ္စရပ်များသည် နှစ်မျိုးနှစ်စားရှိသည်။ **တစ်မျိုးမှာ** အကီဒဟ်ဆိုင်ရာဥပဒေသများ၏အပြင် အခြားအရာများဖြစ်သည်။ ဥပမာ အကြောင်းခံများ၊ ကျိုးကြောင်းဆက်စပ်မှုများကို ပြဆိုသည့် အခြေအမြစ်အကြောင်းများ၊ တည်ရှိနေမှုများ၏အနေအထားကို ပြဆိုသည့် ဖြစ်တည်မှုအကြောင်းများ၊ ပညာရပ်များကို ပြဆိုသည့် သိမှုဆိုင်ရာကိစ္စများတွင် စူးစမ်းသုံးသပ်ခြင်းဖြစ်သည်။ ထို့ပြင် အိပ်မက်၏သဘောကို အတွင်းကျကျငုတ်လျှိုးစူးစမ်းခြင်းသည်လည်း ဤအထဲတွင် ပါဝင်သည်။ ဥပမာ အိပ်မက်နှင့် ဆန့်ကျင်ဘက်၏အမည်သည် 'အကာအဆီး' ဖြစ်သလား။ သို့မဟုတ် 'အကန်း' ဖြစ်သလား။ တဖန် မမြင်ရသောအရာအားလုံးအတွက် 'အကာအဆီး' သည် တစ်ခုတည်းလား။ သို့မဟုတ် မြင်မက်၍ဖြစ်နိုင်သောအရာ အားလုံး၏အရေအတွက်နှင့်အညီ အကာအဆီးရှိသလား –စသည်ဖြင့်ဖြစ်သည်။

**ဒုတိယအမျိုးအစားများမှာ ထိုအကီဒဟ်ဥပဒေသများ၏အထောက်အထားများအပေါ်မှာပင်** များစွာဆွေးနွေးပြောဆိုမှု၊ အမေးပုစ္ဆာများ **အဖြေရှင်းလင်းချက်များကို** များစွာပြုလုပ်ခြင်းဖြစ်သည်။ ဖော်ပြထားသလောက်ဖြင့် မတင်းတိမ်ဘဲ ဤသို့ရေဆုံးရေဖျားလိုက်၍ နှိုက်ချွတ်စူးစမ်းခြင်းဖြင့် လမ်းမှားခြင်း မသိမိုးဝါးဖြစ်ခြင်းဟူသောအကျိုးရလဒ်အပြင် အခြားဘာအကျိုးမှမရှိပေ။ စကားရပ်အတော်များများသည် ရှည်လျားစွာပြောဆိုလေလေ၊ ခိုင်မာအောင်ပြောဆိုလေလေ၊ မရေမရာဝိုးတိုးဝါးတားဖြစ်မှု တိုးပွါးလေလေဖြစ်သည်။ အကယ်၍ တစ်စုံတစ်ဦးက 'သိမှုဆိုင်ရာများနှင့် အားကိုးအားထားပြုချက်များကို လေ့လာခြင်းဖြင့် အတွေးအခေါ်ကို ထက်မြက်စေသည်။ ဓါးသည် ဂျိဟာဒ်အတွက် လက်နက်ဖြစ်သလို တွေးခေါ်စဉ်းစားခြင်းသည် သာသနာအတွက် အသုံးဝင်သောလက်နက်ကိရိယာတစ်ခုဖြစ်သည်။ သို့ဖြစ်ရာ အတွေးအခေါ် ထက်မြက်ခြင်းကြောင့် ဘာမှအကျိုးယုတ်စရာမရှိပါ' ဟု ပြောမည်ဆိုလျှင်၊ ထိုစကားသည် ပမာဆိုသော် 'စစ်တုရင်ကစားခြင်းသည် တွေးခေါ်စဉ်းစားမှု ထက်သန်စေသည်။ သို့ဖြစ်ရာ ထိုကစားနည်းသည် သာသနာရေးတွင် အကျိုးဝင်သည်' ဟု ပြောဆိုသကဲ့သို့ဖြစ်လိမ့်မည်။ ဤအကြောင်းပြချက်သည် စိတ်ကူးပေါက်ရာပြောဆိုမှုမျှသာဖြစ်သည်။

အတွေးအခေါ်ကို ထက်မြက်ရန်အတွက်ဆိုလျှင် ရှရီအတ်တွင် လာရှိသည့် အသိပညာများအားလုံးဖြင့်လည်း ဖြစ်နိုင်ပါသည်။ ထိုအသိပညာများတွင် ဘေးအန္တရာယ်ဖြစ်မည်ကိုလည်း မစိုးရိမ်ရပါ။ သို့ဖြစ်ရာ ဤဖော်ပြချက်ဖြင့် ကလာမ်ပညာ၏ဆိုးယုတ်မှုပမာဏကိုငှင်း၊ ကောင်းမြတ်မှုပမာဏကိုငှင်း၊ ထိုပညာကို ပြစ်တင်ရှုံ့ချရမည့်အခြေအနေကိုငှင်း၊ ချီးမွမ်းရမည့်အခြေအနေကိုငှင်း၊ ထို့ပြင် ဤပညာဖြင့် အကျိုးဖြစ်နိုင်မည့်ပုဂ္ဂိုလ်ကိုငှင်း၊ ထိုပညာဖြင့် အကျိုးမဖြစ်နိုင်မည့်ပုဂ္ဂိုလ်ကိုငှင်း–အသင်သိရပြီဖြစ်သည်။

အကယ်၍ စာရှုသူက ကျွန်ုပ်အား 'ဗိဒအတ်သမားများကို တွန်းလှန်ခုခံရန် ဤပညာကို လိုအပ်ကြောင်း သင်ဝန်ခံထားပြီးဖြစ်သည်။ သို့ဖြစ်ရာ ယခုခေတ်တွင် ဗိဒအတ်များက ထူပြောလျက်ရှိသည်။ ဤဓမ္မန္တရာယ်သည် အားလုံးအပေါ်တွင် ကျရောက်လျက်ရှိသည်။ သို့နှင့်အမျှ ဤပညာကို လိုအပ်မှုသည် ကြီးမားများပြားလာသည်။ လူတို့၏ဥစ္စာပစ္စည်းများကို ကာကွယ်စောင့်ရှောက်ခြင်း၊ တရားစီရင်မှုနှင့်အုပ်ချုပ်ကွပ်ကဲမှု အစရှိလုပ်ငန်းများကို ထူထောင်ခြင်းသည် ဖရာဇ်ကိဖာယာဖြစ်လာရသည့်နည်းတူ ဤပညာကို တတ်မြောက်ရန်မှာလည်း ဖရာဇ်ကိဖာယာဖြစ်လာသည်။ ပညာရှင်များက ဤပညာကို ဖြန့်ချီခြင်းမပြုလျှင်ငှင်း၊ သင်ကြားပို့ချခြင်းမပြုလျှင်ငှင်း၊ ဤပညာအပေါ် ဆွေးနွေး

ပြောဆိုခြင်းမရှိတော့လျှင်ငင်း ဤပညာသည် အခွန့်ရှည်တည်တံ့နိုင်မည်မဟုတ်ပါ။ ဤပညာကို လုံးဝလွှတ်ထားမည်ဆိုလျှင် ကွယ်ပျောက်ဖို့သာရှိပါသည်။ ထို့ပြင် ဤပညာကို သင်ယူဆည်းပူးမထားလျှင် မိဒအတ်သမားများ၏ ဒွိဟသံသယများကို ရင်ဆိုင်ဖြေရှင်းရန်အတွက် စိတ်ဓါတ်သဘာဝတွင် အင်အားအပြည့်ရှိနိုင်မည်မဟုတ်တော့ပါ။ သို့ဖြစ်ရာ ဤပညာရပ်ကို သင်ကြားပို့ချခြင်းနှင့် ဆည်းပူးလေ့လာခြင်းသည် ဤခေတ်အခါအတွက် ဖရာဇ်ကိဖာယာဖြစ်နေကြောင်း သိသာပါသည်။ ဤခေတ်သည် ဆွဟာဗဟ်များ ၏ခေတ်နှင့် မတူတော့ပါ။ ဆွဟာဗဟ်များ ၏ခေတ်က ဤပညာကို လိုအပ်မှုသည် လက်ဆုပ်လက်ကိုင်ရှိခဲ့သည်မဟုတ်ပါ။'

ယခုလို စာဒကတက်လာသည့်အပေါ် ကျွန်ုပ်က အဖြေပေးလိုသည်မှာ 'မြို့တိုင်း မြို့တိုင်းတွင် ဤပညာကို သီးသန့်တတ်မြောက်ကျွမ်းကျင်သူ ရှိနေရန် အမှန်ပင် အရေးကြီးပါသည်။ သို့မှသာ မြို့တစ်မြို့တွင် မိဒအတ်သမားများ ခေါင်းထောင်ထကြွလာပါက နှိမ်နင်းနိုင်မည်ဖြစ်သည်။ ထိုသို့ရှိရန်မှာ စဉ်ဆက်မပြတ် သင်ကြားပို့ချမှု မရှိဘဲမဖြစ်နိုင်ပါ။ သို့နှင့်တိုင် ဤပညာကို ဖိကဟ်ပညာနှင့်တဖ်စီရ်ပညာများ သင်ပေးသလို လူတိုင်းအား သင်ကြားပြသရမည်ဆိုလျှင်မူ မမှန်ကန်ပါ။ ဤပညာသည် ဆေးဝါးသဖွယ်ဖြစ်သည်။ ဖိကဟ်ပညာကမူ အဟာရဘောဇဉ်သဖွယ်ဖြစ်သည်။ အဟာရကြောင့် ဘေးအန္တရာယ်ဖြစ်မည်ကို မစိုးရိမ်ရပါ။ သို့သော် ဆေးဝါးကတော့ ဘေးအန္တရာယ်ဖြစ်မည်ကို စိုးရိမ်ရပါသည်။ တဖန် ဤပညာ၏ဘေးအန္တရာယ်အမျိုးမျိုးကို ကျွန်ုပ်တို့ ဖေါ်ပြခဲ့ပြီးဖြစ်သည်။ သို့ဖြစ်ရာ ဤပညာသည် အကျင့်စာရသုံးခုရှိသူအတွက်သာ သင်ယူရန်သီးသန့်ဖြစ်သင့်ပါသည်။

**ပထမအကျင့်စာရ–** ဤပညာအတွက် မိမိကိုယ်ကို မြှုတ်နှံသူဖြစ်ရမည်။ ဤပညာကို မွတ်သိပ်စွာလိုလားသူဖြစ်ရမည်။ သင်ယူမည့်သူသည် လုပ်ငန်းတစ်ခုခုတွင် ရှိနေမည်ဆိုလျှင် ထိုလုပ်ငန်းက သူ့အား ဤပညာကို စုံလင်တတ်မြောက်ခြင်းမရှိအောင် တားဆီးမည်ဖြစ်သည်။ ထို့ပြင် ပေါ်ပေါက်လာသည့် ဒွိဟသံသယများမှ ဖယ်ရှင်းလွတ်ကင်းခြင်းမပြုနိုင်အောင်လည်း တားဆီးတော့မည်ဖြစ်သည်။

**ဒုတိယအကျင့်စာရ–** ဉာဏ်ထက်မြက်ပြီး အကင်းပါးလျင်သူဖြစ်ရမည်။ ပြောလိုရာကို ထိထိရောက်ရောက်ပြောဆိုနိုင်သူဖြစ်ရမည်။ ဉာဏ်ထုံထိုင်းသူသည် ဤပညာကို နားလည် အကျိုးခံစားနိုင်မည်မဟုတ်ပေ။ စကားကို လေလုံးကွဲအောင် မပြောတတ်သူ၏သက်သေထူမှုသည် တစ်စုံတစ်ရာအကျိုးထူး မရှိနိုင်ပါ။ ထို့ပြင် ကလာမ်ပညာက သူ့အတွက်အန္တရာယ်ဖြစ်မည်ကိုပင် စိုးရိမ်ရသည်။ ထိုသူမျိုးအတွက် ဤပညာက အကျိုးရှိရန် မျှော်လင့်ချက်မရှိပါ။

**တတိယအကျင့်စာရ–** မွန်မြတ်သော သဘောထားရှိသူဖြစ်ရမည်။ သာသနာကိုင်းရှိုင်းပြီး တက္ကဝါရှိသူဖြစ်ရမည်။ စိတ်အလိုဆန္ဒများ လွှမ်းမိုးနေသူ မဖြစ်ရပါ။ အဘယ်ကြောင့်ဆိုသော် မသူတော်တစ်ဦးသည် သေးငယ်သောဒွိဟသံသယကလေးတစ်ခုဖြင့် သာသနာရေးမှ လွတ်ထွက်သွားနိုင်သည်။ ထိုဒွိဟသံသယက သူ့ကို အထိန်းအကွပ်မှ ထွက်သွားစေမည်။ ထို့ပြင် သူနှင့် သူ၏ကာမဂုဏ်အာရုံခံစားမှုများအကြား တားဆီးထားသော အကာအဆီးကို ဖယ်ရှားပစ်လိမ့်မည်။ ထိုအခါ သူသည် ဒွိဟသံသယများမှ ကင်းကင်းရှင်းရှင်းရှိရသည့်အဖြစ်ကို လိုလားမက်မောတော့မည်မဟုတ်ပေ။ သို့သာမက သာသနာက ပေးအပ်ထားသော တာဝန်ဝတ္တရားများမှ လွတ်ထွက်သွားသည်ကိုပင် အခွင့်ထူးခံစားရသည်ဟု မှတ်ယူလိမ့်ဦးမည်။ ထိုကဲ့သို့သော စာသင်သားအဖို့ကား ဤပညာသည် ကောင်းကျိုးထက် ဆိုးကျိုးက ပိုများမည်ဖြစ်သည်။

ဤအပိုင်းအခြားများကို အသင်သိပြီဆိုလျှင် ကလာမ်ပညာတွင် ရှိနေသည့် ကောင်းမြတ်သောသက်သေခံအထောက်အထားများသည် စင်စစ် ကျမ်းမြတ်ကုရ်အာန်၏သက်သေခံအထောက်အထားများနှင့် အမျိုးတူဖြစ်ကြောင်း အသင်ရှင်းလင်းသိရှိရလိမ့်မည်။ ဆိုလိုသည်မှာ နှလုံးသားများတွင် အာနိသင်ထိရောက်မှုဖြစ်စေပြီး စိတ်သဘောထားများကို နှစ်သိမ့်ရောင့်ရဲစေသော သိမ်မွေ့နူးညံ့သည့် စကားရပ်များဖြစ်နေသောကြောင့်ဖြစ်သည်။ ထို့ပြင် လူအများစု

နားမလည်နိုင်သော ခွဲခြမ်းစိတ်ဖြာမှုများနှင့်အသေးစိတ်နက်နဲမှုများ မပါဝင်သောကြောင့်ဖြစ်သည်။ အကယ်၍ နားလည်မည်ဆိုလျှင်လည်း ဤသည်မှာ ပရိရာယ်ဝေဝုစ်၏အတတ်ဖြစ်ပြီး ၎င်းက လူတို့အား လှည့်စားဖျားယောင်းရန် သင်ယူထားခြင်းဖြစ်သည်ဟု စွဲယူထင်မှတ်မည်ဖြစ်သည်။

ထို့ပြင် သင်သိထားပြီးဖြစ်သည့်အတိုင်း အိမာမ်ရာဖအီ ့သခင်နှင့် ရှေးသူဟောင်းအားလုံးတို့သည် ဤပညာတွင် နက်ရှိုင်းစွာငုတ်လျှိုးခြင်းနှင့် ဤပညာအတွက် တစ်ဖက်သတ်တစ်ကြောင်းစွဲဖြစ်နေခြင်းမှ တားမြစ်ခဲ့ကြသည်။ အဘယ်ကြောင့်ဆိုသော် ဤပညာထဲတွင် ကျွန်ုပ်တို့သတိပေးထားသည့် ဘေးဥပဒ်များ ရှိနေသောကြောင့်ဖြစ်သည်။ အိဗ်နေ့အဗ္ဗာစ် ့သခင်က ခါရိဂျီများနှင့် မုနာဇရာပြုခဲ့ခြင်း၊ အလီ ့သခင်က တဟ္ကဒီရ်ကိစ္စတွင် မုနာဇရာပြုခဲ့ခြင်းစသည်တို့မှာ ထင်ရှားပေါ်လွင်သောစကားရပ်အပေါ် အခြေခံပြီး လိုအပ်ချက်အရပြုလုပ်ခဲ့ခြင်းဖြစ်သည်။ ဤကဲ့သို့သောမုနာဇရာမျိုးကား အခါခပ်သိမ်းအတွက် ကောင်းမြတ်သောလုပ်ရပ်ဖြစ်သည်။ မှန်သည်။ ခေတ်ကာလအသီးသီးတွင် လိုအပ်ချက်၏များခြင်းနှင့် နည်းခြင်းသည် မတူကွဲလွဲစွာရှိနေမည်ဖြစ်သည်။ သို့ဖြစ်ရာ ထိုကွဲလွဲမှုအပေါ်မူတည်ပြီး အမိန့်ပညတ်လည်း လိုက်၍ကွဲလွဲမည်ဖြစ်ကြောင်း နားလည်ရန် မခက်လှပေ။

အထက်တွင် လူသားအတွက် အိဗာဒတ်အဖြစ်သတ်မှတ်ထားသော အကီဒဟ်ကိုင်း၊ ထိုအကီဒဟ်၏ပညတ်ချက်ကိုင်း၊ ထိုအကီဒဟ်ကို ခုခံကာကွယ်ရန်နှင့်ထိမ်းသိမ်းစောင့်ရှောက်ရန် နည်းလမ်းကိုင်း ဖော်ပြခဲ့ပြီးဖြစ်သည်။ သို့နှင့်တိုင် ဒွိဟသံသယများကို ဖယ်ရှားခြင်း၊ အစစ်အမှန်သဘောကို အသိအလင်းပွင့်ခြင်း၊ အရာဝတ္ထုများကို အရှိအတိုင်း သိရခြင်းနှင့် ဆိုခဲ့ပါမှန်ကန်သောအကီဒဟ်၏စကားလုံးဖော်ပြချက်က ညွှန်းဆိုသောအရာများ၏အတွင်းရေးလျှို့ဝှက်ချက်များကို နားလည်သဘောပေါက်မှု၏တံခါးဝအား ဖွင့်ရန် သော့တံသည် တစ်ခုသာရှိသည်။ ယင်းမှာ ဖွဲ့ခတ်ကြိုးပမ်းခြင်း၊ စိတ်အလိုဆန္ဒများကို အမြစ်မှ နှုတ်ပယ်ခြင်း၊ အလ္လာဟ်အရှင့်ဘက်သို့ တစ်လုံးတစ်ဝတည်းအာရုံထားခြင်း၊ မိမိ၏စဉ်းစားတွေးခေါ်မှုတွင် စကားစစ်ထိုးမှု၏အရိပ်အရောင်မျှပင် မသန်းရအောင် ဂရုမပြုခြင်းတို့ဖြစ်သည်။ ဤအကျင့်အမူများကို ကျင့်မူနိုင်ခြင်းသည် အလ္လာဟ်အရှင်၏သနားဂရုဏာတော်ဖြင့်သာဖြစ်သည်။ အကြင်သူသည် မိမိဘက်က စိုက်ထုတ်မှုရှိသလောက် ပြန်လည်ခံစားရမည်ဖြစ်သည်။ သူ့အတွက် ခံစားခွင့် သတ်မှတ်ထားသလောက်၊ သူ့ဘက်က စူးစိုက်စွဲမြဲမှု ရှိသလောက်၊ အရည်အချင်းလက်ခံနိုင်မှုနှင့် နှလုံးသား သန့်ရှင်းမှုရှိသလောက်၊ သူ့အတွက် အကျိုးထူးရလဒ်ရှိမည်ဖြစ်သည်။ ဤပင်လယ်သည် ထောက်မမှီအောင် နက်ရှိုင်းပြီး ကမ်းမမြင်အောင် ကျယ်ဝန်းပေသည်။

**မတ်စအလာတစ်ခု** – အကယ်၍ စာရှုသူက ကျွန်ုပ်အား 'ဤပညာရပ်များတွင် ဗဟိဒ္ဒအလိုသဘောလည်းရှိသည်။ အဇ္ဈတ္တအလိုသဘောလည်းရှိသည်။ ထိုအထဲမှ အလိုသဘောအချို့သည် ရှင်းလင်းမှုရှိပြီး စဉ်းစားရန်ပင်မလိုဘဲ နားလည်နိုင်သည်။ အချို့ပွါယ်အလိုသဘောအချို့မှာမူ ဖုံးကွယ်လျက်ရှိပြီး ဖွဲ့ခတ်ကြိုးပမ်းခြင်း၊ အားထုတ်လေ့ကျင့်ခြင်း၊ အပြည့်အဝလိုလားခြင်း၊ အတွေးအခေါ်သန့်ရှင်းကြည်လင်ခြင်း၊ နှလုံးသားက ဒွန္နယာ့အရေးကိစ္စများမှ လွတ်ကင်းခြင်းများ ရှိမှသာ ရှင်းလင်းနားလည်နိုင်မည်ဖြစ်သည်။ ဤသို့ရှိမည်ဆိုလျှင် တရားတော်နှင့် ကွဲလွဲဆန့်ကျင်ပေလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် တရားတော်တွင် ဗဟိဒ္ဒဟူ၍၎င်း၊ အဇ္ဈတ္တဟူ၍၎င်း၊ အတွင်းသဘောဟူ၍၎င်း၊ ပေါ်လွင်စွာရှိမှုဟူ၍၎င်း ဖော်ပြထားခြင်းမရှိသောကြောင့်ဖြစ်သည်။ တရားတော်အရ ဗဟိဒ္ဒ၊ အဇ္ဈတ္တ၊ အတွင်းသဘောနှင့် ပေါ်လွင်စွာရှိမှုတို့သည် တစ်မျိုးတစ်စားတည်း မဟုတ်ပါလော'ဟု စောဒကတက်မည်ဆိုအံ့။

သင်၏စောဒကအပေါ် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။ ထိုပညာရပ်များတွင် ဖုံးကွယ်သောသဘောနှင့် ရှင်းလင်းသောသဘောဟူ၍ ကွဲပြားခြားနားမှုရှိနေသည်။ ဤအချက်ကို ဉာဏ်ပညာရှိသူက ငြင်းဆန်မည်မဟုတ်ပေ။ အမြင်ကျဉ်းသူကသာ ငြင်းဆန်လိမ့်မည်။ ထိုသို့ငြင်းဆန်ခြင်းမှာ ၎င်းသည် ငယ်စဉ်ကလေးဘဝက ပညာအချို့အဝက်

တော့ သင်ယူခဲ့သည်။ သို့သော် ထိုပညာလောက်ဖြင့် တန့်နေခဲ့ပြီး အဆင့်မြင့်ပညာများသို့ငှင်း၊ ပညာရှင်များနှင့်ဝလီသူတော်စင်များ၏အဆင့်အတန်းများသို့ငှင်း အဆင့်ဆင့်တက်လှမ်းမှု မရှိခြင်းကြောင့်ဖြစ်သည်။

ပညာရပ်များတွင် ဇဟိဒ္ဓသဘောနှင့်အဖ္ဗတ္တသဘောဟူ၍ ရှိကြောင်း တရားတော်လာ အထောက်အထားများ ရှိနေပေသည်။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

إنّ القرآن ظاهراً وباطناً وحدّاً مطلعًا . (حب)

'ကျမ်းမြတ်ကုရ်အာန်တွင် ဇဟိဒ္ဓသဘော၊ အဖ္ဗတ္တသဘော၊ အဆုံးစွန်သဘောနှင့် အဆင့်ဆင့်တက်လှမ်းမှုသဘောဟူ၍ ရှိပေသည်။'

အလီ؄သခင်က မိမိ၏ရင်ဘတ်ကို ညွှန်ပြပြီး 'ဤနေရာတွင် ပညာတွေ တစ်ပြုံတစ်ခေါင်းရှိနေသည်။ ဒီပညာတွေကို ထိန်းသိမ်းမည့်သူ တွေ့ရလျှင် ကောင်းပေစွ'ဟု ပြောဆိုခဲ့ဖူးသည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

نحن معاشر الأنبياء أمرنا أن نكلم الناس على قدر عقولهم . (جزء من حديث أبي بكر بن الشحير)

'လူတို့အား ၎င်းတို့၏အသိဉာဏ်က စွမ်းနိုင်သလောက်သာ ပြောဆိုကြရန် ငါတို့တမန်တော်များကို အမိန့်ပေးထားတော်မူသည်။'

နောက်ထပ်လည်း တမန်တော်မြတ်ﷺမိန့်ဆိုသေးသည်မှာ–

ما حدّث أحدكم قومًا بحديث لا يفقهونه إلا كان فتنة عليهم . (رواه العقيلي في الضعفاء . م)

'အသင်တို့အနက် တစ်ဦးတစ်ယောက်သည် လူထုအား ၎င်းတို့နားမလည်သည့် စကားဖြင့် ပြောဆိုမည်ဆိုလျှင်၊ ဤသည်မှာ လူထုအဖို့ ပြဿနာဖြစ်သည်။'

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَ تِلْكَ الْأَمْثَالُ نَضْرِبُهَا لِلنَّاسِ وَمَا يَعْقِلُهَا إِلَّا الْعَالِمُوْنَ﴾

**'ထို့ပြင် ငါအရှင်သည် ထိုဥပမာများကို လူသားတို့အတွက် နှိုင်းနိုင်းပြတော်မူခြင်းဖြစ်သည်။ သို့သော် ဂျာနရှိသူများမှအပ မည်သူမှ ထိုအရာများကို သိနားလည်ခြင်းမရှိကြပေ။'** (စူရာအန်ကာဘွတ်၊ ၄၃)

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ –

إن من العلم كهيئة المكنون لا يعلمه إلا العالمون بالله تعالى. (رواه ابو عبدالرحمن السلمي في الأربعين)

'အချို့သော အသိပညာများသည် သိုက်ဝှက်ထားသကဲ့သို့ဖြစ်သည်။ အလ္လာဟ်အရှင်ကို သိကြသော ပညာရှင်များမှလွဲ၍ ဤအရာများကို မည်သူမှ မသိကျွမ်းပေ။'

ကျွန်ုပ်တို့ ဤဟဒီစ်ကို ပညာကဏ္ဍတွင် အဆုံးအထိဖော်ပြခဲ့ပြီးပြီ။ တဖန် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

لو تعلمون ما أعلم لضحكتم قليلًا ولبكيتم كثيراً . (خ.م)

'အကယ်၍ ငါကိုယ်တော် သိထားသည့်အရာကို အသင်တို့ သိကြပါလျှင်၊ အသင်တို့သည် အနည်းငယ်သာ ရယ်မောကြတော့မည်။ ထို့နောက် များစွာငိုကြွေးကြလိမ့်မည်။'

အလ္လာဟ်အရှင်၏ –

﴿اَللّٰهُ الَّذِيْ خَلَقَ سَبْعَ سَمٰوٰتٍ وَمِنَ الْاَرْضِ مِثْلَهُنَّ ۭ يَتَنَزَّلُ الْاَمْرُ بَيْنَهُنَّ﴾

**'အလ္လာဟ်အရှင်သည် ကောင်းကင်ခုနစ်ခုကို ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက် မြေပထဝီကိုလည်း ဤနည်းအတိုင်း ပြုလုပ်တော်မူခဲ့သည်။ ထိုအရှင်၏အမိန့်တော်သည် ထိုမိုးနှင့်မြေ၏အကြားတွင် သက်ရောက်လေသည်။'** (စူရာတွလာက်၊ ၁၂)

ဤမိန့်ခွန်းတော်နှင့်ပတ်သက်၍ အီဗ်နေ့အဗ္ဗါစ်ﷺသခင်က 'အကယ်၍ ငါက ဤမိန့်ခွန်းတော်၏အဖွင့်ကို ရှင်းလင်းပြောပြခဲ့မည်ဆိုလျှင် သင်တို့ ငါ့ကို ခဲပေါက်သတ်ကြလိမ့်မည်'ဟု ပြောဆိုခဲ့သည်။ အီဗ်နေ့အဗ္ဗါစ်ﷺသခင်၏ပြောဆိုမှု နောက်တစ်နည်းလာရှိသည်မှာ 'အသင်တို့ ငါ့ကို ကာဖိရ်ဟု ပြောကြလိမ့်မည်'ဟုဖြစ်သည်။ အဗူဟုရိုင်ရာﷺသခင်က ဆိုမိန့်သည်မှာ 'ကျွန်ုပ်သည် တမန်တော်မြတ်ﷺထံမှ ပညာ၏ခွက်နှစ်ခွက်ကို ရရှိခဲ့သည်။ ထိုနှစ်ခွက်အနက်မှ တစ်ခွက်ကို ကျွန်ုပ်သည် လူတို့ထံဖြန့်ဝေခဲ့သည်။ ကျန်တစ်ခွက်ကို ဖြန့်ဝေမည်ဆိုလျှင်ကား လူတို့က ကျွန်ုပ်၏လည်ပင်းကို ဖြတ်ကြလိမ့်မည်။

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ما فضلكم أبو بكر بكثرة صيام ولا صلاة ولكن بسر وقر في صدره . (شعب)

'အဗူဗကရ်က အသင်တို့ထက် မြတ်ရခြင်းသည် ရိုဇာကို များစွာစောင့်သောကြောင့်လည်းမဟုတ်ပေ။ နမာဇ်ကို များစွာဖတ်ရွတ်သောကြောင့်လည်းမဟုတ်ပေ။ သူ၏မြတ်ခြင်းသည် သူ၏နှလုံးသားတွင် ကိန်းဝပ်လျက်ရှိသော အတွင်းရေးတစ်ခုကြောင့်ဖြစ်သည်။'

အဆိုပါအတွင်းရေးသည် သာသနာ့အခြေခံများနှင့် ဆက်စပ်လျက်ရှိပြီး ထိုအခြေခံများမှ လွတ်ကင်းခြင်းမရှိကြောင်း သံသယဖြစ်ဖွယ်မရှိချေ။ သာသနာရေးအခြေခံများဖြစ်သည့်အပေါ်မှာ ၎င်း၏ဇာဟိဒ္ဓသည် အခြားအရာများနှင့် ယှဉ်လျှင် ဖုံးကွယ်မသွားပေ။

ဆဟ်လ်တွစ်တုရီ သခင်က ဆိုမိန့်သည်မှာ 'ပညာရှင်အတွက် ပညာရပ်များသည် သုံးမျိုးရှိသည်။ တစ်မျိုးသည် ဇာဟိဒ္ဓပညာရပ်ဖြစ်သည်။ ယင်းကို အပေါ်ယံအပြင်ပန်းလိုက်စားသူများသို့သာ ပေးကမ်းရသည်။ ဒုတိယတစ်မျိုးသည် အဗ္ဗာတ္တပညာရပ်ဖြစ်သည်။ ယင်းကို အရည်အချင်းရှိသူကသာ ထမ်းရွက်နိုင်သည်။ တတိယပညာရပ်သည် ထိုသူနှင့် အလ္လာဟ်အရှင်၏အကြားမှာသာရှိသည်။ ထိုပညာရပ်ကိုကား အခြားသူများထံသို့ ဖေါ်ထုတ်ခြင်းမပြုပေ။' အာရစ်ဖ်သူတော်စင်များက– 'ရဗူဗီယတ်ခေါ် အလ္လာဟ်အရှင်၏အဆင့်ဆင့် ပြုစုပျိုးထောင်မှုလျှို့ဝှက်ချက်ကို ထုတ်ဖေါ်ခြင်းသည် ကွဖ်ရ်လုပ်ရပ်ဖြစ်သည်'ဟု ဆိုမိန့်ကြ၏။ ထိုသခင်များကပင် 'ရဗူဗီယတ်ခေါ် အလ္လာဟ်အရှင်၏အဆင့်ဆင့် ပြုစုပျိုးထောင်မှုတွင် လျှို့ဝှက်ချက်တစ်ခုရှိနေသည်။ အကယ်၍ ထိုလျှို့ဝှက်ချက်ကို ဖေါ်ထုတ်လိုက်မည်ဆိုလျှင် နဗူဝပ်ခေါ် တမန်တော်စေလွှတ်ခြင်းသည် အဟောသိကံဖြစ်သွားလိမ့်မည်။ နဗူဝပ်တွင်လည်း လျှို့ဝှက်ချက်တစ်ခုရှိနေသည်။ အကယ်၍ ထိုလျှို့ဝှက်ချက်ကို ဖေါ်ထုတ်လိုက်မည်ဆိုလျှင် ပညာသည် အဟောသိကံဖြစ်သွားလိမ့်မည်။ အလ္လာဟ်အရှင်ကို သိကျွမ်းသောပညာရှင်များတွင် လျှို့ဝှက်ချက်တစ်ခုရှိနေသည်။ အကယ်၍ ထိုလျှို့ဝှက်ချက်ကို ဖေါ်ထုတ်လိုက်မည်ဆိုလျှင် အမိန့်ပညတ်များသည် အဟောသိကံဖြစ်သွားလိမ့်မည်'ဟု ဆိုမိန့်ခဲ့ကြသည်။

အကယ်၍ ထိုပုဂ္ဂိုလ်တို့က လူတို့ နားလည်နိုင်စွမ်းမရှိသောကြောင့် နဗူဝပ်ကို အဟောသိကံဖြစ်မည်ဟု ရည်ရွယ်ပြောဆိုခြင်း မဟုတ်လျှင် ဤသို့ပြောဆိုခြင်း မမှန်ကန်ချေ။ စင်စစ် နဗူဝပ်တွင် ဝိရောဓိတရားဟူ၍ မပါရှိချေ။ ပေါက်မြောက်ပြည့်စုံသူဆိုသည်မှာ ထိုသူ၏မအ်ရိဖတ်အလင်းရောင်က သူ၏တက္ကဝါအလင်းရောင်ကို ဖုံးလွှမ်းမှေးမှိန်ခြင်းမဖြစ်စေသူဖြစ်သည်။ တဖန် ထိုတက္ကဝါ၏ပဓာနသည် နဗူဝပ်ဖြစ်သည်။

**မေးခွန်းပုစ္ဆာ**– အကယ်၍ အသင်က 'ဤအာယတ်များနှင့်ဟဒီစ်များမှ အလိုသဘောအမျိုးမျိုး ကောက်ယူရရှိနိုင်သည်။ သို့ဖြစ်ရာ ဇာဟိဒ္ဓနှင့် အဗ္ဗာတ္တ၏ကွဲလွဲမှုသဘောကို ရှင်းပြစေလိုသည်။ အဘယ်ကြောင့်ဆိုသော် အဗ္ဗာတ္တသည် ဇာဟိဒ္ဓ၏ဆန့်ကျင်ဘက်အရာဖြစ်သည်ဆိုလျှင်၊ ရှရီအတ်သည် အချည်းနှီးဖြစ်ရတော့မည်။ လူအချို့က 'အစစ်အမှန်သဘောသည် ရှရီအတ်နှင့် ဝိရောဓိဖြစ်သည်'ဟု ပြောဆိုနေကြသည်။ ဤစကားသည် ကွဖ်ရ်ဖြစ်စေသည်။ အဘယ်ကြောင့်ဆိုသော် ရှရီအတ်သည် ဇာဟိဒ္ဓကို ဆိုလိုခြင်းဖြစ်ပြီး အစစ်အမှန်သဘောဆိုသည်မှာ အဗ္ဗာတ္တကို ဆိုလိုခြင်းဖြစ်

သည်။ အကယ်၍ အဇ္ဈတ္တနှင့်ဗဟိဒ္ဓသည် ဆန့်ကျင်ဘက်အရာမဟုတ်၊ ဤနှစ်ခုသည် ကွဲလွဲခြင်းမရှိဟု ဆိုလျှင်၊ ဤနှစ်ခုသည် တစ်ခုတည်းဖြစ်ရလိမ့်မည်။ ထိုအခါ ဤနှစ်ခုအား ခွဲခြားထားမှုသည်လည်း ပျက်ပြယ်လိမ့်မည်။ ထို့ပြင် ရှရီအတ်တွင် အပြန့်အနှံ့ထုတ်ဖော်ခြင်းမပြုရသေးသော အတွင်းရေးကိစ္စဟူ၍လည်း ရှိတော့မည်မဟုတ်ပေ။ သို့သာမက ဖုံးကွယ်မှုနှင့်ပေါ်လွင်မှုသည် တစ်ခုတည်းဖြစ်သွားတော့မည်။'

ဤမေးခွန်းသည် ရှည်ရှည်လျားလျား ပြောဆိုရမည့်ကိစ္စကြီးဖြစ်သည်။ ထို့ပြင် ဤမေးခွန်းသည် မုကာရှိဖာပညာဘက်သို့ ဆွဲခေါ်လျက်ရှိသည်။ ဤကျမ်း၏ဦးတည်ချက်ဖြစ်သော မုအာမိလတ်ပညာ၏အပြင်သို့ ခေါ်ထုတ်လျက်ရှိသည်။ ကျွန်ုပ်တို့ဖော်ပြထားသော အကီဒဟ်များသည် နှလုံးသား၏ကျင့်မှုရာများဖြစ်သည်။ ကျွန်ုပ်တို့အား ထိုအကီဒဟ်များကို လက်ခံရန်နှင့် နှလုံးသည်းပွတ်ထဲမှ ယုံကြည်ရန် ကြ[illegible]ထားသည်။ သို့သော် ထိုအကီဒဟ်များ၏အရင်းခံသဘောများ ပွင့်လင်းသိရှိရသည်အထိ ဦးတည်ရည်မှန်းရန် ကျွန်ုပ်တို့အား အမိန့်ပေးမထားပါ။ လူခပ်သိမ်း ကို့အပေါ် ဤအချက်ကို တာဝန်ပေးထားခြင်းမရှိပါ။

ထို့ပြင် အကယ်၍ ထိုအကီဒဟ်များသည် ကျင့်ဆောက်တည်မှုများတွင် အပါအဝင်မဟုတ်ခဲ့လျှင်၊ ယင်းတို့ကို ဤကျမ်းတွင် ကျွန်ုပ်တို့ထည့်သွင်းလိမ့်မည်မဟုတ်ပေ။ တဖန် အကယ်၍ ဤအကီဒဟ်များသည် နှလုံးသား၏ဗဟိဒ္ဓပိုင်းနှင့်သက်ဆိုင်သော ကျင့်မှုရာများ မဟုတ်ဘဲ၊ နှလုံးသား၏အဇ္ဈတ္တပိုင်းနှင့် သက်ဆိုင်နေမည်ဆိုလျှင်လည်း ကျွန်ုပ်တို့က ဤကျမ်း၏ပထမတစ်ဝက်တွင် ထည့်သွင်းဖော်ပြလိမ့်မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အရင်းမူလသဘောများကို ပွင့်လင်းသိရှိရခြင်းသည် အတွင်းရေးလျှို့ဝှက်ချက်၏ဝိသေသဖြစ်ပြီး၊ နှလုံးသား၏အဇ္ဈတ္တပိုင်းနှင့်သာသက်ဆိုင်ပေသည်။ သို့နှင့်တိုင် 'အဇ္ဈတ္တနှင့်ဗဟိဒ္ဓသည် ဆန့်ကျင်ဘက်အရာများဖြစ်သည်'ဆိုသောစကားက အတွေးကို လှုံ့ဆွပေးသည်။ ထိုစကားအပေါ် အတိုချုပ်ရှင်းလင်းချက်တစ်ရပ် ဖော်ပြရန်လိုအပ်ပေသည်။

တစ်စုံတစ်ဦးက 'အစစ်အမှန်သဘောသည် ရှရီအတ်နှင့်ဆန့်ကျင်ဘက်ဖြစ်သည်'၊ သို့မဟုတ် 'အဇ္ဈတ္တသည် ဗဟိဒ္ဓနှင့် ဗီလာဖြစ်သည်'ဟု ပြောဆိုလျှင်၊ ၎င်းသည် အီမာန်ရှိခြင်းထက် ကာဖိရ်ဖြစ်ခြင်းဘက်သို့ ပို၍ နီးကပ်နေပြီဖြစ်သည်။ စင်စစ်တွင် အရှင့်ထံနီးကပ်မှုရှိကြသောသူမြတ်တို့သာလျှင် အတွင်းရေးလျှို့ဝှက်ချက်များကို ထောက်မှီသိရှိကြလေသည်။ ထိုသို့ သိရှိကြရာတွင် လူအများစုတို့ ပူးတွဲပါဝင်ခြင်းမရှိကြပေ။ တဖန် ထိုအသိများကို လူအများသို့ ဖြန့်ဝေခြင်းမပြုရန် အရှင်၏အနီးကပ်သူမြတ်တို့အား တားမြစ်ထားသည်။ ထိုသို့တားမြစ်ခြင်းသည် အမျိုးအစားအားဖြင့် ငါးခုရှိသည်။

**ပထမအမျိုးအစား–** အရာတစ်ခုသည် ပင်ကိုသဘော သိမ်မွေ့ပြီး၊ လူအများစုသည် ထိုအရာကို သိရှိရန် ဉာဏ်မမီကြပါ။ သို့ဖြစ်ရာ ထိုအရာကို ထောက်မှီသိရှိခြင်းသည် သီးသန့်ပုဂ္ဂိုလ်များအတွက်သာ သီးသန့်ဖြစ်ရသည်။ တဖန် ထိုပုဂ္ဂိုလ်တို့အနေဖြင့်လည်း ထိုအသိကို မထိုက်တန်သူများအား ဖြန့်ဝေခြင်းမပြုရန် တာဝန်ရှိသည်။ ဉာဏ်မမီနိုင်သည့်ကိစ္စဖြစ်သည့်အားလျော်စွာ ၎င်းတို့အဖို့ ထိုအသိကို သိရှိကြရပါက ပြဿနာသာဖြစ်လိမ့်မည်။ ဤအမျိုးအစားတွင် ရူဟ်ဝိဉာဉ်၏အတွင်းရေးကို ဖုံးကွယ်ထားရသည့်ကိစ္စလည်းပါဝင်သည်။ တမန်တော်မြတ်ﷺက ရူဟ်ဝိဉာဉ်၏အတွင်းရေးကို ရှင်းလင်းမိန့်ဆိုမှု မပြုခဲ့ခြင်းသည် ထိုအရာတို့၏အရင်းခံသဘောကို စဉ်းစားဉာဏ်များက ထောက်မှီသိရှိနိုင်ခြင်းမရှိသောကြောင့်ဖြစ်သည်။ လူသားသည် ထိုအရာများ၏မူလဘူတသဘောကို စဉ်းစားပုံဖော်ရန် မစွမ်းသောကြောင့်ဖြစ်သည်။

ရူဟ်ဝိဉာဉ်၏အရင်းခံသဘောကို တမန်တော်မြတ်ﷺက ရှင်းလင်းမိန့်ဆိုသွားခြင်း မရှိသည့်အတွက် တမန်တော်ﷺသည် ထိုအရာကို ရှင်းလင်းစွာမသိရှိခဲ့ပါဟု လုံးဝမထင်မှတ်သင့်ပေ။ အဘယ်ကြောင့်ဆိုသော် အကြင်သူသည် ရူဟ်ကို မသိလျှင် ထိုသူသည် မိမိ၏စေတသိတ်ကို မသိသူဖြစ်သည်။ အကြင်သူ မိမိ၏စေတသိတ်ကို မသိ

ဘဲ မိမိ၏ရစ်အရှင်ကို မည်သို့သိနိုင်ပါအံ့နည်း။ သို့ဖြစ်ရာ အလွယ်တကူလက်ခံနိုင်သည့်အချက်မှာ အချို့သောဝလီသူတော်စင်များနှင့် ဓမ္မပညာရှင်များသည် နဗီတမန်တော်များ မဟုတ်ကြသည့်တိုင် ရှုဟ်၏အရင်းခံသဘောကို သိကြလေသည်။ သို့သော် ထိုသခင်တို့သည် တရားတော်၏ပညတ်ချက်များကို လေးမြတ်စွာလိုက်နာသူများဖြစ်ကြသည်။ သို့ဖြစ်ရာ ဆိတ်ဆိတ်နေရမည့်အရာများအပေါ်မှာ ဆိတ်ဆိတ်နေခဲ့ကြသည်။

စင်စစ်အားဖြင့် အလ္လာဟ်အရှင်၏ဂုဏ်တော်များတွင် လူသားမန်တို့ နားလည်သဘောပေါက်နိုင်စွမ်းမရှိသည့် ဖုံးကွယ်လျှို့ဝှက်မှုများ ရှိနေပေသည်။ တမန်တော်မြတ်ﷺသည် ထိုအရာများမှ ထင်သာမြင်သာရှိသည်ကိုသာ ထုတ်ဖော်မိန့်ဆိုသွားခဲ့သည်။ ဥပမာ သိတော်မူခြင်း၊ စွမ်းတော်မူခြင်း စသည့်ဂုဏ်တော်များဖြစ်သည်။ လူသားတို့တွင် သိနိုင်ခြင်း၊ တတ်စွမ်းနိုင်ခြင်းဆိုသည့်အရည်အချင်းများရှိနေသည်ဖြစ်ရာ နှိုင်းယှဉ်ချက်အရ နားလည်နိုင်ရုံလောက်သာ ဖော်ပြခဲ့သည်။ အဘယ်ကြောင့်ဆိုသော် လူသားတွင် သိခြင်း၊ စွမ်းခြင်းဟု အမည်ပေးထားသော အရည်အချင်းများ ရှိနေပြီး ထိုအရည်အချင်းများအပေါ် ချိန်ထိုးပြီး အလ္လာဟ်အရှင်၏သိတော်မူခြင်း၊ စွမ်းတော်မူခြင်းဂုဏ်တော်များကို စဉ်းစားနားလည်ယူရခြင်းဖြစ်သည်။

အကယ်၍ အလ္လာဟ်အရှင်၏ဂုဏ်တော်များအနက် လူသားတို့တွင် ရှိနေသောအရည်အချင်းများနှင့်နှိုင်းယှဉ် စဉ်းစား၍ မရနိုင်လောက်အောင် အဆက်အစပ်မဲ့သော ဂုဏ်တော်များကို ဖော်ပြမည်ဆိုလျှင် လူသားတို့သည် လုံးဝနားလည်ကြမည် မဟုတ်ပေ။ သံဝါသ၏အရသာကို ကလေးနှင့် လိင်ကိစ္စမစွမ်းသူများအား ပြောပြလျှင် နားလည်ကြမည်မဟုတ်ဘဲ ၎င်းတို့အသိတွင်ရှိနေသောအစားအစာ၏အရသာနှင့် ဆက်စပ်၍သာ နားလည်ကြလိမ့်မည်။ ဤနည်းဖြင့် နားလည်ခြင်းသည် အစစ်အမှန်အသိတရားမဟုတ်ပေ။ အလ္လာဟ်အရှင်၏အသိတော်၊ အစွမ်းတော်နှင့်လူသား၏သိခြင်း၊ စွမ်းခြင်းတို့အကြား ကွာခြားချက်သည် သံဝါသ၏အရသာနှင့် စားသောက်ခြင်း၏အရသာတို့ ကွာခြားချက်ထက် အဆများစွာပိုလေသည်။

အချုပ်ဆိုသော် လူသားသည် မိမိကိုယ်တိုင်ကို သိသည်။ မျက်မှောက်တွင် မိမိရရှိထားသောအရည်အချင်းကို သိသည်။ ထို့ပြင် မိမိတွင်ယခင်က ရရှိခဲ့သောအရည်အချင်းကို သိသည်။ ဤသည်တို့မှလွဲ၍ အခြားအရာကို သိနိုင်ခြင်းမရှိခဲ့ပါ။ ထို့နောက်မှ မိမိ၏အရည်အချင်းများဖြင့် အခြားသူ၏အရည်အချင်းကို ချိန်ထိုး၍ နားလည်ယူခြင်းဖြစ်သည်။ ရံဖန်ရံခါလည်း အခြားသူနှင့် မိမိအကြား သာပိုထူးခြားမှုနှင့်ပြည့်ဝစုံလင်မှုများတွင် ကွာခြားချက် ရှိနေသည်ကို သိရှိသဘောပေါက်သည်။ သို့ဖြစ်ရာ လူသားက တတ်စွမ်းနိုင်သောကိစ္စဆို၍ မိမိတွင်ရှိနေသော လုပ်ကိုင်ဆောင်ရွက်ခြင်း၊ သိမြင်နားလည်ခြင်း၊ စွမ်းဆောင်နိုင်ခြင်း စသည့်အရည်အချင်းဝိသေသများဖြင့် အလ္လာဟ်အရှင်မြတ်တွင်လည်း ဤအရည်အချင်းဝိသေသများရှိနေကြောင်း ချိန်ထိုးသိရှိပြီး အလ္လာဟ်အရှင်၏အရည်အချင်းဝိသေသများက ပြည့်ဝစုံလင်မှုအရှိဆုံးနှင့်အထွတ်မြတ်ဆုံးဖြစ်ကြောင်း ယုံကြည်လက်ခံရခြင်းဖြစ်သည်။ သို့နှင့်ပင် ထိုအပိုင်းသည် အလ္လာဟ်အရှင်၏ကြီးကျယ်ထွတ်ခေါင်မှုနှင့်သက်ဆိုင်ရာအပိုင်းဖြစ်သည်။ လူသားသည် ထိုအဆင့်ကို ထောက်မီသိရှိနိုင်ခြင်းမရှိပါ။ ဤအတွက်ကြောင့်ပင် တမန်တော်မြတ်ﷺက–

لا أحصي ثناء عليك أنت كما أثنيت على نفسك ۔ (၂)

'ကိုယ်တော်အရှင်က မိမိကိုယ်ကို ချီးမွမ်းထောမနာသကဲ့သို့၊ ကျွန်တော်မျိုး ကိုယ်တော့်အား အပြည့်အစုံချီးမွမ်းနိုင်ခြင်းမရှိပါ'

တမန်တော်မြတ်ﷺက ဤသို့လျှောက်ထားရာတွင် 'ကျွန်တော်မျိုးသည် မိမိသိထားသည့်အတိုင်း ထုတ်ဖော်ပြောကြားနိုင်စွမ်းမရှိပါ'ဆိုသည့်အဓိပ္ပါယ်မဟုတ်ပေ။ တမန်တော်မြတ်ﷺက အလ္လာဟ်အရှင်၏ဂုဏ်သိန်ကြီးမားမှု၏မူလဇစ်မြစ်ကို သိရန်မစွမ်းကြောင်း ဝန်ခံခဲ့ခြင်းသာဖြစ်သည်။ သို့အတွက်ပင် အာရစ်ဖ်သူတော်ကောင်းတစ်ပါးက

**အမိန့်ရှိသည်မှာ** 'အလ္လာဟ်အရှင့်ကို အရင်းအမြစ်မှစ၍ သိကျွမ်းသူဟူ၍ အလ္လာဟ်အရှင်မှတပါး မည်သူမျှမရှိပါ။' **ထို့ပြင် အဗူဗကရ်ဆွစ်ဒီက်**ﷺသခင်ကလည်း 'ချီးမွမ်းခြင်းဟူသမျှသည် အလ္လာဟ်အရှင်အဖို့သာ။ အလ္လာဟ်အရှင်သည် အရှင့်ကို မအ်ရိဖတ်ဖြင့် သိရန်မစွမ်းနိုင်ပါဟူသောမြွက်ဟမှုမှတဆင့် လူသားများအား မအ်ရိဖတ်အသိထူး၏လမ်းကိုပြသတော်မူသည်'ဟု ဆိုမိန့်ခဲ့၏။

ယခု ကျွန်ုပ်တို့ ကလောင်ကို ဇက်သတ်ပြီး မူလဦးတည်ချက်ဘက်သို့ ပြန်လှည့်ကြစို့။

ပြောဆိုနေသောအကြောင်းအရာမှာ ဖုံးကွယ်မှုအမျိုးမျိုးအနက်မှ တစ်မျိုးသည် လူသားတို့ ဉာဏ်မမှီနိုင်သောကြောင့် ဖုံးကွယ်ထားရသောအရာများဖြစ်သည်။ ထိုအမျိုးအစားထဲတွင် ရှုဟ်ဝိဉာဉ်နှင့် အလ္လာဟ်အရှင်၏အချို့သော ဂုဏ်တော်များ ပါဝင်သည်။ ဤအကြောင်းအရာမျိုးကို ရည်ညွှန်းဟန်ရှိသော တမန်တော်မြတ်ﷺ၏ မိန့်ဆိုချက်မှာ–

إن لله سبعين حجاباً من نور لو كشفها لأحرقت سبحات وجهه كل من أدركه بصره .

'အလ္လာဟ်အရှင်မြတ်တွင် နူရ်၏အကာအဆီး ခုနစ်ဆယ် ရှိတော်မူသည်။ အကယ်၍ ထိုအကာအဆီးကို ဖွင့်ဖယ်လိုက်မည်ဆိုလျှင် အရှင့်မျက်နှာတော်၏ရောင်ခြည်များက အရှင်မြတ်၏အရှူတော် ကျရောက်သောအရာအားလုံးကို လောင်ကျွမ်းပစ်လိမ့်မည်။'*

**ဒုတိယအမျိုးအစား–** ဖုံးအုပ်ထားသောကိစ္စရပ်များဖြစ်ပြီး ထိုအရာများကို ထုတ်ဖော်ပြောဆိုခြင်းမပြုရန် နဗီတမန်တော်များﷺနှင့်ဆွစ်ဒီက်သစ္စာဝါဒီများကို တားမြစ်ထားသည်။ ပင်ကိုယ်အားဖြင့် ထိုအရာများကို သိနိုင်ရန်မှာ အသိဉာဏ်က အလှမ်းမမှီသောကိစ္စမဟုတ်ပါ။ တဖန် ထိုအရာများသည် နဗီတမန်တော်များﷺနှင့် ဆွစ်ဒီက်သစ္စာဝါဒီများအတွက် ဘေးအန္တရာယ်မဖြစ်နိုင်သော်လည်း၊ ယင်းတို့ကို ထုတ်ဖော်ပြောဆိုသည့်အခါ ကြားသိရသူလူအများစုအတွက် ဘေးအန္တရာယ်ဖြစ်စေနိုင်သောကြောင့်ဖြစ်သည်။ ဤအမျိုးအစားတွင်ပါဝင်သော ဖုံးအုပ်ထားမှုတစ်ခုသည်

---

* အဗူဟုရိုင်ရဟ်ﷺ၏ ဤဆင့်ပြန်ချက်ဟဒီစ်ကို အီဗ်နေ့ဟစ်ဗာန်ﷺက ကိတာဗွလ်မအ်ဇွမ်တွင် ဖော်ပြထားသည်။ –

بين الله بين الملائكة الذين حول العرش سبعون حجاباً من نور.

(အလ္လာဟ်အရှင်နှင့်ကောင်းကင်တမန်များ၏အကြား အရှ်တော်ပတ်လည်တွင် နူရ်၏အကာအဆီး ခုနစ်ဆယ်ရှိသည်။)

ထို့ပြင် ထိုကျမ်းတွင် အနပ်စ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

قال رسول الله ﷺ لجبريل هل ترى ربك قال بيني وبينه سبعين حجاباً من نور.

(တမန်တော်မြတ်ﷺက ဂျစ်ဗ်ရီလ်ﷺသခင်အား 'သင်သည် သင်၏ရဗ်အရှင်ကို သင်မြင်ရပါသလား'ဟု မေးခဲ့ဖူးသည်။ ထိုအခါ ဂျစ်ဗ်ရီလ်ﷺသခင်က 'ကျွန်ုပ်နှင့်အလ္လာဟ်အရှင်၏အကြားတွင် နူရ်၏အကာအဆီး ခုနစ်ဆယ်ရှိသည်'ဟု ပြောပြခဲ့သည်။)

ထို့ပြင် တွစ်ဗရာနီﷺသခင်က မုအ်ဂျမ်ကဘီရ်ကျမ်း၌ ဆဟ်လ်အီဗ်နေ့စအ်ဒ်ﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

دون الله تعالى ألف حجاب من نور وظلمة .

(အလ္လာဟ်အရှင့်တွင် အလင်းနှင့်အမှောင်၏အကာအဆီး တစ်ထောင်ရှိသည်။)–ဟု ဖြစ်သည်။

ထို့ပြင် မွတ်စလင်မ်ကျမ်းတွင် အဗူမူဆာﷺသခင် ဆင့်ပြန်သောဟဒီစ်ကို ဖော်ပြထားသည်မှာ–

حجابه النور لو كشفه لأحرقت سبحات وجهه ما انتهى عليه بصره من خلقه .

(အလ္လာဟ်အရှင်၏အကာအဆီးမှာ နူရ်ဖြစ်သည်။ အကယ်၍ ထိုအကာအဆီးကို ဖွင့်ဖယ်လိုက်မည်ဆိုလျှင် မျက်နှာတော်၏ လင်းရောင်ခြည်များက အရှူတော်တစ်ဆုံးအထိ အဖန်ဆင်းခံအားလုံးကို လောင်ကျွမ်းပစ်မည်။)

အီဗ်နေ့မာဂျာကျမ်းတွင် ထိုဟဒီစ်ကို . شيء أدركه بصره (အရှူတော်ကျရောက်သည့်အရာများကို လောင်ကျွမ်းပစ်မည်) ဟု စာသားအပြောင်းအလဲဖြင့် ဖော်ပြထားသည်။

တက္ကဒီရ်၏အတွင်းရေးလျှို့ဝှက်ချက်ဖြစ်သည်။ ဤလျှို့ဝှက်ချက်ကို ထုတ်ဖော်ဖြန့်ချိခြင်းမပြုရန် သိသူများကို တားမြစ်ထားသည်။

အချို့သောအစစ်အမှန်သဘောများသည် ထုတ်ဖော်ပြောဆိုခြင်းဖြင့် အချို့လူများအတွက် ဒုက္ခအန္တရာယ်ဖြစ်စေသည်။ ဥဒါဟရဏ်အားဖြင့် နေ၏အလင်းရောင်သည် လင်းနို့များအတွက် အန္တရာယ်ဖြစ်စေသကဲ့သို့၎င်း၊ နှင်းဆီ၏ရနံ့သည် နောက်ချေးပိုးအတွက် အန္တရာယ်ဖြစ်စေသကဲ့သို့၎င်းဖြစ်သည်။ ဤအချက်ကို နားလည်ရန်မခက်လှပါ။ အကယ်၍ ကျွန်ုပ်တို့က 'ကုဖ်ရ်၊ ဖေနာ၊ ဖီဆန်မှုများနှင့်ဆိုးရွားမှုများအားလုံးသည် အလ္လာဟ်အရှင်၏အမိန့်တော်၊ ဆန္ဒတော်၊ အလိုတော်ဖြင့် ဖြစ်ရသည်'ဟု ပြောမည်ဆိုလျှင် ပြောလိုက်သည့်စကားက အမှန်ဖြစ်သည်။ သို့သော် ဤစကားသည် ကြားရသူအချို့အတွက်မူ အန္တရာယ်ဖြစ်သည်။ ဤစကားအပေါ်မှာ 'အလ္လာဟ်အရှင်သည် ကျူးလွန်ရန်လည်း အမိန့်ပေးတော်မူသည်။ ထို့နောက် ထိုအပေါ်မှာ ပြစ်ဒဏ်လည်း ခတ်တော်မူသည်'ဟု မှတ်ယူမည်ဆိုပါက၊ ဤသည်မှာ လုံးဝဉာဏ်ဝဲခြင်း၏နိမိတ်လက္ခဏာဖြစ်သည်။ ထို့ပြင် ထိုသို့ မှတ်ယူခြင်းသည် ဉာဏ်အမြော်အမြင်ရှိမှုနှင့် ဖီလာဆန့်ကျင်လျက်ရှိပြီး အဆိုးကို ကျေနပ်လက်ခံခြင်းဖြစ်သည်။ တစ်နည်းအားဖြင့် ထိုသို့မှတ်ယူခြင်းသည် တစ်နည်းတစ်ဖုံဖြင့် တရားမဲ့ခြင်းဖြစ်သည်။ အီဗိနေ့ရဝမ်ဒီနှင့် အခြားအပယ်ခံအုပ်စုများသည် အလားတူ ထင်မှတ်ယူဆချက်များဖြင့် တိမ်းချော်မှားယွင်းကုန်ကြခြင်းဖြစ်သည်။

ဤနည်းအတိုင်းပင် တက္ကဒီရ်၏လျှို့ဝှက်ချက်ကို အကယ်၍ လူသာမန်တို့အား ဖြန့်ချိပြောဆိုလိုက်မည်ဆိုပါက လူအများစုအဖို့ အလ္လာဟ်အရှင်သည် စွမ်းတော်မူခြင်းမရှိဟု ထင်မှတ်စရာဖြစ်ပေတော့မည်။ ဤသို့ဖြစ်ရခြင်းမှာ ထိုသို့သောယူဆထင်မှတ်မှုများကို ဖယ်ရှားပစ်မည့်သာဓကများကို ၎င်းတို့နားမလည်နိုင်ကြသောကြောင့်ဖြစ်သည်။

ဖုံးအုပ်ထားမှုဒုတိယအမျိုးအစားအတွက် နောက်ထပ်ဥပမာတစ်ခုမှာ အကယ်၍ တစ်စုံတစ်ဦးက ကိယာမတ်၏အချိန်ကာလကို ထုတ်ဖော်ပြောဆိုမည်၊ ကိယာမတ်သည် အနှစ်တစ်ထောင်ကြာပြီးနောက် ဆိုက်ရောက်လိမ့်မည်၊ သို့မဟုတ် နှစ်တစ်ထောင်၏အထက်၊ သို့မဟုတ် နှစ်တစ်ထောင်အောက်တွင် ဖြစ်ပွါးလိမ့်မည်ဟု ထုတ်ဖော်ပြောဆိုမည်ဆိုလျှင်၊ ထိုအကြောင်းအရာသည် နားမလည်နိုင်စရာမရှိပေ။ သို့သော် ဘေးဖြစ်မည်ကို စိုးရိမ်ရသဖြင့် လူတို့၏အကျိုးအတွက် ထိုအကြောင်းအရာကို မထုတ်ဖော်ခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်ဖြစ်မည့်အချိန်ကာလသည် ဝေးနေမည်ဆိုလျှင်၊ စိတ်သဘောထားများက အရေးယူခံရဖို့ အဝေးကြီးလိုပါသေးသည်ဟု အောက်မေ့ပြီး ကိယာမတ်ကို အလေးဂရုပြုကြတော့မည်မဟုတ်ပေ။ တဖန် ကိယာမတ်ဖြစ်မည့်အချိန်ကာလသည် နီးကပ်လျက်ရှိသည်ဆိုပြန်လျှင်လည်း လူတို့သည် အကြီးအကျယ်ကြောက်ရွံ့ပြီး ကျင့်ဆောင်တည်မှုများကို စွန့်လွှတ်ပစ်လိုက်ကြလိမ့်မည်။ ထိုအခါ ကမ္ဘာလောက ပျက်စီးရမည်။

**တတိယအမျိုးအစား**– ယင်းမှာ အကြောင်းအရာတစ်ခုသည် ပွင့်ပွင့်လင်းလင်း ထုတ်ဖော်ပြောဆိုမည်ဆိုလျှင် မုချနားလည်နိုင်သည်။ ထိုအရာသည် ဆိုးကျိုးအန္တရာယ်လည်းမရှိပေ။ သို့သော် ကြားနာရသူ၏နှလုံးသားတွင် ပိုပြီး ထိရောက်မှုရှိရန်အတွက် ထိုအရာကို ဥပစာ သင်္ကေတနည်းဖြင့် တင်စား သွယ်ဝိုက်၍ ပြောဆိုခြင်းဖြစ်သည်။ ဤနည်းဖြင့် ပြောဆိုသည့်အခါ နားထောင်သူ၏နှလုံးသားတွင် ထိုအရာအပေါ် ပို၍ လေးလေးနက်နက် သဘောထားသည့်အကျိုးရလဒ်ရှိသောကြောင့်ဖြစ်သည်။ ဥဒါဟရဏ်အားဖြင့် ပြောသူက 'ကျွန်ုပ် မည်သူမည်ဝါကို ဝက်များအား ပုလဲပုတီးဆွဲပေးနေတာ တွေ့ခဲ့ရသည်'ဟု ပြောဆိုလျှင် ဤစကားသည် မထိုက်တန်သူအား အသိပညာနှင့် ဟိကမ်မတ်များ ဖြန့်ဝေသင်ပြခြင်း၏အဓိပ္ပါယ်ကို သွယ်ဝိုက်ပြောဆိုခြင်းဖြစ်သည်။ ဤစကားကို ကြားရသူက စကားလုံးအဓိပ္ပါယ်ကို ဦးစွာ နားလည်မည်။ ထို့နောက် ရည်ညွှန်းပြောဆိုခြင်းခံရသူအား ကြည့်လိုက်သည့်အခါ ထိုသူ့ထံတွင် ပုလဲကုံးလည်းမရှိ၊ ထိုသူ့အနီးအပါးတွင် ဝက်တစ်ကောင်လည်း ရှိမနေကြောင်း လက်တွေ့သိရမည်။ ထိုအခါတွင်မှ စကား

၏အတွင်းကြောင်း အနက်သဘောကို ရိပ်မိမည်ဖြစ်သည်။ ဤသို့ ရိပ်စားနားလည်နိုင်မှုတွင် လူတို့သည် ကွဲပြားစွာ ရှိကြသည်။ ကဗျာဆရာတစ်ဦး၏စပ်ဆိုမှုတွင် ဤအချက်ကို တွေ့နိုင်သည်။

رجلان خياط وآخر حائك　　متقابلان على السماك الأعزل

لا زال ينسج ذاك خرقة مدبر　　ويخيط صاحبه ثياب المقبل

- - - - - - - - - - -　　- - - - - - - - - - -

ဤကဗျာတွင် ကဗျာဆရာက တိုးခြင်း၊ ဆုတ်ခြင်းနှင့်သက်ဆိုင်သည့် မိုးကောင်းကင်အကြောင်းခံမှုကို စက်ချုပ်သမားနှင့်ယက္ကန်းသမားဆိုသည့် အတတ်ပညာရှင်နှစ်ဦးဖြင့် တင်စားဖော်ပြထားသည်။ ဤတင်စားမှုအမျိုးအစားသည် အကြောင်းအရာကို ဖော်ပြရာ၌ ဖော်ပြလိုသောအကြောင်းအရာကို တွေ့ရှိနိုင်သည့်အသွင်သဏ္ဍာန်၊ သို့မဟုတ် အလားသဏ္ဍာန်တူဆင်မှုကို ပြဆိုခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သော ဤအမျိုးအစား မိန့်ဆိုမှုတစ်ခုမှာ-　　إن المسجد لينزوي من النخامة كما تنزوي الجلدة على النار.

'ဗလီထဲတွင် နှပ်ညှစ်ခြင်းဖြင့် ဗလီသည် သားရေကို မီးမြှိုက်သည့်အခါ ရှုံ့သလို ရှုံ့တွလေသည်။'*

နှပ်ညှစ်လိုက်သဖြင့် ဗလီ၏မျက်နှာပြင် ရှုံ့မဲ့သွားသည်ကို အသင်တွေ့မြင်ရမည်မဟုတ်ပေ။ သို့ဖြစ်ရာ တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သော အဓိပ္ပါယ်မှာ 'ဗလီ၏ဝိဉာဉ်သည် အရှိအသေပေးရမည့်အရာဖြစ်သည်၊ ဗလီထဲတွင် နှပ်ညှစ်ခြင်းသည် ဗလီကို သေးသိမ်အောင်ပြုခြင်းဖြစ်သည်။ သားရေ၏အစိတ်အပိုင်းသည် မီးနှင့် ဆန့်ကျင်ဘက်ဖြစ်သကဲ့သို့ ဗလီထဲတွင် နှပ်ညှစ်ခြင်းသည် ဗလီ၏ဂုဏ်ပုဒ်နှင့် ဆန့်ကျင်သောအပြုအမူဖြစ်သည်။' ဤနည်းအလား တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-

أما يخشى الذي يرفع رأسه قبل الإمام أن يحول رأسه رأس حمار. (ခ.မ)

'အီမာမ်ထက် စောပြီး ဦးခေါင်းကြွသူသည် သူ၏ဦးခေါင်း မြည်း၏ဦးခေါင်းအဖြစ်သို့ ပြောင်းသွားမည်ကို မကြောက်သလော။'

ဤဟဒီစ်တွင် ဖော်ပြထားသကဲ့သို့ ရုပ်သဏ္ဍာန်ပြောင်းသွားခြင်းမျိုး ဘယ်တုန်းကမှ မဖြစ်ခဲ့ဖူးပေ။ နောင်လည်း ဘယ်တော့မှ ဖြစ်လိမ့်မည်မဟုတ်ပါ။ သို့သော် အနက်အဓိပ္ပါယ်အရ ထိုအတိုင်းဖြစ်နေခြင်းဖြစ်သည်။ သည်မှာ ထိုသူ၏ဦးခေါင်းသည် မြည်း၏ဦးခေါင်း တကယ်ဖြစ်မသွားပါ။ အမှန်မှာ ဉာဏ်တုံးခြင်း အသိဉာဏ်မဲ့ခြင်းဟူသော မြည်း၏အချင်းလက္ခဏာများသာ သူ့တွင် ပေါ်လာခြင်းဖြစ်သည်။ အကြင်သူသည် မိမိ၏ဦး ကို အီမာမ်ထက်စောပြီး ကြွခဲ့မည်ဆိုပါက သူ၏ဦးခေါင်းသည် ဉာဏ်တုံးခြင်း၊ အသိဉာဏ်ကင်းမဲ့ခြင်းကို ဥ သော မြည်း၏ဦးခေါင်းဖြစ်သွားလိမ့်မည်။ တမန်တော်မြတ်ﷺက ဤအတိုင်း ရည်ရွယ်မိန့်ဆိုခဲ့ခြင်းသာဖြစ် စာသားအဓိပ္ပါယ်ဖြစ်သော ရုပ်ဆင်းသဏ္ဍာန်ပြောင်းလဲမှုကို ရည်ရွယ်မိန့်ဆိုခဲ့ခြင်း မဟုတ်ပေ။ အီမာမ်၏နေ အနှောင့်အတားခံပါမည်ဟုလည်း ဆိုသေးသည်။ လက်တွေ့တွင် အီမာမ်၏ရှေ့က ကျူးနေသည်။ ဤနှစ်ခုသည် ကျင်ဘက် လုပ်ရပ်နှစ်ခုဖြစ်ပြီး လုံးဝအသိဉာဏ်ကင်းမဲ့မှုမှ ပေါ်ထွက်ခြင်းဖြစ်သည်။

စကားလုံး၏ပေါ်လွင်သောအဓိပ္ပါယ်နှင့် ဆန့်ကျင်ကွဲလွဲပြီး၊ အတွင်းအဓိပ္ပါယ်ကို သိရာ၌ သဘာဝယု သိရခြင်းနှင့် တရားတော်လာ အထောက်အထားအရ သိရခြင်းဟူ၍ နှစ်မျိုးရှိသည်။ သဘာဝယုတ္တိအရ သိရ စကားလုံး၏အဓိပ္ပါယ်အရင်းအတိုင်း ဖြစ်နိုင်ခြင်းမရှိသောကိစ္စမှာဖြစ်သည်။ ဥပမာအားဖြင့် တမန်တော်မြတ်

* အီရာကီသခင်က 'ကျွန်ုပ် ဤဟဒီစ်၏ရင်းမြစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။

ဆိုမှု– قلب المؤمن بين أصبعين من أصابع الرحمن. (م)

'အီမာန်ရှင်၏နှလုံးသားသည် အလ္လာဟ်အရှင်၏လက်ချောင်းများအနက်မှ လက်နှစ်ချောင်း၏ကြား တွင် ရှိနေပေသည်။'

ကျွန်ုပ်တို့သည် အီမာန်ရှင်တို့၏နှလုံးသားများအတွင်း ရှာဖွေကြည့်ရှုမည်ဆိုလျှင် လက်ချောင်းများကို တွေ့ရမည်မဟုတ်ပါ။ သို့ဖြစ်ရာ ဤမိန့်ဆိုမှုသည် အလ္လာဟ်အရှင်၏ကုဒ်ရတ်တော်ကို ရည်ညွှန်းထားခြင်းဖြစ်ကြောင်း သိရသည်။ 'လက်ချောင်းများ'ဟု တင်စားမိန့်ဆိုခြင်း၏အတွင်းအဓိပ္ပါယ်နှင့် ဖုံးအုပ်ထားသောဝိဉာဉ်သည် အလ္လာဟ်အရှင်၏ကုဒ်ရတ်အစွမ်းတော်ဖြစ်သည်။ ကုဒ်ရတ်ကို လက်ချောင်းများဟု ဥပစာတင်စားလိုက်ခြင်းဖြင့် စိတ်သဘောများက အဆုံးစွန်အောင် နားလည်နိုင်ကြသောကြောင့်ဖြစ်သည်။ ကုဒ်ရတ်ကို တင်စားမိန့်ကြားသော အလ္လာဟ်အရှင်မိန့်ခွန်းတော်မှာ– ﴿إِنَّمَا قَوْلُنَا لِشَيْءٍ إِذَا أَرَدْنَاهُ أَن نَّقُولَ لَهُ كُن فَيَكُونُ﴾

**'တစ်စုံတစ်ရာကို ငါအရှင်က ဆန္ဒပြုသည့်အခါ ထိုအရာအတွက် ငါအရှင်၏ပြောဆိုမှုသည် 'ဖြစ်လော့'ဟူ၍မျှသာဖြစ်သည်။ ထိုအခါ ထိုအရာသည် ဖြစ်လာရ၏။'** (စူရာနဟ်လ် ၊ ၄၀)

ဤအာယတ်တွင် မိန့်ခွန်းတော်၏စကားလုံးအဓိပ္ပါယ်သည် ဖြစ်နိုင်ခြင်းမရှိပေ။ လက်တွေ့ မဖြစ်ရှိသေးသောအရာတစ်ခုကို ဦးတည်ပြီး (كُنْ -**ဖြစ်လော့**)ဟု မိန့်ကြားတော်မူခြင်းသည် ယုတ္တိမတန်ချေ။ မရှိသေးသောအရာတစ်ခုက မိမိကို ဦးတည်မိန့်ကြားသည်ကို သိနားလည်မည် မဟုတ်ပေ။ တည်ရှိလာပြီဆိုလျှင်တော့ နားလည်မည်ဖြစ်သည်။ တဖန် အရာဝတ္ထုတစ်ခုသည် လက်တွေ့တည်ရှိနေပြီဆိုလျှင် ထိုအရာကို ဖြစ်ပေါ်အောင် ဖန်ဆင်းရန်လည်း မလိုပြန်ပေ။ သို့ရာတွင် ယခုလိုတင်စားပြောဆိုခြင်းသည် စိတ်သဘောများက သဘောပေါက်နားလည်ရာတွင် အလွန်ပင်ထိရောက်မှုရှိလေသည်။ သို့ဖြစ်သောကြောင့် တင်စားမှုအဖြစ် ပြောင်းလဲမိန့်တော်မူခြင်းဖြစ်သည်။

အတွင်းအဓိပ္ပါယ်ကို တရားတော်လာအထောက်အထားအရ သိရန်မှာ စာသားဖော်ပြချက်အတိုင်း ဖြစ်နိုင်ခြင်းတော့ရှိသည်။ သို့ရာတွင် ရှရီအတ်တရားတော်တွင် ဖော်ပြထားသည်က စာသားအဓိပ္ပါယ်၏အပြင် အခြားအရာကို ဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်–

﴿أَنزَلَ مِنَ السَّمَاءِ مَاءً فَسَالَتْ أَوْدِيَةٌ بِقَدَرِهَا فَاحْتَمَلَ السَّيْلُ زَبَدًا رَّابِيًا﴾

**'ထိုအရှင်သည် မိုးကောင်းကင်မှ ရေကို ချပေးတော်မူသည်။ ထိုအခါ ချိုင့်ဝှမ်းများသည် မိမိတို့၏ဝင်ဆံ့မှုအလျောက် စီးဆင်းကြသည်။ တဖန် ရေစီးကြောင်းက ပေါလောပေါ်နေသောအမြှုတ်ကို သယ်ဆောင်သွားလေသည်။'** (စူရာရအ်ဒ် ၊ ၁၇)

အာယတ်၏တဖ်စီရ်တွင် ဖော်ပြထားသကဲ့သို့ဖြစ်သည်။ အာယတ်တွင် ဖော်ပြထားသော '**ရေ**'သည် ကုရ်အာန်ကျမ်းမြတ်ကို ရည်ညွှန်းခြင်းဖြစ်သည်။ '**ချိုင့်ဝှမ်းများ**'သည် နှလုံးသားများကို ရည်ညွှန်းခြင်းဖြစ်သည်။ အချို့ချိုင့်ဝှမ်းများသည် ရေများစွာဝင်ဆန့်သည်။ အချို့ချိုင့်ဝှမ်းများသည် ရေအနည်းငယ်သာ ဆန့်သည်။ အချို့ချိုင့်ဝှမ်းများသည် ရေကို ထိမ်းထားနိုင်ခြင်းပင်မရှိပေ။ '**အမြှုတ်**'သည် ကုဖ်ရ်နှင့်နိဖါက်ကို ရည်ညွှန်းခြင်းဖြစ်သည်။ ထို'**အမြှုတ်**'သည် ရေမျက်နှာပြင်ပေါ်တွင် ပေါလောပေါ်နေသော်လည်း တည်မြဲသည့်အရာကား မဟုတ်ပေ။ လူသားအတွက် အကျိုးဖြစ်ထွန်းစေသည့် ဟိဒါယတ်တရားလမ်းမှန်ကသာ တည်တံ့ခိုင်မြဲသည့်အရာဖြစ်သည်။

ဤအမျိုးအစား တင်စားမိန့်ဆိုမှုကို အုပ်စုတစ်ခုက နက်နက်နဲနဲနှိုက်ချွတ်ကြသည်။ ၎င်းတို့က အာခိရတ်ရေးနှင့်ပတ်သက်လာရှိဖော်ပြသည့် မီဇာန်ချိန်ခွင်၊ ဆွေရာတ်တံတား အစရှိသည်တို့အား လိုရာဆွဲ၍ကြံဆကောက်ယူကြလေသည်။ သို့နှင့်အမျှ ဤနည်းဖြင့် အဓိပ္ပါယ်အပြောင်းအလဲပြုခြင်းသည် ဗိဒအတ်ပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့ကြံဆကောက်ယူသော အဓိပ္ပါယ်များသည် တရားဝင်ဆင့်ပြန်မှုနည်းလမ်းဖြင့် မလာရှိသောကြောင့်

ဖြစ်သည်။ ၎င်းတို့ကြဲ့ဆကောက်ယူကြသော စကားလုံးအဓိပ္ပါယ်များသည် စကားလုံးအရှိအတိုင်းဖြင့်လည်း မဖြစ်နိုင်သောအရာဖြစ်မသွားပေ။ သို့ဖြစ်ရာ ထိုအဓိပ္ပါယ်ရင်းအတိုင်း ဆက်လက်ရှိနေစေရန် အရေးကြီးလေသည်။

**စတုတ္ထအမျိုးအစား**– ယင်းမှာ ပထမဦးစွာ လူသားက အရာတစ်ခုကို ယေဘုယျ ခြုံငုံသိရှိထားသည်။ ထို့နောက် စိတ်အာရုံစိုက်ပြီး စူးစမ်းသုံးသပ်သည့်အခါ ထိုအရာကို အသေးစိတ်သိလာသည်။ ထိုတွင် ထိုအရာ၏ အနေအထားနှင့် သဘောသဘာဝသည် အသိတွင် စွဲမြဲသွားသည်။ သို့ဖြစ်ရာ ဤသိခြင်းနှစ်မျိုးသည် ကွဲလွဲမှုရှိနေမည်ဖြစ်သည်။ ပထမသိခြင်းသည် အခွံအကာနှင့် တူပြီး ဒုတိယသိခြင်းသည် အနှစ်အသားနှင့် တူသည်။ ထို့ပြင် ပထမသိခြင်းသည် ဗဟိဒ္ဓသဘောဖြစ်သည်။ ဒုတိယသိခြင်းသည် **အဇ္ဈတ္တ**သဘောဖြစ်သည်။ ဤသိခြင်းနှစ်မျိုးကို ဥဒါဟရဏ်ဆောင်ရလျှင် လူတစ်ယောက်၏ မျက်စိက အမှောင်ထဲတွင်၊ သို့မဟုတ် အဝေး၌ ပုဂ္ဂိုလ်တစ်ဦးကို မြင်ရသည်။ ထိုအခါ သူ့တွင် အသိတစ်မျိုးရရှိသည်။ ထို့နောက် ထိုပုဂ္ဂိုလ်ကို အနီးကပ်မြင်ရသည့်အခါ၊ သို့မဟုတ် အမှောင်ထုကွယ်ပျောက်သည့်အခါ နောက်အသိတစ်ခု ရရှိသည်။ ထိုအသိသည် ပထမအသိနှင့် မတူဘဲ ကွဲပြားသည်။ သို့နှင့်တိုင် ထိုအသိနှစ်ခုသည် ဆန့်ကျင်ဘက်လည်း မဟုတ်ပေ။ အမှန်မှာ ဒုတိယအသိသည် ပထမအသိကို ပြည့်စုံအောင် ဖြည့်စွက်ပေးခြင်းသာဖြစ်သည်။ သို့ဖြစ်ရာ အသိပညာ၊ **အီမာန်**၊ အမှန်အား သိရှိလက်ခံခြင်း–တို့ကိုလည်း ဤနည်းအတိုင်းပင် မှတ်ယူရမည်။

လူသားသည် ချစ်ခင်တွယ်တာခြင်း၊ ရောဂါဝေဒနာခံစားရခြင်းနှင့်သေဆုံးခြင်းများကို ထိုအရာများနှင့် မကြုံရခင်ကတည်းက သိရှိလက်ခံထားပြီးဖြစ်သည်။ သို့နှင့်တိုင် ထိုအရာများ ဖြစ်ပေါ်ကြုံတွေ့ရသည့်အခါမှသာ၊ မဖြစ်ခင်ကထက်ပို၍ သေချာအပ်ချ သိရှိခြင်းဖြစ်သည်။ စင်စစ်တွင် လူသား၏ အခြေအနေသည် အလိုဆန္ဒ၊ ချစ်ခင်မြတ်နိုးမှုနှင့် အခြေအနေအရပ်ရပ်တွင် သုံးမျိုးကွဲပြားသည်။ ထိုအခြေအနေတစ်ရပ်တိုင်းတွင် သိမှုသည် တစ်မျိုးစီဖြစ်သည်။ ပထမအဆင့်သည် အရာတစ်ခုကို မဖြစ်ပေါ်မီကတည်းက ရှိနေကြောင်း လက်ခံခြင်းဖြစ်သည်။ ဒုတိယအဆင့်သည် ဖြစ်ပေါ်သည့် အချိန်တွင် အမှန်တကယ်ရှိသည်ဟု လက်ခံခြင်းဖြစ်သည်။ ထို့နောက် ကျော်လွန်ဖြတ်သန်းပြီးနောက်မှာ အမှန်ရှိကြောင်း လက်ခံခြင်းဖြစ်သည်။ ဥပမာ အသင် ဆာလောင်နေချိန် ဆာလောင်မှုကို သိသည့်အသိနှင့် ဆာလောင်ခြင်း မရှိတော့သည့်အချိန်မှာ ဆာလောင်မှုကို သိသည့်အသိတို့ မတူပါ၊ ကွဲပြားပါသည်။ သာသနာ့ပညာရပ်များကိုလည်း ဤနည်းအလားတူ မှတ်ယူရမည်။ အချို့ပညာရပ်များသည် လူသားက စိတ်ဝင်တစားရှိသည့်အခါ ပြည့်ဝစုံလင်မှုရရှိသည်။ ယင်းသည် ပထမအဆင့်သိမှုနှင့် နှိုင်းယှဉ်လျှင် အတွင်းသဘောဆောင်သည်။ မကျန်းမမာဖြစ်ခဲ့ရာမှ ကျန်းမာလာသူနှင့် နကိုက ကျန်းကျန်းမာမာရှိနေသူ နှစ်ဦးတို့ ကျန်းမာခြင်းအပေါ် သိကြသည့်အသိများသည် အလွန်ပင် ကွဲပြားခြားနားပေသည်။

ယခုဖော်ပြခဲ့သည့် အမျိုးအစား လေးမျိုးအပေါ် လူတို့၏အသိသည် ကွာခြားမှုများရှိသည်။

**ပဥ္စမအမျိုးအစား**– ယင်းမှာ ဖြစ်ရပ်အခြေအနေမှ ထွက်ပေါ်လျက်ရှိသောအညွှန်းအမြွက်စကားကို နှုတ်ထွက်စကားအဖြစ်ဖော်ပြခြင်းဖြစ်သည်။ ဉာဏ်နံ့နဲ့သူတို့သည် ထိုအညွှန်းအမြွက်ကို စကားအဖြစ် ဖော်ပြသည့်အပေါ် အတည်ယူပြီး တကယ့်နှုတ်ထွက်စကားအဖြစ် စွဲယူလေသည်။ ထိုးထွင်းသိမြင်သော ဉာဏ်စက္ခုရှိသူကမူ ဖြစ်ရပ်အခြေအနေကပေါ်ထွက်သော ထိုအတွင်းသဘောကို သိရှိသည်။ တစ်စုံတစ်ယောက်၏ ပြောဆိုမှုကို ဥပမာအဖြစ်တင်ပြရသော်–

'တံတိုင်းက သပ်ချောင်းအား 'အသင် ငါ့ကို ဘာကြောင့် ထိုးခွဲနေရသလဲ'ဟု မေးခဲ့သည်။ ထိုအခါ သပ်က အဖြေပေးသည်မှာ 'ကျွန်ုပ်ကို ထုနှက်နေသူထံ မေးပါ။ ကျောက်တုံးက ကျွန်ုပ်၏ခေါင်းကို ထုနှက်သည့်အခါ မထိုးဘဲမနေနိုင်ပါ'ဟု ဖြစ်သည်။ ဤသည်မှာ ဖြစ်ရပ်အခြေအနေမှ ထွက်ပေါ်သော အညွှန်းအမြွက်စကားကို နှုတ်ထွက်စကားအဖြစ်ဖော်ပြခြင်း၏ ဥပမာဖြစ်သည်။ ဤအမျိုးအစားထဲမှ အလ္လာဟ်အရှင်၏ မိန့်ခွန်းတော်တစ်ခုသည်–

﴿ثُمَّ اسْتَوَىٰ إِلَى السَّمَاءِ وَهِيَ دُخَانٌ فَقَالَ لَهَا وَلِلْأَرْضِ ائْتِيَا طَوْعًا أَوْ كَرْهًا قَالَتَا أَتَيْنَا طَائِعِينَ﴾

**'ထို့နောက် ၎င်းအရှင်သည် ထိုအချိန်က အခိုးအငွေ့အဖြစ်သာ ရှိနေသေးသော မိုးကောင်းကင်သို့ တူရူပြုတော်မူ၏။ ထို့နောက် ထိုမိုးနှင့် မြေပထဝီအား 'ကျေနပ်သည်ဖြစ်စေ မကျေနပ်သည်ဖြစ်စေ လာရောက်ကြကုန်'ဟု မိန့်ကြားတော်မူခဲ့သည်။ မိုးနှင့်မြေက 'ကျွန်တော်မျိုးတို့ ကျေနပ်စွာလာရောက်ကြပါပြီ'ဟု ပြောဆိုခဲ့ကြ၏။'**

(စူရာဟာမီမ်စဂ်ျဒဟ်၊ ၁၁)

ဤအာယတ်ကို အသိဉာဏ်နှံ့နဲ့သူက– 'မိုးနှင့်မြေတွင် အသက်ရှိသည်၊ အသိဉာဏ်လည်းရှိသည်၊ ပြောစကားကို နားလည်သည်၊ ထို့ပြင် အသံ၊ စကားများတို့ဖြင့် ပြောဆိုသောစကားကို မိုးနှင့်မြေက ကြားရပြီး အသံ၊ စကားများဖြင့်– '﴿أَتَيْنَا طَائِعِينَ﴾–**'ကျွန်တော်မျိုးတို့ ကျေနပ်စွာ လာရောက်ကြပါပြီ'**ဟု အဖြေပေးခဲ့သည်'ဟု သဘောပေါက်လိမ့်မည်။ ဉာဏ်အမြော်အမြင်ရှိသူကမူ ယင်းသည် 'အညွှန်းအမြွက်စကား'ဖြစ်ကြောင်း သိရှိသည်။ သို့ဖြစ်ရာ ထိုစကားရပ်ဖြင့် မိုးနှင့်မြေသည် အလ္လာဟ်အရှင်၏ ချယ်လှယ်အမိန့်ပေးမှုကို နာခံနေကြရသော အရာနှစ်ခုဖြစ်ကြောင်း၊ အရှင်မြတ်၏ ချယ်လှယ်မှုနောက် မလွဲမသွေ လိုက်ပါနေကြရကြောင်း ဖော်ပြလိုရင်းဖြစ်သည်ဟု ၎င်းက နားလည်သည်။ ဤအမျိုးအစားထဲမှ အလ္လာဟ်အရှင်၏ မိန့်ခွန်းတော်တစ်ခုသည်–

﴿وَإِن مِّن شَيْءٍ إِلَّا يُسَبِّحُ بِحَمْدِهِ﴾

**'ထိုအရှင်သည် ပြစ်ဆာအပေါင်းမှ ကင်းရှင်းစင်ကြယ်ကြောင်း ချီးမွမ်းထောပနာ မပြုသောအရာဟူ၍ လုံး၀ မရှိပေ။'**

(စူရာဗနီအိစ္စရာအီလ်၊ ၄၄)

ဤမိန့်ခွန်းတော်ကို တွေ့ရသည့်အခါ ဉာဏ်နည်းသူက 'ရုပ်ဝတ္ထုအစိုင်အခဲများတွင် အသက်ရှိသည်၊ အသိဉာဏ်ရှိသည်၊ အသံထွက်၍ **စကားလုံးများဖြင့် ပြောဆိုခြင်းပြုသည်၊ ၎င်းတို့က** အလ္လာဟ်အရှင့်ကို စင်ကြယ်တော်မူကြောင်း **ချီးမွမ်းထောပနာပြုနေသည် ဆိုရာတွင် အမှန်တကယ် 'سبحان الله' မြွက်ဟခြင်းဖြစ်သည်ဟု မှတ်ယူမည်ဖြစ်သည်။** ဉာဏ်အမြော်အမြင်ရှိသူကမူ ယင်းသည် **နှုတ်လျှာဖြင့်** တက်စ်ဗီဟ်စီးဖြန်းသည်ကို ဆိုလိုခြင်းမဟုတ်ကြောင်း သိနားလည်သည်။

وفي كل شيء له آية　　　تدل على أنه الواحد

*အရာအားလုံး၌ ထိုအရှင့်အတွက် သက်သေလက္ခဏာများ ရှိနေပေသည်။*

*၎င်းတို့က ထိုအရှင် တစ်ပါးတည်းရှိတော်မူကြောင်း ညွှန်ပြလျက်ရှိသည်။*

အရာတစ်ခုက ၎င်းအား ဖန်တီးပြုလုပ်သောအရှင်၏ အစီအမံကောင်းမွန်မှုနှင့် အသိပညာပြည့်ဝမှုကို သက်သေခံနေသည် ဆိုရာတွင် ၎င်းက နှုတ်ဖြင့် 'ကျွန်ုပ်သက်သေခံပါသည်'ဟု ပြောဆိုသည့် အဓိပ္ပါယ်မဟုတ်ပေ။ အမှန်မှာ မိမိ၏ ပကတိတည်ရှိမှုကိုယ်တိုင်က ဝန်ခံမြွက်ဟနေသည် ဆိုသည့် အလိုသဘောသာဖြစ်သည်။ ဤနည်းအတူ ရှိရှိသမျှ အရာအားလုံးသည် ၎င်းအား ဖြစ်တည်လာအောင် တီထွင်ဖော်ထုတ်ပေးမည့် အရှင်တစ်ပါးရှိရန် လိုအပ်လေသည်။ ထိုအရှင်ကပင် ၎င်းအား ဆက်လက်တည်ရှိစေသည်။ ၎င်း၏ အရည်အချင်းဝိသေသများကို တည်တံ့စေသည်။ ၎င်း၏ လိုအပ်ချက်အပေါ်မှာ အပြောင်းအလဲများပြုလုပ်ပေးသည်။ သို့ဖြစ်ရာ ၎င်းသည် မိမိ၏ လိုအပ်ချက်ရှိမှုကို သက်သေမူ၍ မိမိအား ဖန်ဆင်းတော်မူသောအရှင်၏ ထွတ်မြတ်ကြောင်းများကို မြွက်ဟဖော်ပြလျက်ရှိသည်။ ဉာဏ်အမြင်ရှိသူက ဤအချက်ကို သိမြင်သည်။ ဗဟိဒ္ဓအသိလောက်ဖြင့် တန့်နေသူများကတော့ သိမြင်နိုင်မည်မဟုတ်ပေ။ ဤအတွက်ကြောင့်ပင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَلَٰكِن لَّا تَفْقَهُونَ تَسْبِيحَهُمْ﴾

**'သို့ရာတွင် အသင်တို့သည် ၎င်းတို့၏ စီးဖြန်းမှုကို မသိကြလေ။'** (စူရာဗနီအိစ္စရာအီလ်၊ ၄၄)

ဉာဏ်နည်းသူများကား ထိုတက်စ်ဗီဟ်ရွှတ်ဖတ်စီးဖြန်းမှုကို လုံးဝမသိကြပေ။ အလ္လာဟ်အရှင့်ထံ နီးကပ်မှုရရှိကြသော ပုဂ္ဂိုလ်များနှင့် ရင့်ကျက်သောပညာရှင်များကား မိမိတို့၏ဉာဏ်အမြင်အလျောက် သိနားလည်ကြသည်။ သို့နှင့်တိုင် ထိုပုဂ္ဂိုလ်တို့သည်ပင် ထိုတက်စ်ဗီဟ်ရွှတ်ဖတ်စီးဖြန်းမှု၏သဘောသဘာဝနှင့် ပြည့်ဝစုံလင်မှုကိုမူ မသိကြပေ။ အရာဝတ္ထုအားလုံးတို့တွင် အလ္လာဟ်အရှင်၏ထွတ်မြတ်မှုနှင့်ပြစ်ဆာကင်းစင်မှုအပေါ် သက်သေခံချက်များ မြောက်မြားစွာ ရှိနေပေသည်။ ထိုသက်သေခံချက်များကို ရေတွက်ဖော်ပြရန်မှာ ယခုရေးသားနေသည့် မုအာမိလတ်ပညာနှင့် မအပ်စပ်လှပေ။

ဖြစ်ရပ်အခြေအနေက ညွှန်ပြသော အညွှန်းအမြွက်စကားကို နှုတ်ထွက်စကားအသွင် ဖော်ပြမှုအပေါ် အနက်အဓိပ္ပါယ်ကောက်ယူမှုအတတ်တွင်လည်း ဗဟိဒ္ဓပညာရှင်များနှင့် ထိုးထွင်းရှုမြင်သောပညာရှင်များအကြား ကွဲလွဲမှုများရှိပေသည်။ ထိုကွဲလွဲမှုများကို ကြည့်ခြင်းဖြင့် ဗဟိဒ္ဓနှင့်အဇ္ဈတ္တသည် သီးခြားဖြစ်ကြောင်း ထင်ရှားလေသည်။ ဤကွဲ ပြဲမှုတွင် အချို့ပုဂ္ဂိုလ်တို့က အလယ်အလတ်လမ်းကို ရွေးချယ်ကျင့်သုံးကြသည်။ အချို့ပုဂ္ဂိုလ်တို့ကမူ တရားတော်လာ စကားလုံးများအားလုံးကို ဗဟိဒ္ဓအဓိပ္ပါယ်ဖြင့် စိတ်ကြိုက်ကောက်ယူခဲ့ကြသည်။ အာခိရတ်တွင် ကြုံတွေ့ရမည့် အရေးကိစ္စများကို အညွှန်းအမြွက်စကားများအဖြစ် ကောက်ယူကြသည်အထိ လွန်ကဲခဲ့ကြသည်။ ဥပမာ အလ္လာဟ်အရှင်၏မိန့်ခွန်းတော်— ﴿وَتُكَلِّمُنَا أَيۡدِيهِمۡ وَتَشۡهَدُ أَرۡجُلُهُم بِمَا كَانُوا۟ يَكۡسِبُونَ﴾

**'ထိုအခါ ၎င်းတို့၏လက်များက ငါအရှင်နှင့် စကားပြောကြလိမ့်မည်။ ထို့ပြင် ၎င်းတို့၏ခြေထောက်များက မိမိတို့လုပ်ကိုင်ခဲ့သည်များကို မြွက်ဟသက်သေခံကြမည်။'** (စူရာယာစီန် ၊ ၆၅)

တဖန် အလ္လာဟ်အရှင် မိန့်ခွန်းတော်—

﴿وَقَالُوا لِجُلُودِهِمۡ لِمَ شَهِدتُّمۡ عَلَيۡنَا قَالُوٓا أَنطَقَنَا ٱللَّهُ ٱلَّذِيٓ أَنطَقَ كُلَّ شَيۡءٖ﴾

**'ထိုအခါ ၎င်းတို့က မိမိတို့၏အရေပြားများကို 'အသင်တို့ အဘယ်ကြောင့် ငါတို့နှင့်ဆန့်ကျင်၍ သက်သေခံနည်း'ဟု မေးမြန်းပြောဆိုကြမည်။ အရေပြားများက ပြန်ပြောမည်မှာ 'ကျွန်ုပ်တို့အား အလ္လာဟ်အရှင်က စကားဆိုစေသည်။ ထိုအရှင်သည် အရာအားလုံးကို စကားဆိုစေတော်မူသောအရှင်ဖြစ်သည်။'**

(စူရာဟာမီမ်စဂျ်ဒတ် ၊ ၂၁)

ဤအာယတ်များတွင် ခြေများ၊ လက်များ၊ အရေပြားများက စကားပြောမည်ဆိုခြင်းမှာ အသံ စကားလုံးများဖြင့် ပြောဆိုခြင်းမျိုးမဟုတ်ဘဲ အထက်မှဖော်ပြခဲ့သည့် ဖြစ်ရပ်အခြေအနေမှထွက်ပေါ်သော အညွှန်းအမြွက်စကားမျိုးသာဖြစ်သည်ဟု ၎င်းတို့က ကောက်ယူကြသည်။ ထို့ပြင် သင်္ချိုင်းတွင် မွန်ကရ်နကီန် ကောင်းကင်တမန်နှစ်ပါးနှင့် အပြန်အလှန်ပြောရမည့်စကားများ၊ ဓမ္မချိန်ခွင်တော်၊ ဆွေရတ်တံတား၊ စာရင်းစစ်ဆေးခြင်း–စသည်တို့ကိုလည်း အလားတူကောက်ယူကြသည်။ ဤနည်းအလားတူ ဂျဟန္နမ်သားများက ဂျန္နတ်သားများသို့–

﴿أَفِيضُوا۟ عَلَيۡنَا مِنَ ٱلۡمَآءِ أَوۡ مِمَّا رَزَقَكُمُ ٱللَّهُ﴾

**'ငါတို့အား ရေအနည်းငယ်လောက်ဖြစ်စေ၊ သို့မဟုတ် အသင်တို့အား အလ္လာဟ်အရှင် ပေးထားသော စားနပ်ရိက္ခာထဲမှ တစ်ခုခုကိုဖြစ်စေ ချပေးကြပါ။'** (စူရာအအ်ရာဖ် ၊ ၅၀)

ဟု ပြောမည်ဆိုသည့်စကားမှာလည်း တကယ့်နှုတ်လျာဖြင့် ပြောဆိုသောစကားမဟုတ်ဘဲ ဖြစ်ရပ်အခြေအနေမှ ပေါ်ထွက်သော အညွှန်းအမြွက်စကားသာဖြစ်သည်ဟု ကောက်ယူကြသည်။

အချို့ပုဂ္ဂိုလ်တို့က ကြံဆကောက်ယူခြင်းဆိုသည်ကိုပင် လုံးဝလျစ်လျူရှုလိုက်ကြသည်။ ထိုအထဲတွင် အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ﷺသခင် ပါဝင်သည်။ အိမာမ်အဟ်မဒ်အီဗ်နေ့ဟန်ဘလ်ﷺသခင်က အလ္လာဟ်အရှင်၏မိန့်

ကြားတော်မူသည့်–

﴿كُنْ فَيَكُونُ﴾

**'အလ္လာဟ်အရှင်က 'ဖြစ်လော့'ဟု မိန့်တော်မူသောအခါ ထိုအရာသည် ဖြစ်လာရ၏။'**(စူရာနဟ်လ် ၊ ၄၀)

ကို ကြံဆကောက်ယူခြင်းမပြုရန်အထိ တားမြစ်ခဲ့သည်။ သခင်က– 'ဤမိန့်ကြားမှုသည် အလ္လာဟ်အရှင်ဘက်တော်မှ စကားလုံး အသံများဖြင့် ပေါ်ထွက်ခဲ့ခြင်းဖြစ်သည်။ ထိုသို့ပေါ်ထွက်ခဲ့သည့်အရေအတွက်မှာ ဖြစ်ပေါ်တည်ရှိမည့် အရာအားလုံး၏အရေအတွက်နှင့်အညီဖြစ်သည်'ဟု ပြောဆိုခဲ့၏။ ထို့ပြင် သခင်၏တပည့်များသည် အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ်ᴿသခင်က 'သုံးနေရာမှလွဲ၍ အခြားဘယ်နေရာတွင်မှ ကြံဆကောက်ယူခွင့်မရှိ'ဟု ပြောဆိုသည်ကို ကြားခဲ့ရသည်။ ထိုသုံးနေရာမှာ တမန်တော်မြတ်ﷺမိန့်ဆိုမှု–

الحجر الأسود بيمين الله في أرضه . (م.س)

'အပ်စွဒ်ကျောက်သည် ကမ္ဘာမြေပေါ်ရှိ အလ္လာဟ်အရှင်၏လက်ျာလက်တော်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုမှု–

قلب المؤمنين بين أصبعين من أصابع الرحمن . (١٠٠)

**'အီမာန်ရှင်၏နှလုံးသားသည် အလ္လာဟ်အရှင်၏လက်ချောင်းများအနက်မှ လက်နှစ်ချောင်းအကြား တွင် ရှိနေသည်။'**

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုမှု–

إني لأجد نفس الرحمن من جانب اليمن . (أحمد بلفظ آخر)

'ငါတမန်တော်သည် လက်ျာဘက်တွင် **ရဟ်မာန်အရှင်၏သင်းရနံ့ကို တွေ့ရှိခံစားရသည်။'**

ဤသုံးနေရာမှလွဲ၍ အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ်ᴿသခင်သည် အခြားမည်သည့်ဟဒီစ်နှင့် အာယတ်ကိုမှ ကြံဆကောက်ယူခြင်း မပြုခဲ့ပေ။ ဗဟိဒ္ဒသမားတို့သည်လည်း ကြံဆကောက်ယူခြင်းမှ ရှောင်လွှဲနိုင်ရန် အားသန်လေ့ရှိကြသည်။ အလ္လာဟ်အရှင်က အရှ်တော်တွင် 'အိစ်တိဝါ'ပြုတော်မူသည်ဟုဆိုခြင်းသည် နေထိုင်သည့်အဓိပ္ပါယ်ကို ဆိုလိုခြင်းမဟုတ်ကြောင်း၊ 'သက်ဆင်းတော်မူသည်'ဟုဆိုခြင်းသည် တည်နေရာပြောင်းရွှေ့သည့်အဓိပ္ပါယ်ကို ဆိုလိုခြင်းမဟုတ်ကြောင်း အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ်ᴿသခင် သိထားလိမ့်မည်ဟု ယူဆရသည်။ သို့သော် သခင်သည် လူတို့၏အကျိုးရှိမှုကို ထောက်ရှုပြီး ထိုအဓိပ္ပါယ်များသို့ ကြံဆကောက်ယူခြင်း မပြုရန်တားမြစ်ခဲ့သည်။ အကယ်၍ ကြံဆကောက်ယူခွင့်ကို ဖွင့်ပေးလိုက်မည်ဆိုလျှင် ထိန်းမနိုင်သိမ်းမရ ဖြစ်ကုန်မည်။ အလယ်အလတ်ကျင့်သုံးရန်ဆိုသည်မှာလည်း အလယ်အလတ်လမ်း၏ပိုင်းခြားသတ်မှတ်ချက်က အတိတကျရှိသည်မဟုတ်ပေ။ သို့ဖြစ်ရာ ကြံဆကောက်ယူမှုကို ပိတ်ပင်တားမြစ်ခြင်းဖြင့် အကျိုးမယုတ်နိုင်ပေ။ ဤအချက်ကို ရှေးသူဟောင်းတို့၏အထ္ထုပ္ပတ္တိများကလည်း ထောက်ခံလျက်ရှိသည်။ ရှေးသူဟောင်းတို့က 'ထိုကိစ္စများကို ကျရောက်လာသည့်အတိုင်း ထားရမည်'ဟု ပြောဆိုလေ့ရှိကြသည်။ အိမာမ်မာလိက်သခင်ᴿအား 'အလ္လာဟ်အရှင်သည် အရှ်တော်တွင် အိစ်တိဝါပြုတော်မူခြင်းအကြောင်း'မေးမြန်းသည့်အခါ သခင်က 'အိစ်တိဝါသည် စကားလုံးအဓိပ္ပါယ်ကိုသာ သိနိုင်သည်။ ယင်း၏ပုံပန်းသဏ္ဍာန်ကိုမူ မသိရပါ။ ယင်းကို အီမာန်ယူရန် ဝါဂျိဗ်ဖြစ်သည်။ ယင်း၏ပုံပန်းသဏ္ဍာန်ကို မေးမြန်းခြင်း ဗိဒအတ်ဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။

ကြံဆကောက်ယူခြင်းပြုသင့်မပြုသင့်ကိစ္စတွင် ပညာရှင်အုပ်စုတစ်ခုက အလယ်အလတ်လမ်းကို လိုက်ခဲ့ကြသည်။ ၎င်းတို့က အလ္လာဟ်အရှင်မြတ်၏ဝိသေသဂုဏ်တော်များနှင့်သက်ဆိုင်သမျှ အရာအားလုံးကို ကြံဆကောက်ယူခွင့်ပြုခဲ့သည်။ သို့သော် အာခိရတ်နှင့်သက်ဆိုင်ရာ ကိစ္စများအားလုံးကို စကားလုံးအဓိပ္ပါယ်အတိုင်းထားရမည်ဟု သတ်မှတ်ခဲ့ကြသည်။ ထိုကိစ္စများအပေါ် ကြံဆကောက်ယူခြင်းမပြုရန် တားမြစ်ခဲ့ကြသည်။ ဤအုပ်စုသည် တာဘိ

အိန်သခင်တစ်ပါးဖြစ်သူ အဗူလ်ဟာစံအန်အရီ သခင်နှင့် ၎င်း၏တပည့်များဖြစ်သည်။

မုအ်တဇိလာဂိုဏ်းကမူ ဤအလယ်အလတ်လမ်းမှ ကျော်လွန်ခဲ့ကြသည်။ ၎င်းတို့က အလ္လာဟ်အရှင်၏ဂုဏ်တော်များထဲမှ 'ဖူးမြင်နိုင်သောအရှင်'ဖြစ်တော်မူခြင်းကို ကြံဆကောက်ယူခဲ့ကြသည်။ ထို့ပြင် ကြားတော်မူခြင်း၊ မြင်တော်မူခြင်းတို့ကိုလည်း ကြံဆကောက်ယူခဲ့ကြသည်။ ထို့ပြင် တမန်တော်မြတ်ကြီး ﷺ ၏ မဲအ်ရာဂျ် ကောင်းကင်ခရီးကြွတော်မူခြင်းကိုလည်း ကြံဆကောက်ယူခဲ့ကြသည်။ ၎င်းတို့က တမန်တော်မြတ် ﷺ သည် မဲအ်ရာဂျ်ကောင်းကင်ခရီးကို ခန္ဓာကိုယ်ဖြင့် ကြွရောက်ခဲ့ခြင်းမဟုတ်ဟု ငြင်းဆန်ခဲ့ကြသည်။ ထို့ပြင် သင်္ချိုင်းတွင် အပြစ်ဒဏ်ခံရမည်ကိုင်း၊ ခမ္မချိန်ခွင်တော်ကိုင်း၊ ဆွေရတ်တံတားကိုင်း၊ အခြားအာခိရတ်ရေး အချင်းအရာနှင့် တရားပညတ်များအားလုံးကို ကြံဆကောက်ယူခဲ့ကြသည်။ သို့သော် ၎င်းတို့သည် ဟရှရ်ကွင်းပြင်တွင် ခန္ဓာကိုယ်ဖြင့် ပြန်လည်ရှင်ထကြရမည်ကို၎င်း၊ ဂျန္နတ်တွင် စားသောက်ဖွယ်များ၊ အမွှေးနံ့သာများ၊ ထိမ်းမြားမှုများနှင့်စည်းစိမ်အရသာများကို ကာယကံမြောက်စံစားရမည်ကိုင်း၊ ဂျဟန္နမ်တွင်လည်း ငရဲမီးက အရေပြားကို လောက်ကျွမ်းပြီး အဆီများ ပျော်ကျသည်ကို ကာယကံမြောက် ခံစားရမည်ကိုင်း လက်ခံခဲ့ကြသည်။

မုအ်တဇိလာဂိုဏ်းက အဆင့်တက်ခဲ့ကြသည်ထက် ဒဿနသမားများက ပို၍ လွန်ကဲခဲ့ကြသည်။ ၎င်းတို့က အာခိရတ်နှင့်သက်ဆိုင်သမျှ အရာအားလုံးကို ကြံဆခဲ့ကြသည်။ ၎င်းတို့က အာခိရတ်တွင် ခံစားရမည့် ဒုက္ခဝေဒနာများကို ဉာဏ်၊ ဝိဉာဉ်တို့ဖြင့် ခံစားမည်ဟုင်း၊ စည်းစိမ်အရသာများကို ဉာဏ်ဖြင့် စံစားရမည်ဟုင်း ကြံဆကောက်ယူကြသည်။ ထို့ပြင် ၎င်းဒဿနဂိုဏ်းက ဟရှရ်ကွင်းပြင်တွင် ခန္ဓာကိုယ်ဖြင့် ပြန်လည်ရှင်ထကြရမည်ကိုလည်း ငြင်းပယ်ကြလေသည်။ ၎င်းတို့က အာခိရတ်တွင် အသက်ဝိဉာဉ်များသာ ကျွင်းကျန်ရစ်မည်ဖြစ်ပြီး၊ ထိုအာခိရတ်တွင် ပြစ်ဒဏ်နှင့်စည်းစိမ်များကို အာရုံငါးပါး၏ထိတွေ့ရမှုမဟုတ်သောနည်းလမ်းဖြင့် ခံစားစံစားရမည်ဟု ပြောဆိုကြသည်။ ဤဂိုဏ်းအသီးသီးသည် စည်းကမ်းဘောင်ကို ကျော်လွန်သွားခဲ့ကြသည်။

ဤနေရာတွင် အလယ်အလတ်လမ်းသည် အဆိုပါဂိုဏ်းများက ပြုလုပ်သကဲ့သို့ ကိစ္စရပ်အားလုံးတွင် ကြံဆကောက်ယူခြင်းမပြုရန်နှင့် တစ်ဘက်တွင် ဟန်ဘလီပညာရှင်များကဲ့သို့ ကြံဆကောက်ယူမှုအပေါ် အပိတ်သဘောထားမရှိရန်ဖြစ်သည်။ ဤအလယ်အလတ်လမ်း၏စည်းကမ်းဘောင်သည် အလွန်နက်နဲသိမ်မွေ့ပြီး အလ္လာဟ်အရှင့်ဘက်တော်မှ သိနိုင်စွမ်းချီးမြှင့်ခြင်းခံရသူများသာ သိကြသည်။ ထိုပုဂ္ဂိုလ်တို့သည် ဤအရာများကို အရှင့်ဘက်မှနူရ်အလင်းရောင်ဖြင့် သိမြင်ကြခြင်းဖြစ်သည်။ ကြားနာမှတ်သားမှုဖြင့် သိကြရခြင်းမဟုတ်ပေ။ တဖန် ၎င်းတို့သည် ဤအရာများ၏အတွင်းရေးလျှို့ဝှက်ချက်များကို အသိပွင့်ပေါ်သောအခါမှာ မိမိတို့ ကြားနာမှတ်သားထားမှုများ၊ ဖော်ပြလာရှိသောစာသားအသုံးအနှုန်းများဖြင့် တိုက်ဆိုင်သုံးသပ်သည်။ အကယ်၍ ဖော်ပြလာရှိသောစာသားအသုံးအနှုန်းများသည် ယကီန် ဒိဋ္ဌယုံမှု၏အလင်းရောင်အောက်တွင် မိမိတို့ သိရှိရသောအတွင်းရေးများနှင့် ကိုက်ညီမှုရှိလျှင် ကြံဆကောက်ယူခြင်းမပြုကြပေ။ ဆန့်ကျင်ကွဲလွဲသောအခါမှသာ ဖော်ပြလာရှိသော စာသားအသုံးအနှုန်းများအပေါ် ကြံဆကောက်ယူကြသည်။

တစ်စုံတစ်ဦးသည် ထိုအရာများကို ကြားနာမှတ်သားမှုသက်သက်ဖြင့် သိရှိရခြင်းဖြစ်ပြီး ထိုအရာများအပေါ် ထွင်းသိမြင်နိုင်ခြင်း မရှိလျှင် မိမိ၏ကြားနာမှတ်သားမှုအတိုင်း လက်ခံလိုက်ရမည်။ ဆိုလိုသည်မှာ ကြံဆကောက်ယူခြင်းမပြုရန် ပိတ်ပင်သော အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ် သခင်၏ကျင့်ထုံးသည် ထိုပုဂ္ဂိုလ်မျိုးအတွက် သင့်တော်သည်။

ကြံဆကောက်ယူမှုနှင့်သက်ဆိုင်ရာ အလယ်အလတ်လမ်း၏စည်းကမ်းဘောင်ကို နှိုက်နှိုက်ချွတ်ချွတ်ပြုခြင်းသည် မုကာရှိဖာပညာရပ်ဘက်သို့ ရောက်သွားစေသည်။ ဤအကြောင်းအရာများသည် အလွန်ကျယ်ဝန်းပြီး ထိုအထဲ

သို့ ကျွန်ုပ်တို့ ၎တ်လျှိုးရန်မရှိပေ။ ယခုရည်ရွယ်ချက်မှာ အဓ္ဓတ္တနှင့် ဗဟိဒ္ဓတို့ ညီညွတ်တိုက်ဆိုင်သည်၊ သို့မဟုတ် ဆန့်ကျင်ကွဲလွဲသည် ဆိုသည်အား ရှင်းလင်းရန်ဖြစ်သည်။ အထက်တွင် ဖော်ပြခဲ့သောအမျိုးအစားငါးခုဖြင့် များစွာသောအရင်းခံသဘောများကို သိရှိရပြီဖြစ်သည်။

လူသာမန်တို့အဖို့ ပထမကဏ္ဍ၌ ကျွန်ုပ်တို့ဖော်ပြခဲ့သော အကီဒဟ်ခံယူချက်များဖြင့် လုံလောက်မှုရှိသည်ဟု ယူဆပါသည်။ သို့ဖြစ်ရာ ၎င်းတို့အဖို့ ပထမအဆင့်တွင် ထိုအကီဒဟ်များကို ခံယူရန်မှလွဲ၍ အခြားမလိုအပ်သေးပါ။ သို့သော် ဗိဒအတ်များပြန့်နှံ့လာမှုကြောင့် အကီဒဟ်ကို အားနည်းချိနဲ့စေမည်ဟု စိုးရိမ်ရသည့်အခါ ဒုတိယအဆင့်သို့ တက်ရမည်။ ထိုအဆင့်တွင် အကီဒဟ်များကို ထင်းလင်းသောသာဓကများဖြင့် အနှစ်ချုပ် ဖော်ပြရန်ဖြစ်ပြီး နက်နက်ရှိုင်းရှိုင်း မဖြစ်စေရပေ။ ဤအချက်ကို ထောက်ရှု၍ ကျွန်ုပ်တို့သည် ရှေ့အခန်းတွင် ထိုထင်းလင်းသော အထောက်အထားသာဓကများကို ဖော်ပြလိုက်ရပေသည်။ ဤသို့ဖော်ပြရာတွင် ဗိုင်တွလ်မုကာဒ်ဒပ်စ် (ဂျေရုစလင်)မြို့သားများအတွက် ကျွန်ုပ်တို့က ရေးသားခဲ့ပြီး **'ရိစာလာကွဒ်စီယာဗီကဝါအိဒီလ်အကာအီဒ်'** ဟု အမည်ပေးထားသောကျမ်းငယ်ကို တတိယကဏ္ဍတွင် မူရင်းအတိုင်း ထည့်သွင်းလိုက်ရပေသည်။



တတိယကဏ္ဍ

## အကီဒဟ်ခံယူမှုများ၏ထင်းလင်းသောသာဓကများကို ဖေါ်ပြထားသော

## ကွဒ်စီယာကျမ်း

بسم الله الرحمن الرحيم

ချီးမွမ်းခြင်းဟူသမျှသည် အလ္လာဟ်အရှင့်အဖို့သာဖြစ်သည်။ ထိုအရှင်သည် စွန္နတ်၏အသင်းသားများအား ယကီန်တည်းဟူသော ဒိဋ္ဌယုံမှု၏အလင်းရောင်ဖြင့် ထူးကဲခြားနားစေသည်။ အမှန်တရား၏ဘက်တော်သားများအား သာသနာ၏ပင်မမဏ္ဍိုင်များ၏လမ်းကို ညွှန်ပြတော်မူပြီး အယူတိမ်းသူများ၏တိမ်းချော်မှုနှင့် လမ်းမှားသူများ၏မှားယွင်းမှုမှ ၎င်းတို့ကို ကာကွယ်ပေးတော်မူသည်။ ထို့ပြင် ထိုစွန္နတ်၏အသင်းသားများနှင့် အမှန်တရား၏ဘက်တော်သားများအား ရစူလ်တမန်တော်အပေါင်း၏ဦးသျှောင်ဖြစ်သူ မုဟမ္မဒ်ကိုယ်တော်ﷺ၏နောက်သို့ လိုက်နိုင်ရန် စွမ်းအား ချီးမြှင့်တော်မူသည်။ ထို့ပြင် ၎င်းတို့အား ရှေးသူဟောင်း သူတော်ကောင်းများ၏ခြေရာအတိုင်း ဖဝါးခြေထပ်လျှောက်လှမ်းရာမှာ လွယ်ကူမှုပြုပေးတော်မူသည်။ ထို့ပြင် ၎င်းတို့သည် အသိဉာဏ်အရ ရှရီအတ်တရားတော်တည်းဟူသော ခိုင်မာတောင့်တင်းသည့်ကြိုးတော်ကို မြဲစွာစွဲကိုင်ခဲ့ကြသည်။ ထို့ပြင် ရှေးဦးအာဒိပုဂ္ဂိုလ်တို့၏ဘဝသရုပ်နှင့် ခံယူချက်လမ်းစဉ်ကို ရွေးချယ်ခဲ့ကြသည်။ ဤနည်းဖြင့် ၎င်းတို့သည် အသိဉာဏ်၏အနှစ်သားနှင့် တရားတော်၏ပြဋ္ဌာန်းချက်များကို တစ်ပေါင်းတည်း စုပေါင်းလိုက်ကြသည်။ ၎င်းတို့က 'ကလေမာတော်–

﴿لَا إِلٰهَ إِلَّا اللّٰهُ مُحَمَّدٌ رَسُوْلُ اللّٰهِ﴾

**'အလ္လာဟ်အရှင်မှတပါး ကိုးကွယ်ခြင်းခံထိုက်သောအရှင်မရှိ။ မုဟမ္မဒ်သခင်သည် အလ္လာဟ်အရှင်၏ တမန်တော်ဖြစ်သည်'**

ကို မြွက်ဟခြင်းသည် ကျွန်ုပ်တို့အတွက် အိဗာဒတ်ဖြစ်သည်ဆိုရာမှာ၊ ဤကလေမာတော်၏ပဓာနအရင်းခံဖြစ်သော အခြေခံမဏ္ဍိုင်များကို ခြေခြေမြစ်မြစ် သိနားလည်ခြင်း မရှိဘဲ၊ နှုတ်လျှာသက်သက်မှ ဖတ်ရွတ်ခြင်းဖြင့် အကျိုးရလဒ် ထွက်ပေါ်မှုမရှိနိုင်'ဟု သတ်မှတ်ခံယူခဲ့ကြသည်။ ထို့ပြင် ဤကလေမာတော်သည် အရဗီဝါကျနှစ်ခုဖြစ်ပြီး အကြောင်းအရာလေးခု သင်္ခေပအားဖြင့် ဖေါ်ပြပါရှိသည်ဟု သိနားလည်ခဲ့ကြသည်။ ယင်းတို့မှာ အလ္လာဟ်အရှင်၏ပြကတေ တော်အကြောင်း၊ အလ္လာဟ်အရှင်၏ဝိသေသဂုဏ်တော်များအကြောင်း၊ ထိုအရှင်၏လုပ်ရပ်တော်များအကြောင်း၊ တမန်တော်မြတ်ﷺသည် ရစူလ်တမန်တော် အမှန်ဖြစ်ခြင်းအကြောင်းများကို အတည်ပြု ဖေါ်ပြချက်များဖြစ်သည် ဤတွင် အီမာန်သည် ဤမဏ္ဍိုင်လေးခုအပေါ်တွင် အခြေပြုနေကြောင်း သိရလေသည်။ ထိုမဏ္ဍိုင်တစ်ခုတိုင်း၌ အခြေခံဆယ်ခုစီရှိလေသည်။

**ပထမမဏ္ဍိုင်**– ယင်းမှာ အလ္လာဟ်အရှင်၏ပြကတေ့တော်နှင့် တစ်ပါးတည်း တည်ရှိတော်မူကြောင်း သိရှိခြင်းဖြစ်သည်။ ဤမဏ္ဍိုင်သည် အခြေခံဆယ်ခုအပေါ်တွင် ရှိနေသည်။ ယင်းတို့မှာ အလ္လာဟ်အရှင်၏တည်ရှိမှုကို သိခြင်း၊ ထိုအရှင်သည် ပကတူးက မဆွတည်ရှိတော်မူသည့်အရှင်ဖြစ်ကြောင်း သိခြင်း၊ ထို့ပြင် အမြဲထာဝရတည်ရှိနေတော်မူမည့်အရှင်ဖြစ်ကြောင်း သိခြင်း၊ ထိုအရှင်သည် ရုပ်ဝတ္ထုမဟုတ်ကြောင်း သိခြင်း၊ ထိုအရှင်သည် ကိုယ်ခန္ဓာဖြင့် တည်ရှိခြင်းမဟုတ်ကြောင်း သိခြင်း၊ ထိုအရှင်သည် အခြားအရာကို မှီခိုရပ်တည်သည့်အရာမဟုတ်ကြောင်း သိခြင်း၊ ထိုအရှင်သည် 'ဘက်'တစ်ခုခုဖြင့် သီးသန့်သတ်မှတ်ထားခြင်းမရှိကြောင်း သိခြင်း၊ ထိုအရှင်သည် နေရာတစ်ခုခုတွင် တည်ရှိနေထိုင်ခြင်းမရှိကြောင်း သိခြင်း၊ ထိုအရှင့်ကို အာခိရတ်တွင် ဖူးမြင်ရမည်ဖြစ်ကြောင်း သိခြင်း၊ ထိုအရှင်သည် တစ်ပါးတည်း တည်ရှိတော်မူကြောင်း သိခြင်း– တို့ဖြစ်သည်။

**ဒုတိယမဏ္ဍိုင်**– ယင်းသည် အလ္လာဟ်အရှင်၏ဂုဏ်တော်များကို သိခြင်းဖြစ်သည်။ ဤမဏ္ဍိုင်တွင်လည်း အခြေခံဆယ်ခုရှိလေသည်။ ယင်းတို့မှာ အလ္လာဟ်အရှင်သည် ရှင်နေတော်မူသောအရှင်ဖြစ်ကြောင်း၊ သိတော်မူသောအရှင်ဖြစ်ကြောင်း၊ စွမ်းတော်မူသောအရှင်ဖြစ်ကြောင်း၊ ဆန္ဒထားတော်မူသောအရှင်ဖြစ်ကြောင်း၊ ကြားတော်မူသောအရှင်ဖြစ်ကြောင်း၊ မြင်တော်မူသောအရှင်ဖြစ်ကြောင်း၊ စကားဆိုတော်မူသောအကြောင်း၊ ထို့ပြင် အလ္လာဟ်အရှင်သည် အသစ်ဖြစ်သောအရာများတွင် ကိန်းဝပ်ခြင်းမှ ကင်းရှင်းတော်မူသောအရှင်ဖြစ်ကြောင်း၊ ထို့ပြင် ထိုအရှင်၏စကားဆိုတော်မူခြင်း၊ သိတော်မူခြင်း၊ ဆန္ဒပြုတော်မူခြင်းများသည် ပကတူးက ဖြစ်ကြောင်း– သိခြင်းဖြစ်သည်။

**တတိယမဏ္ဍိုင်**– ယင်းမှာ အလ္လာဟ်အရှင်၏လုပ်ရပ်တော်များကို သိခြင်းဖြစ်သည်။ ဤမဏ္ဍိုင်တွင်လည်း အခြေခံဆယ်ခုရှိသည်။ ယင်းတို့မှာ လူသားတို့၏ပြုမူဆောင်ရွက်မှုများသည် အလ္လာဟ်အရှင်၏ဖန်ဆင်းမှုများဖြစ်ကြောင်း၊ ထိုပြုမူဆောင်ရွက်မှုများသည် လူသားများဘက်က လှုပ်ရှားကြိုးပမ်းခြင်းဖြစ်ဖြစ်သော်လည်း အလ္လာဟ်အရှင်၏ဆန္ဒတော်မှ လွတ်ထွက်ခြင်းမရှိနိုင်ကြောင်း။ အလ္လာဟ်အရှင်သည် လူသားတို့အား ဖန်ဆင်းခြင်း စတင်ထိတွင်ခြင်းများဖြင့် ကျေးဇူးပြုတော်မူသောအရှင်ဖြစ်ကြောင်း၊ ထို့ပြင် လူသားအား ၎င်းထမ်းဆောင်နိုင်စွမ်းမရှိသည့် တာဝန်ကို ပေးရန် အလ္လာဟ်အရှင့်တွင် အခွင့်ရှိတော်မူကြောင်း၊ ထို့ပြင် အပြစ်ကင်းစင်သည့် လူသားကို အပြစ်ပေးရန် အခွင့်ရှိတော်မူကြောင်း၊ ထိုအရှင့်တွင် လူသားတို့၏ကောင်းကျိုးကောင်းရာရှိမှုကို ထောက်ထားရန် တာဝန်မရှိကြောင်း၊ လူသားအပေါ်တွင် တာဝန်ရှိခြင်းသည် အသိဉာဏ်အရမဟုတ်ဘဲ ရှရီအတ်၏ညွှန်ပြမှုကြောင့်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်က နဗီတမန်တော်များကို စေလွှတ်တော်မူခြင်းသည် မဖြစ်နိုင်သောအရာမဟုတ်ကြောင်း၊ ကျွန်ုပ်တို့၏နဗီတမန်တော်မုဟမ္မဒ်ﷺသခင်၏တမန်တော်ဖြစ်ခြင်းသည် အခိုင်အမာဖြစ်ပြီး မုအ်ဂျိဇာဖြင့် ထောက်ခံမှုရှိထားကြောင်း– သိခြင်းဖြစ်သည်။

**စတုတ္ထမဏ္ဍိုင်**– ယင်းမှာ တမန်တော်မြတ်ﷺထံမှ ကြားသိရသောအရာများဖြစ်သည်။ ဤမဏ္ဍိုင်တွင်လည်း အခြေခံဆယ်ခုရှိလေသည်။ ယင်းတို့မှာ ဟရှရ်ကွင်းပြင်တွင် စုရုံးရမည့်အကြောင်း၊ မွန်ကရ်နှင့်နကီရ် ကောင်းကင်တမန်နှစ်ပါးက စစ်မေးမည့်အကြောင်း၊ သင်္ချိုင်းတွင် ပြစ်ဒဏ်ရှိသည့်အကြောင်း၊ မီဇာန်ဗမ္ဗချိန်ခွင်တော်အကြောင်း၊ ဆွေရာတ်တံတားတော်အကြောင်း၊ ဂျန္နတ်နှင့်ဂျဟန္နမ်ကို ဖန်ဆင်းထားပုံအကြောင်း၊ အစ္စလာမ့်ခေါင်းဆောင်၏ပညတ်ချက်များအကြောင်း၊ ဆွဟာဗဟ်သခင်များ၏ မိမိတို့အဆင့်အတန်းအလျောက် ထွတ်မြတ်မှုရှိကြသည့်အကြောင်း၊ အစ္စလာမ့်ခေါင်းဆောင်၏စည်းကမ်းချက်များအကြောင်းကို– သိခြင်းဖြစ်သည်။

## အီမာန်၏မဏ္ဍိုင်များအနက် ပထမမဏ္ဍိုင်ဖြစ်သော အလ္လာဟ်အရှင်၏ပြကတေ့တော်နှင့် တစ်ပါးတည်း တည်ရှိတော်မူခြင်းကို သိရှိခြင်း

အလ္လာဟ်အရှင်၏ပြကတေ့တော်ကို သိရှိနိုင်ရန် အကောင်းဆုံးနည်းလမ်းသည် ကျမ်းမြတ်ကုရ်အာန်က ညွှန်ပြသောလမ်းဖြစ်သည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်၏ရှင်းလင်းဖေါ်ပြမှုထက် ပို၍ ရှင်းလင်းသောအရာမရှိနိုင်သောကြောင့်ဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်သည်မှုမှာ–

﴿أَلَمْ نَجْعَلِ الْأَرْضَ مِهَادًا ۞ وَّالْجِبَالَ أَوْتَادًا ۞ وَّخَلَقْنَاكُمْ أَزْوَاجًا ۞ وَّجَعَلْنَا نَوْمَكُمْ سُبَاتًا ۞ وَّجَعَلْنَا اللَّيْلَ لِبَاسًا ۞ وَّجَعَلْنَا النَّهَارَ مَعَاشًا ۞ وَّبَنَيْنَا فَوْقَكُمْ سَبْعًا شِدَادًا ۞ وَّجَعَلْنَا سِرَاجًا وَّهَّاجًا وَّأَنْزَلْنَا مِنَ الْمُعْصِرَاتِ مَاءً ثَجَّاجًا ۞ لِنُخْرِجَ بِهِ حَبًّا وَّنَبَاتًا ۞ وَّجَنَّاتٍ أَلْفَافًا ۞﴾

**'ငါအရှင်သည် ကမ္ဘာမြေကြီးကို လျောင်းစက်ရာအဖြစ်၎င်း၊ တောင်များကို ငုတ်အဖြစ်၎င်း ပြုမပေးပါသလော။ ထို့ပြင် ငါအရှင်သည် အသင်တို့ကို အစုံလိုက် ဖန်ဆင်းထားတော်မူသည်။ ထို့ပြင် ငါအရှင်သည် အသင်တို့၏အိပ်စက်ခြင်းကို အပန်းဖြေ အနားယူမှုအဖြစ် ပြုလုပ်ပေးတော်မူသည်။ ထို့ပြင် ငါအရှင်သည် ညဉ့်ကို မြုလွှာအဖြစ် ပြုလုပ်ပေးတော်မူသည်။ ထို့ပြင် ငါအရှင်သည် နေ့ကို ဝမ်းစာရှာရန် ပြုလုပ်ပေးတော်မူသည်။ ထို့ပြင် ငါအရှင်သည် အသင်တို့၏အထက်၌ ခိုင်ခန့်မှုခုနစ်ခုကို တည်ဆောက်ထားတော်မူသည်။ ထို့ပြင် ငါအရှင်သည် ထိန်လင်းသောမီးအိမ်ကြီးကိုလည်း ပြုလုပ်ထားပေးတော်သည်။ ထို့ပြင် ငါအရှင်က ပင် မိုးသားတိမ်တိုက်ထဲမှ ဖေါသီစွာ ရွာချပေးတော်မူသည်။ သို့မှသာ ငါအရှင်သည် ထိုရေဖြင့် ကောက်ပဲသီးနှံများကို၎င်း အုပ်ဆိုင်းသောဥယာဉ်များကို၎င်း ဖေါ်ထုတ်တော်မူရန်ဖြစ်သည်။'** (စူရာနဘအ် ၇၈–၁၆)

တဖန် အလ္လာဟ်အရှင် မိန့်တော်မူမှာ–

﴿إِنَّ فِي خَلْقِ السَّمَوَاتِ وَالْأَرْضِ وَاخْتِلَافِ اللَّيْلِ وَالنَّهَارِ وَالْفُلْكِ الَّتِي تَجْرِي فِي الْبَحْرِ بِمَا يَنْفَعُ النَّاسَ وَمَا أَنْزَلَ اللهُ مِنَ السَّمَاءِ مِنْ مَاءٍ فَأَحْيَا بِهِ الْأَرْضَ بَعْدَ مَوْتِهَا وَبَثَّ فِيهَا مِنْ كُلِّ دَابَّةٍ وَتَصْرِيفِ الرِّيَاحِ وَالسَّحَابِ الْمُسَخَّرِ بَيْنَ السَّمَاءِ وَالْأَرْضِ لَآيَاتٍ لِقَوْمٍ يَعْقِلُونَ﴾

**'မိုးများနှင့်မြေပထဝီတွင်၎င်း၊ နေ့နှင့်ည အပြောင်းအလဲတွင်၎င်း၊ လူသားတို့အကျိုးငှါ ပင်လယ်တွင် သွားနေသော ရွက်သင်္ဘောတွင်၎င်း၊ မြေကြီးကို သေပြီးနောက် တဖန်ရှင်စေသော မိုးပေါ်မှ အလ္လာဟ်အရှင် ရွာချပေးတော်မူသည့် မိုးရေတွင်၎င်း၊ ထိုအရှင်က မြေကြီးပေါ်တွင် သက်ရှိအပေါင်းကို အပြန့်အနှံ့ရှိစေခြင်းတွင်၎င်း၊ လေများကို လှည့်ပြောင်းစေခြင်းတွင်၎င်း၊ မိုးနှင့်မြေအကြား အမိန့်တော်နာခံလျက်ရှိသော မိုးတိမ်များတွင်၎င်း သိနားလည်မှုရှိသော လူတို့အတွက် သက်သေအထောက်အထားများ ရှိနေပေသည်။'**

(စူရာဗကရာ ၊၁၆၄)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ أَلَمْ تَرَوْا كَيْفَ خَلَقَ اللهُ سَبْعَ سَمَوَاتٍ طِبَاقًا ۞ وَجَعَلَ الْقَمَرَ فِيهِنَّ نُورًا وَجَعَلَ الشَّمْسَ سِرَاجًا ۞ وَاللهُ أَنْبَتَكُمْ مِنَ الْأَرْضِ نَبَاتًا ۞ ثُمَّ يُعِيدُكُمْ فِيهَا وَيُخْرِجُكُمْ إِخْرَاجًا﴾

**'အလ္လာဟ်အရှင်သည် မိုးခုနစ်ခုကို အဘယ်ကဲ့သို့ အထပ်ထပ် ဖန်ဆင်းတော်မူခဲ့သည်ကို အသင်တို့ မမြင်ကြသလော။ ထို့ပြင် အလ္လာဟ်အရှင်သည် လကို အလင်းရောင်အဖြစ်၎င်း၊ နေကို မီးအိမ်အဖြစ်၎င်း ပြုလုပ်တော်မူခဲ့သည်။ ထို့ပြင် အလ္လာဟ်အရှင်သည် အသင်တို့ကို မြေကြီးထဲမှ ပေါ်ထွက်စေတော်မူခဲ့သည်။**

**ထို့နောက်တွင် အသင်တို့ကို ထိုမြေကြီးထဲသို့ ပြန်၍ထည့်တော်မူမည်။ တဖန် အသင်တို့ကို ထိုမြေကြီးထဲမှ အပြင်သို့ ပြန်ထုတ်တော်မူမည်။'**

(နူရာနူဟ် ၊၁၇–၁၈)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–

﴿أَفَرَءَيْتُم مَّا تُمْنُونَ ۞ ءَأَنتُمْ تَخْلُقُونَهُۥٓ أَمْ نَحْنُ ٱلْخَٰلِقُونَ ۞ نَحْنُ قَدَّرْنَا بَيْنَكُمُ ٱلْمَوْتَ وَمَا نَحْنُ بِمَسْبُوقِينَ ۞ عَلَىٰٓ أَن نُّبَدِّلَ أَمْثَٰلَكُمْ وَنُنشِئَكُمْ فِى مَا لَا تَعْلَمُونَ ۞ وَلَقَدْ عَلِمْتُمُ ٱلنَّشْأَةَ ٱلْأُولَىٰ فَلَوْلَا تَذَكَّرُونَ ۞ أَفَرَءَيْتُم مَّا تَحْرُثُونَ ۞ ءَأَنتُمْ تَزْرَعُونَهُۥٓ أَمْ نَحْنُ ٱلزَّٰرِعُونَ ۞ لَوْ نَشَآءُ لَجَعَلْنَٰهُ حُطَٰمًا فَظَلْتُمْ تَفَكَّهُونَ ۞ إِنَّا لَمُغْرَمُونَ ۞ بَلْ نَحْنُ مَحْرُومُونَ ۞ أَفَرَءَيْتُمُ ٱلْمَآءَ ٱلَّذِى تَشْرَبُونَ ۞ ءَأَنتُمْ أَنزَلْتُمُوهُ مِنَ ٱلْمُزْنِ أَمْ نَحْنُ ٱلْمُنزِلُونَ ۞ لَوْ نَشَآءُ جَعَلْنَٰهُ أُجَاجًا فَلَوْلَا تَشْكُرُونَ ۞ أَفَرَءَيْتُمُ ٱلنَّارَ ٱلَّتِى تُورُونَ ۞ ءَأَنتُمْ أَنشَأْتُمْ شَجَرَتَهَآ أَمْ نَحْنُ ٱلْمُنشِـُٔونَ ۞ نَحْنُ جَعَلْنَٰهَا تَذْكِرَةً وَمَتَٰعًا لِّلْمُقْوِينَ﴾

**'သို့ရှိရာ အသင်တို့သည် မိမိတို့ထုတ်လွှတ်နေသောအရည်ကို မြင်ကြသလော။ ထိုအရည်ကို အသင်တို့က ဖန်ဆင်းသလော၊ သို့မဟုတ် ငါအရှင်က ဖန်ဆင်းသလော။ ငါအရှင်သည် အသင်တို့ကြား၌ သေခြင်းကို သတ်မှတ်ထားတော်မူသည်။ ထို့ပြင် ငါအရှင်သည် အသင်တို့ကဲ့သို့သတ္တဝါများကို အသွင်ပြောင်း ဖန်ဆင်းရန်၎င်း၊ အသင်တို့မသိကြသော အဆင်းသဏ္ဌာန်ဖြင့် အသင်တို့ကို ဖန်ဆင်းရန်၎င်း မစွမ်းနိုင်သူ မဟုတ်ချေ။ ထို့ပြင် အသင်တို့သည် ပထမအကြိမ်ဖန်ဆင်းခြင်းကို သိကြပြီးဖြစ်ပါလျက်၊ အဘယ်ကြောင့် သတိတရား မရနိုင်ကြသနည်း။ တဖန် အသင်တို့သည် မိမိတို့ စိုက်ပျိုးသောအရာကို မြင်ကြသလော။ ထိုအရာကို အသင်တို့က စိုက်ပျိုးကြသလော။ သို့မဟုတ် ငါအရှင်က စိုက်ပျိုးသလော။ အကယ်၍ ငါအရှင် အလိုတော်ရှိလျှင် ထိုအရာကို ခြောက်သွေ့ယောင်းအောင်ပြုလုပ်တော်မူမည်ဖြစ်သည်။ ထိုသို့ဖြစ်လျှင် အသင်တို့သည် နောင်တရကြလိမ့်မည်။ 'ကျွန်ုပ်တို့သည် အကြွေးတင်သူများ ဖြစ်ကြရလေပြီ။ သို့သာမက ကျွန်ုပ်တို့သည် လက်မဲ့သူများဖြစ်ကြရလေပြီ'(ဟု ပြောဆို၍ နောင်တရကြလိမ့်မည်)။**

**တဖန် အသင်တို့သည် မိမိတို့သောက်သုံးကြသော ရေကို မြင်ကြပါသလော။ ထိုရေကို တိမ်တိုက်မှ အသင်တို့က ရွာသွန်းစေကြသလော။ သို့မဟုတ် ငါအရှင်က ရွာချပေးသလော။ အကယ်၍ ငါအရှင် အလိုရှိတော်မူလျှင် ထိုရေကို ရေငံပြုလုပ်တော်မူမည်ဖြစ်သည်။ သို့ဖြစ်ရာ အသင်တို့ အဘယ်ကြောင့် ကျေးဇူး မတင်ကြသနည်း။ တဖန် အသင်တို့သည် မိမိတို့မွှေးကြသော မီးကို မြင်ကြပါသလော။ ထိုမီးရနိုင်မည့်သစ်ပင်ကို အသင်တို့က ပေါ်ပေါက်စေသလော။ သို့မဟုတ် ငါအရှင်က ပေါ်ပေါက်စေခဲ့သလော။ ငါအရှင်သည် ထိုအပင်ကို သတိတရားရစေရန်အတွက်၎င်း၊ ခရီးသည်များ အကျိုးရှိစေမှုအတွက်၎င်း ပြုလုပ်တော်မူခြင်း ဖြစ်သည်။'**

(ဝါကိအာ ၊၅၈–၇၃)

ဉာဏ်ရည်နိမ့်ကျသူပင်လျှင် ဤအာယတ်များမှ အကြောင်းအရာကို အနည်းငယ်စဉ်းစားခြင်းဖြင့်၎င်း၊ မိုးများနှင့် မြေပေါ်တွင် အလ္လာဟ်အရှင် ဖန်ဆင်းထားသောအရာများ၏ ဆန်းကြယ်မှုများကို တွေးခေါ်စဉ်းစားခြင်းဖြင့်၎င်း၊ သက်ရှိသက်မဲ့များ၏ ထူးခြားသောသဘာဝများကို ကြည့်ရှုဆင်ခြင်ခြင်းဖြင့်၎င်း၊ ဤကဲ့သို့အဆန်းတကျယ်အံ့ဩဖွယ် စည်းစနစ်ရှိရှိ အစီအစဉ်တကျဖြစ်ပေါ်မှုများကို ဖန်တီး စီမံ ပြုလုပ် ပြဋ္ဌာန်းသောအရှင် မလွဲမသွေရှိနေကြောင်း သိနိုင်လေသည်။ အမှန်မှာ စိတ်သဏ္ဌာန်များ၏ ဇီဝသဘာဝကပင် အဆိုပါဖြစ်ပေါ်နေမှုများသည် ထိုအရှင်၏ ပိုင်စိုးခြယ်လှယ်မှုအောက်တွင် ထိုအရှင်၏ အလိုကျ စီမံခန့်ခွဲခြင်းခံနေရကြောင်း သိမြင်လျက်ရှိပေသည်။ ထိုအတွက်ကြောင့်ပင် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿أَفِي ٱللَّهِ شَكٌّ فَاطِرِ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ﴾

**'မိုးများနှင့် မြေကမ္ဘာကို ဖန်ဆင်းသောအရှင်ဖြစ်တော်မူသည့် အလ္လာဟ်အရှင်နှင့်စပ်လျဉ်း၍ သံသယ ဟူ၍ ဖြစ်ရှိနိုင်သေးသလော။'** (စူရာအီဗ်ရာဟီမ် ၊၁၀)

နဗီတမန်တော်အပေါင်းကို စေလွှတ်တော်မူခြင်းသည် လူသားများအား တောင်ဟီဒ်ဘက်သို့ ဖိတ်ခေါ်ရန် ဖြစ်သည်။ ထို့ပြင် ၎င်းတို့က **(لَا إِلٰهَ إِلَّا اللهُ)** **'အလ္လာဟ်မှအရှင်တပါး ကိုးကွယ်ရာအရှင် မရှိ'** ဆိုသည်ကို ဝန်ခံမြွက်ဟကြရန်ဖြစ်သည်။ ထိုနဗီတမန်တော်များအား 'ငါတို့၏ကိုးကွယ်ရာအရှင်က တစ်ခြားသပ်သပ်၊ လောက၏အရှင်က တစ်ခြားသပ်သပ်ဖြစ်သည်'ဟု ပြောဆိုကြရန် အမိန့်ပေးမထားပါ။ ကိုးကွယ်ရာအရှင် တစ်ပါးတည်းဖြစ်တော်မူကြောင်းအသိတရားသည် စတင်ဖန်ဆင်းချိန်ကတည်းက ၎င်းတို့၏ဗီဇပါအသိဉာဏ်တွင် ရှိနေခဲ့ပြီးဖြစ်သည်။ သို့အတွက်ကြောင့် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿وَلَئِنْ سَأَلْتَهُمْ مَنْ خَلَقَ السَّمٰوَاتِ وَالْأَرْضَ لَيَقُولُنَّ اللهُ﴾

**'ထို့ပြင် အကယ်၍ အသင်က ၎င်းတို့အား 'မိုးများနှင့်မြေကမ္ဘာကို ဖန်ဆင်းတော်မူသောအရှင် မည်သူနည်း'ဟု မေးမြန်းခဲ့မည်ဆိုပါက၊ မလွဲကေန် ၎င်းတို့က 'အလ္လာဟ်အရှင်ပင်ဖြစ်တော်မူသည်'ဟု ပြောဆိုကြပေလိမ့်မည်။'** (စူရာဇုမရ် ၊၃၈)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿فَأَقِمْ وَجْهَكَ لِلدِّيْنِ حَنِيْفًا فِطْرَةَ اللهِ الَّتِي فَطَرَ النَّاسَ عَلَيْهَا لَا تَبْدِيْلَ لِخَلْقِ اللهِ ذٰلِكَ الدِّيْنُ الْقَيِّمُ﴾

**'သို့ဖြစ်ရာ အသင်သည် မိမိ၏မျက်နှာကို မှန်ကန်သောသာသနာအပေါ်၌ တစ်စိုက်မတ်မတ်ထားပါလေ။ လူသားကို ဖန်ဆင်းခြင်း၌ ထားရှိသော အလ္လာဟ်အရှင်၏နိယာမတော်သည် ပြောင်းလဲခြင်းမရှိပေ။ ဤသည်ပင် ဖြောင့်မတ်သောသာသနာဖြစ်သည်။'** (စူရာရူမ် ၊၃၀)

အချုပ်ဆိုသော် လူသား၏ဗီဇသဘာဝနှင့်ကျမ်းမြတ်ကုရ်အာန်၏အထောက်အထားပြချက်များအရ အလ္လာဟ်အရှင် တည်ရှိတော်မူခြင်းသည် နောက်ထပ် သက်သေခံအထောက်အထား ဖော်ပြဖို့မလိုလောက်အောင်ပင် ထင်ရှားနေပြီဖြစ်သည်။ သို့နှင့်တိုင် ကျွန်ုပ်တို့သည် အကြောင်းအရာကို ပီပီပြင်ပြင်ဖြစ်စေရန်၎င်း မုနာဇရာပညာရှင်တို့အား နည်းခံ၍၎င်း သဘာဝယုတ္တိ ထုတ်ဖော်ပြဆိုပါအံ့။ ရှင်းလင်းသိသာသောအချက်မှာ အသစ်ဖြစ်ပေါ်သောအရာတစ်ခု၏ဖြစ်ပေါ်လာခြင်းတွင် ထိုအရာကို ဖြစ်ပေါ်စေသော အကြောင်းခံတစ်ရပ် မုချလိုအပ်သည်။ တဖန် လောကသည် အသစ်ဖြစ်သောအရာဖြစ်သည်။ သို့ဖြစ်ရာ လောကသည်လည်း မိမိ၏ဖြစ်ပေါ်မှုအတွက် အကြောင်းခံတစ်ရပ် မုချလိုအပ်သည်။

ကျွန်ုပ်တို့ ပြောဆိုသော 'အသစ်ဖြစ်ပေါ်သောအရာတစ်ခုသည် ထိုအရာကို ဖြစ်ပေါ်စေသောအကြောင်းခံတစ်ရပ် လိုအပ်သည်'ဟူသောစကားရပ်သည် ရှင်းရှင်းလင်းလင်းပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အသစ်ဖြစ်သောအရာအားလုံးသည် သူ၏သီးသန့်အချိန်အခါကျရောက်မှသာ ဖြစ်ပေါ်သည်။ အသစ်ဖြစ်သောအရာတစ်ခုသည် ထိုအချိန်ထက် စော၍၎င်း၊ နောက်ကျ၍၎င်း ဖြစ်ပေါ်ရန်မှာ အသိဉာဏ်အရဖြစ်နိုင်သောအချက်ဖြစ်သည်။ သို့နှင့်တိုင် သီးသန့်အချိန်တွင်သာ ဖြစ်ပေါ်ပြီး ထို့ထက်စောခြင်းနောက်ကျခြင်း မရှိသည်ကိုထောက်၍ သီးသန့်အချိန်တွင် ဖြစ်ပေါ်အောင် သတ်မှတ်ပေးသောအကြောင်းတရားတစ်ခု မုချရှိရမည်ဖြစ်သည်။

ကျွန်ုပ်တို့က 'လောကသည် အသစ်ဖြစ်သောအရာဖြစ်သည်'ဟု ပြောဆိုရာတွင် ဤသို့သာဓက ရှိထားသည်။ လောက၏ရုပ်ဝတ္ထုများသည် လှုပ်ရှားခြင်း တည်ငြိမ်ခြင်းတို့ဖြင့် မကင်းချေ။ လှုပ်ရှားခြင်း တည်ငြိမ်ခြင်း ဆိုသည်တို့မှာ အသစ်ဖြစ်ပေါ်မှုများသာဖြစ်သည်။ အသစ်ဖြစ်မှုနှင့် မကင်းသောအရာသည် အသစ်ဖြစ်သောအရာပင်ဖြစ်သည်။

ဤသို့သာဓကထုတ်ဖော်ရာတွင် အလိုသဘောသုံးခုကို ရှင်းပြရန်ရှိလေသည်။

**ပထမအလိုသဘော**– ကျွန်ုပ်တို့က 'ရုပ်ဝတ္ထုများသည် လှုပ်ရှားခြင်း တည်ငြိမ်ခြင်းတို့ဖြင့် မကင်းချေ'ဟု ပြောဆိုခဲ့ရာ၊ ဤစကားရပ်သည် အလွန်ပင် သိသာထင်ရှားသည်။ ဤစကားရပ်အပေါ် စဉ်းစားတွေးတောရန်ပင် မလိုအပ်ပေ။ အကြင်သူတစ်ဦးက ရုပ်ဝတ္ထုကို လှုပ်ရှားခြင်းလည်းမရှိ တည်ငြိမ်ခြင်းလည်းမရှိသော အရာဖြစ်သည်ဟု သိနားလည်မည်ဆိုလျှင် ထိုသူသည် လုံးလုံး မသိသားဆိုးဝါးလှသူဖြစ်သည်။ သို့သာမက ဒုံးဝေးလွန်းမက ဝေးလှသူလည်းဖြစ်သည်။

**ဒုတိယအလိုသဘော**– ကျွန်ုပ်တို့က 'လှုပ်ရှားခြင်း တည်ငြိမ်ခြင်း ဆိုသည်တို့မှာ အသစ်ဖြစ်ပေါ်မှုများဖြစ်သည်'ဟု ပြောဆိုရာတွင်၊ ထိုနှစ်ခုသည် တွဲကပ်၍ဖြစ်ပေါ်သည်။ ထိုနှစ်ခုတွင် တစ်ခုဖြစ်ပွါးပြီးနောက် နောက်တစ်ခုက ဖြစ်ပွါးသည်။ ဤအချက်ကို မြင်နိုင်သောအရာ မမြင်နိုင်သောအရာ ရုပ်ဝတ္ထုအားလုံးတွင် တွေ့ရှိရသည်။ သို့ဖြစ်ရာ တည်ငြိမ်နေသော အရာတစ်ခုသည် လှုပ်ရှားလာရန် ဖြစ်နိုင်သည်ဟု အသိဉာဏ်က တပ်အပ်သိသည်။ ထို့ပြင် လှုပ်ရှားနေသောအရာတစ်ခုသည် တည်ငြိမ်သွားရန် ဖြစ်နိုင်သည်ဟု အသိဉာဏ်က တပ်အပ်သိသည်။ သို့ဖြစ်ရာ ထိုအခြေအနေနှစ်ခုအနက် တစ်ခုသည် ရုပ်ဝတ္ထုတွင် ပေါ်ပေါက်နေသည်ဖြစ်ရာ၊ ထိုပေါ်ပေါက်မှုသည် အသစ်ဖြစ်ပေါ်မှုပင်ဖြစ်သည်။ တဖန် ထိုအခြေအနေမတိုင်မီအချိန်သည် ပေါ်ပေါက်မှုမရှိသေးသည့်အပေါ်မှာ ယင်းသည်လည်း အသစ်ဖြစ်ပေါ်မှုပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုအရာသည် အသစ်ဖြစ်ပေါ်မှုမဟုတ်ဘဲ၊ ပကတူးတည်ရှိမှုဖြစ်ခဲ့လျှင် ထိုအရာတွင် အချိန်မတိုင်မီ ပေါ်ပေါက်မှုမရှိဟူ၍ မဖြစ်ရှိနိုင်သောကြောင့်ဖြစ်သည်။ ဤအတွက် ရှင်းလင်းချက်အထောက်အထားကို အလ္လာဟ်အရှင် တည်မြဲစွာရှိတော်မူကြောင်းကဏ္ဍတွင် ဖော်ပြမည်။

**တတိယအလိုသဘော**– ကျွန်ုပ်တို့က 'အသစ်ဖြစ်မှုနှင့် မကင်းသောအရာသည် အသစ်ဖြစ်သောအရာပင်ဖြစ်သည်' ဟု ပြောဆိုရာတွင် ထိုအတွက် အထောက်အထားသည် ဤသို့ဖြစ်သည်။ အကယ်၍ အသစ်ဖြစ်မှုနှင့် မကင်းသောအရာသည် အသစ်ဖြစ်သောအရာ မဟုတ်ဟုဆိုလျှင်၊ အသစ်ဖြစ်သောအရာအားလုံး၏အလျင် အသစ်ဖြစ်ပေါ်မှုများ မုချရှိရပေမည်။ ထို့ပြင် မူလပထမဖြစ်ပေါ်သောအရာဟူ၍လည်း ရှိမည်မဟုတ်ပေ။ အကယ်၍ ထိုအသစ်ဖြစ်ပေါ်မှုအပေါင်းသည် ပြတ်တောက်ခြင်းမရှိဟုဆိုလျှင်၊ လက်ရှိတည်ရှိနေသည့် အသစ်ဖြစ်သောအရာသည် ဖြစ်ပေါ်လာရန်အကြောင်းမရှိတော့ချေ။ တဖန် အရာတစ်ခုတွင် အဆုံးစွန်ဟူ၍ မရှိလျှင် ထိုအရာသည် ပြတ်တောက်သည်ဟုလည်း ရှိမည်မဟုတ်ပေ။

ထို့ပြင် နောက်ထပ်သာဓကတစ်ခုမှာ ဤသို့ရှိသည်။ အကယ်၍ နက္ခတ်များ၏လည်ပတ်မှုများသည် အဆုံးမရှိလျှင် ထိုလည်ပတ်မှု၏အရေအတွက်သည် စုံဖြစ်ခြင်း၊ မဖြစ်ခြင်း၊ စုံနှင့်မ တစ်ပေါင်းတည်းဖြစ်ခြင်း၊ စုံမဟုတ် မမဟုတ်ဖြစ်ခြင်း–တစ်ခုခုနှင့် ကင်းမည်မဟုတ်ပေ။ ဤအထဲတွင် စုံနှင့်မ တစ်ပေါင်းတည်းဖြစ်ခြင်းနှင့် စုံလည်းမဟုတ် မလည်းမဟုတ် ဆိုသည့်အရည်အတွက်မှာ မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဤသည်မှာ ဟုတ်ခြင်းနှင့်မဟုတ်ခြင်းကို ပေါင်းပစ်လိုက်သောကြောင့်ဖြစ်သည်။ စုံနှင့်မ နှစ်ခုအနက် တစ်ခုကို လက်ခံလျှင် ကျန်တစ်ခုကို ငြင်းပယ်ပြီးဖြစ်သည်။ တဖန် တစ်ခုကို ငြင်းပယ်လျှင် နောက်တစ်ခုကို အတည်ပြုပြီးဖြစ်သည်။

နက္ခတ်များ၏လည်ပတ်မှုသည် စုံဂဏန်းမဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် စုံဂဏန်းကို တစ်ထည့်ပေါင်းခြင်းဖြင့် မဂဏန်းဖြစ်သွားသည်။ အဆုံးမဲ့အရာတစ်ခုသည် တစ်ပိုလာခြင်းဖြင့် အဘယ်ကြောင့် ပြောင်းလဲရသနည်း။ လည်ပတ်မှုအရေအတွက်သည် မဂဏန်းလည်း မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် မဂဏန်းကို တစ်ထည့်ပေါင်းခြင်းဖြင့် စုံဂဏန်းဖြစ်သွားသည်။ ယင်းသည် အဆုံးမဲ့ဖြစ်သည်ဆိုပါလျက် တစ်ပိုလာခြင်းဖြင့် အဘယ်ကြောင့် ပြောင်းလဲသွားပါသနည်း။ တဖန် ထိုအရေအတွက်သည် စုံမဟုတ် မ,မဟုတ်လည်း မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော်

ထိုသို့ စုံမဟုတ် မ,မဟုတ်ခြင်း၌ အဆုံးရှိသောကြောင့်ဖြစ်သည်။ ဤနေရာတွင် ရလဒ်ထုတ်ယူနိုင်သည်မှာ လောကသည် အသစ်ဖြစ်သောအရာများနှင့် မကင်းပေ။ အရာတစ်ခုသည် အသစ်ဖြစ်သောအရာနှင့် မကင်းနိုင်လျှင် ထိုအရာသည်လည်း အသစ်အရာဖြစ်သည်။ လောကကို အသစ်ဖြစ်သောအရာဟု သတ်မှတ်အတည်ပြုနိုင်ပြီဆိုလျှင်၊ ထိုလောကကို ဖြစ်ပေါ်အောင် ပြုပြင်စီရင်သူ ရှိရမည်ဖြစ်ကြောင်းရှင်းလင်းစွာ သိရပေပြီ။

**ဒုတိယအခြေခံ–** အလ္လာဟ်အရှင်သည် အစမဲ့ ပကတူးဖြစ်တော်မူကြောင်း သိရှိယုံကြည်ရန်ဖြစ်သည်။ ထိုအရှင်၏ တည်ရှိတော်မူခြင်းတွင် အစပထမဟူ၍ မရှိပေ၊ အမှန်စင်စစ် ထိုအရှင်သည် အရာအားလုံး၏ အစပထမဖြစ်တော်မူသည်။ အားလုံးသော အသက်ရှိအရာ အသက်မဲ့အရာတို့၏ အလျင်ကတည်းက ရှိနေပြီးဖြစ်တော်မူသောအရှင်ဖြစ်သည်။ ထိုအတွက် အထောက်အထားမှာ အရာတစ်ခုသည် အသစ်ဖြစ်သောအရာဖြစ်ခဲ့လျှင် ပကတူးတည်ရှိမှုမဟုတ်တော့ပေ။ သို့ဖြစ်ရာ ထိုအရာကို ဖြစ်ပေါ်စေသောအရာ မရှိမဖြစ်လိုအပ်လေသည်။ တဖန် ထိုဖြစ်ပေါ်စေသောအရာကလည်း သူ့ကို ဖြစ်ပေါ်စေသောအရာတစ်ခု မရှိမဖြစ် လိုအပ်ပြန်လေသည်။ ဤတွင် ပုံစံတစ်ခုအရ ဖြစ်စဉ်သည် အဆုံးမရှိနိုင်တော့ပေ။ ဤပုံစံအရ အဆုံးမရှိသောဖြစ်စဉ်သည် လိုရင်းနိဂုံးချုပ်သို့ မရောက်ချေ။ သို့မဟုတ် နောက်ပုံစံအရ ဖြစ်စဉ်သည် မူလအစ ပကတူးဖြစ်ပေါ်စေသူတစ်ဦးဖြင့် အဆုံးသတ်သွားခြင်းဖြစ်သည်။ ဤသည်ပင် ကျွန်ုပ်တို့၏ဦးတည်ရာဖြစ်သည့် လောကကို ဖန်တီးပြုလုပ်သောအရှင်၊ အသစ်စတင်ဖြစ်ပေါ်စေသောအရှင်၊ ပေါ်ပေါက်စေသောအရှင်၊ ဖန်ဆင်းတော်မူသောအရှင်၊ စတင် ရောတည်တော်မူသောအရှင်ဖြစ်တော့သည်။

**တတိယအခြေခံ–** အလ္လာဟ်အရှင်သည် အစမဲ့အနန္တအရှင်ဖြစ်တော်မူသလို အဆုံးမဲ့အနန္တအရှင်ဖြစ်တော်မူကြောင်း သိရှိယုံကြည်ရန်ဖြစ်သည်။ ထိုအရှင်၏ဖြစ်တည်ခြင်း၌ နောက်ဆုံးဟူ၍ မရှိပေ။ ထိုအရှင်သည် အစပထမဖြစ်တော်မူသလို အဆုံးနိဂုံးလည်းဖြစ်တော်မူသည်။ ထိုအရှင်သည် ပေါ်လွင်သိသာသောအရှင်ဖြစ်သလို လျှို့ဝှက်ဖုံးကွယ်တော်မူသောအရှင်လည်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အရာတစ်ခုကို အစမဲ့ ပကတူးက ဖြစ်တည်ကြောင်း အတည်ပြုနိုင်လျှင် ထိုအရာသည် ပျောက်ကွယ်သောအရာ မဖြစ်နိုင်တော့သောကြောင့်ဖြစ်သည်။ ထိုအတွက် သာဓကမှာ ဤသို့ဖြစ်သည်။ အရာတစ်ခု၏ ပျောက်ကွယ်ခြင်းသည် ထိုအရာကိုယ်တိုင်က မိမိဖာသာ ပျောက်ကွယ်ခြင်းနှင့် ထိုအအရာ၏ ဆန့်ကျင်ဘက်အရာက ပျောက်ကွယ်အောင်ပြုခြင်းဟူ၍ ပုံစံနှစ်ခုရှိသည်။

ပထမပုံစံသည် **မဖြစ်နိုင်သောကိစ္စ**ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တည်မြဲတည်တံ့မည်ဟု ပုံဖော်၍ ရနိုင်သောအရာတစ်ခုသည် ကိုယ့်ဖာသာ ပျောက်ကွယ်ခြင်း ဖြစ်နိုင်သည်ဆိုလျှင်၊ အရာတစ်ခုသည် ကိုယ့်ဖာသာ ဖြစ်ပေါ်လာရန်လည်း ဖြစ်နိုင်ရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အရာတစ်ခု ဖြစ်ပွါးပေါ်ပေါက်ရန် အကြောင်းခံတစ်ခု လိုအပ်သကဲ့သို့၊ အရာတစ်ခု ပျောက်ပျက်ရန်အတွက်လည်း အကြောင်းခံတခု လိုအပ်သောကြောင့်ဖြစ်သည်။

ဒုတိယပုံစံဖြစ်သော ဆန့်ကျင်ဘက်အရာတစ်ခုကြောင့် အရာတစ်ခုပျောက်ကွယ်ရမည်ဆိုခြင်းမှာလည်း မဖြစ်နိုင်သောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုဆန့်ကျင်ဘက်အရာသည် ပကတူးအရာဖြစ်လျှင် ထိုအရာသည် အဘယ်သို့ ဖြစ်တည်နိုင်သနည်း။ အကယ်၍ပင် ထိုအရာသည် ပကတူးဖြစ်ခဲ့လျှင် သူနှင့်အတူ တည်ရှိမှုကို ပုံဖော်၍ မရနိုင်ချေ။ အထက်က ပထမအခြေခံနှင့်ဒုတိယအခြေခံတွင် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်၏ တည်ရှိမှုနှင့်ပကတူးဖြစ်မှုကို အခိုင်အမာပြုခဲ့ပြီးဖြစ်သည်။ သို့ဖြစ်ရာ ထိုအရှင်၏ ပကတူးတည်ရှိမှုနှင့်အတူ အခြားအပြိုင်ဆန့်ကျင်ဘက်အရာတစ်ခု မည်သို့ရှိနိုင်သနည်း။

အကယ်၍ အရာတစ်ခုကို ပျောက်ကွယ်စေသောဆန့်ကျင်ဘက်အရာသည် အသစ်ဖြစ်သောအရာဖြစ်သည်ဟု ဆိုပြန်လျှင်၊ ဤသည်မှာ မဖြစ်နိုင်ကောင်းသောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုအသစ်ဖြစ်သောအရာ၏

ဖြစ်ပေါ်မှုသည် ထိုပကတူးအရာကြောင့်ဖြစ်သည်။ အသစ်အရာသည် ပကတူးအရာကို ယှဉ်၍ ပျောက်ကွယ်အောင် ပြုလုပ်ရန်ဆိုသည်မှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ တဖန် ပကတူးအရာက အသစ်အရာ မဖြစ်ပေါ်အောင် တားဆီးခြင်းမပြုနိုင်ရန်မှာလည်း မဖြစ်နိုင်သောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဖြစ်ပေါ်အောင်လုပ်ခြင်းထက် မဖြစ်ပေါ်အောင် တားဆီးခြင်းက ပို၍လွယ်ကူသည်။ တဖန် ပကတူးသည် အသစ်အရာထက် ပို၍အင်အားကြီးမားသည်။

**စတုတ္ထအခြေခံ–** အလ္လာဟ်အရှင်သည် **နေရာယူသော ရုပ်ခန္ဓာမဟုတ်ကြောင်း သိရှိခံယူရမည်။** အမှန်မှာ အလ္လာဟ်အရှင်သည် နေရာဌာနနှင့် ဆက်စပ်မှုမှ **ကင်းရှင်းတော်မူသောအရှင်ဖြစ်သည်။ ထိုအတွက် အထောက်အထားမှာ** ဤသို့ရှိသည်။ ရုပ်ဝတ္ထုအားလုံးသည် **နေရာယူမှုရှိကြသည်။ ရုပ်ဝတ္ထုတစ်ခုသည် မိမိ၏နေရာနှင့် သီးသန့်ဖြစ်သည်။** မည်သည့်ရုပ်ဝတ္ထုမှ နေရာ**တစ်ခုခုတွင် ရပ်တည်ခြင်း၊ သို့မဟုတ် နေရာတစ်ခုခုမှ** လှုပ်ရှားသွားခြင်းဖြင့် မကင်းနိုင်ပေ။ သို့ဖြစ်ရာ ရပ်တည်ခြင်း**နှင့်လှုပ်ရှားခြင်းတို့သည် အသစ်ဖြစ်သောအရာနှစ်ခုဖြစ်သည်။** အသစ်ဖြစ်သောအရာနှင့် မကင်းသောအ**ရာသည် အသစ်အရာဖြစ်သည်။ အကယ်၍** အလ္လာဟ်အရှင်ကို ပကတူးတည်ရှိသည့် နေရာယူမှုရှိသော ရုပ်ခန္ဓာ**အဖြစ် ပုံဖော်စဉ်းစား၍ရလျှင်၊ လောကရှိ ရုပ်ဝတ္ထု**များကိုလည်း ပကတူးတည်ရှိမှုများအဖြစ် စဉ်းစားနိုင်တော့မည်**ဖြစ်သည်။ တဖန် အကယ်၍ တစ်ဦးတစ်ယောက်က** အလ္လာဟ်အရှင်သည် **နေရာယူမှုမရှိသော** ရုပ်ခန္ဓာဖြစ်သည်ဟု **ခေါ်ဆိုလျှင် ထိုသူဆိုလိုသော** အလိုအနက်သည် **မမှားသော်လည်း ထိုသူ၏ခေါ်ဝေါ်သုံးနှုန်းမှုက** မှားသည်။

**ပဉ္စမအခြေခံ–** အလ္လာဟ်အရှင်သည် ရုပ်ဝတ္ထု၏အပေါင်းအစုဖြစ်သော **ရုပ်ခန္ဓာမဟုတ်ကြောင်း သိရှိယုံကြည်ရမည်။ ခန္ဓာဆိုသည်မှာ** ရုပ်ဝတ္ထုများ၏ပေါင်းစုထားမှုကို ခေါ်ဆိုခြင်းဖြစ်သည်။ **စတုတ္ထအခြေခံတွင်** ပြဆိုခဲ့သည်နှင့်အညီ **အလ္လာဟ်အရှင်သည်** တည်နေရာဖြင့် သီးသန့်ဖြစ်ရသော ရုပ်ဝတ္ထုမဟုတ်သည့်အပေါ်မှာ၊ **အလ္လာဟ်အရှင်သည် ရုပ်ခန္ဓာ**လည်း မဟုတ်တော့ပေ။ အဘယ်ကြောင့်ဆိုသော် ရုပ်ခန္ဓာများအားလုံးသည် တည်နေရာနှင့် **သီးသန့်ဆက်တွဲမှုရှိသည်။** ထို့ပြင် ရုပ်ဝတ္ထုများ၏ပေါင်းစုထားမှုဖြစ်သည်။ ရုပ်ဝတ္ထုဆိုသည်မှာ ပိုင်းစိတ်ခွဲခြားခြင်း၊ ပေါင်း**စပ်စုစည်း**ခြင်း၊ လှုပ်ရှားခြင်း၊ တည်ငြိမ်ခြင်း၊ အဆင်းသဏ္ဌာန်ရှိခြင်း၊ ထုထည်ပမာဏရှိခြင်းများမှ ကင်းရန် မဖြစ်နိုင်ပေ။ ဤအရာများသည် အသစ်ဖြစ်ခြင်း၏အချင်းလက္ခဏာများဖြစ်သည်။ အကယ်၍ လောကကို ပြုလုပ်ဖန်တီးသောအရှင်ကို ရုပ်ခန္ဓာရှိသည်ဟု ခံယူယုံကြည်ခြင်း ပိုင်မည်ဆိုလျှင် အခြားရုပ်**ခန္ဓာအမျိုးအစားများ**ဖြစ်သည့် နေလ အစရှိသည်တို့ကိုလည်း ကိုးကွယ်ရာအရှင်အဖြစ် ခံယူယုံကြည်ခြင်း ပိုင်ပေ**တော့မည်။ ထို့ပြင် အတင့်ရဲ**သူတစ်ဦးက 'အလ္လာဟ်အရှင်သည် ရုပ်ဝတ္ထုများပေါင်းစုထားခြင်းမဟုတ်သော **ခန္ဓာဖြစ်သည်'ဟု ပြောဆိုလျှင်၊** သူ၏ပြောဆိုမှုသည် ရုပ်ခန္ဓာဖြစ်ခြင်း၏အဓိပ္ပါယ်ကို ငြင်းဆိုထားမှု ပါရှိသော်လည်း၊ သုံးနှုန်း**သောစကားလုံးက** မှားယွင်းနေပေသည်။

**ဆဋ္ဌမအခြေခံ–** အလ္လာဟ်အရှင်သည် ရုပ်ဝတ္ထုကို မှီခိုရပ်တည်**သောအရာလည်း**မဟုတ်၊ နေရာဌာနတစ်ခုတွင် ကိန်းဝပ်ဝင်ရောက်သောအရာလည်းမဟုတ်ကြောင်း သိရှိယုံကြည်**ရမည်။ အဘယ်ကြောင့်ဆိုသော်** ရုပ်ဝတ္ထုသည် အသစ်ဖြစ်သောအရာဖြစ်ရာ၊ ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာသည်**လည်း** အသစ်ဖြစ်သောအရာပင်ဖြစ်သည်။ အသစ်အရာကို ဖြစ်ပေါ်စေသူသည် အသစ်အရာ၏အလျှင် **မလွဲမသွေရှိရမည်**ဖြစ်သည်။ အလ္လာဟ်အရှင်သည် အခြားမည်သည့်အရာမှ မရှိခဲ့သေးချိန် ယခေါင်ကတည်းက မိမိတစ်ပါးတည်း တည်ရှိတော်မူခဲ့သည်ဖြစ်ရာ၊ ရုပ်ဝတ္ထုတွင် ကိန်းဝပ်ဝင်ရောက်ရန် မည်သို့ဖြစ်နိုင်ပါသနည်း။ ထို့နောက်တွင်မှ အလ္လာဟ်အရှင်က ရုပ်ဝတ္ထုများနှင့် ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာများကို ဖြစ်ပေါ်စေတော်မူခဲ့ခြင်းဖြစ်သည်။

တဖန် အလ္လာဟ်အရှင်သည် သိတော်မူသောအရှင်၊ စွမ်းတော်မူသောအရှင်၊ ဆန္ဒပြုတော်မူသောအရှင်၊ ဖန်ဆင်းတော်မူသောအရှင်– ဆိုသည့်ဂုဏ်ထူးဝိသေသတော်များကို ပိုင်ဆိုင်တော်မူသောအရှင်ဖြစ်သည်။ ဤဂုဏ်တော်များ အကြောင်း ရှေ့တွင်ဖေါ်ပြမည်။ ဤဂုဏ်ထူးဝိသေသများသည် ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာများတွင် ရှိရန်

မဖြစ်နိုင်ပေ။ အမှန်မှာ ဤဂုဏ်တော်များသည် သီးသန့်ဖြစ်မှုဖြင့်ပကတိတည်ရှိကြောင်းကို ကိုယ်တိုင်ရပ်တည်သော အရှင်ဖြစ်တော်မူခြင်းဖြင့်သာ သိရှိနားလည်နိုင်ပေသည်။

ယခုပြဆိုခဲ့သော အခြေခံခြောက်ခုအရ အလ္လာဟ်အရှင် တည်ရှိတော်မူသည့်အကြောင်း၊ မိမိကိုယ်တော်တိုင် ရပ်တည်နေသည့်အကြောင်း၊ အလ္လာဟ်အရှင်သည် ရုပ်ဝတ္ထုမဟုတ်သလို၊ ရုပ်ဝတ္ထုကို မှီခိုရပ်တည်သည့်အရာလည်း မဟုတ်ကြောင်း နားလည်သဘောပေါက်နိုင်ပေပြီ။

လောက၏ခပ်သိမ်းသောအရာတို့သည် ရုပ်ဝတ္ထုများ၊ ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာများ၊ ရုပ်ခန္ဓာများ ချည်းဖြစ်ကြသည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်သည် မည်သည့်အရာနှင့်မျှ တူဆင်ခြင်းမရှိပေ။ မည်သည့်အရာကမှ လည်း အလ္လာဟ်အရှင်နှင့် တူဆင်ခြင်းမရှိပေ။ စင်စစ် ထိုအရှင်သည် ရှင်နေတော်မူသောအရှင်၊ အခိုင်အမာတည်တံ့ တော်မူသောအရှင်ဖြစ်သည်။ ထိုအရှင်နှင့် နှိုင်းခိုင်းစရာ ပမာတူဟူ၍ မည်သည့်အရာမှ မရှိချေ။ အဖန်ဆင်းခံအရာ များသည် ၎င်းတို့အား ဖန်ဆင်းသောအရှင်နှင့် တူဆင်ရန် မည်သို့ဖြစ်နိုင်မည်နည်း။ သတ်မှတ်ပြဋ္ဌာန်းခြင်းခံရသော အရာသည် သတ်မှတ်ပြဋ္ဌာန်းတော်မူသောအရှင်နှင့် တူဆင်ရန် မည်သို့ဖြစ်နိုင်ပါသနည်း။ ပုံဖော်ခြင်းခံရသောအရာ သည် ပုံဖော်တော်မူသောအရှင်နှင့် တူဆင်ရန် မည်သို့ဖြစ်နိုင်မည်နည်း။ ရုပ်ဝတ္ထုများနှင့် ရုပ်ဝတ္ထုကို မှီခိုရပ်တည် သောအရာများအားလုံးသည် ထိုအရှင်၏ဖန်ဆင်းပြုလုပ်မှုများဖြစ်သည်။ သို့ဖြစ်ရာ ၎င်းတို့အား အလ္လာဟ်အရှင်နှင့် အလားတူအသွင်တူဖြစ်သည်၊ တူဆင်မှုရှိသည်ဟု ဆုံးဖြတ်သတ်မှတ်ရန် ဖြစ်နိုင်ခြင်းမရှိပေ။

**သတ္တမအခြေခံ**– အလ္လာဟ်အရှင်၏ပကတိတော်သည် 'ဘက်'များဖြင့် ဖော်ပြရသည့်အဖြစ်မှ ကင်းစင်ကြောင်းသိရှိ ယုံကြည်ရမည်။ 'ဘက်'ဆိုသည်မှာ အထက်၊ အောက်၊ ညာ၊ ဘယ်၊ ရှေ့၊ နောက် ဟူ၍ဖြစ်သည်။ ဤ'ဘက်'များကို ဖန်ဆင်းဖြစ်ပေါ်စေခြင်းသည် လူသားအား ဖန်ဆင်းထားမှုကို ဗဟိုပြုသည်။ အလ္လာဟ်အရှင်သည် လူသားကို 'ထိပ်' နှစ်ဖက်ဖြင့် ဖန်ဆင်းထားတော်မူရာ၊ မြေကြီးပေါ်တွင် ထောက်ထားသောအပိုင်းကို ခြေထောက်ဟုခေါ်သည်။ ထိုခြေ ထောက်နှင့်အပြိုင် တစ်ဘက်ထိပ်တွင် ရှိသောအပိုင်းကို ခေါင်းပိုင်းဟုခေါ်သည်။ ခေါင်း'ဘက်'တွင် ရှိသောအပိုင်း ကို 'အပေါ်'ဟု အမည်ပေးထားသည်။ ခြေ'ဘက်'တွင် ရှိသောအပိုင်းကို 'အောက်'ဟု အမည်ပေးထားသည်။

ပုရွက်ဆိတ်တစ်ကောင်သည် အိမ်ခေါင်မိုးအောက်တွင် ကပ်၍ ပက်လက်သွားနေရာ၊ ထိုပုရွက်ဆိတ်အတွက် ခေါင်မိုးကို သူ၏အောက်တွင် ရှိသည်ဟု သတ်မှတ်ရမည်ဖြစ်သည်။ အမှန်အားဖြင့် ထိုခေါင်းမိုးသည် ကျွန်ုပ်တို့၏ အထက်တွင် ရှိနေသည်။ ထို့ပြင် အလ္လာဟ်အရှင်သည် လူသားအတွက် လက်နှစ်ဘက် ဖန်ဆင်းပေးတော်မူရာ၊ ထို လက်နှစ်ဘက်တွင် များသောအားဖြင့် တစ်ဘက်က တစ်ဘက်ထက် ပို၍ သန်သည်။ သို့ဖြစ်ရာ ပိုသန်သော'ဘက်' ၏အမည်သည် 'ညာဘက်'ဖြစ်သည်။ ထိုညာ'ဘက်'နှင့်ဆန့်ကျင်ဘက်၏အမည်သည် 'ဘယ်ဘက်'ဖြစ်သည်။ ထို့ ပြင် လူသားအတွက် နောက်ထပ်'ဘက်'နှစ်ဘက် ဖန်ဆင်းတော်မူထားသည်။ ထိုနှစ်ဘက်အနက် လူသားက ကြည့်ရှု သောဘက်၏အမည်သည် 'ရှေ့ဘက်'ဖြစ်သည်။ လူသား၏လှုပ်ရှားသွားလာမှုသည် ထို'ရှေ့ဘက်'သို့ ဦးတည်သည်။ ထို'ရှေ့ဘက်'နှင့် ဆန့်ကျင်ဘက်၏အမည်သည် 'နောက်ဘက်'ဖြစ်သည်။ လူသားသည် အသစ်ဖြစ်ပေါ်မှုဖြစ်သည် နှင့်အညီ ထို'ဘက်'များသည်လည်း အသစ်ဖြစ်သောအရာများဖြစ်သည်။

အကယ်၍ လူသားကို ယခုလက်ရှိအသွင်အတိုင်း ဖန်ဆင်းခြင်းမပြုဘဲ၊ ဘောလုံးကဲ့သို့ လုံးဝန်းသောအသွင် ဖြင့် ဖန်ဆင်းမည်ဆိုပါက ထို'ဘက်'များ ဖြစ်ပေါ်တည်ရှိလာလိမ့်မည်မဟုတ်ပေ။ သို့ဖြစ်ရာ 'ဘက်'ဆိုသောအရာများ သည် အသစ်ဖြစ်သောအရာများ ဖြစ်သည်နှင့်အမျှ၊ ပကတူးက တည်ရှိတော်မူခဲ့သော အလ္လာဟ်အရှင်သည် ဘက် တစ်ခုခုဖြင့် အဘယ်သို့ သီးသန့်ဖြစ်ရှိနိုင်ပါမည်နည်း။ ထို့ပြင် အလ္လာဟ်အရှင်သည် မည်သည့်နည်းဖြင့် မည်သည့် ဘက်တစ်ခုခုတွင် သီးသန့်ဖြစ်နိုင်ပါသနည်း။ အဘယ်ကြောင့်ဆိုသော် လူသားသည်ပင် စတင်ဖန်ဆင်းသည့်အချိန်

က ဘက်တစ်ခုခုဟူ၍ သီးသန့်ဖြစ်ရှိခဲ့ခြင်းမရှိသေးချေ။

သို့နှင့်အမျှ အလ္လာဟ်အရှင်သည် 'မိမိအတွက် အထက်'ဟု ရှိခြင်းမှလည်း ကင်းစင်တော်မူသည်။ အလ္လာဟ်အရှင်သည် ဦးခေါင်းရှိခြင်းမှ လွတ်ကင်းတော်မူသည်ဖြစ်ရာ၊ 'အထက်'ဆိုသောအရာထက် ပိုမိုမြင့်မားတော်မူသောအရှင်ဖြစ်သည်။ 'အထက်'ဆိုသည်မှာ ခေါင်းရှိသောဘက်ကို ခေါ်ဆိုခြင်းဖြစ်သည်။ ဤနည်းအလားတူ အလ္လာဟ်အရှင်သည် 'မိမိအတွက် အောက်'ဟု ရှိခြင်းထက် ပိုမိုမြင့်မားတော်မူသောအရှင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင့်တွင် ခြေထောက်ဟူ၍ မရှိသောကြောင့်ဖြစ်သည်။ 'အောက်'ဆိုသည်မှာ ခြေထောက်ရှိသောဘက်ကို ခေါ်ခြင်းဖြစ်သည်။ ဤအရာအားလုံးသည် အသိဉာဏ်အရ မဖြစ်နိုင်သောကိစ္စများဖြစ်သည်။

အလ္လာဟ်အရှင်ကို 'ဘက်'တစ်ခုခုဖြင့် သီးသန့်ပြုဖော်ပြ၍ မရခြင်း၏အကြောင်းတစ်ခုမှာ ဤသို့ဖြစ်သည်။ အကယ်၍ အလ္လာဟ်အရှင့်ကို 'ဘက်'တစ်ခုခုဖြင့် သီးသန့်ပြုဖော်ပြခဲ့မည်ဆိုပါလျှင်၊ အသိဉာဏ်တွင် ပေါ်လာမည့်အချက်မှာ 'ရုပ်ဝတ္ထုသည် နေရာတစ်ခုခုဖြင့် သီးသန့်ဖြစ်ရှိသကဲ့သို့၎င်း၊ ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာသည် ရုပ်ဝတ္ထုတစ်ခုခုဖြင့် သီးသန့်ဖြစ်ရှိသကဲ့သို့၎င်း အလ္လာဟ်အရှင်သည် ဘက်တစ်ခုခုဖြင့် သီးသန့်ဖြစ်ရှိသည်'ဟု ဖြစ်သည်။ ဤနေရာ၌ အလ္လာဟ်အရှင်သည် ရုပ်ဝတ္ထုလည်း မဟုတ်၊ ရုပ်ဝတ္ထုကို မှီခိုရပ်တည်သောအရာလည်း မဟုတ်ကြောင်း ထင်ရှားပြီးဖြစ်သည်။ သို့ဖြင့် အလ္လာဟ်အရှင်သည် ဘက်တစ်ခုခုဖြင့် သီးသန့်ဖြစ်ရှိခြင်း မရှိကြောင်းလည်း သိသာထင်ရှားပြီဖြစ်သည်။ အကယ်၍ 'ဘက်တစ်ခုခုဖြင့် သီးသန့်ဖြစ်ရှိခြင်း'ဆိုသည်ကို ပြောဆိုရည်ရွယ်ရာတွင်၊ အထက်ပါအလိုသဘောနှစ်ခု မပါဝင်ပါဟု ဆိုလျှင် အဓိပ္ပါယ်အရ မှန်ကန်မည်ဖြစ်သော်လည်း အမည်နာမအားဖြင့် မှားယွင်းလေသည်။

'ဘက်'များဖြင့် အလ္လာဟ်အရှင်အား သီးသန့်ပြု၍ မရနိုင်ခြင်း၏နောက်အကြောင်းတစ်ခုမှာ ဤသို့ရှိသည်။ အကယ်၍ အလ္လာဟ်အရှင်သည် လောက၏အထက်တွင် ရှိနေသည်ဟုဆိုလျှင် ထိုအရှင့်အတွက် တည်နေရာဟူ၍ ရှိရတော့မည်။ တည်နေရာရှိသောအရာအားလုံးသည် ရုပ်ခန္ဓာသာဖြစ်ရမည်။ တည်နေရာသည် ရုပ်ခန္ဓာနှင့် တစ်တန်းတည်းဖြစ်ချင်ဖြစ်မည်။ ထို့ထက် ပို၍ငယ်ချင်ငယ်မည်။ သို့မဟုတ် ပို၍ ကြီးချင်ကြီးမည်။ ဤအခြေအနေသုံးခုတွင် အလ္လာဟ်အရှင့်ကို ပိုင်းခြားကန့်သတ်ပေးထားသည့်အဖြစ်အား မလွဲမသွေလက်ခံရတော့မည်ဖြစ်သည်။ အလ္လာဟ်အရှင်သည် ဤအဖြစ်မျိုးထက်လည်း မြင့်မားလွတ်ကင်းတော်မူသည်။ ထိုအရှင်သည် ဖန်ဆင်းရှင်၊ တစ်ပါးရှင်၊ စီမံခန့်ခွဲတော်မူသောအရှင်သာတည်း။

ဤသို့ဆိုလျှင် ဒိုအာတောင်းသည့်အခါ မိုးဘက်သို့ အဘယ်ကြောင့် လက်မြှောက်ရသနည်းဟု မေးခွန်းထုတ်လာနိုင်သည်။ ထိုအတွက်အဖြေမှာ မိုးကောင်းကင်သည် ဒိုအာ၏လှည့်ရာဘက် ကေဘလာဖြစ်သည်။ ဤသို့ ဒိုအာကို မိုးဘက်သို့ လှည့်စေသည်မှာ ဂုဏ်သိရ်ကြီးကျယ်မှုကို ရည်ညွှန်းခြင်းဖြစ်သည်။ အမြင့်ဘက်သည် ကြီးမြင့်မှုနှင့် အထက်တန်းကျမှုကို ဖော်ညွှန်းချက်ဖြစ်သည်။ ဤနည်းဖြင့် အလ္လာဟ်အရှင်၏နိုင်နင်းကြီးစိုးတော်မူခြင်းသည် အားလုံးသောတည်ရှိမှုများ၏အထက်တွင် ရှိနေကြောင်း ပြဆိုခြင်းဖြစ်သည်။

**အဋ္ဌမအခြေခံ**– အလ္လာဟ်အရှင်သည် အရ်ရှ်တော်၌ 'စံ'နေတော်မူသည်။ ထိုသို့ 'စံ'တော်မူရာတွင် အလ္လာဟ်အရှင်က အရဗီစကားလုံး 'الاستواء'ကို သုံးနှုန်းဖော်ပြတော်မူသည်။ သို့ဖြစ်ရာ အရ်ရှ်တော်၌ 'الاستواء'ပြုတော်မူသည့်အလို အဓိပ္ပါယ်ကို အလ္လာဟ်အရှင်၏ကြီးမြတ်မှုဂုဏ်တော်နှင့် မဆန့်ကျင်သည့်အဓိပ္ပါယ်ဖြင့် ကောက်ယူရမည်။ ထို့ပြင် ထိုအဓိပ္ပါယ်တွင် အသစ်ဖြစ်မှုနှင့် မတည်မြဲမှု၏နိမိတ်လက္ခဏာများ မပါဝင်စေရပေ။ ကျမ်းမြတ်ကုရ်အာန်တွင် မိုးကောင်းကင်ဘက်သို့ ဦးတည်ရှေ့ရှုသည့် အဓိပ္ပါယ်ဖြင့် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ثُمَّ اسْتَوَىٰ إِلَى السَّمَاءِ وَهِيَ دُخَانٌ﴾

**'ထို့နောက် ငါအရှင်သည် ထိုအချိန်က အခိုးအငွေ့အဖြစ်သာ ရှိနေသေးသော မိုးကောင်းကင်သို့ ဂရုစိုက် ပြုတော်မူသည်။'** **(စူရာဟာမီမ်စဂ်ဒဟ် ၁၁)**

သာဓကအားဖြင့် စာဆိုတစ်ဦးက စပ်ဆိုသည်မှာ–

قد استوى بشرٌ على العراق من غير سيفٍ ودمٍ مهراق

*ဘရှရ်သည် ဓါးမပါ သွေးမစီးရဘဲ အီရတ်ကို ချီတက်အောင်နိုင်ခဲ့သည်။*

အမှန်ဘက်သားပညာရှင်များသည် ဤကြံဆကောက်ယူမှုမျိုးကို မလွဲမရှောင်သာပြုလုပ်ကြရသည်။ လမ်းမှား **အုပ်စုက** အလ္လာဟ်အရှင်၏မိန့်ကြားချက်တစ်ခုကို မဖြစ်မနေ ကြံဆကောက်ယူကြရသကဲ့သို့ဖြစ်သည်။ ၎င်းတို့က အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်– ﴿وَهُوَ مَعَكُمْ أَيْنَمَا كُنتُمْ﴾

**'အသင်တို့ မည်သည့်နေရာ၌ ရှိသည်ဖြစ်စေ၊ ထိုအရှင်သည် အသင်တို့နှင့်အတူ ရှိနေတော်မူသည်။'**

**(စူရာဟဒီဒ် ၁၄)**

ဤအာယတ်တွင် 'အလ္လာဟ်အရှင်က လူသားနှင့်အတူ ရှိတော်မူသည်'ဆိုသည့် အလိုသဘောသည် အလ္လာဟ်အရှင် ၏လွှမ်းခြုံတော်မူခြင်းနှင့်အသိတော်ကို ဆိုလိုခြင်းဖြစ်သည်ဟု တစ်လေသံတည်း အဓိပ္ပါယ်ကောက်ယူခဲ့ကြသည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည့်–

قلب المؤمنين بين أصبعين من أصابع الرحمن. (م)

'အီမာန်ရှင်များ၏နှလုံးသားသည် အလ္လာဟ်အရှင်၏လက်ချောင်းများထဲမှ လက်ချောင်းနှစ်ချောင်း၏ အကြားတွင် ရှိနေသည်။'

ဤမိန့်ဆိုမှုကိုလည်း အာနုဘော်လွှမ်းမိုးခြင်း၏အဓိပ္ပါယ်ဖြင့် ကောက်ယူခဲ့ကြသည်။ တဖန် တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှု– الحجر الأسود بيمين الله في أرضه. (ق)

'အပ်စ်ဝဒ်ကျောက်သည် ကမ္ဘာမြေပေါ်ရှိ အလ္လာဟ်အရှင်၏ယာဘက်လက်တော်ဖြစ်သည်။'

ဤမိန့်ဆိုမှုကိုလည်း အလေးအမြတ်ဂုဏ်ပြုအပ်ခြင်း၏အဓိပ္ပါယ်ဖြင့် ကောက်ယူခဲ့ကြသည်။ အကယ်၍ ဤမိန့်ခွန်း တော်များကို စာသားအဓိပ္ပါယ် ပေါ်ထွက်သည့်အတိုင်းထားမည်ဆိုပါက လုံးဝယုတ္တိရှိလိမ့်မည်မဟုတ်ပေ။ ဤနည်း အတိုင်းပင် 'الإستواء'ကို နေထိုင်ခြင်း၊ နေရာယူခြင်း၏အဓိပ္ပါယ်အတိုင်း ထားမည်ဆိုပါက၊ နေရာယူသည့်ရုပ်ခန္ဓာ မလွဲမသွေဖြစ်ရတော့မည်။ ထို့ပြင် ထိုရုပ်ခန္ဓာသည် အရ္ရှ်တော်နှင့် ဆက်တွဲတည်ရှိရတော့မည်။ အရ္ရှ်တော်နှင့် တစ် ရွယ်တည်းဖြစ်ချင်ဖြစ်မည်၊ သို့မဟုတ် ပို၍ကြီးချင် ကြီးမည်။ ဤသည်မှာ မဖြစ်နိုင်သောအရာပင်။ အလ္လာဟ်အရှင် အဖို့ ရုပ်ခန္ဓာရှိရန်နှင့် အတိုင်းအထွာပမာဏရှိရန်ဆိုသည်မှာ မဖြစ်နိုင်သောအရာဖြစ်ကြောင်း အထက်တွင် သာဓက ဆောင်ခဲ့ပြီးပေပြီ။

**နဝမအခြေခံ**– အလ္လာဟ်အရှင်သည် ရုပ်ဆင်းသဏ္ဌာန်နှင့်အတိုင်းပမာဏရှိခြင်းမှ ကင်းစင်တော်မူပြီး အရပ်မျက်နှာ နှင့် 'ဘက်'ဆိုသည်များထက် မြင့်စွင့်သောအရှင် ဖြစ်တော်မူသည့်တိုင်အောင်၊ အာခိရတ်တွင် မျက်စေ့အရှုများဖြင့် ကြည့်ရှု မြင်တွေ့ရမည့်အရှင်ဖြစ်တော်မူသည်။ အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿وُجُوهٌ يَوْمَئِذٍ نَاضِرَةٌ ❁ إِلَىٰ رَبِّهَا نَاظِرَةٌ﴾

**'များစွာသောမျက်နှာများသည် ထိုနေ့တွင် ကြည်နူးလျက် ရှိကြမည်။ မိမိတို့၏ရဗ်အရှင်အား ကြည့်ရှု ဖူးမြင်လျက် ရှိကြမည်။'** **(စူရာကိယာမဟ် ၂၂–၂၃)**

ထို့ပြင် ဒုနိယာတွင် အလ္လာဟ်အရှင့်အား မြင်တွေ့နိုင်ခြင်း မရှိကြောင်း အလ္လာဟ်အရှင်ကိုယ်တိုင် အတည်ပြုမိန့်ကြား ထားသည်မှာ– ﴿لَا تُدْرِكُهُ الْأَبْصَارُ وَهُوَ يُدْرِكُ الْأَبْصَارَ﴾

**'မျက်စေ့အမြင်များက ထိုအရှင့်ကို တွေ့ရှိနိုင်မည်မဟုတ်။ ထိုအရှင်ကသာ မျက်စေ့အမြင်များကို တွေ့ရှိ တော်မူသည်။'** (စူရာအန်အာမ် ၊ ၁၀၃)

ထို့ပြင် အလ္လာဟ်အရှင်က တမန်တော်မူဆာသခင်ﷺအား မိန့်တော်မူမှာ–

﴿لَنْ تَرَانِي﴾

**'အသင်သည် ငါအရှင့်အား လုံးဝမြင်နိုင်လိမ့်မည်မဟုတ်။'** (စူရာအအ်ရာဖ် ၊ ၁၄၃)

ဤအာယတ်အရ တမန်တော်မူဆာﷺသခင်သည် ဒုနိယာလောကတွင်ရှိစဉ် အလ္လာဟ်အရှင့်အား မြင်တွေ့ ခဲ့ရခြင်းမရှိကြောင်း သိရသည်။ ထိုသို့ တမန်တော်ကြီးတစ်ပါးပင် တွေ့မြင်နိုင်ခြင်းမရှိပါဆိုသော အလ္လာဟ်အရှင်၏ ဂုဏ်ထူးဝိသေသတော်အား မုအ်တဇီလာဂိုဏ်းက မြင်တွေ့နိုင်ပါသည်ဟု ဆိုရသည့်အကြောင်းကို ကျွန်ုပ်သိချင်စမ်း ပါဘိ။ ထို့ပြင် တမန်တော်မူဆာသခင်ﷺသည် အလ္လာဟ်အရှင်အား ဖူးမြင်ရန် မဖြစ်နိုင်မှန်းသိလျက်နှင့်၊ အဘယ် ကြောင့် မေးမြန်းခဲ့သနည်း။ ရှင်းနေသည့်အချက်မှာ ဤသို့ဖြစ်သည်။ နဗီတမန်တော်များﷺ မသိနိုင်ခဲ့သောကိစ္စကို ဤဉာဏ်တုံးသောဗိဒအတ်သမားများလည်း သိနိုင်လိမ့်မည်မဟုတ်ပေ။

အာယတ်တွင် အလ္လာဟ်အရှင်အား ဖူးမြင်ရမည်ဟုဆိုခြင်းသည် အာခိရတ်အတွက်ဖြစ်သည်။ အာခိရတ်တွင် ဖူးမြင်ရမည်ဆိုခြင်းကမူ မဖြစ်နိုင်သောအရာ မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် မြင်ခြင်းသည် တွေ့ခြင်းသိခြင်း၏ အမျိုးအစားတစ်ခုဖြစ်သည်။ ကွာခြားသည်မှာ သိခြင်းထက် မြင်ရခြင်းက ပို၍ပြည့်စုံရှင်းလင်းမှုရှိသည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်အား 'ဘက်'တစ်ခုခုဖြင့်မဟုတ်ဘဲ သိရှိခြင်းသည် ပိုင်သကဲ့သို့၊ အလ္လာဟ်အရှင်အား'ဘက်'တစ်ခုခု မပါဝင်ဘဲ ဖူးမြင်ခြင်းသည် ပြုပိုင်သောအရာဖြစ်သည်။ တဖန် အလ္လာဟ်အရှင်က လူသားတို့အား မျက်နှာချင်းဆိုင် မဟုတ်ဘဲ မြင်တွေ့တော်မူခြင်းသည် အမှန်ဖြစ်သကဲ့သို့၊ လူသားတို့က အလ္လာဟ်အရှင့်အား မျက်နှာချင်းဆိုင်အနေ အထားဖြင့် ဖူးမြင်ရမည်ဆိုခြင်းသည် အမှန်ဖြစ်သည်။ အလ္လာဟ်အရှင့်အား ပုံပန်းသဏ္ဍာန်တစ်ခုခုဖြင့် မဟုတ်ဘဲ သိ ရန် ခွင့်ပြုသကဲ့သို့၊ အလားတူအနေအထားဖြင့် ဖူးမြင်ရန်သည်လည်း ခွင့်ပြုသောကိစ္စဖြစ်သည်။

**၁၁ သမအခြေခံ**– အလ္လာဟ်အရှင်သည် တစ်ပါးတည်းရှိတော်မူပြီး ထိုအရှင်နှင့် တွဲဖက်သူ မရှိကြောင်း သိရှိယုံကြည် ရမည်။ အလ္လာဟ်အရှင်သည် တစ်ပါးရှင်ဖြစ်တော်မူပြီး၊ ထိုအရှင်နှင့် ဂုဏ်ရည်တူ မရှိချေ။ ဖန်ဆင်းခြင်းနှင့် မရှိ သောအရာကို ရှိလာအောင်ပြုလုပ်နိုင်သူမှာ ထိုအရှင်တစ်ပါးတည်းသာဖြစ်သည်။ အသစ်တီထွင်ခြင်းနှင့် ဖန်တီးဖြစ် ပေါ်စေခြင်းတွင် ထိုအရှင်သည် တစ်ကိုယ်တော်ဖြစ်တော်မူသည်။ ထိုအရှင်နှင့် တန်းတူရည်တူ ပမာတူဟူ၍ မည်သူ မှ မရှိပေ။ တဖန် ထိုအရှင့်ကို ရင်ဆိုင်၍ ဆန့်ကျင်အံတုနိုင်သူ မည်သူမှ မရှိပေ။ ထိုအတွက် သာဝေမှာ အလ္လာဟ် အရှင်၏ မိန့်ခွန်းတော်– ﴿لَوْ كَانَ فِيهِمَا آلِهَةٌ إِلَّا اللَّهُ لَفَسَدَتَا﴾

**'မိုးနှင့်မြေတွင် အလ္လာဟ်အရှင်၏ အပြင် ကိုးကွယ်ရာအရှင်များ ရှိခဲ့မည်ဆိုလျှင် ထိုမိုးနှင့်မြေသည် မုချ ပျက်စီးပြီးဖြစ်အံ့။'** (စူရာအန်ဘိယာ ၊ ၂၂)

ရှင်းလင်းချက်မှာ ဤသို့ရှိသည်။ အကယ်၍ ကိုးကွယ်အရှင်နှစ်ပါးရှိမည်ဆိုလျှင် အရှင်တစ်ပါးက ကိစ္စရပ်တစ်ခုကို ဆန္ဒရှိသည့်အခါ နောက်တစ်ပါးက ထိုဆန္ဒကို လိုက်လျောရတော့မည်။ ထိုသို့လိုက်လျောရသည်နှင့် လွှမ်းမိုးခြင်းခံ ရသော မစွမ်းသောအရှင်ဖြစ်သွားမည်။ ထိုသို့မလိုက်လျောဘဲ အတိုက်အခံပြုရန် အစွမ်းရှိမည်ဆိုလျှင် ပထမအရှင် သည် အစွမ်းရှိသောအရှင်မဟုတ်ဘဲ၊ အားနည်းချိနဲ့သူဖြစ်လိမ့်မည်။

## -အီမာန်၏ဒုတိယမဏ္ဍိုင်-

## အလ္လာဟ်အရှင်၏ဂုဏ်တော်များကို သိရှိယုံကြည်မှု၏ပဓာနဖြစ်သော အခြေခံဆယ်ခု

**ပထမအခြေခံ–** စကြာဝဠာလောကကို ဖန်ဆင်းတော်မူသောအလ္လာဟ်အရှင်သည် စွမ်းတော်မူသောအရှင်ဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ ထိုအရှင်က– ﴿وَهُوَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ﴾

**'ထိုအရှင်သည် အရာခပ်သိမ်းကို စွမ်းတော်မူသောအရှင်ဖြစ်သည်။'** (စူရာမွလ်က် ၊ ၁)

ဟု မိန့်တော်မူသည့်အတိုင်း အမှန်ဖြစ်သည်။ စကြာဝဠာလောကကြီး အခိုင်အမာ တည်ရှိခြင်းနှင့် စနစ်တကျ လည်ပတ်နေခြင်းတို့သည် ထိုအရှင်၏ အစွမ်းတော်ကြောင့်သာဖြစ်သည်။ လူတစ်ယောက်သည် အနားသတ်အမြိတ်အဆာ ပန်းပွားများဖြင့် လှပစွာယက်လုပ်ထားသော ပိုးထည်ကို မြင်တွေ့ရကာ၊ ထိုပိုးထည်ကို သေဆုံးပြီးသူတစ်ဦးက ယက်လုပ်ထားခြင်းဖြစ်သည်ဟု တွေးတောယူဆမည်ဆိုလျှင် ထိုသူသည် အသိဉာဏ်ဟူ၍ အငွေ့အသက်လောက်ပင် မရှိသူဖြစ်လိမ့်မည်။

**ဒုတိယအခြေခံ–** အလ္လာဟ်အရှင်သည် တည်ရှိနေမှုအားလုံးကို သိတော်မူသောအရှင်၊ အလ္လာဟ်အရှင်၏အသိတော်သည် ခပ်သိမ်းသောအဖန်ဆင်းခံများအပေါ်တွင် လွှမ်းခြုံလျက်ရှိကြောင်း သိရှိယုံကြည်ရမည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ– ﴿وَمَا يَعْزُبُ عَنْ رَبِّكَ مِنْ مِثْقَالِ ذَرَّةٍ فِي الْأَرْضِ وَلَا فِي السَّمَاءِ﴾

**'အသင်၏ ရဗ်အရှင်ထံတွင် ကမ္ဘာမြေ၌သော်၎င်း၊ မိုးကောင်းကင်၌သော်၎င်း မြူမှုန်စန့်မျှအရာသည်ပင် ဖုံးကွယ်နေခြင်း မရှိပေ။'** (စူရာယူနွစ် ၊ ၆၁)

ဟုဖြစ်၏။ ထို့ပြင် အလ္လာဟ်အရှင်က– ﴿وَهُوَ عَلَىٰ كُلِّ شَيْءٍ عَلِيمٌ﴾

**'ထိုအရှင်သည် အရာခပ်သိမ်းကို သိတော်မူသောအရှင်ဖြစ်သည်။'** (စူရာဘကရာ ၊ ၂၉)

ဟု မိန့်တော်မူထားသည့်အတိုင်း အမှန်ဖြစ်သည်။ ထို့ပြင် ဤသို့မှန်ကန်ကြောင်း ညွှန်ပြနေသည့် အလ္လာဟ်အရှင်၏ မိန့်ခွန်းတော်ရှိသည်မှာ– ﴿أَلَا يَعْلَمُ مَنْ خَلَقَ وَهُوَ اللَّطِيفُ الْخَبِيرُ﴾

**'ထိုသူသည် ဖန်ဆင်းတော်မူသည့်အရှင်အား မသိသလေလော။ ထိုအရှင်ကား လျှို့ဝှက်ချက်များကို သိတော်မူသော၊ အရာရာကို သိတော်မူသောအရှင်ပင်တည်း။'** (စူရာမွလ်က် ၊ ၁၄)

အာယတ်က ညွှန်ပြသည့်အချက်မှာ ဤသို့ဖြစ်သည်။ အလ္လာဟ်အရှင်၏ဖန်ဆင်းတော်မူခြင်းက အလ္လာဟ်အရှင် သိတော်မူကြောင်း အထောက်အထားဖြစ်သည်။ အဖန်ဆင်းခံများကို အလွန်အနုစိတ်သိမ်မွေ့စွာ စနစ်တကျ ဖန်ဆင်းတော်မူထားကြောင်း အသင်သံသယဖြစ်နိုင်မည် မဟုတ်ပေ။ သို့ဖြစ်ရာ ထိုအရာများကို ဖန်ဆင်းတော်မူသောအရှင်သည် အစီအစဉ်ရှိရှိ စနစ်တကျ ပြုလုပ်ဖော်ဆောင်မှုကို ကောင်းစွာသိကျွမ်းတော်မူသောအရှင်ဖြစ်ကြောင်း အသင်နားလည်ရမည်သာဖြစ်သည်။ အလ္လာဟ်အရှင်က ဖော်ပြတော်မူသောအရာသည် လမ်းညွှန်တရားနှင့် ဖွင့်ဆိုမှုတွင် အဆုံးစွန် ပြီးပြည့်စုံသောဖော်ပြချက်ဖြစ်သည်။

**တတိယအခြေခံ–** အလ္လာဟ်အရှင်မြတ်သည် ရှင်နေတော်မူသောအရှင်ဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ အလ္လာဟ်အရှင်၏သိတော်မူခြင်း၊ အလ္လာဟ်အရှင်၏စွမ်းတော်မူခြင်းများသည် အခိုင်အမာအတည်ဖြစ်သည်နှင့်အမျှ ထိုအရှင်

သည် ရှင်နေတော်မူသောအရှင်ဖြစ်ကြောင်းသည်လည်း မလွဲမသွေအတည်ဖြစ်သည်။ အကယ်၍ အစွမ်းရှိသူ၊ အသိရှိသူ၊ ပြုမူလုပ်ကိုင်သူ၊ စီမံဆောင်ရွက်သူတစ်ဦးကို ရှင်နေသူ မဟုတ်ပါဟု မှတ်ယူနိုင်မည်ဆိုလျှင်၊ လှုပ်ရှားမှု တည်ငြိမ်မှုများ အခါမလပ် တရစပ်ဖြစ်နေသော သက်ရှိသတ္တဝါများ၏အသက်ရှင်နေခြင်းကိုလည်း သံသယဝင်နိုင်တော့မည်ဖြစ်သည်။ သို့သာမက ကမ္ဘာပေါ်တွင် လှုပ်ရှားလုပ်ကိုင်သွားလာနေသူ လူအားလုံးတို့၏အသက်ရှင်နေခြင်းကိုလည်း သံသယဝင်ရတော့မည်ဖြစ်သည်။ ဤသို့သံသယဝင်မည်ဆိုလျှင် ကမ်းကုန်အောင် မသိမိုက်မဲခြင်းနှင့် သွက်သွက်ခါအောင် မှားယွင်းခြင်းပင်ဖြစ်သည်။

**စတုတ္ထအခြေခံ**– အလ္လာအရှင်သည် **မိမိ၏**လုပ်ဆောင်မှုများအပေါ် ဆန္ဒပြုတော်မူသောအရှင်ဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ ထိုအရှင်၏အလိုတော် **မပါဝင်ဘဲ** မည်သည့်အရာမှ ဖြစ်ပေါ်တည်ရှိခြင်း မဖြစ်နိုင်ချေ။ အရာအားလုံးသည် ထိုအရှင်၏ဆန္ဒတော်**အရ ပေါ်ထွက်ဖြစ်ရှိ**လာခြင်းဖြစ်သည်။ ထိုအရှင်သည် စတင်ရာဖြစ်တော်မူသောအရှင်၊ ပြန်လည်ဆိုက်ရောက်ရာ **ဖြစ်တော်မူသောအရှင်** ဖြစ်သည်။ ထို့ပြင် ဆန္ဒတော်ရှိသည့်အရာကို ပြုလုပ်တော်မူသောအရှင်ဖြစ်တော်မူသည်။

**အလ္လာဟ်အရှင့်ထံမှ ပေါ်ထွက်သော လုပ်ရပ်တစ်ခုသည်** ၎င်းနှင့် ဆန့်ကျင်သောလုပ်ရပ် ထွက်ပေါ်ရန်၎င်း၊ သို့မဟုတ် ဆန့်ကျင်ခြင်းမရှိသောလုပ်ရပ်ဖြစ်ပါက **ထိုလုပ်ရပ်ဖြစ်ပေါ်ချိန်ထက် စော၍** ပေါ်ထွက်ရန်၎င်း၊ နောက်ကျ၍ ပေါ်ထွက်ရန်၎င်း ဖြစ်မည်ဆိုက ဖြစ်နိုင်လေသည်။ **သို့နှင့်တိုင် ထိုသို့ဖြစ်မလာခြင်းက** အလ္လာဟ်အရှင်သည် ဆန္ဒပြုတော်မူသောအရှင်ဖြစ်ကြောင်း သာဓကဖြစ်သည်။ **အလ္လာဟ်အရှင်၏အစွမ်းတော်သည်** ထိုလုပ်ရပ်ကို ဖြစ်စေရန်၎င်း၊ ထိုလုပ်ရပ်ဆန့်ကျင်ဘက်ကို ဖြစ်စေရန်၎င်း၊ စော၍ဖြစ်စေရန်၎င်း၊ နောက်ကျ၍ဖြစ်စေရန်၎င်း တစ်ပြေးညီစွမ်းတော်မူသောအရှင်ဖြစ်သည်။ သို့ဖြစ်ရာ ဆန္ဒတော်က ထိုစွမ်းနိုင်သောအမျိုးအစားနှစ်ခုအနက်မှ တစ်ခုဘက်သို့ အစွမ်းတော်ကို လှည့်ပေးလိုက်ခြင်းဖြစ်သည်။

အကယ်၍ တစ်စုံတစ်ယောက်က 'အလ္လာဟ်အရှင့်တွင် အသိတော်ရှိထားပြီးဖြစ်ရာ ဆန္ဒတော်ဟူ၍ မလိုအပ်ပါ။ အရာတစ်ခု သူဖြစ်ရမည့်အချိန်၊ သူဖြစ်ရမည့်အနေအထားဖြင့် ဖြစ်ရှိလာခြင်းသည် ဆန္ဒတော်အရ မဟုတ်ပါ။ စင်စစ်တွင် ထိုအရာသည် ထိုအချိန် ထိုအနေအထားဖြင့် ဖြစ်ရှိလာမည်ကို မဖြစ်မီက ကြိုတင်သိတော်မူခြင်းသာဖြစ်သည်'ဟု ပြောဆိုမည်ဆိုပါက၊ ထိုအတွက် အဖြေသည် ဤသို့ဖြစ်သည်။ ထိုသူပြောဆိုသည့်အတိုင်းသာ မှန်လျှင် အစွမ်းတော်သည်လည်း လိုတော့မည်မဟုတ်ပေ။ အရာတစ်ခု ဖြစ်ရှိလာသည့်အပေါ်မှာ 'ဤအရာဖြစ်ရှိလာခြင်းတွင် အစွမ်းတော်၏အခန်းကဏ္ဍဟူ၍ မပါဝင်ပါ။ အဘယ်ကြောင့်ဆိုသော် ဤအရာဖြစ်ရှိလာခြင်းသည် မဖြစ်မီကတည်းက ကြိုတင်သိထားသော အသိတော်ကြောင့်သာဖြစ်သည်'ဟု အကြောင်းပြပြောဆို၍လည်း ရပေတော့မည်။

**ပဥ္စမအခြေခံ**– အလ္လာဟ်အရှင်သည် ကြားတော်မူသောအရှင် မြင်တော်မူသောအရှင် ဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ ထိုအရှင်သည် လူတို့၏စိတ်တွင်းမှ ဝိတက်ဝိစာရများ၊ အတွင်းကျိတ်စဉ်းစားမှုများ၊ တွေးခေါ်ယူဆမှုများမှအစ မဖုံးမဖိ မြင်တော်မူသောအရှင်ဖြစ်သည်။ တဖန် ညဉ့်အမှောင် ကျောက်ဖျာပေါ်မှာ တစ်ရွေ့ရွေ့သွားနေသော ပုရွက်ဆိတ်အနက်၏ခြေသံကိုပင် အတိုင်းသားကြားတော်မူသောအရှင်ဖြစ်သည်။

ကြားခြင်းနှင့်မြင်ခြင်းဆိုသည်မှာ အပြစ်အနာအဆာလျော့နည်းမှုများမဟုတ်ဘဲ ပြည့်ဝစုံလင်မှု၏ဂုဏ်ပုဒ်များသာဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်သည် အဘယ်မှာလျှင် ကြားတော်မမူဘဲ၊ မြင်တော်မမူဘဲ ရှိလိမ့်မည်နည်း။ အဖန်ဆင်းခံများက ကြားကြမြင်ကြရပြီး ဖန်ဆင်းတော်မူသောအရှင်က မကြားရမမြင်ရဆိုလျှင်၊ အဖန်ဆင်းခံများက ဖန်ဆင်းရှင်ထက်ပို၍ ပြည့်ဝစုံလင်ကြပေတော့မည်။ ပြုပြင်ဖန်တီးခြင်းခံရသောအရာက ပြုပြင်ဖန်တီးသူထက် ပို၍

အဖိုးထိုက် အဆင့်မြင့်သွားပေတော့မည်။ ထိုသို့ ဖန်ဆင်းရှင်၏ အဆင့်အတန်းက နိမ့်ကျလျော့နည်းပြီး အဖန်ဆင်းခံ **၏ အဆင့်အတန်းက** မြင့်မားပြည့်ဝနေမည်ဆိုလျှင် မှုတမူ အဘယ်မှာရှိနိုင်တော့မည်နည်း။ ထို့ပြင် တမန်တော်ကြီး **အီဗ်ရာဟီမ်** ﷺ သခင်၏ အထောက်အထားပြပြောဆိုမှုသည်လည်း အဘယ်မှာ မှန်နိုင်တော့မည်နည်း။ အီဗ်ရာဟီမ် **သခင်** ﷺ က အဝိဇ္ဇာဖုံးလွှမ်းပြီး ရုပ်တုများကို ကိုးကွယ်လျက်ရှိသော မိမိ၏ ဖခင်အား ပြောဆိုခဲ့သည်မှာ–

﴿لِمَ تَعْبُدُ مَالاَ يَسْمَعُ وَلاَ يُبْصِرُ وَلاَ يُغْنِي عَنْكَ شَيْئاً﴾

**'ဖခင်သည် ကြားနိုင်ခြင်းလည်း မရှိ၊ မြင်နိုင်ခြင်းလည်း မရှိ၊ ဖခင်အတွက် တစ်စုံတစ်ရာအကျိုးမပြုသည့်အရာကို အဘယ်ကြောင့် ကိုးကွယ်နေပါသနည်း။'** (စူရာမရ်ယမ် ၊ ၄၂)

အကယ်၍ အစစ်အမှန်ကိုးကွယ်ခြင်းခံထိုက်တော်မူသော အလ္လာဟ်အရှင်ကလည်း ကြားတော်မူခြင်း မြင်တော်မူခြင်း မရှိပါဟု ဆိုလျှင်၊ အီဗ်ရာဟီမ်သခင် ﷺ ၏ အထောက်အထားပြမှုသည် မှားယွင်းချေတော့မည်။ သခင်၏ သက်သေသာဓက ထုတ်ဖော်မှုသည် ပျက်ပြယ်ရချေတော့မည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်–

﴿وَتِلْكَ حُجَّتُنَا آتَيْنَاهَا إِبْرَاهِيمَ عَلَى قَوْمِهِ﴾

**'ထို့ပြင် ဤသည်မှာ ငါအရှင်က တမန်တော်အီဗ်ရာဟီမ်အား ၎င်း၏ အမျိုးသားများနှင့် ရင်ဆိုင်ရန် ချီးမြှင့်တော်မူသော ငါအရှင်၏ သက်သေသာဓကဖြစ်ပေသည်။'** (စူရာအန်အာမ် ၊ ၈၃)

ဆိုသော မိန့်ခွန်းတော်သည်လည်း မှန်ကန်တော့မည်မဟုတ်ပေ။ သို့နှင့်အမျှ အလ္လာဟ်အရှင်သည် ကိုယ်လက်အင်္ဂါမရှိပါဘဲ ပြုလုပ်တော်မူသောအရှင်၊ နှလုံးသားနှင့်ဦးနှောက် မရှိပါဘဲ သိတော်မူသောအရှင်ဖြစ်ကြောင်း အကြင်သူ စဉ်းစားနားလည်နိုင်မည်ဆိုလျှင်၊ အလ္လာဟ်အရှင်သည် မျက်စေ့မပါဘဲ မြင်တော်မူကြောင်း၊ နားမပါဘဲ ကြားတော်မူကြောင်းကိုလည်း သဘောပေါက်နိုင်မည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကိုယ်အင်္ဂါမပါဘဲ ပြုလုပ်ခြင်း၊ ဦးနှောက်မပါဘဲ သိခြင်းနှင့် မျက်စေ့မပါဘဲ မြင်ခြင်း၊ နားမပါဘဲ ကြားခြင်းတို့သည် တစ်စုံတစ်ရာ ကွာခြားမှု မရှိသောကြောင့်ပင်။

**ဆဋ္ဌမအခြေခံ**– အလ္လာဟ်အရှင်သည် မိန့်ဆိုမြွက်ကြားတော်မူကြောင်း သိရှိယုံကြည်ရမည်။ ထိုသို့မိန့်ဆိုမြွက်ကြားတော်မူခြင်းဆိုသည့် ဂုဏ်တော်သည် အလ္လာဟ်အရှင်၏ ပြကတေ့တော်တွင် တည်ရှိနေခြင်းဖြစ်သည်။ ထိုသို့မိန့်ဆိုခြင်းသည် အသံဖြင့်လည်းမဟုတ်ပေ။ စာလုံးအက္ခရာများဖြင့်လည်းမဟုတ်ပေ။ အမှန်မှာ အလ္လာဟ်အရှင်၏ တည်ရှိတော်မူခြင်းသည် အခြားမည်သည့် တည်ရှိခြင်းနှင့်မှ တူဆင်မှုမရှိသကဲ့သို့ပင်၊ အလ္လာဟ်အရှင်၏ မိန့်ဆိုတော်မူခြင်းသည် အခြားမည်သည့်စကားဆိုခြင်းနှင့်မှ တူဆင်မှုမရှိပါချေ။ လူသား၏ စကားဆိုခြင်းသည် အရင်းမူလအားဖြင့် စိတ်က ပြောဆိုခြင်းသာဖြစ်သည်။ ထိုသို့ပြောဆိုရာတွင် အသံနှင့် စာလုံးအက္ခရာများသည် မိမိပြောလိုရာကို ဖော်ထုတ်ရန်အတွက်ဖြစ်သည်။ ရံဖန်ရံခါ လူသားသည် မိမိပြောလိုရာကို လှုပ်ရှားမှုအမူအယာများ၊ အရိပ်အကဲ ညွှန်ပြမှုများဖြင့်လည်း ဖော်ထုတ်တတ်ပေသည်။ ဤအရင်းခံသဘောကို လူအစုတစ်ချို့က မသိဝိုးဝါးဖြစ်နေသည်မှာ အံ့သြစရာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤအချက်ကို ပညာမတတ်လှသော ကဗျာဆရာတစ်ဦးပင် နားလည်နေသောကြောင့်ဖြစ်သည်။ ၎င်းက စပ်ဆိုသည်မှာ–

إنَّ الكلامَ لفي الفؤادِ وإنَّما     جُعِلَ اللسانُ على الفؤادِ دليلا

*စကားဆိုခြင်းသည် စိတ်နှလုံး၏ လုပ်ရပ်ဖြစ်သည်။*

*နှုတ်လျှာသည် စိတ်၏ စကားပြန်မျှသာ ဖြစ်သည်။*

အချို့လူများ၏ အသိဉာဏ်က သူတို့၏ ပြောဆိုမှုတစ်ခုကို တားဆီးနိုင်ခြင်းမရှိချေ။ ယင်းမှာ 'ကျွန်ုပ်၏ စကား

ကတော့ အသစ်ဖြစ်ပေါ်မှုဖြစ်သည်။ သို့သော် ကျွန်ုပ်၏ **အသစ်ဖြစ်စေနိုင်မှုအစွမ်း**ကြောင့် ပေါ်ထွက်လာသော စကားရပ်များသည် ပကတူးတည်ရှိမှုဖြစ်သည်'ဟု ပြောဆိုခြင်း**ဖြစ်သည်။ ထိုသူမျိုး**၏ အသိဉာဏ်မှ တစ်စုံတစ်ရာ မမျှော်လင့်လေနှင့်။ ထို့ပြင် ထိုသူမျိုးနှင့် စကားပြောခြင်းပင် မပြုနှင့်။ **ထိုသူ**သည် ပကတူးတည်ရှိမှုဆိုသည်မှာ ယင်းထက်စော၍ ဘာမှမရှိသောအရာကို ဆိုလိုမှန်း နားမလည်သူဖြစ်သည်။

ဥပမာ အသင်ဖတ်ရွတ်လိုက်သော 'بِسْمِ اللهِ'တွင် 'ب'အက္ခရာသည် 'س'အက္ခရာ၏ ရှေ့တွင်ရှိနေသည်။ သို့ဖြစ်ရာ ရှေ့တွင် 'ب'အက္ခရာရှိနေသဖြင့် 'س'အက္ခရာသည် ပကတူး**တည်ရှိမှု မဖြစ်နိုင်တော့ချေ**။ အသင်သည် ထိုကဲ့သို့သောလူမျိုးဘက်သို့ စိတ်အာရုံလှည့်ခြင်းမှ နှလုံးသားကို သန့်ရှင်း**စွာထားပါ။** အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်သည် အချို့လူသားများအား ဤအရင်းခံသဘောများမှ မသိ**နားလေးဖြစ်စေတော်မူ**သည်။ ထိုသို့ဖြစ်စေရာတွင် အလ္လာဟ်အရှင့်ထံ၌ အတွင်းရေးလျှို့ဝှက်ချက်ရှိနေလေသည်။

**﴿وَمَنْ يُضْلِلِ اللّٰهُ فَمَا لَهٗ مِنْ هَادٍ﴾**

**'ထို့ပြင် အလ္လာဟ်အရှင်က လမ်းမှားစေသောသူအတွက်ကား လမ်းမှန်ပြမည့်သူ မရှိတော့ပေ။'**

**(စူရာရအ်ဒ် ၊၃၃)**

တမန်တော်မုဟမ္မဒ်ﷺသခင် ဒွန္နယာလောကတွင် ကြားခဲ့ရသောမိန့်ကြားမှုသည် **အသံဖြင့်** မဟုတ်ပေ။ စာလုံးအက္ခရာများဖြင့်လည်းမဟုတ်ပေ။ ထိုအချက်ကို နားမလည်သူသည် အာခိရတ်တွင် **ကိုယ်ကာယ အရောင်အဆင်း**တို့ဖြင့် မဟုတ်သော တည်ရှိမှုတစ်ခုအား ဖူးမြင်ရမည်ဆိုသည့်အချက်ကိုလည်း ငြင်း**ဆန်မည်သာဖြစ်သည်။** အကယ်၍ တစ်စုံတစ်ယောက်သည် ယနေ့အထိ မည်သူမျှ မြင်တွေ့ဖူးခြင်းမရှိသေးသော အရောင်**အဆင်းမဟုတ်၊ ကိုယ်ကာယ** မဟုတ်၊ အတိုင်းအတာမဟုတ်၊ အနေအထားမဟုတ်သောအရာတစ်ခုကို ဖူးမြင်ရမည်**ဖြစ်ကြောင်း နားလည်လက်ခံ**နိုင်မည်ဆိုလျှင်၊ ထိုသူသည် အသံလည်းမဟုတ် စာလုံးအက္ခရာလည်းမဟုတ်သော**အရာအား ကြားရသည့်ကိစ္စ**ကို နားလည်လက်ခံမည်သာဖြစ်သည်။ ထို့ပြင် အကြင်သူသည် အလ္လာဟ်အရှင့်တွင် **သိတော်မူခြင်းဆိုသည့် ဂုဏ်တော်**တစ်ခုရှိသည်၊ ထိုဂုဏ်တော်ဖြင့် အလ္လာဟ်အရှင်သည် တည်ရှိမှုအားလုံးကို သိတော်**မူသည်ဟု နားလည်လက်ခံနိုင်**မည်ဆိုလျှင် ထိုသူသည် အလ္လာဟ်အရှင့်တွင် ရှိနေသည့် စကားဆိုမိန့်ကြားတော်မူခြင်းဟူသော **ဂုဏ်တော်ကိုလည်း** နားလည်လက်ခံမည်သာဖြစ်သည်။ **စာသားအက္ခရာများအဖြစ်** ညွှန်ပြသည့်အခါ **နားလည်ရသော** **အကြောင်းအရာ**အားလုံးသည် ထိုအရှင်၏ မိန့်ကြားတော်မူချက်များဖြစ်သည်။

'မီးကောင်းကင်ခုနစ်ခု''ဂျန္နတ်''ဂျဟန္နမ်'ဆိုသည်တို့ကို စာရွက်ငယ်တစ်ရွက်ပေါ်တွင် ရေးထားနိုင်သည်။ ထိုအရာအားကို နှလုံးသား၏ မြူခန့်ပမာဏနေရာတွင် မှတ်သားနိုင်သည်။ ထို့ပြင် **ထိုအရာအားလုံး**ကို မျက်နက်ဝန်း၏ သူငယ်အိမ်တွင် မြင်နိုင်သည်။ သို့နှင့်တိုင် မီးကောင်းကင်ခုနစ်ခု၊ ကမ္ဘာမြေကြီး၊ ဂျန္နတ်နှင့် ဂျဟန္နမ်တို့သည် ထိုစာရွက်ငယ်၊ နှလုံးသားနှင့် မျက်နက်ဝန်းအတွင်း ဝင်ရောက်သွားသည် မဟုတ်ပေ။ အကြင်သူသည် ဤအချက်ကို နားလည်လက်ခံနိုင်မည်ဆိုလျှင်၊ အလ္လာဟ်အရှင်၏ မိန့်ကြားချက်များကို နှုတ်လျှာများဖြင့် ရွတ်ဖတ်၊ နှလုံးသားများတွင် မှတ်သား၊ စက္ကူများပေါ်တွင် ရေးကူးထားရာ၌ ထိုမိန့်ကြားချက်ကိုယ်တိုင်သည် နှုတ်လျှာ၊ နှလုံးသားနှင့် စက္ကူထဲသို့ ကိန်းဝပ်ဝင်ရောက်သွားခြင်း မဟုတ်ကြောင်း နားလည်သဘောပေါက်လိမ့်မည်။ အကယ်၍ အလ္လာဟ်အရှင်၏ မိန့်ကြားချက်ကို စက္ကူပေါ်တွင် ရေးသားလိုက်ခြင်းကြောင့် မိန့်ကြားချက်ကိုယ်တိုင်သည် စက္ကူထဲသို့ ကိန်းဝပ်ဝင်ရောက်သွားသည်ဆိုလျှင်၊ အလ္လာဟ်အရှင်၏ နာမတော်ကို စက္ကူပေါ်၌ ရေးလိုက်သည့်အခါ အလ္လာဟ်အရှင်ကိုယ်တော်တိုင်သည် စက္ကူထဲသို့ ကိန်းဝပ်ဝင်ရောက်သွားရပေတော့မည်။ ထို့ပြင် စက္ကူပေါ်တွင် မီးဟု အမည်ရေးလိုက်ရုံဖြင့် စက္ကူသည် လောင်ကျွမ်းရပေတော့မည်။

**သတ္တမအခြေခံ**– အလ္လာဟ်အရှင်နှင့်အတူ ရှိနေသော မိန့်ဆိုမြွက်ကြားမှုသည် ပကတူးတည်ရှိမှုဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ ဤနည်းအလားတူ အလ္လာဟ်အရှင်၏ဂုဏ်တော်အားလုံးသည်လည်း ပကတူးတည်ရှိမှုများဖြစ်ကြသည်။ အလ္လာဟ်အရှင်၏ပြကတေ့တော်သည် အသစ်ဖြစ်မှုအရာများတွင် ကိန်းဝပ်ဝင်ရောက်ရန် မဖြစ်နိုင်ချေ။ အဘယ်ကြောင့်ဆိုသော် အသစ်ဖြစ်မှုများသည် ပြောင်းလဲလျက်ရှိသောကြောင့်ဖြစ်၏။ သို့သာမက အလ္လာဟ်အရှင်၏ဂုဏ်တော်များသည် ပကတူးတည်ရှိမှုများဖြစ်သည့်အပေါ်မှာ အလ္လာဟ်အရှင်၏ပြကတေ့တော်အတွက် မလွဲမသွေရှိရမည့်အရာသည် ထိုဂုဏ်တော်များတွင်လည်း မလွဲမသွေရှိမည်ဖြစ်သည်။ သို့မှသာ ထိုအရှင့်တွင် ပြောင်းလဲမှုမဖြစ်တော့မည်ဖြစ်သည်။ ထို့ပြင် အသစ်ဖြစ်မှုများက ထိုအရှင့်တွင် ကိန်းဝပ်ဝင်ရောက်ခြင်းမဖြစ်တော့မည်ဖြစ်သည်။

သို့မှုမက ထိုအရှင်သည် အမြဲထာဝရ ပကတူးကပင် ထိုကောင်းမြတ်သော ဂုဏ်တော်များဖြင့် ပြည့်ဝစွာရှိတော်မူခဲ့သည်။ နောင်လည်း အမြဲထာဝရ ဤအတိုင်းပင် ရှိတော်မူမည်။ အခြေအနေပြောင်းလဲသည့်အပေါ် လိုက်ပါပြောင်းလဲခြင်းမှ ကင်းရှင်းတော်မူမည်။ အဘယ်ကြောင့်ဆိုသော် အရာတစ်ခုသည် အသစ်ဖြစ်မှုကို နေရာပေးမည်၊ ထိုအရာသည် အသစ်ဖြစ်မှုမှ လွတ်ကင်းခြင်းမရှိ၊ အသစ်ဖြစ်မှုကလည်း ထိုအရာနှင့် လွတ်ကင်းခြင်းမရှိလျှင် ထိုအရာသည် အသစ်ဖြစ်မှုသာဖြစ်သည်။

အပြောင်းအလဲဖြစ်မှုကို လက်ခံသည့်အတွက် ရုပ်ဝတ္ထုများတွင် အသစ်ဖြစ်မှုဆိုသည့် ဂုဏ်သတ္တိရှိကြောင်းသိရသည်။ ထို့ပြင် ဂုဏ်သတ္တိများကိုယ်တိုင်က အလှည့်အပြောင်းကို လက်ခံကြသည်။ သို့ဖြစ်ရာ ထိုရုပ်ဝတ္ထုများကို ဖန်ဆင်းတော်မူသောအရှင်သည် ပြောင်းလဲမှုများကို ခံယူပြီး ရုပ်ဝတ္ထုများနှင့်အရည်အချင်းတူဖြစ်ရန် အဘယ်သို့ဖြစ်နိုင်ပါသနည်း။ ဤနေရာ၌ အလ္လာဟ်အရှင်၏မိန့်ဆိုမှုသည် အရှင်၏ပြကတေ့တော်နှင့်အတူ ရှိနေသောပကတူးဖြစ်ကြောင်း ပေါ်ပေါက်သိရှိရသည်။ ထိုမိန့်ဆိုမှုကို ဖေါ်ထုတ်ညွှန်ပြသောအသံများကသာ အသစ်အရာဖြစ်ရသည်။

ဤအကြောင်းအရာကို ဥပမာတစ်ခုဖြင့် နားလည်နိုင်လေသည်။ ကလေးအတွက် ပညာသင်ပေးရန်အမိန့်သည် ကလေးမမွေးမီကပင် ဖခင်ထံတွင် ရှိနေပြီးဖြစ်သည်။ ထို့နောက် ကလေးငယ် မွေးဖွါးကြီးပြင်းပြီး အသိဉာဏ်ရှိလာခဲ့သည်။ အလ္လာဟ်အရှင်သည် သူ့အတွက် အသိပညာကို သူ၏ဖခင်၏စိတ်တွင် ရှိခဲ့သည့်အတိုင်း ဖန်ဆင်းတော်မူခဲ့သည်။ ယင်းသည် သူ့တွင် တာဝန်ရှိခဲ့သည့် အရာအတိုင်းဖြစ်သည်။ ကလေးသည် ထိုအရာကို မသိရမချင်း ယင်းသည် ဖခင်ထံတွင် တည်မြဲနေလိမ့်မည်။ တဖန် ဤအရာကို နားလည်နိုင်သောဥဒါဟရုဏ်တစ်ခုမှာ အလ္လာဟ်အရှင်မြတ်က တမန်တော်မူဆာ ﷺ သခင်အား မိန့်ကြားခဲ့သော–

﴿فَاخْلَعْ نَعْلَيْكَ﴾

**'အသင်၏ဖိနပ်များကို ချွတ်လော့'** (စူရာတွာဟာ ၊၁၂)

အမိန့်တော်သည် တမန်တော်မူဆာ ﷺ သခင် မမွေးဖွါးမီ ပကတူးကပင် အရှင်၏ပြကတေ့တော်နှင့်အတူ ရှိနေခဲ့ပြီးဖြစ်သည်။ သို့သော် ထိုအမိန့်တော်ကို မိန့်ကြားခြင်းသည် တမန်တော်မူဆာ ﷺ သခင် ပေါ်ထွန်းပြီးနောက်မှသာဖြစ်သည်။ ယင်းသည် တမန်တော်မူဆာ ﷺ သခင့်စိတ်တွင် ထိုအမိန့်တော်ကို သိရှိမှုနှင့် ပကတူးအမိန့်တော်ကို ကြားနိုင်သည့်နား ဖန်ဆင်းပေးပြီးနောက်မှဖြစ်သည်။

**အဋ္ဌမအခြေခံ**– အလ္လာဟ်အရှင်၏အသိတော်သည် ပကတူးတည်ရှိမှုဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ ဆိုလိုသည်မှာ အလ္လာဟ်အရှင်သည် အဖန်ဆင်းခံများတွင် ဖြစ်ပေါ်မည့် အသစ်ဖြစ်မှုများကို မိမိ၏ပြကတေ့တော်အရ၊ **မိမိ၏** ဝိသေသဂုဏ်တော်များအရ မဆွကပင် သိတော်မူသည်။ ထိုသို့သိတော်မူခြင်းသည် အသစ်ဖြစ်ခြင်းမဟုတ်ပေ။ **သို့သာမက** ထိုအသစ်ဖြစ်မှုများအားလုံးသည် ယခေါင်ကတည်းကသိသော အသိအဖြစ်နှင့် အလ္လာဟ်အရှင့်ရှေ့တော်

မှောက်တွင် အထင်အရှားပေါ်လွင်ခဲ့ပြီးဖြစ်သည်။ ဥပမာ ကျွန်ုပ်တို့က မောင်ဖြူသည် နေထွက်ချိန်တွင် ရောက်လာမည်ဟု သိထားခဲ့သည်။ နေထွက်ချိန်အထိ ထိုအသိသည် မပြောင်းမလဲ ရှိနေသည်။ ထို့နောက် မောင်ဖြူသည် နေထွက်ချိန်တွင် ရောက်လာခဲ့သည်။ ထိုသို့ရောက်လာကြောင်း သိလိုက်သည့် အသိသည် နောက်ထပ်သိရသောအသိအသစ်မဟုတ်ပေ။ အလ္လာဟ်အရှင်၏အသိတော် ပကတူးဖြစ်ကြောင်းကို ဤနည်းအလားတူ နားလည်ရမည်။

**နဝမအခြေခံ–** အလ္လာဟ်အရှင်၏ဆန္ဒတော်သည် ပကတူးဖြစ်ကြောင်း သိရှိယုံကြည်ရမည်။ အလ္လာဟ်အရှင်၏ဆန္ဒတော်သည် ယခေါင်မဆွကသိထားသော အသိတော်နှင့်အညီ ထိုက်သက်သောအချိန်ကာလများတွင် ဖြစ်ပွါးမည့်အသစ်ဖြစ်မှုများနှင့် ဆက်စပ်လျက်ရှိသည်။ အကယ်၍ အလ္လာဟ်အရှင်၏ဆန္ဒတော်သည် အသစ်ဖြစ်ပေါ်မှုဖြစ်လျှင် အရှင်၏ပြကတေ့တော်သည် အသစ်ဖြစ်မှုများကို နေရာပေးရလိမ့်မည်။ တဖန် အကယ်၍ အလ္လာဟ်အရှင်၏ဆန္ဒတော်သည် အရှင်၏ပြကတေ့တော်မှအပအခြားတွင် အသစ်ဖြစ်မှု ဖြစ်ခဲ့မည်ဆိုလျှင် အလ္လာဟ်အရှင်သည် ဆန္ဒပြုတော်မူသောအရှင် မဖြစ်နိုင်တော့ပေ။ ဥပမာ အသင်သည် ကိုယ်တိုင် လှုပ်ရှားမှုမပြုနိုင်လျှင် အသင့်ကို လှုပ်ရှားသူဟု မခေါ်နိုင်သကဲ့သို့ဖြစ်သည်။

အကယ်၍ အလ္လာဟ်အရှင်၏ဆန္ဒတော်ကို အသစ်ဖြစ်မှုဟု လက်ခံမည်ဆိုလျှင် ထိုသို့အသစ်ဖြစ်ရန်အတွက် နောက်ထပ် အသစ်ဖြစ်စေမှုတစ်ခု လိုအပ်လာမည်။ တဖန် ထိုအသစ်ဖြစ်စေမှုအတွက် နောက်ထပ် အသစ်ဖြစ်စေမှုတစ်ခုလိုအပ်လာမည်။ ဤဖြစ်စဉ်သည် အဆုံးမရှိ ဖြစ်နေပေတော့မည်။ ဤသည်မှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်၏ဆန္ဒတော်သည် အသစ်အရာဖြစ်ရန်ဆိုသည်မှာလည်း မဖြစ်နိုင်သောကိစ္စဖြစ်သည်။ ထို့ပြင် ဆန္ဒတော်ထားခြင်း၏အသစ်ဖြစ်မှုသည် အခြားဆန္ဒတော်တစ်ခုမပါဘဲ ဖြစ်နိုင်သည်ဆိုပြန်လျှင် လောကသည်လည်း ဆန္ဒတော်မပါဘဲ အသစ်ဖြစ်လာသည်ဟု ပြောဆို၍ ရနိုင်ပေတော့မည်။

**ဒသမအခြေခံ–** အလ္လာဟ်အရှင်သည် အသိတော်ဖြင့် သိတော်မူသောအရှင်၊ အသက်တော်ဖြင့် ရှင်တော်မူသောအရှင်၊ အစွမ်းတော်ဖြင့် စွမ်းတော်မူသောအရှင်၊ ဆန္ဒတော်ဖြင့် ဆန္ဒထားတော်မူသောအရှင်၊ မိန့်ခွန်းတော်ပြု၍ မိန့်ဆိုမြွက်ကြားတော်မူသောအရှင်၊ အကြားတော်ဖြင့် ကြားတော်မူသောရှင်၊ အမြင်တော်ဖြင့် မြင်တော်မူသောအရှင်ဖြစ်တော်မူသည်။ ဤဂုဏ်တော်များသည် ပကတူးက ရှိခဲ့သော အလ္လာဟ်အရှင်၏ဝိသေသဂုဏ်တော်များဖြစ်သည်။ အကယ်၍ တစ်စုံတစ်ဦးက 'အလ္လာဟ်အရှင်သည် အသိမပါဘဲ သိတော်မူသောအရှင်ဖြစ်သည်'ဟု ပြောမည်ဆိုလျှင် သူ၏စကားသည် 'ပစ္စည်းဥစ္စာမရှိဘဲ ချမ်းသာကြွယ်ဝသူဖြစ်သည်၊' 'အသိပညာမရှိဘဲ ပညာရှင်ဖြစ်သည်၊ 'သိရှိမှတ်သားမှုများမရှိဘဲ သိသူဖြစ်သည်'ဟူသော စကားလိုဖြစ်လိမ့်မည်။ ဤတွင် သတ်ခြင်း၊ အသတ်ခံရသူနှင့် သတ်သူတို့သည် ခွဲခွါမရအောင် ဆက်စပ်နေသကဲ့သို့ သိခြင်း၊ သိထားသောအရာနှင့်သိသူတို့မှာ ခွဲခွါ၍မရနိုင်အောင် ဆက်စပ်နေသည်။

သတ်ခြင်းနှင့် အသတ်ခံရသူ မပါဘဲ သတ်သူကိုင်း၊ သတ်သူနှင့် သတ်ခြင်းမပါဘဲ အသတ်ခံရသူကိုင်း စဉ်းစား၍မရသကဲ့သို့ဖြစ်သည်။ ဤနည်းအလားတူ အသိမပါသော ပညာရှင်ကိုင်း၊ သိမှတ်ထားမှုမရှိသော အသိပညာကိုင်း၊ ပညာရှင် မပါသော အသိပညာကိုင်း ပုံဖော်စဉ်းစား၍ ရနိုင်မည်မဟုတ်ပေ။ အမှန်မှာ ဤအရာသုံးခုသည် တစ်ခုနှင့်တစ်ခု ခွဲခြားမရအောင် ဆက်စပ်နေကြောင်း အသိဉာဏ်ဖြင့်ပင် စဉ်းစားကြည့်နိုင်သည်။ သို့ဖြစ်ရာ သိသူနှင့် သိခြင်းကို ခွဲခွါ၍ ရနိုင်သည်ဟု ဆိုသူသည် သိသူနှင့် သိထားသောအရာကိုလည်း ခွဲခွါနိုင်ရမည်၊ ထို့ပြင် ၎င်းသည် အသိကိုလည်း သိသူထံမှ ခွဲခွါနိုင်ရမည်။ အဘယ်ကြောင့်ဆိုသော် ဤအချင်းလက္ခဏာများအကြားတွင် ကွဲပြားခြားနားမှုဟူ၍ မရှိသောကြောင့်ဖြစ်သည်။

## –အီမာန်၏တတိယမဏ္ဍိုင်–

## အလ္လာဟ်အရှင်၏လုပ်ရပ်တော်များကို သိရှိယုံကြည်မှု၏ပဓာနဖြစ်သော အခြေခံဆယ်ခု

**ပထမအခြေခံ**– လောကရှိ အသစ်ဖြစ်မှုအားလုံးသည် အလ္လာဟ်အရှင်၏ လုပ်ရပ်တော်၊ အလ္လာဟ်အရှင်၏ ဖန်ဆင်းမှုနှင့် အလ္လာဟ်အရှင်၏ စတင်တီတွင်မှုဖြစ်ကြောင်း လက်ခံယုံကြည်ရမည်။ ထိုအဖန်ဆင်းခံများအားလုံးတွင် အလ္လာဟ်အရှင်မှအပ အခြားဖန်ဆင်းသူဟူ၍ မရှိပေ။ အသစ်စတင်ဖြစ်ပေါ်စေသူ ဟူ၍လည်း အလ္လာဟ်အရှင်မှအပ အခြားမရှိပေ။ ထိုအရှင်သည်ပင် မိမိ၏အဖန်ဆင်းခံများတွင် အစွမ်းများနှင့် လှုပ်ရှားမှုများကို ဖြစ်ရှိစေတော်မူသည်။ သို့နှင့်အမျှ လူသားတို့၏ပြုမူဆောင်ရွက်မှုအားလုံးသည် အလ္လာဟ်အရှင်၏ ဖန်ဆင်းမှုများဖြစ်သည်။ ထိုပြုမူဆောင်ရွက်မှုအားလုံးသည် အလ္လာဟ်အရှင်၏ အစွမ်းတော်နှင့် ဆက်သွယ်လျက်ရှိသည်။ ဤအချက်ကို ထောက်ခံအတည်ပြုသော အလ္လာဟ်အရှင်၏ မိန့်ကြားချက်မှာ–

﴿اَللّٰهُ خَالِقُ كُلِّ شَيۡءٍ﴾

**'အလ္လာဟ်အရှင်သည် အရာအားလုံးကို ဖန်ဆင်းတော်မူသောအရှင်ဖြစ်သည်။'**

(စူရာဇုမရ် ၊၆၂)

ဟုဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်၏ မိန့်ခွန်းတော်–

﴿وَاللّٰهُ خَلَقَكُمۡ وَمَا تَعۡمَلُوۡنَ﴾

**'ထို့ပြင် အလ္လာဟ်အရှင်သည် အသင်တို့ကိုငင်း၊ အသင်တို့လုပ်ကိုင်ဆောင်ရွက်သည်များကိုငင်း ဖန်ဆင်းတော်မူသည်။'** (စူရာဆွာဖ်ဖာတ် ၊၃၃)

ဟုလည်း ရှိထားသည်။ ထို့ပြင် အလ္လာဟ်အရှင်၏ မိန့်တော်မူသည်မှာ–

﴿وَأَسِرُّوا قَوۡلَكُمۡ أَوِاجۡهَرُوا بِهِ إِنَّهُ عَلِيۡمٌ بِذَاتِ الصُّدُوۡرِ ❁ أَلَا يَعۡلَمُ مَنۡ خَلَقَ وَهُوَ اللَّطِيۡفُ الۡخَبِيۡرُ﴾

**'ထို့ပြင် အသင်တို့သည် မိမိတို့စကားများကို လျှို့ဝှက်၍ ပြောဆိုသည်ဖြစ်စေ၊ ဖေါ်ထုတ်ပြောဆိုသည်ဖြစ်စေ ထိုအရှင်သည် အသင်တို့၏ရင်များထဲတွင် ရှိနေသည်ကို အကုန်အစင်သိတော်မူသောအရှင်ဖြစ်၏။ ဖန်ဆင်းတော်မူသောအရှင်သည် မသိဘဲနေပါမည်လော။ ထိုအရှင်သည် လျှို့ဝှက်ချက်ကို သိတော်မူသောအရှင်၊ အလုံးစုံသတိမူမိသောအရှင် ဖြစ်တော်မူသည်။'** (စူရာမွလ်က် ၊၁၄)

ဤအာယတ်တွင် အလ္လာဟ်အရှင်က လူသားတို့အား မိမိတို့၏အပြောအဆို၊ အပြုအမူများ၊ မိမိတို့၏ အတွင်းသဘောများနှင့်ဆန္ဒပြုမှုများတွင် ရှောင်ကြဉ်မှုရှိကြရန် အမိန့်ပေးတော်မူသည်။ ဤသို့အမိန့်ပေးရာ၌ အလ္လာဟ်အရှင်က လူသားတို့ပြုမူဆောင်ရွက်နေသည်များ၏ ဦးတည်ရည်ရွယ်ချက်ကို သိတော်မူသောကြောင့်ဖြစ်သည်ဟု မိန့်ကြားပြီး ဖန်ဆင်းမှုဆိုင်ရာ အသိတော်ကို သက်သေမူထားသည်။ အလ္လာဟ်အရှင်သည် အစွမ်းတော်ဖြင့် ပြည့်ဝစုံလင်တော်မူသည်ဖြစ်ရာ လူသား၏အပြုအမူကို ဖန်ဆင်းတော်မူသောအရှင် အဘယ်ကြောင့်မဖြစ်ရမည်နည်း။ အလ္လာဟ်အရှင်၏ အစွမ်းတော်တွင် လျော့နည်းမှုဟူ၍ မရှိပေ။ ထို့ပြင် ထိုအစွမ်းတော်သည် လူသားတို့၏ခန္ဓာကိုယ် လှုပ်ရှားမှုများနှင့် ဆက်စပ်လျက်ရှိသည်။ ထိုလှုပ်ရှားမှုများအားလုံးသည် တစ်ဆင်တည်း တစ်စပ်တည်းသာဖြစ်သည်။ အစွမ်းတော်နှင့် ထိုလှုပ်ရှားမှုများ၏ ဆက်စပ်မှုသည်လည်း တစ်ထေရာတည်း တစ်သမတ်တည်းသာဖြစ်သည်။ သို့ဖြစ်ရာ အစွမ်း

တော်သည် အချို့သောလုပ်ရှားမှုများနှင့် ဆက်စပ်မှုရှိပြီး အချို့သောလုပ်ရှားမှုများနှင့် ဆက်စပ်မှုမရှိပါဟု အဘယ်သို့ ဖြစ်နိုင်မည်နည်း။ တဖန် ပင့်ကူ၊ ပျားနှင့် အခြားသက်ရှိအားလုံးမှ ထွက်ပေါ်လာသော ထူးပြားလှသည့်အတတ်များ ကို ကြည့်၍ ဉာဏ်ကြီးရှင်တို့၏အသိဉာဏ်များသည် ရင်သပ်ရှုမော အံ့သြဘနန်းဖြစ်ကြရသည်။ သို့နှင့်အမျှ သက် ရှိများသည် မိမိတို့၏ပြုမူလုပ်ရှားမှုများကို ကိုယ်တိုင်ဖေါ်ထုတ်ကြခြင်းဖြစ်သည်ဟူ၍ မည်သို့ဖြစ်နိုင်ပါသနည်း။ ထို့ ပြင် ၎င်းတို့သည် မိမိတို့မှ ထွက်ပေါ်သည့် ပြုမူလုပ်ရှားမှုများ၏အသေးစိတ်ကိုပင် မသိသူများဖြစ်ကြရာ၊ ရဗ်အရှင် တစ်ပါး၏စတင်တီထွင်ဖြစ်ပေါ်စေမှုမပါဘဲ၊ ကိုယ်တိုင်စတင်တီထွင်ဖြစ်ပေါ်စေသည် ဆိုခြင်းမှာ လုံးဝမဖြစ်နိုင်သော အရာပင်ဖြစ်သည်။

**ဒုတိယအခြေခံ**– အလ္လာဟ်အရှင်သည် လူသားတို့၏ပြုမူလုပ်ဆောင်မှုများကို ဖန်ဆင်းတော်မူသောအရှင် ဖြစ်သည်။ ဤသို့ဆိုသဖြင့် လူသားသည် **မိမိကိုယ်တိုင်အစွမ်းအစဖြင့်** ဘာမှစွမ်းဆောင်နိုင်ခြင်းမရှိပါဟု အဓိပ္ပါယ် မထွက်ပါ။ အမှန်မှာ အလ္လာဟ်အရှင်သည် **စွမ်းဆောင်မှုနှင့်စွမ်းဆောင်မည့်သူ နှစ်ရပ်စလုံး**ကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်သည် **ရွေးချယ်မှုနှင့်ရွေးချယ်ရမည့်အရာ နှစ်ရပ်စလုံး**ကို ဖန်ဆင်းသောအရှင် ဖြစ်တော်မူသည်။

စွမ်းဆောင်နိုင်ခြင်းသည် **လူသား၏အရည်အချင်းတစ်ခုဖြစ်သည်။ ထိုအရည်အချင်း**ကို အလ္လာဟ်အရှင်က ဖန်ဆင်းထားခြင်းဖြစ်သည်။ **ထိုအရည်အချင်းသည် လူသား၏အားထုတ်မှုကြောင့် ဖြစ်**ပေါ်လာသည် မဟုတ်ချေ။ လှုပ်ရှားနိုင်ခြင်းသည်လည်း **လူသား၏အရည်အချင်းတစ်ခုဖြစ်သည်။ ထိုအရည်အချင်း**ကို အလ္လာဟ်အရှင်ကပင် ဖန်ဆင်းထားခြင်းဖြစ်သည်။ **ဤလှုပ်ရှားမှုကမူ လူသား၏အားထုတ်မှုကြောင့် ဖြစ်**ပေါ်လာခြင်းဖြစ်သည်။ ဆိုလိုသည် မှာ ဤလှုပ်ရှားနိုင်မှု**ဟူသောအရည်အချင်းသည် နောက်ထပ်အရည်အချင်း**တစ်ခုဖြင့် ဆက်သွယ်လျက်ရှိသည်။ ထို အရည်အချင်း၏**အမည်သည် စွမ်းဆောင်နိုင်မှုဖြစ်သည်။** ဤဆက်သွယ်မှုအရ ဖြစ်ပေါ်လာသော လှုပ်ရှားမှုကို အား ထုတ်မှုဟု ခေါ်သည်**။ လူသားဘက်မှ ထိုလှုပ်ရှားမှုသည်** အတင်းအကြပ်ခိုင်းစေမှုသက်သက်ဖြင့် ဖြစ်လာခြင်းမဟုတ် ချေ။ အကြောင်းမှာ **လူသားသည် မိမိသဘောဖြင့် လှုပ်ရှားမှုနှင့်** မိမိသဘောမပါသော တုန်တုန်ယင်ယင်ဖြစ်မှုကို ခွဲ ခြားသိရှိသောကြောင့်**ဖြစ်သည်။**

တဖန် လူသားသည် **လှုပ်ရှားမှုကို ကိုယ်တိုင်ဖန်ဆင်း**ဖြစ်ပေါ်စေသူဟု သတ်မှတ်ရန်လည်း မဖြစ်နိုင်ပြန်ပေ။ အဘယ်ကြောင့်ဆိုသော် **လူသားသည် မိမိ၏အားထုတ်**လှုပ်ရှားမှုတစ်ခုချင်း၏အသေးစိတ်နှင့်အရည်အတွက်ကိုပင် သိနိုင်သူမဟုတ်ပေ။ **သို့နှင့်အမျှ အတင်းအကြပ်** ဖိအားပေးသဖြင့် လှုပ်ရှားရခြင်းလည်းမဟုတ်၊ လှုပ်ရှားမှုကို ကိုယ် တိုင်ဖန်ဆင်းဖြစ်ပေါ်စေခြင်းလည်း **မဟုတ်သည့်အနေအထား**တွင် အလည်အလတ်သဘောထားကို ခံယူရန်သာဖြစ် သည်။ ယင်းခံယူချက်မှာ **လှုပ်ရှားမှုအားလုံးသည်** စတင်တီထွင်ဖြစ်ပေါ်စေမှုအရ အလ္လာဟ်အရှင်၏အစွမ်းတော်ဖြင့် ဖြစ်သည်။ ထို့နောက် အားထုတ်လုပ်ဆောင်မှုအရ လူသား၏ရွေးချယ်မှုဖြင့်ဖြစ်သည်ဟုဖြစ်၏။

အစွမ်းတော်နှင့် အစွမ်းတော်မှပေါ်ထွက်ချက်တို့၏ဆက်စပ်မှုသည် စတင်ဖြစ်ပေါ်စေမှုအရသာ ဖြစ်နေရမည် ဟု မလွဲမသွေသတ်မှတ်ချက်မရှိပါ။ ဥပမာ အလ္လာဟ်အရှင်၏အစွမ်းတော်နှင့် လောက၏ဆက်စပ်မှုသည် ယခေါင် မဆွကတည်းကပင်ရှိခဲ့သည်။ ထိုအချိန်တွင် လောကကို စတင်တီထွင်ဖြစ်ပေါ်စေခြင်းပင် မရှိခဲ့သေးပေ။ ထို့နောက် လောကကို စတင်တီထွင်ဖြစ်ပေါ်စေပြီးသည့်အခါ၌လည်း အလ္လာဟ်အရှင်၏အစွမ်းတော်နှင့် လောက၏ဆက်စပ်မှု သည် ဆက်စပ်မှုပုံစံတစ်မျိုးဖြင့်ဖြစ်သည်။ အချုပ်ဆိုသော် အစွမ်းတော်နှင့် ဆက်စပ်သည်ဆိုခြင်း၏အလိုသဘော မှာ အစွမ်းတော်ပြချက်သည် ထိုအစွမ်းတော်နှင့်သာ သီးသန့်ဆက်စပ်ရမည်ဟု ဆိုခြင်းမဟုတ်ပေ။

**တတိယအခြေခံ**– လူသား၏ပြုမူလုပ်ဆောင်မှုသည် လူသားဘက်က အားထုတ်မှုပင်ဖြစ်သည်။ သို့သော်

ဤသို့ဆိုသဖြင့် အလ္လာဟ်အရှင်မြတ်၏ ဆန္ဒတော်စည်းဝိုင်းအတွင်းမှ လွတ်ထွက်သွားခြင်းကားမရှိပေ။ သို့သာမက **အထက်အောက်**လောကအပေါင်းတွင် ရှိနေသော မျက်တောင်တစ်ခပ်၊ အတွေးအာရုံတစ်ဖျပ်၊ အကြည့်တစ်ချက်မှအစ **အကောင်းနှင့်အဆိုး**၊ အကျိုးနှင့်အပြစ်၊ အစ္စလာမ်နှင့်ကုဖ်ရ်၊ သိမှတ်ခြင်းနှင့်ငြင်းပယ်ခြင်း၊ အောင်မြင်မှုနှင့်ဆုံးရှုံးမှု၊ လမ်းမှားမှုနှင့်လမ်းမှန်ရမှု၊ နာခံမှုနှင့်ဖီဆန်မှု၊ ရှိရ်က်နှင့်အီမာန်–အားလုံးသည် အလ္လာဟ်အရှင်၏ပြဋ္ဌာန်းမှု၊ ထိုအရှင်၏**အစွမ်း**တော်နှင့် ထိုအရှင်၏ ဆန္ဒတော်၊ ထိုအရှင်၏ လိုလားချက်များအရ ဖြစ်ပွါးနေခြင်းဖြစ်သည်။ ထိုအရှင်၏ ပြဋ္ဌာန်းချက်ကို မည်သူမျှပယ်လှန်ခြင်းမပြုနိုင်။ ထိုအရှင်၏ အမိန့်တော်ကို မည်သူမျှဥပက္ခာပြုကျော်ခိုင်းခြင်းမပြုနိုင်။ ထိုအရှင်သည် မိမိအလိုရှိသူကို လမ်းမှားစေသည်။ မိမိအလိုရှိသူကို လမ်းမှန်ပြတော်မူသည်။

﴿لَا يُسْأَلُ عَمَّا يَفْعَلُ وَهُمْ يُسْأَلُونَ﴾

**'အလ္လာဟ်အရှင်၏ လုပ်ရပ်တစ်စုံစုံအပေါ်မှာ မည်သူကမှ မေးခွန်းထုတ်နိုင်မည် မဟုတ်ပေ။ သို့သော် လူသားတို့သည်သာ မေးခွန်းထုတ်ခြင်းခံကြရမည်။'** (စူရာအန်ဘိယာ ၊ ၂၃)

လူသားတို့၏ပြုမူဆောင်ရွက်မှုများအားလုံးသည် အလ္လာဟ်အရှင်၏အလိုတော်ဖြင့်ဖြစ်ကြောင်းကို အာဂမယုတ္တိများလည်း ဖော်ပြလာရှိသည်။ အုမ္မတ်တစ်ရပ်လုံးက တစ်ညီတစ်ညွတ်တည်း လက်ခံထားသော ခံယူချက်မှာ–

ما شاء كان وما لم يشأ لم يكن

'အလ္လာဟ်အရှင် အလိုရှိသောအရာသာဖြစ်သည်။ အလ္လာဟ်အရှင် အလိုမရှိသောအရာ မဖြစ်ပါ။'

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူထားသည်မှာ–

﴿أَن لَّوْ يَشَاءُ اللَّهُ لَهَدَى النَّاسَ جَمِيعًا﴾

**'အကယ်၍ အလ္လာဟ်အရှင် အလိုရှိတော်မူပါလျှင် လူသားအားလုံးကို မုချဧကံ တရားလမ်းမှန်ပေးတော်မူမည်။'** (စူရာရအ်ဒ် ၊ ၃၁)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَلَوْ شِئْنَا لَآتَيْنَا كُلَّ نَفْسٍ هُدَاهَا﴾

**'အကယ်၍သာ ငါအရှင်အလိုရှိတော်မူလျှင် လူတိုင်းကို တရားလမ်းမှန် ချီးမြှင့်တော်မူမည်။'** (စူရာစဂ်ဒဟ် ၊ ၁၃)

ထို့ပြင် ဤအခြေခံအတွက် သဘာဝယုတ္တိလည်း ရှိနေသည်။ ယင်းမှာ ဖီဆန်မှုများနှင့်မကောင်းမှုဒုစရိုက်များကို အလ္လာဟ်အရှင် ကြိုက်နှစ်သက်ခြင်းမရှိပါ။ ထို့ပြင် ယင်းတို့ကို အလ္လာဟ်အရှင် ဆန္ဒပြုတော်မူခြင်းလည်းမရှိပါ။ အမှန်အားဖြင့် ယင်းဖီဆန်မှုများနှင့်ဒုစရိုက်များသည် အလ္လာဟ်အရှင်၏လအ်နတ်ထိုက်သူ–အလ္လာဟ်အရှင်၏ရန်သူ ရှိုင်တွာန်၏အလိုဆန္ဒဖြင့် ဖြစ်ပွါးနေခြင်းဖြစ်သည်။ ထိုအတွက်ကြောင့်ပင် ၎င်းရှိုင်တွာန်သည် အလ္လာဟ်အရှင်မြတ်၏ ရန်သူတော်ဖြစ်ခဲ့ရသည်။

ကမ္ဘာလောကတွင် ရှိုင်တွာန်၏အလိုကျဖြစ်နေသည်က ပို၍များသည်။ အလ္လာဟ်အရှင်၏အလိုကျဖြစ်သည်က နည်းသည်။ သို့ဖြစ်ရာ ကျွန်ုပ်သိလိုလှသည်မှာ မွတ်စ်လင်မ်တစ်ဦးသည် မိမိတို့၏နိုင်ငံလွှမ်းမိုးတော်မူသော အရှင်ကြီးကျယ်မြင့်မြတ်တော်မူသောအရှင်အား ကျေးရွာသူကြီးတစ်ယောက်ကို ပေးမည်ဆိုလျှင်ပင် နာခေါင်းရှုံ့မည့် ရာထူးအဆင့်အတန်းသို့ ပို့မည်လား။ ထိုသူကြီးအတွက် ရွာထဲတွင် မိမိကို အမြဲရန်ရှာနေသည့် ရန်သူတစ်ယောက် ရှိနေမည်။ တဖန် ရွာသားများကလည်း ထိုရန်သူ၏အမိန့်ဩဇာကို ပို၍နာခံလျက်ရှိမည်။ ရွာသူကြီးသည် ကျေးရွာအပေါ် အမိန့်ဩဇာမညောင်းဘဲရှိမည်။ ထိုကဲ့သို့အုပ်ချုပ်ရေးအာဏာမျိုးကို ရွာသူကြီးသည် ဂုဏ်သိက္ခာမဲ့မှုအဖြစ် မှတ်ယူစွန့်လွှတ်မည်သာဖြစ်သည်။

ကမ္ဘာလောကတွင် အမိန့်ဖီဆန်မှုက လူသားတို့အပေါ် လွှမ်းမိုးလျက်ရှိပြီး၊ ထိုအရာအားလုံးသည် ဗိဒအတ်သမားများ၏ ခံယူချက်အရ အလ္လာဟ်အရှင်၏ ဆန္ဒတော်နှင့် ဆန့်ကျင်ဖြစ်ပွါးနေခြင်းဖြစ်သည်။ ဤအတိုင်းသာမှန်လျှင် အလ္လာဟ်အရှင်သည် မစွမ်းသူ၊ ချည့်နဲ့သူဖြစ်သွားလိမ့်မည်။ သို့နှင့်တိုင် လူသားတို့၏ လုပ်ကိုင်ဆောင်ရွက်မှုအားလုံးသည် အလ္လာဟ်အရှင်၏ ဖန်ဆင်းမှုဖြစ်ကြောင်း ပေါ်လွင်သည်နှင့်အမျှ ထိုလုပ်ကိုင်ဆောင်ရွက်မှုများအားလုံးသည် အလ္လာဟ်အရှင်၏ ဆန္ဒတော်ဖြင့် ဖြစ်ရကြောင်း ထင်ရှားလျက်ရှိပေသည်။

အကယ်၍ တစ်စုံတစ်ဦးက 'ထိုသို့ဖြစ်လျှင် အလ္လာဟ်အရှင်သည် အလိုရှိတော်မူပါလျက် လုပ်ရပ်တစ်ခုအား အဘယ်ကြောင့် တားမြစ်ရသလဲ၊ ထို့ပြင် အလ္လာဟ်အရှင်သည် အလိုတော်မရှိဘဲ လုပ်ရပ်တစ်ခုကို အဘယ်ကြောင့် အမိန့်ပေးရသလဲ'ဟု ပြောဆိုလာအံ့။ ထိုပြောဆိုမှု ကျွန်ုပ်တို့က ဤသို့အဖြေပေးမည်။ 'အမိန့်တော်သည် ဆန္ဒတော်နှင့်မတူပါ။ ဤကွာခြားချက်ကို ဥပမာတစ်ခုဖြင့် ရှင်းပြနိုင်သည်။ သခင်တစ်ဦးက သူ၏ကျွန်ကို ရိုက်နှက်ခဲ့သည်။ ထိုအတွက် သခင်ဖြစ်သူကို အာဏာပိုင်က အပြစ်တင်သည်။ ထိုအခါ သခင်ဖြစ်သူက မိမိ၏ကျွန်သည် အမိန့်မနာခံသဖြင့် ရိုက်ရခြင်းပါဟု အကြောင်းပြသည်။ အာဏာပိုင်က ထိုအကြောင်းပြချက်ကို မယုံချေ။ ထိုအတွက် သခင်သည် မိမိဘက်မှ အထောက်အထားပြသည့်အနေဖြင့် အာဏာပိုင်၏ ရှေ့မှောက်တွင် မိမိ၏ကျွန်အား 'ဒီမြင်းကို ကုန်းနှီးတင်စမ်း'ဟု ခိုင်းစေခဲ့သည်။ ဤနေရာတွင် အမိန့်ပေးခြင်းဖြစ်သော်လည်း သခင်သည် မိမိအမိန့်အတိုင်း ကျွန်က လိုက်နာဆောင်ရွက်စေလိုသည့် ဆန္ဒမရှိကြောင်း ထင်ရှားလေသည်။ တဖန် ဤသို့အမိန့်ပေးခြင်းမပြုပါက အာဏာပိုင်ထံ မိမိပြောဆိုထားသော အကြောင်းပြချက်သည် မမှန်မကန်ဖြစ်သွားတော့မည်။ ထို့ပြင် အကယ်၍ သခင်သည် ကျွန်ကို မိမိ၏အမိန့်အတိုင်း လိုက်နာဆောင်ရွက်ရန် ဆန္ဒရှိမည်ဆိုပါကလည်း ကိုယ့်သေတွင်း ကိုယ်တူးရာသလိုရှိသဖြင့် မဖြစ်နိုင်သောကိစ္စပင်ဖြစ်သည်။

**စတုတ္ထအခြေခံ**– အလ္လာဟ်အရှင်သည် လူသားတို့အား ဖန်ဆင်းဖြစ်ပေါ်စေခဲ့ခြင်းဖြင့်၎င်း၊ မိမိ၏ကျေးကျွန်လူသားတို့အပေါ် အမိန့်ပညတ်များ ထုတ်ပြန်ခြင်းဖြင့်၎င်း ကျေးဇူးပြုတော်မူသောအရှင်ဖြစ်တော်မူသည်။ သို့နှင့်တိုင် ထိုသို့ဖန်ဆင်းခြင်းနှင့်အမိန့်ပညတ်များ ထုတ်ပြန်ပေးခြင်းသည် အလ္လာဟ်အရှင့်အပေါ်တွင် တာဝန်မဟုတ်ချေ။ မုအ်တဇိလာဂိုဏ်းကမူ 'ဤကိစ္စရပ်များသည် အလ္လာဟ်အရှင့်အပေါ်တွင် တာဝန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤကိစ္စရပ်များထဲတွင် လူသားတို့၏ ကောင်းကျိုးကောင်းရာများ ပါနေသောကြောင့်ဖြစ်သည်'ဟု ဆိုသည်။ မုအ်တဇိလာတို့၏ ဤအဆိုသည် မဖြစ်နိုင်သောအရာဖြစ်သည်။ အလ္လာဟ်အရှင်ကိုယ်တော်တိုင်က တာဝန်ပေးတော်မူသောအရှင်ဖြစ်သည်။ ထို့ပြင် အလ္လာဟ်ကိုယ်တော်တိုင်က အမိန့်ပေးတော်မူသောအရှင်ဖြစ်သည်။ အလ္လာဟ်ကိုယ်တော်တိုင်က တားမြစ်တော်မူသောအရှင်ဖြစ်သည်။ သို့ဖြစ်ရာ ထိုအရှင့်အတွက် တာဝန်ဆိုသည်မှာ မည်သို့ဖြစ်နိုင်သနည်း။ ထိုအရှင့်အပေါ်တွင် မည်သည့်အရာသည် မည်သည့်အတွက် တင်ရှိရမည်နည်း။

အရဗီစကားလုံး 'ဝုဂျ်ဗ်၊ ၂–ဝါဂျိဗ်'တွင် အဓိပ္ပါယ်နှစ်ခုရှိသည်။ အဓိပ္ပါယ်တစ်ခုမှာ 'တာဝန်'ဖြစ်သည်။ ယင်းသို့တာဝန်ဖြစ်သော အလုပ်တစ်ခုကို စွန့်လွှတ်ခြင်းဖြင့် ထိခိုက်နိုင်သည်။ ထိုသို့ထိခိုက်ခြင်းသည် လက်ငင်းဖြစ်လျှင်ဖြစ်၊ သို့မဟုတ် အနာဂါတ်တစ်ချိန်ချိန်တွင်ဖြစ်မည်။ ဥပမာ လူသားအပေါ်တွင် အလ္လာဟ်အရှင့်အား အမိန့်နာခံရန် တာဝန်ရှိသည်ဟု ပြောဆိုခြင်းမျိုးဖြစ်၏။ ဤသို့ပြောဆိုခြင်း၏ အဓိပ္ပါယ်မှာ အကယ်၍ လူသားသည် အမိန့်တော်ကို မနာခံခဲ့လျှင် အာခိရတ်တွင် အပြစ်ဒဏ်ရခံရမည်ဟု အလိုထွက်သည်။ လက်ငင်းဘေးဒုက္ခတွေ့ကြုံရခြင်း၏ ဥပမာမှာ ရေငတ်နေသူတစ်ဦးသည် ရေသောက်ရန်တာဝန်ရှိသည်ဟု ပြောဆိုခြင်းမျိုးဖြစ်သည်။ ဆိုလိုသည်မှာ ထိုသူသည် ရေမသောက်လျှင် သေရမည်။

'ဝါဂျိဗ်'၏ ဒုတိယအဓိပ္ပါယ်မှာ 'ထိုက်ခြင်း'ဖြစ်သည်။ ကိစ္စရပ်တစ်ခု မရှိမဖြစ် ရှိရန်ထိုက်သင့်ခြင်းဖြစ်သည်။

ဥပမာ ရှိနေကြောင်းသိထားသောအရာသည် တည်ရှိနေရန် ထိုက်သည်ဟု ဆိုခြင်းမျိုးဖြစ်သည်။ ထိုအရာသည် မရှိဘဲနေရန် မဖြစ်ပေ။ ထိုသို့မရှိဘဲနေလျှင် သိခြင်းသည် မသိမိုက်မှားခြင်းဖြစ်သွားပေမည်။ အကယ်၍ မုအ်တဇီလာတို့က 'ဝါဂျိဗ်'၏ပထမအဓိပ္ပါယ်ဖြင့် အလ္လာဟ်အရှင့်အပေါ်တွင် ဖန်ဆင်းရန် တာဝန်ဖြစ်သည်ဟု ပြောဆိုလျှင် ဤအဆိုသည် မမှန်ကန်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်သည် ထိုတာဝန်ကို ပျက်ကွက်လျှင် ထိခိုက်မှုဟု (نعوذ بالله) ဖြစ်လာမည်ဖြစ်သောကြောင့်ဖြစ်သည်။ အကယ်၍ မုအ်တဇီလာတို့က 'ဝါဂျိဗ်'၏ဒုတိယအဓိပ္ပါယ်ဖြင့် ဖန်ဆင်းခြင်းသည် အလ္လာဟ်အရှင့်အပေါ် ထိုက်သည်ဟု ပြောဆိုလျှင်မူ ဤပြောဆိုမှုကို ကျွန်ုပ်တို့လည်း လက်ခံသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်၏အသိတော်သည် ယခေါင် မဆွမှသိခဲ့ခြင်းဖြစ်ရာ ထိုသိတော်မူသည့်အတိုင်း ဖြစ်ရှိလာရန် မလွဲမသွေလိုအပ်သောကြောင့်ဖြစ်သည်။

အကယ်၍ မုအ်တဇီလာတို့က 'ဝါဂျိဗ်'ကို တတိယအဓိပ္ပါယ်ဖြင့် ပြောမည်ဆိုလျှင် ယင်းသည် ကျွန်ုပ်တို့နားမလည်နိုင်သောအရာဖြစ်သည်။ ထို့ပြင် ၎င်းတို့ပြောဆိုသော 'လူသားတို့၏ကောင်းကျိုးကောင်းရာအတွက် ဖန်ဆင်းရန် တာဝန်ရှိသည်'ဆိုသော စကားမှာလည်း စကားပျက်မျှသာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်သည် လူသားတို့၏ကောင်းကျိုးကောင်းရာ မလုပ်ခဲ့လျှင်လည်း အရှင့်အဖို့ မည်သည့်ထိခိုက်နစ်နာစရာမှ မရှိသောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင့်တွင် တာဝန်ရှိသည်ဆိုသောစကားသည် ဘာမှအဓိပ္ပါယ်မရှိတော့ပေ။ ထို့အပြင် လူသားတို့၏ကောင်းကျိုးကောင်းရာအတွက်ဆိုလျှင် ၎င်းတို့ကို ဂျန္နတ်ထဲတွင် ဖန်ဆင်းထားလိုက်ရန်သာရှိသည်။ ထိုသို့မဟုတ်ဘဲ လူသားအား ဒုက္ခများမြောင်ဤလူ့ဘောင်တွင် ဖန်ဆင်းကာ၊ အပြစ်ဒုစရိုက်များဖြင့် စမ်းသပ်ပြီး ပြစ်ဒဏ်ခတ်ခြင်း၊ စာရင်းစစ်ဆေးခြင်းဖြင့် ခြောက်လှန့်ထားသည့်အဖြစ်ကို အဘယ်သို့သော ဉာဏ်ရှင်များက လိုလားပါသနည်း။

**ပဉ္စမအချင်းခံ–** လူသားတို့မထမ်းဆောင်နိုင်သောအရာကို လူသားတို့အား တာဝန်ပေးရန် အလ္လာဟ်အရှင့်တွင် အခွင့်ရှိတော်မူသည်။ မုအ်တဇီလာတို့သည် ဤအကီဒဟ်ခံယူချက်တွင် ခွဲထွက် ကွဲလွဲခဲ့ကြသည်။ အကယ်၍ အလ္လာဟ်အရှင့်တွင် ထိုသို့တာဝန်ပေးရန် အခွင့်မရှိဟုဆိုလျှင် ထိုသို့တာဝန်ပေးခြင်းမှ ရှောင်လွှဲရန် ဒိုအာတောင်းခြင်းလည်း ဖြစ်ရှိစရာမလိုပေ။ သို့နှင့်တိုင် ထိုသို့ဒိုအာတောင်းခဲ့ကြသည့်အကြောင်း ကျမ်းမြတ်ကုရ်အာန်တွင် ဖေါ်ပြထားသည်မှာ–

﴿رَبَّنَا وَلَا تُحَمِّلْنَا مَا لَا طَاقَةَ لَنَا بِهِ﴾

**'ကျွန်တော်မျိုးတို့၏ ရဗ်အရှင်၊ ကျွန်တော်မျိုးတို့ မနိုင်သောဝန်ကို ကျွန်တော်မျိုးတို့အပေါ် တင်တော်မမူပါနှင့်။'** **(စူရာဗာကရာ ၊ ၂၈၆)**

ထို့ပြင် အလ္လာဟ်အရှင်က တမန်တော်မြတ်ﷺအား 'အဗူဂျဟ်လ်သည် တမန်တော်မြတ်ﷺကို အမှန်ဟု လက်ခံလိမ့်မည်မဟုတ်'ဟု အသိပေးတော်မူခဲ့သည်။ ထို့နောက်တဖန် အလ္လာဟ်အရှင်က တမန်တော်မြတ်ﷺမိန့်ဆိုမှုအားလုံးကို အဗူဂျဟ်လ်မှ လက်ခံရန်လည်း အမိန့်ပေးထားတော်မူခဲ့သည်။ သို့နှင့်တိုင် တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုများထဲတွင် 'အဗူဂျာဟ်လ်သည် တမန်တော်မြတ်ﷺကို လက်ခံလိမ့်မည်မဟုတ်'ဟူသော မိန့်ဆိုမှုက ပါဝင်နေသည်။ သို့ဖြစ်ရာ ဤသည်မှာ လက်တွေ့မဖြစ်နိုင်သောတာဝန်ပေးချက်ဖြစ်သည်။

**ဆဋ္ဌမအခြေခံ–** အလ္လာဟ်အရှင်သည် လူသားတို့ကို အပြစ်ကျူးလွန်ခဲ့ခြင်း မရှိဘဲ ဒုက္ခပေးနိုင်သောအရှင်၊ ရမည့်ဆုဝါဗ်ကို မပေးဘဲ ပြစ်ဒဏ်ခတ်နိုင်တော်မူသောအရှင်ဖြစ်သည်။ မုအ်တဇီလာတို့သည် ဤအကီဒဟ်ခံယူချက်၌လည်း ကွဲလွဲလျက်ရှိသည်။ ဤကိစ္စတွင် ကျွန်ုပ်ဘက်မှအထောက်အထားမှာ အလ္လာဟ်အရှင်သည် အပြစ်မရှိသောလူသားကိုလည်း အပြစ်ပေးရန် အခွင့်အရေးရှိတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ဤသို့ပြုခြင်းသည် မိမိပိုင်ဆိုင်သောအရာကို ပြုမူဆောင်ရွက်ခြင်းသာဖြစ်ပြီး မိမိ၏ပိုင်ရေးဆိုင်ခွင့်မှ အပြင်သို့ ကျော်လွန်ခြင်းမရှိသောကြောင့်ဖြစ်

သည်။ မတရားမှုဆိုသည်မှာ အခြားသူ၏ပိုင်ဆိုင်မှုကို ထိုသူ၏ခွင့်ပြုချက်မပါဘဲ ပြုမူဆောင်ရွက်ခြင်းကို ခေါ်ဆိုသည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင့်ထံမှ မတရားမှု ပေါ်ထွက်ရန်ဆိုသည်မှာ မဖြစ်နိုင်သောအရာပင်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်၏ရှေ့တော်မှောက်တွင် အခြားသူ၏ပိုင်ဆိုင်မှုဟူ၍ မရှိသောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ အခြားသူ၏ပိုင်ဆိုင်မှုကို ပြုမူသုံးစွဲသဖြင့် မတရားမှုဖြစ်ပေါ်ရန်လည်း အကြောင်းမရှိတော့ပေ။ အလ္လာဟ်အရှင့်တွင် အပြစ်မရှိသောလူသားကို အပြစ်ပေးရန် အခွင့်အရေးရှိတော်မူကြောင်း အထောက်အထားသည် အလ္လာဟ်အရှင်ကိုယ်တော်တိုင်၏တည်ရှိနေမှုဖြစ်သည်။ တဖန် လူသားတို့က တိရိစ္ဆာန်များကို သတ်ဖြတ်ခြင်းနှင့် ပင်ပန်းကြီးစွာခိုင်းစေနေခြင်းများသည် စင်စစ်၎င်းတို့တွင် အပြစ်ရှိ၍မဟုတ်ဘဲ လူသားတို့ဘက်မှ ပေးသောအပြစ်များသာဖြစ်သည်။

အကယ်၍ တစ်စုံတစ်ဦးက 'ထိုတိရိစ္ဆာန်များကို ရှင်ထစေပြီး ၎င်းတို့ခံစားခဲ့ရသည့် ဒုက္ခဝေဒနာများ၏ပြင်းထန်မှုအလျောက် အစားပေးရန် အလ္လာဟ်အရှင့်အပေါ်မှာ ဝါဂျိဗ်ဖြစ်သည်'ဟု ပြောဆိုမည်ဆိုအံ့။ ထိုအတွက် ကျွန်ုပ်တို့၏အဖြေမှာ 'အကြင်သူသည် အနင်းခံရသော ပုရွက်ဆိတ်အားလုံး၊ ပွတ်ခြေခြင်းခံရသောခြင်ယင်အားလုံးကို ပြန်ရှင်စေပြီး ၎င်းတို့ခံစားခဲ့ရသည့် ဒုက္ခအတွက် စွဝါဗ်ပေးရန် အလ္လာဟ်အရှင့်အပေါ် တာဝန်ရှိသည်ဟု မှတ်ယူပြောဆိုခဲ့လျှင် ထိုသူသည် တရားတော်စည်းဝိုင်းနှင့်အသိဉာဏ်စည်းဝိုင်း နှစ်ခုစလုံးမှ လွတ်ထွက်သွားသူဖြစ်သည်။ ထိုသူ့အား ပြောရမည်မှာ ၎င်းက 'အလ္လာဟ်အရှင့်အပေါ်မှာ အကျိုးစွဝါဗ်ချီးမြှင့်ရန်နှင့် ပြန်လည်ရှင်ထစေရန် ဝါဂျိဗ်ဖြစ်သည်'ဟု ဆိုရာတွင် ထိုအရာများကို မလုပ်ဘဲနေခြင်းကြောင့် ထိခိုက်နစ်နာမည် ဆိုသောအဓိပ္ပါယ်ဖြင့် ပြောဆိုခဲ့ခြင်းဖြစ်လျှင် ဤသည်မှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ အကယ်၍ ထိုသူက ဝါဂျိဗ်ကို အခြားအဓိပ္ပါယ်ဖြင့် ပြောဆိုခဲ့ခြင်းဖြစ်လျှင် အထက်တွင် ကျွန်ုပ်တို့ရေးခဲ့ပြီးဖြစ်သလို ထိုအဓိပ္ပါယ်သည် နားမလည်နိုင်သောအရာသာဖြစ်သည်။ သို့ဖြစ်ရာ ဝါဂျိဗ်အတွက် ဖော်ပြထားသောအလိုသဘောမှလည်း လွတ်သွားသည်။

**သတ္တမအခြေခံ**– အလ္လာဟ်အရှင်သည် မိမိ၏ကျေးကျွန်လူသားတို့ကို မိမိအလိုရှိရာ ပြုလုပ်တော်မူသောအရှင်ဖြစ်သည်။ ထိုအရှင့်အပေါ်မှာ လူသားတို့၏ကောင်းကျိုးကောင်းရာအတွက် ထောက်ထားရန် တာဝန်မရှိချေ။ အထက်တွင် ကျွန်ုပ်တို့ ဖော်ပြခဲ့သည့်အတိုင်း အလ္လာဟ်အရှင့်အပေါ်တွင် တာဝန်ဖြစ်သည့်အရာဟူ၍ ဘာမှမရှိပေ။ သို့သာမက ထိုအရှင့်အဖို့ တာဝန်ရှိခြင်းဆိုသည်ကိုပင် နားလည်စရာအကြောင်းမရှိပေ။ အဘယ်ကြောင့်ဆိုသော်–

**﴿لَا يُسْأَلُ عَمَّا يَفْعَلُ وَهُمْ يُسْأَلُونَ﴾**

**'အလ္လာဟ်အရှင်၏လုပ်ရပ်တစ်စုံတစ်ရာအပေါ်မှာ မည်သူကမှ မေးခွန်းထုတ်နိုင်မည်မဟုတ်ပေ။ သို့သော် လူသားတို့သည်သာ မေးခွန်းထုတ်ခြင်းခံကြရမည်။'** (စူရာအန်ဘိယာ ၊၂၃)

ဤနေရာ၌ မုအ်တဇီလာတို့က 'အလ္လာဟ်အရှင့်အပေါ်တွင် လူသားတို့၏ကောင်းကျိုးကောင်းရာကို ထောက်ထားရန် တာဝန်ရှိသည်'ဟု ဆိုကြသည်။ ထို့ပြင် ၎င်းတို့က ဤကိစ္စနှင့်ပတ်သက်၍ သာဓကအဖြစ် အာခိရတ်တွင် ကလေးငယ်တစ်ဦးနှင့် လူကြီးတစ်ဦးတို့ အချီအချပြောဆိုခဲ့ပုံကို ဖော်ပြခဲ့ကြသည်။ ထိုကလေးနှင့်လူကြီး နှစ်ဦးစလုံးတို့သည် မွတ်စ်လင်အဖြစ်နှင့် သေဆုံးခဲ့ကြခြင်းဖြစ်သည်။ ထိုအခါ အလ္လာဟ်အရှင်က လူကြီး၏အဆင့်အတန်းကို များစွာ ချီးမြှင့်ပြီး ကလေးငယ်ထက် သာပိုထွတ်မြတ်စေခဲ့သည်။ ဤသို့ချီးမြှင့်ရခြင်းမှာ လူကြီးသည် အီမာန်အပေါ်မှာ ကြိုးပမ်းပြီး အရွယ်ရောက်ချိန်ကတည်းက အမိန့်နာခံမှု၌ ရှိခဲ့သောကြောင့်ဖြစ်သည်။ မုအ်တဇီလာတို့ထံတွင် ဤကဲ့သို့ချီးမြှင့်ရန် အလ္လာဟ်အရှင့်အပေါ်တွင် တာဝန်ဖြစ်သည်။ အကယ်၍ ဤပုံစံတွင် ကလေးငယ်က–

'အို ကျွန်တော်မျိုး၏ရဗ်အရှင်၊ ကိုယ်တော်အရှင်သည် အဘယ်ကြောင့် ထိုသူ့ကို ကျွန်တော်မျိုးထက် အဆင့်အတန်းမြင့်မားစွာ ထားတော်မူပါသနည်း'ဟု မေးမြန်းခဲ့မည်ဆိုပါက အလ္လာဟ်အရှင်က ဖြေကြားတော်မူမည်မှာ–

'ထိုသူသည် အရွယ်ရောက်ခဲ့ပြီး အမိန့်နာခံမှုတွင် ကြိုးပမ်းဆောင်ရွက်ခဲ့သည်'။ ထိုအခါ ကလေးငယ်က–

'ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးကို ငယ်ရွယ်စဉ်မှာ သေဆုံးစေတော်မူခဲ့သည်။ အမှန်မှာ ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးကို အသက်အရွယ်ကြီးရင့်သည်အထိ ရှည်ကြာစွာထားရန် တာဝန်ရှိတော်မူသည်။ သို့မှာသာ ကျွန်တော်မျိုးသည် အမိန့်နာခံမှုတွင် ကြိုးပမ်းဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။ ယခုမူ ကိုယ်တော်အရှင်သည် သူ့ကို အသက်ရှည်ရှည်ထားပြီး အကျိုးအမြတ် ရရှိစေခဲ့သည်၊ ကျွန်တော်မျိုးကိုမူ အကျိုးအမြတ် မရစေခဲ့ပါ။ ဤကိစ္စတွင် ကျွန်တော်မျိုးမှာ အပြစ်မရှိပါ။ ဤကိစ္စတွင် ကိုယ်တော်အရှင်သည် တရားမျှတမှုမဏ္ဍိုင် တိမ်းစောင်းခဲ့ပါသည်'ဟု တင်ပြလျှောက်ထားလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က–

'အသင့်ကို အရွယ်ရောက်သည်အထိ အသက်နှင့်ထားလျှင် အသင်သည် ရှိရိက်မှုကို မချကျူးလွန်လိမ့်မည် သို့မဟုတ် အသင်သည် ဖီဆန်မှုများပြုလုပ်လိမ့်မည်။ ဤသည်ကို ငါအရှင် အသေအချာ သိတော်မူသည်။ သို့ရှိရာ ကလေးငယ်အဖြစ်နှင့် သေဆုံးခြင်းက အသင့်အတွက် သင့်မြတ်သည်'ဟု မိန့်ကြားတော်မူမည်ဖြစ်သည်။

ဤသည်မှာ မုအ်တဇီလာများဘက်က ဖြစ်တန်ရာသဘော ရှင်းပြသော အလ္လာဟ်အရှင်၏အကြောင်းပြချက် ဖြစ်သည်။ သို့နှင့်တိုင် ယင်းသာဓကကိုပင် ကျွန်ုပ်က ရှေ့သို့တိုးချဲ့ဖော်ပြဦးမည်။

အလ္လာဟ်အရှင်က ကလေးငယ်အား အထက်ပါအတိုင်း ဖြေကြားလိုက်သောအခါ ငရဲအတွင်းမှ ကာဖိရ်များက အော်ဟစ်၍ 'အို ကျွန်တော်မျိုးတို့၏ရစ်အရှင်၊ ကျွန်တော်မျိုးတို့ အရွယ်ရောက်ကြသောအခါ ရှိရိက်မှုကျူးလွန်ကြမည်ကို ကိုယ်တော်အရှင် သိထားခဲ့ပါသည်။ သို့ဖြစ်ပါလျက် ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးတို့အား ငယ်ရွယ်စဉ်မှာပင် အဘယ်ကြောင့် မသေစေခဲ့ပါသနည်း။ ထိုသို့သေစေမည်ဆိုလျှင် ဤမွတ်စ်လင်မ်ကလေးငယ်ထက်ပို၍ နိမ့်ကျသောအဆင့်အတန်းကိုပင် ကျွန်တော်မျိုးတို့ ကျေနပ်နိုင်ကြပါသည်'ဟု ပြောဆိုကြလိမ့်မည်။

ငရဲကျနေသောကာဖိရ်များက ပြောဆိုလာမည့် အထက်ပါစကားအပေါ် မုအ်တဇီလာတို့မှ မည်သို့အဖြေပေးမည်နည်း။ အလ္လာဟ်အရှင်နှင့်သက်ဆိုင်ရာအရေးကိစ္စများကို မုအ်တဇီလာတို့၏ချိန်ခွင်ပေါ်တွင် ချိန်စက်ပြီး ယတိပြတ်အဖြေထုတ်၍ မရနိုင်ပါချေ။

တစ်စုံတစ်ဦးက စောဒကတက်သည့်အနေဖြင့် 'အလ္လာဟ်အရှင်သည် လူသားတို့၏ကောင်းကျိုးကောင်းရာရှိမှုကို ထောက်ထားရန် အစွမ်းရှိပါလျက် လူသားတို့အား အပြစ်ဒဏ်သင့်စေမည့် လုပ်ရပ်များကို လုပ်စေခဲ့သည်။ ဤသည်မှာ ဆိုးလှသောကိစ္စဖြစ်ပြီး ဟိက်မတ်တော်နှင့် မအပ်စပ်ပါ'ဟု ပြောမည်ဆိုက ထိုအတွက် ကျွန်ုပ်တို့၏အဖြေမှာ ဆိုးသည်ဆိုခြင်းသည် ရည်ရွယ်ချက်နှင့် မတိုက်ဆိုင်သောအခါမှာဖြစ်သည်။ ကိစ္စရပ်တစ်ခုသည် လူတစ်ဦးထံတွင် ကောင်းပြီး အခြားတစ်ဦးထံတွင် ဆိုးနေတတ်သည်။ သို့ဖြစ်ရာ ကိစ္စရပ်တစ်ခု၏ကောင်းခြင်းနှင့်ဆိုးခြင်းသည် ပုဂ္ဂိုလ်တစ်ဦးစီ၏သဘောထားတိုက်ဆိုင်မှုအရဖြစ်သည်။ ဥပမာ လူတစ်ယောက် အသတ်ခံရခြင်းသည် သူ၏ဆွေမျိုးမိတ်သင်္ဂဟများအတွက် ဆိုးသောကိစ္စဖြစ်သည်။ တဖန် ထိုသူ၏ရန်သူများအတွက် ကောင်းသောကိစ္စဖြစ်သည်။

အကယ်၍ စောဒကတက်သူက 'အဆိုးဆိုသည်မှာ အလ္လာဟ်အရှင်၏ရည်ရွယ်ချက်နှင့် တိုက်ဆိုင်ညီညွတ်မှုမရှိသောအရာဖြစ်သည်'ဟု ရည်ရွယ်ပြောဆိုလျှင် ဤသည်မှာ မဖြစ်နိုင်သောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင့်ထံတွင် သူတစ်ပါးပိုင်ဆိုင်မှုကို ပြုမူဆောင်ရွက်ခြင်းဖြင့် မတရားမှုဖြစ်ရှိကြောင်း စဉ်းစားပုံဖော်၍ မရနိုင်သကဲ့သို့ အလ္လာဟ်အရှင်က အဆိုးလုပ်သည်ကိုလည်း ပုံဖော်စဉ်းစား၍ မရပေ။ အကယ်၍ စောဒကတက်သူက 'အဆိုးဆိုသည်မှာ အခြားသူ၏ရည်ရွယ်ချက်နှင့်အညီ မဖြစ်စေခြင်းဖြစ်သည်'ဟု ဆိုလျှင်၊ ထိုလုပ်ရပ်ကို အလ္လာဟ်အရှင့်အတွက် မဖြစ်နိုင်ဟု အသင်တို့ ဘာကြောင့်ပြောဆိုရသနည်း။

**စင်စစ်** ယခုလို စောဒကတက် ပြောဆိုမှုများသည် ဖြစ်စေချင်သည်ကို တောင့်တမှုသက်သက်သာဖြစ်သည်

ဤတောင့်တမှု၏ ဆန့်ကျင်ဘက်၌ အထက်က ကျွန်ုပ်တို့ **ဖြစ်တန်ရာသသော** တင်ပြခဲ့သည့် ငရဲကျနေသောကာဖိရ်များ၏ ရပ်ခံပြောဆိုမှုက သက်သေခံလျက်ရှိသည်။

ဟိက်မတ်ရှင်-ဆိုသည်မှာ အရာရာတို့၏အရင်းခံသ**ဘောကို သိရှိပြီး** ၎င်းတို့၏လုပ်ဆောင်ချက်များကို မိမိအလိုရှိသည့်အတိုင်း ထိန်းချုပ်ပြဋ္ဌာန်းနိုင်စွမ်းရှိသူအား ခေါ်ဆိုခြင်း**ဖြစ်သည်။ ဤဖွင့်**ဆိုချက်အရ ဟိက်မတ်ရှင်တွင် ကောင်းကျိုးကောင်းရာရှိမှုကို ထောက်ထားရန် တာဝန်ရှိသည်**ဟူသော သဘောအဓိပ္ပါ**ယ် အဘယ်မှာပါဝင်သနည်း။ ကျွန်ုပ်တို့လူသားများထဲမှ ဟိက်မတ်အမျှော်အမြင်ရှိသူ ဆိုသည်**ကတော့ ဆိုလျော်မှုအရှိဆုံး**ဟု ထင်သည့်အရာကို ထောက်**ရှုသူ**ဖြစ်သည်။ ဤနည်းအားဖြင့် ၎င်း၏စိတ်သည် ဒွန္ဒယာ**တွင် ချီးကျူးပြောဆိုခံရသူ**ဖြစ်ပြီး အာခိရတ်တွင် **စွဝါဗ်ရရန်**ဖြစ်သည်။ သို့မဟုတ် ဤနည်းဖြင့် ၎င်းသည် ဘေးဒုက္ခ**များမှ ကင်းဝေးရန်**ဖြစ်သည်။ ဤအချက်များ**အားလုံးသည်** အလ္လာဟ်အရှင်မြတ်အတွက် ဖြစ်နိုင်ခြင်းမရှိပေ။

**အဋ္ဌမအရင်းခံ-** အလ္လာဟ်အရှင်ကို သိခြင်းနှင့်အမိန့်နာခံခြင်းသည် **အလ္လာဟ်အရှင်နှင့်ထိုအရှင်**၏ ရှရီအတ်က **တာဝန်ပေးချက်အရ တာဝန်ဖြစ်ရသည်**။ လူသား၏အသိဉာဏ်အရ **တာဝန်ဖြစ်ခြင်းမဟုတ်ချေ။** မုအ်တဇီလာတို့သည် ဤအချက်တွင်လည်း ကွဲလွဲလျက်ရှိကြသည်။ ၎င်းတို့က အလ္လာဟ်အ**ရှင့်ကို နာခံရန် အသိဉာဏ်**အရ တာဝန်ရှိခြင်းဖြစ်သည်ဟု သတ်မှတ်ခံယူကြသည်။ ကျွန်ုပ်တို့က ပြောဆိုလိုသည်မှာ **အကယ်၍ အလ္လာဟ်အရှင့်**ကို နာခံရန် အသိဉာဏ်က တာဝန်ပေးခြင်းဖြစ်ခဲ့လျှင်၊ အကျိုးရှိမှုအတွက် တာဝန်ပေးခြင်းနှင့် **အကျိုးရှိမှုမပါဘဲ တာဝန်ပေးခြင်း**ဟူ၍ **နှစ်မျိုး**ရှိသည်။ ထိုနှစ်မျိုးအနက် အကျိုးဖြစ်ထွန်းမှုတစ်စုံတစ်ရာမရှိဘဲ **တာဝန်ပေးရန်ဆိုသည်မှာ မဖြစ်နိုင်ချေ။** အဘယ်ကြောင့်ဆိုသော် အသိဉာဏ်သည် အချိးနှီးကိစ္စကို တာဝန်ပေးမည် မဟုတ်သော**ကြောင့်ဖြစ်သည်။ သို့ရှိရာ** အကျိုး**ရှိမှု**အတွက် တာဝန်ပေးခြင်း ဖြစ်သည်ဆိုလျှင်လည်း၊ ထိုပုံစံတွင် ကိုးကွယ်ရာအရှင်**အတွက် အကျိုးရှိခြင်းနှင့်** လူသားအတွက် အကျိုးရှိခြင်းဟူ၍ နှစ်မျိုးဖြစ်နိုင်ပြန်သည်။ သို့နှင့်အမျှ ကိုးကွယ်ရာအရှင်**အတွက် အကျိုးရှိရန်**ဆိုသည်မှာ မဖြစ်နိုင်စကောင်းသောကိစ္စဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကိုးကွယ်ရာအရှင်**ဟူသည် ရည်ရွယ်**ချက်ပန်းတိုင်များ၊ အကျိုးခံစားမှုများမှ စင်ကြယ်ကင်းရှင်းရမည်ဖြစ်သောကြောင့်ဖြစ်သည်။ **သို့သာမက ထိုအရှင့်ထံတွင်** ကုဖ်ရ်ဖြစ်ခြင်း၊ **အီမာန်ရှိခြင်း၊ နာခံခြင်း၊** ဖီဆန်ခြင်းတို့သည် တစ်ပြေးညီ တန်းတူဖြစ်သော**ကြောင့်ဖြစ်သည်။**

တဖန် လူသားအတွက် အကျိုးရှိဖို့ဆိုသည်ကလည်း မဖြစ်နိုင်သောအရာဖြစ်သည်**။ အဘယ်ကြောင့်ဆိုသော်** လက်ငင်းအားဖြင့် လူသား၏မည်သည့်ရည်ရွယ်ချက်မှ အမိန့်နာခံမှုနှင့် မဆက်စပ်သော**ကြောင့်ဖြစ်သည်**။ သို့သာမက လူသားသည် ထိုအမိန့်နာခံမှုတွင် ကြိုးပမ်းအားထုတ်ခြင်းနှင့် အလိုဆန္ဒများကို **ချုပ်တည်းခြင်းအတွက်** ရရှိမည့် အဆုံးရလဒ်သည် စွဝါဗ်နှင့်ပြစ်ဒဏ်ခပ်မှုသာဖြစ်ပြီး အခြားတစ်စုံတစ်ရာ မဟုတ်ပေ**။ ထို့ပြင်** အလ္လာဟ်အရှင်သည် ဖီဆန်မှုနှင့်နာခံမှုအတွက် စွဝါဗ်ကိုသာပေးမည်၊ ထိုနှစ်ခုအပေါ် အပြစ်ပေးအရေးယူ**မည်မဟုတ်**ဟု မည်ကဲ့သို့ သိနိုင်သနည်း။ စင်စစ် အလ္လာဟ်အရှင့်ထံတွင် နာခံမှုနှင့်ဖီဆန်မှုသည် တစ်သမတ်တည်းသာ**ဖြစ်သည်**။ အရှင်သည် ထိုနှစ်ခုအနက် မည်သည့်ဘက်ကိုမှ တိမ်းညွတ်ယိမ်းယိုင်ခြင်းမရှိချေ။ ထို့ပြင် အရှင်သည် ထိုနှစ်ခုတွင် မည်သည့်တစ်ခုနှင့်မှလည်း သီးသန့်ပတ်သက်ခြင်းမရှိချေ။ အမှန်မှာ နာခံမှုနှင့်ဖီဆန်မှုကို ခွဲခြားသိရှိရခြင်းသည် ရှရီအတ်ဖြင့်သာဖြစ်သည်။ အကြင်သူတစ်ဦးသည် ဖန်ဆင်းရှင်ကို အဖန်ဆင်းခံနှင့် တန်းတူချိန်ထိုးပြီး လူသားက ကျေးဇူးအတင်ခံရသည့်အခါ ပျော်ရွှင်ဝမ်းမြောက်ပီတိဖြစ်သလို ဖန်ဆင်းရှင်လည်း အလားတူဖြစ်သည်၊ လူသားက ကျေးဇူးအကန်းခံရသည့်အခါ မကျေမချမ်းဖြစ်သလို ဖန်ဆင်းရှင်ကလည်း အလားတူဖြစ်သည်ဟု ထင်မှတ်ယူဆမည်ဆိုလျှင်၊ ယင်းသည် လွဲမှားသောဆင်ခြင်တုံတရားကို အခြေခံပေသည်။

အကယ်၍ တစ်စုံတစ်ဦးက 'အလ္လာဟ်အရှင့်အား သိခြင်းနှင့်နာခံခြင်းတို့ တာဝန်ဖြစ်ကြောင်း ရှရီအတ်မှလွဲ၍

အခြားဘယ်ကမှ ပေါ်ပေါက်သည်မဟုတ်ပေ။ သို့ဖြစ်ရာ အရွယ်ရောက်ပြီး အသိရှိသူတစ်ဦးသည် ရှရီအတ်ကို ကြည့်ရှုစဉ်းစားခြင်းမပြုသ၍ သူ့တွင် တာဝန်ဖြစ်လာမည် မဟုတ်သည့်အပေါ်မှာ၊ ထိုအသိမျိုးရှိသူက တမန်တော်မြတ်ﷺအား 'အသိဉာဏ်က ကျွန်တော်မျိုးအား ကြည့်ရှုစဉ်းစားရန် တာဝန်မပေးပါ။ ကြည့်ရှုစဉ်းစားခြင်းမပြုလျှင် ရှရီအတ်သည် ကျွန်တော်မျိုးအပေါ် သက်ရောက်ရန် မရှိပါ။ ကျွန်တော်မျိုးသည်လည်း ရှရီအတ်အပေါ် ကြည့်ရှုစဉ်းစားရန် မဝံ့စားပါ'ဟု ပြောဆိုခဲ့လျှင် တမန်တော်မြတ်ﷺသည် တုံ့နှိဘာဝေ ဘာဖြေရမှန်းမသိ ဖြစ်ရတော့မည်လော။

ဤတွင် ကျွန်ုပ်တို့က ပြောဆိုမည်မှာ 'တမန်တော်မြတ်ﷺအပေါ် ယခုကဲ့သို့ စောဒကတက်မည်ဆိုပါက ထိုသူ၏ဥပမာသည် ဤသို့ဖြစ်လိမ့်မည်။ နေရာတစ်ခုတွင် ရပ်နေသူတစ်ဦးကို သတိပေးသူက 'အသင်၏နောက်တွင် သားရဲတိရိစ္ဆာန်တစ်ကောင် ရှိနေသည်။ အသင် ထိုနေရာမှ လွတ်ရာသို့ မသွားလျှင် အသင်သေရလိမ့်မည်။ အသင် နောက်သို့ လှည့်ကြည့်မည်ဆိုပါက ကျွန်ုပ် အမှန်ပြောဆိုခြင်းဖြစ်ကြောင်း သိရလိမ့်မည်'ဟု ပြောဆိုခဲ့၏။ ထိုအခါ ရပ်နေသူက 'ကျွန်ုပ် နောက်သို့ လှည့်မကြည့်မချင်း အသင်အမှန်ပြောနေကြောင်း သိရမည်မဟုတ်ပါ။ ကျွန်ုပ်သည် နောက်သို့ လှည့်ကြည့်မည်လည်းမဟုတ်ပါ၊ အသင်မှန်ကန်ကြောင်း မသိရသဖြင့် ကျွန်ုပ်အဖို့ ဘာမှအရေးမကြီးပါ' ဟု ပြောဆိုလေသည်။ ထိုသို့ ပြောဆိုခြင်းသည် မိုက်မဲမှုမျှသာဖြစ်ကြောင်း ထင်ရှားပါသည်။ ထို့ပြင် ထိုကဲ့သို့ ပြောဆိုခြင်းကြောင့် ပြောဆိုသူသာ ပျက်စီးဆုံးရှုံးရမည်ဖြစ်ပြီး သတိပေးညွှန်ကြားသူအတွက် ဒုက္ခအန္တရာယ်တစ်စုံတစ်ရာဖြစ်ရန် မရှိချေ။

ဤနည်းအတိုင်းပင် တမန်တော်မြတ်ﷺက မိန့်ဆိုမည်မှာ 'အသင်တို့၏နောက်တွင် သေခြင်းရှိသည်။ သေခြင်း၏အခြားမဲ့၌ ကိုက်ဖြဲမည့်သားရဲများ၊ လောင်ကျွမ်းမည့်မီးလျှံများ ရှိနေသည်။ အကယ်၍ အသင်တို့ ငါ၏သတိပေးပြောဆိုမှုကို လက်ခံခြင်းမပြုနိုင်ကြလျှင် ငါ၏မုအ်ဂျိဇာများကို ကြည့်ခြင်းဖြင့် ငါ၏ပြောဆိုမှုမှန်ကန်ကြောင်းကို သိကြရမည်။ ထိုသို့မဟုတ်က အသင်တို့ ပျက်စီးကြရမည်။ အကြင်သူသည် ငါ၏မုအ်ဂျိဇာများကို ကြည့်ရှုမည်ဆိုလျှင် ထိုသူသည် မိမိကိုယ်ကို လွတ်မြောက်အောင် ပြုနိုင်လိမ့်မည်။ ထို့ပြင် အကြင်သူသည် ငါ၏မုအ်ဂျိဇာများကို ကြည့်ရှုခြင်းမပြုဘဲ မိမိ၏အမှားအပေါ် တစွတ်တရွတ်ရှိနေလျှင် ထိုသူသာ ပျက်စီး ပြုန်းတီးရမည်။ အကယ်၍ လူသားထု တစ်ရပ်လုံး ပျက်ပြုန်းသော်လည်း ငါ့အဖို့ ဘာမှ နစ်နာစရာမရှိပါ။ ငါ့တွင်ရှိသည့် တာဝန်မှာ ရှင်းလင်းစွာ ပြောဆိုရန်သာဖြစ်သည်'ဟူ၍ပင်။

ရှရီအတ်က လူသားသည် သေပြီးနောက် အန္တရာယ်သတ္တဝါနှင့် ရင်ဆိုင်ကြုံတွေ့ရန်ရှိကြောင်း အသိပေးဖော်ပြထားသည်။ တဖန် အသိဉာဏ်က ရှရီအတ်၏ပြောဆိုမှုကို နားလည်သဘောပေါက်ပြီး အကျိုးရလဒ်ထုတ်ယူနိုင်သည်။ ထို့ပြင် အသိဉာဏ်သည် ရှရီအတ်က ဖော်ပြသည့် အနာဂါတ်တွင် ဖြစ်လာမည့်ကိစ္စရပ်များ၏ဖြစ်နိုင်ခြင်းကို အပြည့်အဝ သိရှိနိုင်စွမ်းရှိသည်။ ထို့ပြင် အသိဉာဏ်သည် စိတ်သဘောကို ဘေးအန္တရာယ်မှ ရှောင်ရှားနိုင်ရန် လှုံ့ဆော်ပေးသည်။ တာဝန်ဖြစ်သည်–ဆိုခြင်း၏အဓိပ္ပါယ်မှာ ထိုအရာကို မလုပ်ဘဲနေလျှင် အန္တရာယ်ရှိသည်ဟု ဖြစ်သည်။ ရှရီအတ်ကို တာဝန်ပေးသောအရာဟု ပြောဆိုခြင်း၏အလိုသဘောမှာ အနာဂါတ်တွင် ဖြစ်ပေါ်လာမည့်အန္တရာယ်ကို ရှရီအတ်က အသိပေးဖော်ပြသောကြောင့်ဖြစ်သည်။ အလိုဆန္ဒ၏နောက်သို့ လိုက်ပါမိသည့်အတွက် သေပြီးနောက် ကြုံတွေ့ရမည့် ဒုက္ခအန္တရာယ်မှ လွတ်ရာလမ်းကို အသိဉာဏ်က ညွှန်ပြခြင်း မပြုနိုင်ချေ။ ဤသည်ပင် ရှရီအတ်နှင့် အသိဉာဏ်၏အဓိပ္ပါယ်ဖွင့်ဆိုချက်ဖြစ်သည်။ ထို့ပြင် တာဝန်သတ်မှတ်မှုအပေါ် ဤနှစ်ခု၏အကျိုးသက်ရောက်ပုံဖြစ်သည်။ အကယ်၍ အမိန့်ပေးထားသောအရာကို မလုပ်ဘဲနေခြင်းဖြင့် အပြစ်ဒဏ်ခံရမည်ကို စိုးရိမ်ကြောက်ရွံ့စရာမရှိဟု ဆိုလျှင် ထိုအရာသည် တာဝန်ဖြစ်လာရန်လည်း အကြောင်းမရှိချေ။ သို့ဖြစ်ရာ ဝါဂျိဗ်ဆိုသည်မှာ အရာတစ်ခုကို စွန့်လွှတ်ခြင်းဖြင့် အာခိရတ်တွင် ဒုက္ခအန္တရာယ်တစ်ခု ဆိုက်ရောက်စေမည့်အရာကို ခေါ်ဆိုခြင်းဖြစ်သည်။

**နဝမအခြေခံ–** နဗီတမန်တော်များ ﷺကို စေလွှတ်တော်မူခြင်းသည် မဖြစ်နိုင်သောအရာ မဟုတ်ချေ။ ဤအချက်ကို ဘရာဟ်မာဂိုဏ်းက လက်မခံပေ။ ၎င်းတို့က 'အသိဉာဏ်ရှိနေပြီးဖြစ်ရာ နဗီတမန်တော်များစေလွှတ်ခြင်းဖြင့် အကျိုးထူးမရှိနိုင်ပါ'ဟု ပြောဆိုကြသည်။ အမှန်မှာ အသိဉာဏ်သည် အာခိရတ်ရေး လွတ်မြောက်အောင်မြင်မှုရရှိစေမည့်အလုပ်များကို ညွှန်ပြနိုင်သည်မဟုတ်ပါ။ ကျန်းမာမှုရစေမည့် ဆေးဝါးများကို အသိဉာဏ်သက်သက်ဖြင့် မသိနိုင်သကဲ့သို့ဖြစ်ပါသည်။ သို့ဖြစ်ရာ လူသားတို့သည် ဆေးဆရာသမားတော်များကို လိုအပ်သကဲ့သို့ပင် တမန်တော်များ ﷺကို လိုအပ်လေသည်။ ကွာခြားသည်မှာ ဆေးဆရာတစ်ဦး၏စစ်မှန်မှုကို အတွေ့အကြုံဖြင့် သိရသည်။ နဗီတမန်တော်တစ်ပါး၏စစ်မှန်မှုကို မုအ်ဂျိဇာဖြင့် သိရသည်။

**ဒသမအခြေခံ–** အလ္လာဟ်အရှင်မြတ်သည် တမန်တော်မုဟမ္မဒ် ﷺသခင်အား တမန်တော်များတွင် နောက်ဆုံးတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့သည်။ ထို့ပြင် တမန်တော်မုဟမ္မဒ် ﷺသခင်အား မိမိအလျင်ရှိခဲ့သော ရဟူဒီ၊ နဆွ်ရာနီနှင့်မဂျူဆီတို့၏တရားလမ်းစဉ်များကို ပလပ်ဖျက်သိမ်းသူအဖြစ် စေလွှတ်တော်မူခဲ့သည်။ ထို့ပြင် အလ္လာဟ်အရှင်သည် တမန်တော်မြတ် ﷺအား ထင်ရှားသော မုအ်ဂျိဇာများ၊ ထင်းလင်းသော သက်သေလက္ခဏာများဖြင့် အားပေးကူညီတော်မူခဲ့သည်။ ဥပမာ လကို ခွဲခြမ်းခြင်း၊ ကျောက်ခဲများက တက်စ်ဗီဟ်ဖတ်ခြင်း၊ တိရိစ္ဆာန်များက စကားပြောခြင်း၊ ကိုယ်တော် ﷺ၏လက်ချောင်းများအကြားမှ ရေထွက်ခြင်း– စသည်တို့ဖြစ်သည်။ ထိုမုအ်ဂျိဇာများအနက် တမန်တော်မြတ် ﷺအား အရဗ်လူမျိုးအားလုံး၏အထက်မှ ပြိုင်ဘက်ကင်းသူဖြစ်စေခဲ့သော မုအ်ဂျိဇာမှာ ကျမ်းမြတ်ကုရ်အာန်ဖြစ်လေသည်။

အရဗ်လူမျိုးတို့သည် ဝစနာလင်္ကာရနှင့်အဋ္ဌာလင်္ကာရအတတ်များကို တစ်ဘက်ကမ်းခပ်တတ်မြောက်သူများဖြစ်ကြသည်။ သို့နှင့်တိုင် ကျမ်းမြတ်ကုရ်အာန်က ကြိုတင်မိန့်ဟောထားသည့်အတိုင်း ထိုအရဗ်တို့သည် ကျမ်းမြတ်ကုရ်အာန်နှင့် တူဆင်သော အလားတူစာပေတစ်ခုကို ပြုစုတင်ပြခြင်းငှါ မစွမ်းနိုင်ခဲ့ကြပေ။ ကျမ်းမြတ်ကုရ်အာန်ကဲ့သို့ အဆီအနှစ်ပြည့်ဝပြီး စီကုံးမှုပြောင်မြောက်သောစာပေမျိုးကို ပြုစုရန်ဆိုသည်မှာ အရဗ်များသာမက လူသားအားလုံးအတွက်ပင် မစွမ်းနိုင်သောကိစ္စဖြစ်သည်။ ထိုသို့မစွမ်းနိုင်သည့်အပေါ်မှာ အရဗ်တို့သည် တမန်တော်မြတ် ﷺအား ဆဲရေးတိုင်းထွာခြင်း၊ တားမြစ်ပိတ်ပင်ခြင်း၊ သတ်ဖြတ်ရန်ကြိုးစားခြင်း၊ နယ်နှင်ခြင်းတို့ကိုပြုလုပ်ခဲ့ကြသည်။ တမန်တော်မြတ် ﷺသည် စာမတတ်သူဖြစ်ပြီးစာအုပ်စာပေများကို လက်ဖြင့် ထိကြည့်သူပင်မဟုတ်ပေ။ သို့နှင့်တိုင် တမန်တော်မြတ် ﷺသည် ရှေးဦးအာဒိပုဂ္ဂိုလ်တို့၏အကြောင်းသတင်းများကိုငှ်း၊ အနာဂါတ်တွင် ဖြစ်ပွါးမည့်အကြောင်းချင်းတများကိုငှ်း ထုတ်ဖော်မိန့်ဆိုခဲ့သည်။ ဥပမာ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်–

﴿لَتَدۡخُلُنَّ الۡمَسۡجِدَ الۡحَرَامَ إِنۡ شَاءَ اللّٰهُ آمِنِينَ مُحَلِّقِينَ رُءُوسَكُمۡ وَمُقَصِّرِينَ﴾

**'အကယ်၍ အလ္လာဟ်အရှင်၏အလိုတော်ရှိလျှင် အသင်တို့သည် အသင်တို့၏ဦးခေါင်းများကို ရိပ်ကြလျက်၊ ဆံပင်များကို ဖြတ်ကြလျက် ဟရာမ်ဝတ်ကျောင်းတော်သို့ အေးချမ်းသာယာစွာဖြင့် မုချဝင်ရောက်ကြရပေအံ့။'** (စူရာဖတ်ဟ် ၊ ၂၇)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူချက်–

﴿الٓمٓ ۞ غُلِبَتِ الرُّومُ ۞ فِي أَدۡنَى الۡأَرۡضِ وَهُمۡ مِنۡ بَعۡدِ غَلَبِهِمۡ سَيَغۡلِبُونَ ۞ فِي بِضۡعِ سِنِينَ﴾

**'အလိဖ်၊ လာမ်...၊ မီမ်...။ မြေချင်းနီးကပ်စွာရှိနေသော၊ ရောမနိုင်ငံ ၏ အရေးနိမ့်ရပေပြီ။ ထို့ပြင် ၎င်းတို့သည် ရှုံးနိမ့်ပြီးနောက် မကြာမီနှစ်အနည်းငယ်အတွင်း အောင်မြင်မှုရကြလိမ့်မည်။'** (စူရာရူမ် ၊ ၁–၄)

ဤကြိုတင်မိန့်ဟောချက်များအတိုင်း အမှန်ပင် ဖြစ်ပွါးခဲ့သည်။ တမန်တော်မြတ် ﷺ၏စစ်မှန်ကြောင်းကို မုအ်ဂျိဇာဖြင့် ထုတ်ဖော်တော်မူခဲ့သည်။ မုအ်ဂျိဇာသည် လူသားဘက်က ပြုလုပ်ရန် မတတ်စွမ်းနိုင်သော လုပ်ရပ်ဖြစ်သည်။

ယင်းသည် အလ္လာဟ်အရှင်၏ လုပ်ရပ်တော်ဖြစ်ပြီး တမန်တော်မြတ်ﷺဘက်သို့ စပ်လျဉ်းထွက်ပေါ်စေခြင်းဖြစ်သည်။ ထိုသို့လူသားမစွမ်းနိုင်သည့် လုပ်ရပ်တစ်ခု တမန်တော်မြတ်ﷺဘက်မှ ထွက်ပေါ်လာခြင်းသည် အလ္လာဟ်အရှင်က **'တမန်တော်၏ပြောဆိုမှု** အမှန်ဖြစ်သည်'ဟု ထောက်ခံတော်မူလိုက်သည့်အဓိပ္ပါယ်ဖြစ်သည်။

ထိုသို့ထောက်ခံတော်မူခြင်း၏ဥပမာသည် ဤသို့ဖြစ်သည်။ လူတစ်ယောက်သည် ဘုရင့်ရှေ့မှောက်တွင် ရှိ**နေပြီး** ၎င်းက လူထုအား မိမိသည် လူတို့ထံ စေလွှတ်လိုက်သော ဘုရင်၏စေတမန်ဖြစ်သည်ဟု ကြေညာခဲ့သည်။ **ထို့နောက်** ၎င်းက 'ကျွန်ုပ်၏ပြောဆိုမှု မှန်ပါက ဘုရင်မင်းမြတ်သည် မိမိ၏ဓလေ့တော်နှင့် ဆန့်ကျင်ပြီး သလွန်ပေါ်တွင် သုံးကြိမ်ထရပ်ပါ။ ထို့နောက် ထိုင်တော်မူပါ'ဟု ပြောဆိုတင်ပြခဲ့သည်။ ထိုအခါ ဘုရင်ကလည်း ထိုသူပြောဆိုသည့်အတိုင်း လုပ်ခဲ့သည်။ ဘုရင်၏ထိုအပြုအမူသည် ဘုရင့်ရှေ့တွင် ခစားနေသူအားလုံးသို့ 'ဤစေတမန်၏ပြောဆိုမှု အမှန်ဖြစ်သည်'ဟု အသိပေးထောက်ခံလိုက်သည့်အဓိပ္ပါယ်ပင်ဖြစ်သည်။

## – အီမာန်၏စတုတ္ထမဏ္ဍိုင် –
## တမန်တော်မြတ်ﷺထံမှ ကြားနာသိရှိရသော အကြောင်းအရာများနှင့် ယင်းတို့၏စစ်မှန်မှု

ယင်းတို့သည်လည်း ပဓါနအားဖြင့် အခြေခံဆယ်ခုရှိသည်။

**ပထမအခြေခံ**– ကိယာမတ်နေ့တွင် သက်ရှိအားလုံးသည် ပြန်လည် ရှင်ထ စုရုံးကြရမည်။* **ရှရီအတ်**တွင် ဖော်ပြထားသည့် ပြန်လည်ရှင်ထစုရုံးရမည့်အကြောင်းသည် အမှန်ဖြစ်သည်။ ဤသို့ ပြန်လည်ရှင်ထစုရုံးကြရမည်ကို ယုံကြည်လက်ခံရန် မုချတာဝန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုသို့ပြန်လည်ရှင်ထစုရုံးရမည်ဆိုခြင်းသည်

---

* အီရာကီသခင်ᐟက ဟရှရ်တွင် စုရုံးရမည့်အကြောင်း ဖော်ပြထားသော ဟဒီစ်များကို ရှာဖွေတင်ပြခဲ့သည်။ ယင်းတို့မှာ ဗုခါရီနှင့် မွတ်စလင်မ်ကျမ်းတော်နှစ်စောင်မှ အဗ္ဗါစ်ﷺသခင် ဆင့်ပြန်သောဟဒီစ်–

إنكم لمحشورون إلى الله

'မုချအသင်တို့သည် အလ္လာဟ်အရှင့်ထံ ရှင်ပြန်စုရုံးကြရမည်။'

ထို့ပြင် စဟလ်ﷺသခင် ဆင့်ပြန်သောဟဒီစ်–

يحشر الناس يوم القيامة على أرض بيضاء

'ကိယာမတ်နေ့တွင် လူတို့သည် ဖြူဖွေးသောမြေပြင်တွင် ရှင်ထစုရုံးကြရမည်။'

ထို့ပြင် အာအိရှာﷺသခင်မ ဆင့်ပြန်သောဟဒီစ်–

يحشرون يوم القيامة حفاة

'ကိယာမတ်နေ့တွင် လူတို့သည် ခြေဗလာဖြင့် ရှင်ထစုရုံးကြရမည်။'

ထို့ပြင် အဗူဟုရိုင်ရာﷺသခင် ဆင့်ပြန်သောဟဒီစ်–

يحشر الناس على ثلاث طرائق

'ကိယာမတ်နေ့တွင် လူတို့သည် လမ်းကြောင်းသုံးသွယ်ဖြင့် ရှင်ထစုရုံးကြရမည်။'

ထို့ပြင် အီဗ်နေ့မာဂျာကျမ်းတွင် တမန်တော်မြတ်၏ကျွန်မ မိုင်မူနာﷺသခင်မ ဆင့်ပြန်သော–

أفتنا فى بيت المقدس و أرض المحشر المنشر

'မိုင်တွလ်မုကဒ်ဒပ်စ်ဗလီတော်အကြောင်းနှင့် ရှင်ထစုရုံးရမည့်ဟရှရ်ကွင်းပြင်တော်အကြောင်း ကျွန်မတို့အား ရှင်းလင်းစွာ မိန့်ကြားတော်မူပါ'– အစရှိ ဟဒီစ်တို့ဖြစ်သည်။

အသိဉာဏ်အရလည်း ဖြစ်နိုင်သောကိစ္စဖြစ်သည်။ ဤကိစ္စ၌ သုံးနှုန်းထားသော 'ဟရှရ် နရှရ်'၏အဓိပ္ပါယ်မှာ ပျက်စီးပျောက်ကွယ်ပြီးနောက် တစ်ကြိမ်ပြန်၍ ဖြစ်ရှိလာခြင်းဖြစ်သည်။ အလ္လာဟ်အရှင်သည် မူလပထမအကြိမ် ဖန်ဆင်းဖေါ်ထုတ်ရန် စွမ်းတော်မူသည့်နည်းတူ ပြန်လည်ရှင်ထစုရုံးရန်လည်း စွမ်းတော်မူသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿قَالَ مَن يُحۡيِ ٱلۡعِظَامَ وَهِيَ رَمِيمٌ ۞ قُلۡ يُحۡيِيهَا ٱلَّذِيٓ أَنشَأَهَآ أَوَّلَ مَرَّةٍ﴾

**'ဆွေးမြေ့နေပြီဖြစ်သော အရိုးများကို မည်သူက ပြန်၍ ရှင်စေစည်နည်း'ဟု ပြောလာပေ၏။ အသင်တမန်တော် ပြောလော့။ 'ဤအရိုးများကို ပထမအကြိမ် ဖန်ဆင်းဖြစ်ပေါ်စေသည့်အရှင်ကပင် ဤအရိုးများကို ပြန်၍ ရှင်စေတော်မူမည်။'** (**ယာသီန် ၊ ၇၈–၇၉**)

ဤမိန့်ကြားမှု၌ တစ်ကြိမ်ထပ်ဖြစ်ရှိလာမည့် အကြောင်းဖြစ်ရပ်ကို ပထမအကြိမ် ဖန်ဆင်းဖြစ်ရှိစေခဲ့သည့်အကြောင်းဖြင့် အထောက်အထားသာကေပြခဲ့သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿مَّا خَلۡقُكُمۡ وَلَا بَعۡثُكُمۡ إِلَّا كَنَفۡسٖ وَٰحِدَةٍ﴾

**'အသင်တို့ကို ဖန်ဆင်းဖြစ်ပေါ်စေခြင်းနှင့် အသင်တို့ကို ပြန်ရှင်စေခြင်းသည် လူတစ်ဦးတည်းကို ဖန်ဆင်းရခြင်းနှင့် ပြန်ရှင်စေရခြင်းကဲ့သို့သာဖြစ်သည်။'** (**လုက္မာန် ၊ ၂၈**)

ဒုတိယအကြိမ် ဖြစ်ရှိစေခြင်းသည် တစ်နည်းအားဖြင့် ဒုတိယအကြိမ် ဖန်ဆင်းခြင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ ယင်းသည်လည်း ပထမအကြိမ်ဖန်ဆင်းခြင်းသည် ဖြစ်နိုင်ခဲ့သကဲ့သို့ ဖြစ်နိုင်သောကိစ္စသာဖြစ်သည်။

**ဒုတိယအခြေခံ**– ဟဒီစ်တော်များတွင် လာရှိသည့် မွန်ကရ်နှင့်နကီရ် ကောင်းကင်တမန်နှစ်ပါး၏စစ်ဆေးမေးမြန်းမည့်အကြောင်း*ကို အမှန်ဖြစ်ကြောင်း ယုံကြည်လက်ခံရန် မုချတာဝန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မွန်ကရ်နှင့်နကီရ်က စစ်ဆေးမေးမြန်းမည်ဆိုသောအချက်သည် အသိဉာဏ်အရ ဖြစ်နိုင်သောအရာဖြစ်သည်။ ဤမှုအတွက်မှာ ခန္ဓာကိုယ်အစိတ်အပိုင်းများထဲမှ အသိပေးပြောဆိုနိုင်သည့် အစိတ်အပိုင်းတစ်ခု ပြန်လည်အသက်ဝင်ရုံဖြင့် ဖြစ်နိုင်သောကိစ္စဖြစ်သည်။ ဤကိစ္စကိုယ်တိုင်သည် ဖြစ်နိုင်နေသည့်အပေါ်မှာ သေသူ၏အစိတ်အပိုင်းများသည် မလှုပ်မရှားရှိနေပြီး သူ့အား မေးမြန်းလာမည့်မေးခွန်းကို ကြားနိုင်ခြင်းမရှိပါဟု စောဒကတက်ရန် မဖြစ်နိုင်တော့ပေ။ အကြောင်းမှာ အိပ်နေသူသည် အပြင်ပန်းအရ ငြိမ်သက်လျက်ရှိသည်။ သို့သော် သူ၏အတွင်းပိုင်းက ဒုက္ခဝေဒနာများနှင့်ရသာရုံများကို သိရှိခံစားရလျက်ရှိသည်။ အိပ်ရာမှ နိုးလာသောအခါမှာပင် ထိုအာရုံများကို ဆက်လက်ခံစားရလျက်ရှိသည်။

တမန်တော်မြတ်ﷺသည် ကောင်းကင်တမန်ကြီး ဂျိဗ်ရီလ်ﷺ၏ပြောဆိုမှုကို ကြားခဲ့ရသည်။ ဂျိဗ်ရီလ်ﷺသခင်ကို မြင်လည်း မြင်တွေ့ခဲ့ရသည်။ သို့သော် အနီးတွင် ရှိနေသူများသည် ကောင်းကင်တမန်ကြီးကို ကြားလည်းမကြား မြင်လည်း မမြင်ကြရပေ။✝ ထို့ပြင် ၎င်း၏အသိထဲမှ အလ္လာဟ်အရှင် အလိုတော်ရှိသည်မှအပ တစ်စုံတစ်ရာ

---

* ဤအကြောင်း လာရှိသော ဟဒီစ်များကို ရှေ့ပိုင်းတွင် ဖေါ်ပြခဲ့ပြီးဖြစ်သည်။

✝ အီရာကီသခင်ﷺက ဤအတွက် အထောက်အထားအဖြစ် ဗုခါရီနှင့်မွတ်စလင်မ်ကျမ်းတော်နှစ်စောင်တွင် လာရှိသော ဟဒီစ်တစ်ပုဒ်ကို တင်ပြခဲ့သည်။ ယင်းမှာ–

قال رسول اللهﷺ يوما يا عائشة هذا جبريل يقرئك السلام فقلت و عليه السلام و رحمة الله و بركاته ترى ما لا أرى

'တစ်ရက်တွင် တမန်တော်မြတ်ﷺက 'အို အာအိရှာ၊ ဒါ ကောင်းကင်တမန် ဂျိဗ်ရီလ်ဘဲ။ သူက သင်မကို

(**စာမျက်နှာ ၃၃၀သို့**)

သိကြရခြင်းလည်းမရှိပေ။ ၎င်းတို့တွင် ကောင်းကင်တမန်၏ပြောဆိုမှုကို ကြားနိုင်သည့်အကြားအာရုံ၊ ကောင်းကင်တမန်ကို မြင်နိုင်သည့်အမြင်အာရုံများ ဖန်ဆင်းပေးထားခြင်း မရှိသည့်တံထွာ၊ ၎င်းတို့သည် ကောင်းကင်တမန်ကြီးကို တွေ့မြင်ခဲ့ကြရခြင်း မရှိပေ။

**တတိယအခြေခံ**– ကဘရ်သင်္ချိုင်း၌ ပြစ်ဒဏ်ခတ်မှုရှိကြောင်း ရှရီအတ်တရားတော်တွင် ဖော်ပြလာရှိသည်။ ဤအကြောင်းကို အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ اَلنَّارُ يُعْرَضُوْنَ عَلَيْهَا غُدُوًّا وَّعَشِيًّا وَيَوْمَ تَقُوْمُ السَّاعَةُ أَدْخِلُوْا آلَ فِرْعَوْنَ أَشَدَّ الْعَذَابِ﴾

**'ထိုသူတို့သည် နံနက်တွင်၎င်း၊ ညနေတွင်၎င်း ငရဲမီး၏ရှေ့မှောက်သို့ ထုတ်ဆောင်ခြင်းခံကြရမည်။ ထို့ပြင် ကိယာမတ်နေ့သို့ ရောက်သောအခါ 'ဖိရ်အောင်၏လူများကို ပြင်းထန်သောပြစ်ဒဏ်တွင် ဝင်ရောက်စေကုန်'ဟု (ကောင်းကင်တမန်များသို့ အမိန့်ပေးတော်မူမည်)'။** (စူရာမုအ်မင်န် ၊ ၄၆)

တမန်တော်မြတ်ﷺနှင့် ရှေးသူဟောင်းသူတော်ကောင်းများအားလုံးတို့သည် သင်္ချိုင်းတွင် ခံစားရမည့်ပြစ်ဒဏ်မှ ကင်းဝေးရန် ဆုပန်ခဲ့ကြသည့်အကြောင်းမှာ ကျော်ကြားပြီးဖြစ်ပေသည်။* သင်္ချိုင်းတွင် ပြစ်ဒဏ်ခံရမည်ဆိုသောကိစ္စသည် ဖြစ်နိုင်သောကိစ္စဖြစ်ရာ၊ ဤအချက်ကို ယုံကြည်လက်ခံရန် မုချ တာဝန်ဖြစ်သည်။ သူသေ၏ကိုယ်ခန္ဓာအစိတ်အပိုင်းများသည် သားရဲတိရိစ္ဆာန်များ၏အစာအိမ်များနှင့် ကျေးငှက်များ၏စားလုပ်များထဲသို့ ကူးပြောင်းရောက်ရှိသွားခြင်းက သင်္ချိုင်းတွင် ပြစ်ဒဏ်ခတ်မှုရှိသည်ဆိုသောအချက်ကို ယုံကြည်လက်ခံမှုမှ အဟန့်အတားမဖြစ်ပါချေ။ အဘယ်ကြောင့်ဆိုသော် သက်ရှိများတွင် ပြစ်ဒဏ်၏ဒုက္ခဝေဒနာကို ခံစားသိရှိရသည့် အစိတ်အပိုင်းသည် သီးသန့်အစိတ်အပိုင်းတစ်ခုသာဖြစ်သည်။ အလ္လာဟ်အရှင်သည် ထိုအစိတ်အပိုင်းတွင် ခံစားမှုအာရုံ ပြန်ထည့်ပေးရန် စွမ်းတော်မူပါသည်။

**စတုတ္ထအခြေခံ**– မီဇာန် ခေါ် ဓမ္မချိန်ခွင်တော် အမှန်ရှိကြောင်း ယုံကြည်လက်ခံခြင်းဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ– ﴿وَ نَضَعُ الْمَوَازِيْنَ الْقِسْطَ لِيَوْمِ الْقِيَامَةِ﴾

**'ထို့ပြင် ငါအရှင်သည် ကိယာမတ်နေ့တွင် တရားမျှတမှု၏ချိန်ခွင်များကို ထားရှိတော်မူမည်။'**

(စူရာအန်ဘိယာ ၊ ၄၇)

တဖန် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿فَمَنْ ثَقُلَتْ مَوَازِيْنُهُ فَأُوْلٰئِكَ هُمُ الْمُفْلِحُوْنَ ۞ وَمَنْ خَفَّتْ مَوَازِيْنُهُ﴾

**'ထို့ပြင် အကြင်သူ၏ချိန်စက်မှုများတွင် အလေးချိန်စီးခဲ့ပါက ထိုသူတို့သာလျှင် အောင်မြင်သူများဖြစ်ကြသည်။ ထို့ပြင် အကြင်သူ၏ချိန်စက်မှုများတွင် ပေါ့ပါးခဲ့သူတို့မှာကား–'**

(စူရာအအ်ရာဖ် ၊ ၈–၉။ စူရာမုအ်အမီနူန် ၊ ၁၀၂)

---

(စာမျက်နှာ ၂၂၉ မှ)

ဆလာမ်ဆိုနေတယ်'ဟု ပြောဆိုခဲ့၏။ ထိုအခါ ကျွန်မက 'ထိုသူ့အပေါ်သို့ အလ္လာဟ်အရှင့်ထံမှ ချမ်းမြေ့မှုနှင့် ဂရုဏာသက်ရောက်ပါစေ။ ကိုယ်တော် မြင်ရသည်ကို ကျွန်မက မမြင်ရပါ'ဟု ဆလာမ်ပြန်လိုက်ပါသည်။'

ဤသို့မမြင်ရခြင်းမှာ အကြိမ်အခါအများစုအတွက်ဖြစ်သည်။ သို့သော် ဂျိဗ်ရီလ်ﷺသခင်ကို မြင်ဖူးခဲ့သော ဆွဟာဗဟ်များ ရှိခဲ့သည်။ မြင်ဖူးခဲ့သူတို့မှာ အိုမရ်သခင်၊ ၎င်း၏သား အဗ်ဒုလ္လာဟ်သခင်နှင့် ကအ်ဘ်အီဗ်နေ့မာလိက်သခင် အစရှိသူတို့ဖြစ်သည်။

* **သင်္ချိုင်း၏ပြစ်ဒဏ်မှ ကင်းရန် ဆုပန်ခဲ့သည့်အကြောင်း အဗူဟုရိုင်ရဟ်သခင်နှင့် အာအိရှာသခင်မတို့ ဆင့်ပြန်**သည့်ဟဒီဇ်များ ဗုခါရီနှင့်မွတ်စလင်မ်ကျမ်းတော်နှစ်စောင်တွင် လာရှိသည်။

ဤအတွက် ရှင်းပြချက်မှာ 'အလ္လာဟ်အရှင့်ထံတွင် ရှိနေသည့် ကျင့်ဆောက်တည်မှုများ၏ အဆင့်အတန်းအလျောက် အလ္လာဟ်အရှင်က ကျင့်ဆောင်မှုစာရင်းကို အလေးချိန်ဖြစ်ပေါ်စေမည်။ ထိုအခါ လူသားသည် မိမိ၏ကျင့်ဆောင်မှုများ၏ ထုထည်ပမာဏကို သိရှိရမည်။ ဤနည်းဖြင့် အပြစ်ပေးမည်ဆိုလျှင်လည်း အလ္လာဟ်အရှင်သည် တရားမျှတတော်မူကြောင်း၊ ဆထက်ထမ်းပိုး အကျိုးစွဝါစ်ပေးတော်မူမည်ဆိုလျှင်လည်း ဤသည်မှာ အလ္လာဟ်အရှင်၏ ကျေးဇူးပြုတော်မူခြင်းဖြစ်ကြောင်း ပေါ်လွင်စေမည်။'

**ပဥ္စမအခြေခံ**– ဆွေရာတ် ခေါ် တံတားတော်သည် ဂျဟန္နမ်၏ကျောကုန်းပေါ်တွင် ဆန့်ခင်းတည်ရှိနေခြင်း အမှန်ဖြစ်ကြောင်း ယုံကြည်လက်ခံခြင်းဖြစ်သည်။ ထိုတံတားတော်သည် ဆံချည်ထက် သေးမျှင်ပြီး ဓါးသွားထက်ပို၍ ထက်မြသည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿فَاهْدُوهُمْ إِلَى صِرَاطِ الْجَحِيمِ وَقِفُوهُمْ إِنَّهُم مَّسْئُولُونَ﴾

**'တဖန် အသင်တို့သည် ၎င်းတို့အား ငရဲသို့ ဖြတ်ကူးရာလမ်းကို ညွှန်ပြကြလေကုန်။ ထို့နောက် ၎င်းတို့အား အနည်းငယ် ဆိုင်းငံ့ထားကုန်။ ၎င်းတို့သည်ကား မုချစစ်ဆေးမေးမြန်းခြင်းခံရမည့်သူများဖြစ်သည်။'**

(စူရာဆွာဖ်ဖာတ် ၊ ၂၃)

ဆွေရာတ်တံတားတော် ရှိခြင်းသည် ဖြစ်နိုင်သောကိစ္စသာဖြစ်သည်။ သို့ဖြစ်ရာ ယင်းကို ယုံကြည်လက်ခံရန် မုချတာဝန်ဖြစ်သည်။ ငှက်များကို ဝေဟင်တွင် ပျံဝဲစေရန် စွမ်းတော်မူသောအရှင်သည် လူသားများကို ထိုဆွေရာတ်ပေါ်တွင် လျှောက်လှမ်းသွားလာရန်လည်း စွမ်းတော်မူသောအရှင်ပင်ဖြစ်သည်။

**ဆဋ္ဌမအခြေခံ**– ဂျန္နတ်နှင့်ဂျဟန္နမ်သည် အလ္လာဟ်အရှင်၏ ဖန်ဆင်းမှုနှစ်ခုဖြစ်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَسَارِعُوا إِلَى مَغْفِرَةٍ مِّن رَّبِّكُمْ وَجَنَّةٍ عَرْضُهَا السَّمَاوَاتُ وَالْأَرْضُ أُعِدَّتْ لِلْمُتَّقِينَ﴾

**'ထို့ပြင် သင်တို့၏ ရဗ်အရှင်ထံမှ ခွင့်လွှတ်မှုဆီသို့၎င်း၊ မိုးများနှင့်မြေ၏ အကျယ်ရှိ ဂျန္နတ်ဆီသို့၎င်း အပြေးအလွှားသွားရောက်ကြလေကုန်။ ထိုဂျန္နတ်သည် မုတ္တကီများအတွက် အသင့်ပြင်ထားပြီးဖြစ်သည်။'**

(စူရာအာလိအင်မ်ရာန် ၊ ၁၃၃)

အလ္လာဟ်အရှင်၏မိန့်ကြားမှုတွင် ပါရှိသော **'အသင့်ပြင်ထားပြီးဖြစ်သည်'** ဆိုသည့်စကားရပ်က ဂျန္နတ်သည် အဖန်ဆင်းခံဖြစ်ကြောင်း သက်သေခံဖြစ်သည်။ ဤကိစ္စတွင် စာသားအရှိအတိုင်း ယုံကြည်လက်ခံရန် မုချတာဝန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤအရေးကိစ္စတွင် မဖြစ်နိုင်မှုဟူ၍ မရှိသောကြောင့်ဖြစ်သည်။ ထို့ပြင် 'အစားပေးမည့်နေ့မတိုင်မီ ဂျန္နတ်နှင့်ဂျဟန္နမ်ကို ကြိုတင်ဖန်ဆင်းထားခြင်းဖြင့် မည်သည့်အကျိုးကျေးဇူးမှ မရှိပါ' ဟုပြောဆိုရန်လည်း အကြောင်းမရှိပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်က–

﴿لَا يُسْأَلُ عَمَّا يَفْعَلُ وَهُمْ يُسْأَلُونَ﴾

**'အလ္လာဟ်အရှင်၏ လုပ်ရပ်တစ်ခုခုအပေါ်မှာ မည်သူကမှ မေးခွန်းထုတ်နိုင်မည်မဟုတ်ပေ။ သို့သော် လူသားတို့သည်သာ မေးခွန်းထုတ်ခြင်းခံကြရမည်။'** (စူရာအန်ဘိယာ ၊ ၂၃)

ဟု မိန့်ကြားတော်မူထားပြီးဖြစ်သည်။

**သတ္တမအခြေခံ**– တမန်တော်မြတ်ﷺ၏နောက် အရိုက်အရာဆက်ခံသူ အစ္စလာမ့်ခေါင်းဆောင်သည် အဗူဗကရ်ﷺသခင်ဖြစ်သည်။ အဗူဗကရ်ﷺသခင် မရှိသည့်နောက် အစ္စလာမ့်ခေါင်းဆောင်သည် အိုမရ်ﷺသခင်ဖြစ်သည်။ အိုမရ်ﷺသခင် မရှိသည့်နောက် အစ္စလာမ့်ခေါင်းဆောင်သည် အွစ္စမာန်ﷺသခင်ဖြစ်သည်။ အွစ္စမာန်ﷺသ

ခင် မရှိသည့်နောက် အစ္စလာမ့်ခေါင်းဆောင်သည် အလီؓသခင်ဖြစ်သည်။ ထိုခေါင်းဆောင်မှုအတွက် တမန်တော်မြတ်ﷺထံမှ အတိအလင်းညွှန်ကြားမိန့်ဆိုချက်ဟူ၍ မရှိပေ။ အကယ်၍ ရှိခဲ့မည်ဆိုလျှင် သိကြရမည်သာဖြစ်သည်။ တမန်တော်မြတ်ﷺသည် မြို့ရွာဒေသအသီးသီးသို့ အုပ်ချုပ်ရေးမှူးများ ခေါင်းဆောင်အကြီးအကဲများ ခန့်အပ်ခဲ့ရာ၊ ထိုအချက်များသည် ဖုံးကွယ်လျက်မရှိခဲ့ပေ။ သို့ဖြစ်ရာ တမန်တော်မြတ်ﷺသည် အစ္စလာမ့်ခေါင်းဆောင်တစ်ဦး ခန့်အပ်ခဲ့မည်ဆိုပါက ဤအချက်သည် အဘယ်သို့ဖုံးကွယ်နေရန်ရှိသနည်း။ အကယ်၍ ထိုခန့်အပ်ခဲ့ခြင်းသည် အထင်အရှားရှိခဲ့သည်ဆိုပါက ကျွန်ုပ်တို့ထံ ရောက်မလာဘဲ အဘယ်ကြောင့် စုံးစုံးမြုတ်ပျောက်ကွယ်သွားရသနည်း။

အဗူဗကရ်ؓသခင် အစ္စလာမ့်ခေါင်းဆောင် ဖြစ်လာခြင်းသည် လူတို့၏နှစ်သက်ရွေးချယ်မှုနှင့် လူတို့၏ဗိုင်အတ်ပြုသစ္စာခံမှုကြောင့်ဖြစ်သည်။ အကယ်၍ အဗူဗကရ်ؓသခင် မဟုတ်ဘဲ အခြားဆွဟာဗဟ်တစ်ဦးဦးကို တမန်တော်မြတ်ﷺဘက်မှ ညွှန်ကြားခန့်အပ်မှု ရှိခဲ့သည်ဆိုလျှင် ဆွဟာဗဟ်သခင်ؓအားလုံးတို့သည် တမန်တော်မြတ်ﷺကို ဆန့်ကျင်သူများ ဖြစ်ကြတော့မည်။ ထို့ပြင် အွမ္မတ်တစ်ရပ်လုံး၏ဥသုံညီအဆုံးအဖြတ်ကို ကန့်ကွက်ပြုသူများဖြစ်ကြတော့မည်။ ဤစွပ်စွဲမှုမျိုးကို ရာဖိဇီတို့မှလွဲ၍ အခြားမည်သူမျှ ထွင်လုံးဆင်ပြီး အတင့်ရဲပြောဆိုလိမ့်မည် မဟုတ်ချေ။

အဟ်လေ့စွန္နတ်၏ယုံကြည်ချက်မှာ ဆွဟာဗဟ်သခင်ؓအားလုံးသည် သန့်ရှင်းစင်ကြယ်ကြသည်။ ထို့ပြင် အလ္လာဟ်အရှင်နှင့်အလ္လာဟ့်တမန်တော်က ဆွဟာဗဟ်ؓတို့ကို ချီးကျူးသကဲ့သို့ပင် အဟ်လေ့စွန္နတ်က ဆွဟာဗဟ်သခင်ؓတို့အပေါ် ချီးကျူးထောပနာပြုသည်။ မုအာဝေယာؓသခင်နှင့် အလီؓသခင်တို့နှစ်ဦး၏ပြဿနာသည် အီဂျ်တိဟာဒ်ကို အခြေခံ၍ ဖြစ်ပွါးခဲ့ခြင်းဖြစ်သည်။ မုအာဝေယာؓသခင်က ခေါင်းဆောင်မှုကို ရယူလို၍ ဖြစ်ပွါးခဲ့သောပြဿနာမဟုတ်ချေ။ အွစ္စမာန်ؓသခင့်အား လုပ်ကြံခဲ့သူများသည် မျိုးနွယ်အုပ်စု များပြားပြီး စစ်တပ်ထဲတွင်လည်း ၎င်းတို့ ရောနှောပါဝင်လျက်ရှိသည်။ သို့ဖြစ်ရာ အုပ်ချုပ်ရေးအစပိုင်းကာလတွင် ၎င်းတို့ကို ဖမ်းဆီးလွှဲအပ်လိုက်မည်ဆိုလျှင် မတည်မငြိမ်ဖြစ်လာနိုင်သည်ဟု အလီؓသခင်က ယူဆသည်။ သို့နှင့်အမျှ အလီؓသခင်၏ယူဆချက်အရ ဖမ်းဆီးမည့်အစီအစဉ်ကို နောက်ဆွဲထားခြင်းသာ မှန်ကန်သည်။ မုအာဝေယာؓသခင်၏ယူဆချက်အရ ၎င်းတို့ကျူးလွန်ခဲ့သည့် ပြစ်မှုမှာ ကြီးကျယ်လှသဖြင့် အရေးယူမှုကို နောက်ဆွဲလိုက်မည်ဆိုလျှင် နောက်နောင်တွင် ခေါင်းဆောင်များအပေါ် အံတုထောင်ထားပြုပြီး သွေးထွက်သံယိုမှုများ ကျူးလွန်ကြလိမ့်မည်ဟု ဖြစ်သည်။

အဓိပတိပညာရှင်ကြီးများက 'မွဂ်ျတဟိဒ်အားလုံးသည် အမှန်ဖြစ်သည်'ဟု မိန့်ဆိုခဲ့ကြသည်။ အချို့ပညာရှင်များကမူ 'အမှန်သို့ ရောက်သော မွဂ်ျတဟိဒ်မှာ တစ်ပါးတည်းသာဖြစ်သည်'ဟု မိန့်ဆိုကြသည်။ သို့သော်မည်သည့်ပညာရှင်ကမျှ 'အလီؓသခင်၏ယူဆချက် မှားသည်'ဟု မပြောဆိုခဲ့ကြပေ။

**အဋ္ဌမအခြေခံ**– ဆွဟာဗဟ်ؓသခင်များ၏ထွတ်မြတ်မှုသည် ခေလာဖတ်၏အစီအစဉ်အတိုင်းဖြစ်သည်။ အကြောင်းမှာ အစစ်အမှန်ထွတ်မြတ်မှုသည် အလ္လာဟ်အရှင့်ထံတွင် ရှိနေသောထွတ်မြတ်မှုသာဖြစ်သည်။ ဤသည်ကို တမန်တော်မြတ်ﷺမှလွဲ၍ အခြားမည်သူမှ မသိခဲ့ရပေ။ တဖန် ဆွဟာဗဟ်များအားလုံးအပေါ် ချီးကျူးမှုများသည် အာယတ်များနှင့်ဟဒီစ်များတွင် အများအပြားဖော်ပြထားသည်။ ဝဟီနှင့်ကျမ်းမြတ်ကုရ်အာန်ကျရောက်မှု၎င်း၊ ဖြစ်ရပ်အခြေအနေများ၏အဆက်အစပ်များကို မျက်မြင်ကိုယ်တွေ့ကြုံရခဲ့သူများသာလျှင် ထွတ်မြတ်မှု၏သိမ်မွေ့သောအနုစိတ်သဘောနှင့် အဆင့်အတန်းများကို သိကြလေသည်။ အကယ်၍ ထိုပုဂ္ဂိုလ်တို့သည် အဆင့်အတန်းအလိုက်ရှိနေသောထွတ်မြတ်မှုကို ကောင်းစွာမသိကြလျှင် ၎င်းတို့သည် ခေလာဖတ်၏အရိုက်အရာကို ယခုကဲ့သို့ အစီအစဉ်တကျသတ်မှတ်နိုင်ကြမည်မဟုတ်ပေ။ ထိုပုဂ္ဂိုလ်များကား အလ္လာဟ်အရှင်၏အရေးကိစ္စနှင့်ပတ်သက်လာလျှင် မည်သည့်အပြစ်တင်မှုကိုမှ ကြောက်ရွံ့သူများ မဟုတ်ကြပေ။ ထို့ပြင် အမှန်တရားနှင့်ပတ်သက်လာလျှင် ထိုပုဂ္ဂိုလ်တို့အား မည်

သည့်အရာကမှ တားဆီးပိတ်ပင်နိုင်သည် မဟုတ်ပေ။

**နဝမအခြေခံ–** အစ္စလာမ့်ခေါင်းဆောင်ဖြစ်ရန်အတွက် အစ္စလာမ်ကို လက်ခံယုံကြည်သူဖြစ်ရမည်။ ထို့ပြင် အရွယ်ရောက်အသိဉာဏ်ရှိသူဖြစ်ရမည်။ ဤနှစ်ချက်အပြင် နောက်ထပ်စည်းကမ်းချက်များမှာ အမျိုးသားဖြစ်ရမည်။ တက္ကဝါရှိရမည်။ ပညာရှိရမည်။ ထိုက်တန်သူဖြစ်ရမည်။ ကုရိုက်ရှ်မျိုးနွယ်ဝင်ဖြစ်ရမည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် ﷺ ၏ – الأئمة من قريش · (س)

'အစ္စလာမ့်ခေါင်းဆောင်များသည် ကုရိုက်ရှ်မျိုးနွယ်မှ ဖြစ်ရမည်'

ဟူသော မိန့်ဆိုမှုရှိထားသည်။ ဖေါ်ပြပါအရည်အချင်းများဖြင့် ပြည့်စုံသူများ အရေအတွက်များစွာ ရှိနေမည်ဆိုပါက လူထုက နောက်လိုက် သစ္စာခံမှု အများဆုံးသူသည် ခေါင်းဆောင်ဖြစ်သည်။ လူအများစုကို ဆန့်ကျင်သူသည် ပုန်ကန်သူဖြစ်သည်။ ၎င်းအတွက် စစ်မှန်သောနာခံမှုဘက်သို့ ပြန်လှည့်လာရန် မုချတာဝန်ဖြစ်သည်။

**ဒသမအခြေခံ–** ပုဂ္ဂိုလ်တစ်ဦးသည် တက္ကဝါနှင့်ပညာ မရှိဘဲ အစ္စလာမ့်ခေါင်းဆောင်ဖြစ်နေပြီး ထိုပုဂ္ဂိုလ်ကို ဖြုတ်ချမည်ဆိုပါက ပြဿနာကြီးထွားနိုင်ကာ ထိုပြဿနာဒဏ်ကို လူတို့ခံနိုင်မည်မဟုတ်ဆိုလျှင် ထိုသူ၏ခေါင်းဆောင်မှုနောက်သို့ လိုက်ကြရန် ကျွန်ုပ်တို့ ပြောဆိုရလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ထိုခေါင်းဆောင်မျိုးကို ဖြုတ်ချမည်ဆိုလျှင် သူ၏နေရာတွင် အခြားသူတစ်ဦးကို တင်ရခြင်းနှင့် ခေါင်းဆောင်မဲ့သောအခြေအနေတွင် ရှိနေခြင်း ဟူသော အခြေအနေနှစ်ခုအနက် တစ်ခုကို ကြုံတွေ့ရမည်ဖြစ်သည်။ အခြားသူတစ်ဦးကို ခေါင်းဆောင် တင်မြှောက်ရသည့် အတွက် မွတ်စလင်မ်တို့ ကြုံတွေ့ရင်ဆိုင်ရမည့်ဘေးဒုက္ခသည် ပထမခေါင်းဆောင်တွင် ရှိရမည့်စည်းကမ်းချက်များမပြည့်စုံသဖြင့် ဖြစ်ရသည့်ထိခိုက်နစ်နာမှုထက်ပို၍ ကြီးမားပေသည်။ ခေါင်းဆောင်တစ်ဦးကို ထိုစည်းကမ်းချက်များနှင့် ကိုက်ညီရမည်ဟု သတ်မှတ်ခြင်းသည် အကျိုးဖြစ်ထွန်းမှု ပို၍ များများရှိနိုင်ရန်အတွက်ဖြစ်သည်။ သို့ဖြစ်ရာ အကျိုးဖြစ်ထွန်းမှု များများ မရရှိမည်ကို စိုးရိမ်ပြီး မူလရှိနေသည့်အကျိုးဖြစ်ထွန်းမှုကို ဖျက်ဆီးပစ်ခြင်းသည် ကောင်းမွန်သော လုပ်ရပ်မဟုတ်ပေ။ ထိုလုပ်ရပ်၏ဥပမာသည် နန်းတော်တစ်ခု ဆောက်လုပ်ရန်အတွက် မြို့တစ်မြို့ကို မြေလှန်ဖျက်ဆီးပစ်သကဲ့သို့ရှိမည်။

မြို့တစ်မြို့သည် ခေါင်းဆောင်မည့်သူ ကင်းမဲ့ပြီး အုပ်ချုပ်ရေး လုံးဝပျက်ပြားသွားမည်ဆိုခြင်းမှာလည်း မဖြစ်တန်ရာကိစ္စဖြစ်သည်။ ထိုအခါမျိုးတွင် မြို့လူထုသည် မိမိတို့မြို့ရှိ သူပုန်တို့၏အဆုံးအဖြတ်ကို လိုက်နာရန် ကျွန်ုပ်တို့က အဆုံးအဖြတ်ပြုမည်။ အဘယ်ကြောင့်ဆိုသော် မြို့လူထုသည် အုပ်ချုပ်ရေးတစ်ရပ်ကို မဖြစ်မနေလိုအပ်နေသောကြောင့်ဖြစ်သည်။ သို့နှင့်အမျှ အရေးကြီးလိုအပ်ချိန်တွင် ရှိနေသောခေါင်းဆောင်မှုကိုပင် လိုက်နာထိုက်သည်ဟု ကျွန်ုပ်တို့ အဘယ်ကြောင့် မဆုံးဖြတ်ရမည်နည်း။

အထက်တွင်ဖေါ်ပြခဲ့သော မဏ္ဍိုင်လေးခုသည် အကီဒဟ်၏ပင်မအခြေခံများဖြစ်သည်။ ဤမဏ္ဍိုင်လေးခုတွင် အခြေခံအချက်ပေါင်း လေးဆယ်ပါရှိသည်။ ဤအချက်များကို စွဲယူယုံကြည်သူသည် အဟ်လေ့စွန္နတ်နှင့် ကိုက်ညီသူဖြစ်လိမ့်မည်။ ထိုတွင် ၎င်းသည် တရားသစ်သမားတို့၏အုပ်စုနှင့် ကွဲပြားခြားနားသူဖြစ်မည်။

*ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံမှ ကျင့်သုံးနိုင်စွမ်း ချီးမြှင့်တော်မူရန်၎င်း၊ အမှန်တရားအပေါ် ခိုင်မြဲစွာ ထားရှိတော်မူရန်၎င်း၊ အလ္လာဟ်အရှင်မြတ်က မိမိ၏ကျယ်ဝန်းသောကျေးဇူးတော် ရက်ရောသောအသနားတော်ဖြင့် ကျွန်ုပ်တို့အား တရားလမ်းမှန် ချီးမြှင့်တော်မူရန်၎င်း တောင်းခံကြပါ၏။*

وصلى الله على سيدنا محمد وعلى آله وكل عبد مصطفى ·

စတုတ္ထကဏ္ဍ

# အီမာန် နှင့် အစ္စလာမ်
## ၎င်းနှစ်ခု၏ဆက်စပ်မှုနှင့် ကွဲပြားမှု၊ ၎င်းနှစ်ခုတွင် အတိုးအလျော့ဖြစ်မှု၊ ရှေးသူဟောင်းတို့က ၎င်းကိစ္စကို ဘေးဖယ်ထားခဲ့ကြခြင်း၏အကြောင်း

ဤအကြောင်းကဏ္ဍတွင် မတ်စအလာသုံးခုပါရှိသည်။

**ပထမမတ်စအလာ**

အစ္စလာမ်ဆိုသည်မှာ အီမာန်ပင်ဖြစ်သလော၊ သို့မဟုတ် အခြားအရာတစ်ခုဖြစ်သလော။ အကယ်၍ အီမာန်နှင့်အစ္စလာမ်သည် သီးခြားအရာနှစ်ခုဖြစ်သည်ဆိုလျှင် အစ္စလာမ်သည် အီမာန်မပါဘဲ ခွဲခွါ၍ တည်ရှိနိုင်သလော။ သို့မဟုတ် ၎င်းနှစ်ခုသည် တစ်ခုနှင့်တစ်ခု ခွဲခြားမရနိုင်အောင် ဆက်စပ်နေသလော။ ဤမတ်စလာတွင် လူတို့သည် အယူအဆကွဲလွဲလျက်ရှိသည်။

အချို့က ၎င်းနှစ်ခုသည် တစ်ခုတည်းသောအရာဖြစ်သည်ဟု ပြောဆိုကြသည်။ အချို့ကလည်း ၎င်းနှစ်ခုသည် အဆက်အစပ်မရှိသော သီးခြားအရာနှစ်ခုဖြစ်သည်ဟု ပြောဆိုကြသည်။ အချို့ကလည်း ၎င်းနှစ်ခုသည် သီးခြားအရာနှစ်ခုတော့ဖြစ်သည်။ သို့သော် တစ်ခုနှင့်တစ်ခု ဆက်စပ်နေသည်ဟု ပြောဆိုကြသည်။ ဤမတ်စလာနှင့်ပတ်သက်၍ အဗူတွာလိဘ်မက္ကီ ''သခင်က အနက်ထွေပြားလွန်းလှပြီး အလွန်လည်း ရှည်လျားစွာ ရေးသားခဲ့သည်။ ယခုကျွန်ုပ်တို့သည် ထိုအကျိုးမဲ့ရှည်လျားစွာ ရေးသားမှုများကို ထုတ်နှုတ်ကိုးကားခြင်း မပြုတော့ဘဲ အမှန်တရားကို ပွင့်ပွင့်လင်းလင်း ဖေါ်ထုတ်တော့မည်။

ဤမတ်စအလာတွင် သုံးသပ်လေ့လာချက်သုံးခုကို ကျွန်ုပ်ဆွေးနွေးပြောဆိုကြမည်။ ပထမသုံးသပ်လေ့လာချက်မှာ အီမာန်နှင့်အစ္စလာမ်ဆိုသော စကားလုံးနှစ်ခုကို အဘိဓာန်ပညာအရ သုံးသပ်လေ့လာခြင်းဖြစ်သည်။ ဒုတိယသုံးသပ်လေ့လာချက်မှာ ဤစကားလုံးနှစ်ခုကို သုံးစွဲရာ၌ ရှရီအတ်က ဦးတည်ရည်ရွယ်သည့်အဓိပ္ပါယ်အလိုသဘောနှင့်ပတ်သက်၍ ဖြစ်သည်။ တတိယသုံးသပ်လေ့လာချက်မှာ ဒွန္နယာရေးနှင့်အာခိရတ်ရေးတွင် ဤစကားလုံးနှစ်ခုမှ မည်သည့်အမိန့်ပညတ်များ ထွက်ရှိသည်ဆိုသည်နှင့်ပတ်သက်သည်။ ပထမသုံးသပ်လေ့လာချက်သည် ဘာသာဗေဒနှင့်သက်ဆိုင်သည်။ ဒုတိယသုံးသပ်လေ့လာချက်သည် တဖ်စီရ်နှင့်သက်ဆိုင်သည်။ တတိယသုံးသပ်လေ့လာချက်သည် ရှရီအတ်ဖိကဟ်နှင့်သက်ဆိုင်သည်။

**ပထမသုံးသပ်လေ့လာချက်** – ယင်းသည် အဘိဓာန်၏အလိုထွက်ရှိမှုကို ရှင်းလင်းဖေါ်ပြခြင်းဖြစ်သည်။ ယင်းသုံးသပ်လေ့လာချက်အရ **အီမာန်**၏မှန်ကန်သောအဓိပ္ပါယ်သည် 'ယုံကြည်လက်ခံခြင်း'ဖြစ်သည်။ အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ– ﴿وَمَا أَنْتَ بِمُؤْمِنٍ لَنَا﴾

**'သို့နှင့်တိုင် ဖခင်သည် ကျွန်ုပ်တို့ကို ယုံကြည်လက်ခံသူ မဟုတ်ချေ။'** (စူရာယူစွဖ် ၊ ၁၇)

ဤစကားရပ်ကို တမန်တော်ယအ်ကူဗ်ﷺသခင်အား သားတော်များက ပြောဆိုခဲ့ကြရာတွင် 'အီမာန်'စကားလုံးကို **'ယုံကြည်လက်ခံခြင်း'**၏အဓိပ္ပါယ်ဖြင့် သုံးနှုန်းခဲ့ကြသည်။

ထို့ပြင် အစ္စလာမ်၏အဓိပ္ပါယ်သည် အမိန့်နာခံခြင်းဖြစ်သည်။ တဖန် အစ္စလာမ်၏အဓိပ္ပါယ်သည် ဗီဆန်မှု၊ ငြင်းဆန်မှုနှင့်ရန်လိုမှုကို စွန့်ပယ်ခြင်းဖြစ်သည်။ ယုံကြည်လက်ခံမှု၏သီးသန့်တည်ရာဌာနသည် နှလုံးသားဖြစ်သည်။ နှုတ်လျှာသည် ထိုနှလုံးသား၏စကားပြန်ဖြစ်သည်။ နာခံခြင်းကမူ နှလုံးသားရော၊ နှုတ်လျှာနှင့် အင်္ဂါအစိတ်အပိုင်းများအတွက်ပါ ဘုံပိုင်ဖြစ်သည်။ အဘယ်သို့ဆိုသော် ယုံကြည်လက်ခံမှုအားလုံးသည် နှလုံးသားနှင့်သက်ဆိုင်ပြီး ယင်းသည်ပင် နာခံခြင်းဖြစ်သည်။ လက်ခံယုံကြည်မှု မပြုခြင်းသည် ငြင်းဆန်ခြင်းဖြစ်သည်။ ဤနည်းနှင်နှင် ဝန်ခံမြွက်ဟခြင်းသည် နှုတ်လျှာဖြင့် ဖြစ်သည်**။ လိုက်နာဆောင်ရွက်ခြင်းသည်** ခန္ဓာကိုယ်အစိတ်အပိုင်းများဖြင့် ဖြစ်သည်။ သို့ဖြစ်ရာ ဝေါဟာရသဘောအရ **အစ္စလာမ်သည်** အများဆိုင်ကိစ္စဖြစ်သည်။ **အီမာန်**သည် သီးသန့်ကိစ္စဖြစ်သည်။ သို့ဖြင့် **အီမာန်**သည် **အစ္စလာမ်၏အစိတ်အပိုင်းများတွင်** ထွတ်မြတ်မှုအရှိဆုံးဖြစ်ရသည်။ ဤတွင် ယုံကြည်လက်ခံမှုအားလုံးသည် နာခံလိုက်နာမှုဖြစ်ပြီး၊ **နာခံလိုက်နာမှုအားလုံး**သည် ယုံကြည်လက်ခံမှုမဟုတ်ကြောင်း သိရပေသည်။

**ဒုတိယသုံးသပ်လေ့လာချက်** – ဤသုံးသပ်လေ့လာချက်သည် ရှရီအတ်၏သုံးနှုန်းမှုကို ရှင်းလင်းဖော်ပြခြင်းဖြစ်သည်။ အမှန်အားဖြင့် ရှရီအတ်တွင် ဤစကားလုံးနှစ်ခုကို နည်းလမ်းသုံးမျိုးဖြင့် သုံးစွဲထားသည်။ ထိုသုံးမျိုးမှာ အီမာန်နှင့်အစ္စလာမ်ကို အဓိပ္ပါယ်တစ်ခုတည်းအတွက် သုံးစွဲခြင်း၊ အဓိပ္ပါယ်ကွဲလွဲသော စကားလုံးနှစ်လုံးအဖြစ် သုံးစွဲခြင်း၊ စကားလုံးတစ်လုံး၏အဓိပ္ပါယ်တွင် အခြားစကားလုံး၏အဓိပ္ပါယ်ကို ထည့်သွင်းသုံးစွဲခြင်းတို့ဖြစ်သည်။ အဓိပ္ပါယ်တစ်ခုတည်းအတွက် သုံးစွဲခြင်း၏ဥဒါဟရုဏ်မှာ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်–

﴿ فَأَخْرَجْنَا مَنْ كَانَ فِيهَا مِنَ الْمُؤْمِنِينَ ۞ فَمَا وَجَدْنَا فِيهَا غَيْرَ بَيْتٍ مِنَ الْمُسْلِمِينَ﴾

**'တဖန် ငါအရှင်သည် ထိုအရပ်၌ ရှိနေသော အီမာန်ရှင်များကို ထုတ်ယူတော်မူခဲ့သည်။ သို့နှင့်တိုင် ငါအရှင်သည် ထိုအရပ်၌ မွတ်စလင်မ်တို့၏အိမ်ဟူ၍ တစ်အိမ်သာလျှင် တွေ့ရှိတော်မူခဲ့၏။'**

(စူရာဇာရိယာတ် ၊ ၃၅–၃၆)

ဤနေရာတွင် အိမ်တစ်ခုတည်းကို ဆိုလိုကြောင်း အညီအညွတ်သဘောတူကြသည်။ သို့ဖြစ်ရာ **'အီမာန်ရှင်များ'**နှင့် **'မွတ်စလင်မ်များ'**ကို အဓိပ္ပါယ်တူ ထား၍ မိန့်တော်မူခြင်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿يَا قَوْمِ إِنْ كُنْتُمْ آمَنْتُمْ بِاللَّهِ فَعَلَيْهِ تَوَكَّلُوا إِنْ كُنْتُمْ مُسْلِمِينَ﴾

**'ငါ၏အမျိုးသားတို့၊ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင့်ကို အီမာန်ယူကြပြီး အကယ်၍ပင် အသင်တို့သည် မွတ်စလင်မ်များ ဖြစ်ကြပါလျှင် ထိုအရှင့်အား ယုံပုံအားကိုးကြလေကုန်။'**

(စူရာယူနွစ် ၊ ၈၄)

တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ– (م.خ) بني الإسلام على خمس.

'အစ္စလာမ်သည် ငါးခုသောအရာအပေါ်တွင် အခြေခံသည်။'

တစ်ကြိမ်တွင် အီမာန်နှင့်ပတ်သက်၍ မေးမြန်းရာ တမန်တော်မြတ်ﷺက ဤငါးခုကို ဖြေကြားခဲ့သည်။*

---

* အိမာမ်မိုင်ဟကီ^သခင်၏အဲအ်တိကာဒ်ကျမ်းတွင် အဗ်ဒွလ်ကိုက်စ် မျိုးနွယ်စုကိုယ်စားလှယ်အဖွဲ့ ရောက်ရှိလာသည့်အကြောင်း အီဗ်နေ့အဗ္ဗာစ်ﷺသခင်၏ဆင့်ပြန်မှုကို ဖော်ပြထားသည်။ ထိုဆင့်ပြန်မှုတွင် အဗ်ဒွလ်ကိုက်စ်က အီမာန်နှင့် စပ်လျဥ်း၍ မေးမြန်းရာ တမန်တော်မြတ်ﷺ မိန့်ဆိုသည်မှာ–

تدرون ما الإيمان : شهادة أن لا إله إلا الله و أن محمد رسول الله و أن تقيموا الصلاة وتؤتوا الزكاة و

(စာမျက်နှာ ၃၃၆ သို့)

အီမာန်နှင့်အစ္စလာမ်ကို အဓိပ္ပါယ်မတူသော စကားလုံးနှစ်လုံးအဖြစ် သုံးစွဲခြင်း၏ဥဒါဟရဏ်မှာ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်–

﴿قَالَتِ الْأَعْرَابُ آمَنَّا قُل لَّمْ تُؤْمِنُوا وَلَٰكِن قُولُوا أَسْلَمْنَا﴾

**'ကျေးတောသားတို့က 'ကျွန်ုပ်တို့ အီမာန်ယူပါပြီ'ဟု ပြောဆိုခဲ့ကြ၏။ အသင်ပြောလော့။ 'အသင်တို့ အီမာန်မယူကြရသေးပါ။ သို့ဖြစ်ရာ 'ကျွန်ုပ်တို့အစ္စလာမ်ကို လက်ခံပါပြီ'ဟုသာ အသင်တို့ပြောကြကုန်။'**

(စူရာဟုဂျုရာတ် ၊၁၄)

ဆိုလိုသည်မှာ 'ကျွန်ုပ်တို့သည် အပြင်ပန်းဗဟိဒ္ဓအားဖြင့် လိုက်နာဆောင်ရွက်ကြပါပြီ'ဟု ဖြစ်သည်။ ဤအာယတ်တွင် အီမာန်သည် နှလုံးသားမှ ယုံကြည်လက်ခံခြင်းသက်သက်ကို ဆိုလိုခြင်းဖြစ်သည်။ ထို့နောက် အစ္စလာမ်သည် နှုတ်လျှာနှင့်ကိုယ်ခန္ဓာအစိတ်အပိုင်းများဖြင့် အပြင်ပန်းအရ လိုက်နာဆောင်ရွက်မှုကို ဆိုလိုခြင်းဖြစ်သည်။ ဟဒီစ်တွင် ဂျိဗ်ရီလ်သခင်ﷺက တမန်တော်မြတ်ﷺအား အီမာန်နှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ရာ တမန်တော်မြတ်ﷺက–

أن تؤمن بالله وملائكته وكتبه ورسله واليوم الآخر وبالبعث بعد الموت بالحساب وبالقدر خيره وشره، فقال: فما الإسلام ؟ فأجاب بذكر الخصال الخمس . (خ.م)

'အီမာန်ဆိုသည်မှာ အလ္လာဟ်အရှင့်ကိုင်း၊ အလ္လာဟ်အရှင်၏ကောင်းကင်တမန်များ၊ ကောင်းကင်ကျမ်းတော်များနှင့် တမန်တော်များကိုင်း၊ ကိယာမတ်နေ့ကိုင်း၊ သေပြီးနောက် ပြန်ရှင်ထရမည်ကိုင်း၊ စာရင်းစစ်ဆေးမည်ကိုင်း၊ အကောင်းဖြစ်ခြင်းနှင့် အဆိုးဖြစ်ခြင်းသည် အလ္လာဟ်အရှင်၏သတ်မှတ်မှုဖြစ်ကြောင်းကိုင်း– အီမာန်ယူ ယုံကြည်လက်ခံခြင်းဖြစ်သည်'ဟု ဖြေကြားခဲ့သည်။

ထိုအခါ ဂျိဗ်ရီလ်သခင်ﷺက 'သို့ဖြစ်လျှင် အစ္စလာမ်ဆိုသည်မှာ ဘာပါလဲကိုယ်တော်'ဟု မေးမြန်းလျှောက်ထားခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက ကျင့်ဝတ်ငါးဖြာဖြစ်သည်ဟု ဖြေကြားခဲ့သည်။'

ဤအဖြေအရ အစ္စလာမ်ဆိုသည်မှာ မြွက်ဟပြောဆိုမှု၊ ကျင့်သုံးလုပ်ဆောင်မှုတို့ဖြင့် အပြင်ပန်းအရ လိုက်နာဆောင်ရွက်မှုကို ဆိုလိုခြင်းဖြစ်ကြောင်း သိရပါသည်။ စအဒ်အိဗ်နေ့အဗီဝကာဆ်ﷺသခင်၏ဟဒီစ်တွင်–

أعطى رجلا عطاء ولم تعط الآخر، فقال له سعد : يا رسول الله تركت فلانًا لم تعطه وهو مؤمن ؟ فقالﷺ أو مسلم فأعاد عليه فأعاد رسول الله . (خ.م)

'တမန်တော်မြတ်ﷺက လူတစ်ဦးကို တစ်စုံတစ်ရာ ပေးခဲ့ပြီး နောက်တစ်ဦးကို မပေးခဲ့ချေ။ ထိုအခါ စအဒ်က 'အို အလ္လာဟ်၏ရစူလ်တမန်တော်။ ကိုယ်တော်သည် ထိုသူ့ကို မပေးဘဲ လွှတ်ထားခဲ့သည်။ စင်စစ်တွင် ထိုသူသည် အီမာန်ရှင်တစ်ဦးဖြစ်ပါသည်'ဟု ပြောဆိုတင်ပြခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'တစ်နည်းအားဖြင့် ထိုသူသည် မွတ်စလင်မ်ဖြစ်သည်'ဟု မိန့်ဆိုသည်။ ထိုတွင် စအဒ်က မိမိ၏စကားကို ဒုတိယအကြိမ်ပြန်ပြောသောအခါ တမန်တော်မြတ်ﷺကလည်း မိမိ၏စကားကို ထိုအတိုင်း တစ်ကြိမ်

(စာမျက်နှာ ၃၃၅ မှ)

تصوموا رمضان وتحجوا البيت الحرام.

'အီမာန်ဆိုသည်မှာ 'အလ္လာဟ်အရှင်မှအပ ကိုးကွယ်ရာအရှင် မရှိကြောင်း။ မုဟမ္မဒ်သခင်သည် အလ္လာဟ်အရှင်၏ရစူလ်တမန်တော်ဖြစ်ကြောင်း ဝန်ခံမြွက်ဟခြင်းဖြစ်သည်။ ထို့နောက် အသင်တို့သည် ဆွလာတ်ကို ဆောက်တည်ကြရမည်ကိုင်း၊ ဇကာတ်ကို ပေးဆောင်ကြရမည်ကိုင်း၊ ရမ်ဇာန်လတွင် ရိုဇာကို စောင့်ထိန်းကြရမည်ကိုင်း၊ ဟရာမ်ကျောင်းတော်သို့ ဟဂ်ျပြုကြရမည်ကိုင်း သိရှိခြင်းဖြစ်သည်။ သိကြကုန်လော့။'

ဤဟဒီစ်သည် ကျမ်းမှန်နှစ်စောင်၌လည်း ပါရှိသည်။ သို့သော် ထိုကျမ်းမှန်နှစ်စောင်တွင် ဟဂ်ျပြုရမည့်အကြောင်းဖော်ပြမထားပေ။ ထိုအစား 'وأن تؤتوا خمساً من المغنم' (သို့ရပစ္စည်းများမှ ခွမ်စ်(ငါးပုံတစ်ပုံ)ပေးလှူရမည်)ဟု ဖော်ပြထားသည်။

ထပ်၍ မိန့်ဆိုခဲ့သည်။'

အီမာန်နှင့်အစ္စလာမ်ကို တစ်ခု၏အဓိပ္ပါယ်တွင် **အခြားတစ်ခု ပါဝင်အောင်** သုံးစွဲခြင်း၏ဥဒါဟရဏ်မှာ–

أنه سئل ((فقيل أي الأعمال أفضل ؟ فقال ﷺ : الإسلام ، فقال : أي الإسلام أفضل ، فقال ﷺ : الإيمان)) .

(طب.ا)

'တမန်တော်မြတ်ﷺအား 'မည်သည့်ကျင့်မှုရာသည် အမြတ်ဆုံးပါလဲ'ဟု မေးမြန်းခဲ့ရာ ကိုယ်တော်ﷺက 'အစ္စလာမ်ဖြစ်သည်'ဟု ဖြေကြားခဲ့၏။ ထိုအခါ မေးသူက 'မည်သည့်**အစ္စ**လာမ်သည် အမြတ်ဆုံးပါလဲ' ဟု ထပ်မံမေးမြန်းသောအခါ ကိုယ်တော်ﷺက 'အီမာန်ဖြစ်သည်'ဟု **ဖြေ**ကြားခဲ့သည်။'

ဤဆင့်ပြန်မှုမှ သိရသည်မှာ ဤစကားလုံးနှစ်ခုသည် မတူကွဲလွဲသော **စကားလုံးများဖြစ်**သည်။ တစ်ပြိုင်နက်မှာပင် ဤစကားလုံးနှစ်လုံးသည် တစ်ခု၏အဓိပ္ပါယ်တွင် အခြားတစ်ခု ပါဝင်လျ**က်ရှိသည်**။ ဤသည်မှာ ဘာသာစကား သုံးနှုန်းမှုများတွင် အကောင်းဆုံးသာဓကတစ်ခုဖြစ်သည်။ အဘယ်ကြောင့်ဆို**သော် အီမာန်**သည် ကျင့်မှုရာများအနက်မှ ကျင့်မှုရာတစ်ခုဖြစ်ပြီး ကျင့်မှုရာများတွင် အမြတ်ဆုံးလည်းဖြစ်သည်။ **အစ္စလာမ်မှာကား** လိုက်နာဆောင်ရွက်ခြင်းဖြစ်သည်။ ထိုသို့လိုက်နာဆောင်ရွက်ခြင်းသည် နှလုံးသားဖြင့် ဖြစ်ချင်ဖြစ်မည်။ **နှုတ်လျှာဖြင့်** ဖြစ်ချင်ဖြစ်မည်။ ခန္ဓာကိုယ်အစိတ်အပိုင်းဖြင့် ဖြစ်ချင်ဖြစ်မည်။ ထိုလိုက်နာဆောင်ရွက်မှုများတွင် **အမြတ်ဆုံးသည်** နှလုံးသားဖြင့် လိုက်နာဆောင်ရွက်ခြင်းဖြစ်သည်။ ယင်းသည်ပင် **အီမာန်**ဟု ခေါ်သော ယုံကြည်လက်ခံ**မှုဖြစ်သည်**။

ဤစကားလုံးနှစ်ခုကို သုံးနှုန်းရာတွင် အဓိပ္ပါယ်တူ သုံးစွဲသည်ဖြစ်စေ၊ **အဓိပ္ပါယ်ကွဲလွဲစွာ** သုံးစွဲသည်ဖြစ်စေ၊ စကားလုံးတစ်ခု၏အဓိပ္ပါယ်တွင် အခြားစကားလုံး၏အဓိပ္ပါယ်ကို ထည့်သွင်းသုံး**စွဲသည်ဖြစ်စေ** ဘာသာစကား၏ ခွင့်ပြုချက်ဘောင်မှ ထွက်သွားခြင်းမရှိပေ။ အဓိပ္ပါယ်ကွဲလွဲစွာ သုံးစွဲခြင်း၏ဥဒါဟရဏ်မှာ **အီမာန်ကို** နှလုံးသားဖြင့် ယုံကြည်လက်ခံမှု သက်သက်၏အဓိပ္ပါယ်ဖြင့် သုံးစွဲခြင်းဖြစ်သည်။ ဤသို့သုံးစွဲခြင်းသည် ဘာသာ**စကား**နှင့် ကိုက်ညီလေသည်။ တဖန် အစ္စလာမ်ကို ကာယကံမြောက် လိုက်နာဆောင်ရွက်ခြင်း၏**အဓိပ္ပါယ်ဖြင့် သုံးစွဲခြင်းဖြစ်**သည်။ ဤသို့သုံးစွဲခြင်းသည်လည်း ဘာသာစကားနှင့် ကိုက်ညီသည်။ အဘယ်ကြောင့်ဆို**သော် လိုက်နာဆောင်ရွက်**သည်ဟု ဆိုရာတွင် လိုက်နာဆောင်ရွက်မှု၏အချို့အပိုင်းများမှာသာဖြစ်သည်ဆိုသော်လည်း ယင်းကို **လိုက်နာဆောင်ရွက်မှု**ဟုပင် ခေါ်ရမည်ဖြစ်သည်။ လိုက်နာဆောင်ရွက်မှုနှင့်သက်ဆိုင်သမျှ အဓိပ္ပါယ်အားလုံး **သိမ်းရုံးပါရှိမှ**သာ လိုက်နာဆောင်ရွက်မှုဟုခေါ်ဆိုရမည်ဟု စည်းကမ်းသတ်မှတ်ထားခြင်းမရှိချေ။ ဥပမာ လူတစ်ဦးက **အခြား**သူတစ်ဦးကို ထိကိုင်သည်ဟု ဆိုရာတွင် ထိုသူ၏ခန္ဓာကိုယ်တစ်ခုလုံးသိမ်းကျုံးပါဝင်အောင် ထိကိုင်**ရန်မလိုပေ**။ ထိုသူ၏ခန္ဓာကိုယ်အစိတ်အပိုင်းအချို့ကို ထိကိုင်လိုက်လျှင်ပင် ထိကိုင်သည်ဟုဆိုနိုင်သည်။ ဤနည်းအတူ **အစ္စ**လာမ်ဆိုသည့် စကားလုံးကို အတွင်းပိုင်း လိုက်နာဆောင်ရွက်မှုမပါဘဲ အပြင်ပိုင်းလိုက်နာဆောင်ရွက်**မှုအတွက်**သက်သက် သုံးနှုန်းခြင်းဖြစ်သော်လည်း ဘာသာစကားနှင့် ကိုက်ညီမှုရှိလေသည်။ ဤနည်းအခြေခံဖြင့် **အလ္လာဟ်အရှင်** မိန့်တော်မူထားသည်မှာ–

﴿قَالَتِ الْاَعْرَابُ اٰمَنَّا قُلْ لَّمْ تُؤْمِنُوْا وَلٰكِنْ قُوْلُوْا اَسْلَمْنَا﴾

**'ကျေးတောသားတို့က 'ကျွန်ုပ်တို့ အီမာန်ယူပါပြီ'ဟု ပြောဆိုခဲ့ကြ၏။ အသင်ပြောလော့။ 'အသင်တို့ အီမာန်မယူကြရသေးပါ။ သို့ဖြစ်ရာ 'ကျွန်ုပ်တို့အစ္စလာမ်ကို လက်ခံပါပြီ'ဟုသာ အသင်တို့ပြောကြကုန်။'**

**(ဟုဂျုရာတ်၊၁၄)**

**ထို့ပြင် စအဒ်အီဗ်နေ့အဗီဝကာဆ်**ﷺသခင်၏ဆင့်ပြန်မှုတွင် 'တစ်နည်း ထိုသူသည်မွတ်စလင်မ်ဖြစ်သည်'-ဟူသော **တမန်တော်မြတ်ﷺ၏**မိန့်ဆိုမှုကို ဖေါ်ပြထားသည်။ ဤနေရာတွင် တမန်တော်မြတ်ﷺသည် အီမာန်ကို အစ္စလာမ် **ထက် အသာပေး မိန့်**ဆိုထားသည်။ စကားလုံးနှစ်လုံးကို အဓိပ္ပါယ်ကွဲလွဲအောင် သုံးစွဲခြင်းဖြင့် မွတ်စလင်မ်တို့၏ **ထွတ်မြတ်မှုကို သာ**ပိုစေသည်။

အီမာန်နှင့်အစ္စလာမ်ဆိုသော စကားလုံးနှစ်ခုအား တစ်ခု၏အဓိပ္ပါယ်တွင် အခြားတစ်ခု၏အဓိပ္ပါယ် ဖေါ်ပြ သုံးစွဲခြင်းသည်လည်း ဘာသာစကားနှင့်ကိုက်ညီလေသည်။ ဆိုလိုသည်မှာ 'အစ္စလာမ်'စကားလုံးကို စိတ်နှလုံးအား ဖြင့်၎င်း၊ အပြောအဆိုအားဖြင့်၎င်း၊ လုပ်ကိုင်ဆောင်ရွက်မှုအားဖြင့်၎င်း အလုံးစုံတို့ဖြင့် နာခံလိုက်နာခြင်း-ဆိုသည့် အဓိပ္ပါယ်အရ သုံးနှုံးခြင်းဖြစ်သည်။ ထို့နောက် 'အီမာန်'စကားလုံးကို 'အစ္စလာမ်'တွင် ပါဝင်သော အဓိပ္ပါယ်အချို့ အဝက်ဖြင့် သုံးစွဲခြင်းဖြစ်သည်။ ဆိုလိုသည်မှာ နှလုံးသားမှ ယုံကြည်လက်ခံမှု၏အဓိပ္ပါယ်ဖြင့် သုံးစွဲခြင်းဖြစ်သည်။ ကျွန်ုပ်တို့က စကားလုံးတစ်ခု၏အဓိပ္ပါယ်တွင် အခြားတစ်ခု ထည့်သုံးခြင်းဟု ဆိုရာ၌ အီမာန်ကို ဝိသေသပြု၍၎င်း၊ အစ္စလာမ်ကို ယေဘုယျပြု၍၎င်း သုံးစွဲခြင်းကို ဆိုလိုသည်။ ဤသို့သုံးစွဲခြင်းသည်လည်း ဘာသာစကားနှင့် ကိုက်ညီ ပါသည်။ တမန်တော်မြတ်ﷺအား မေးသူက 'မည်သည့်အစ္စလာမ်သည် အမြတ်ဆုံးပါလဲ'ဟု မေးသောအခါ တမန် တော်မြတ်ﷺက ဤနည်းဖြင့် 'အီမာန်ဖြစ်သည်'ဟု အဖြေပေးခဲ့ခြင်းဖြစ်သည်။ သဘောမှာ တမန်တော်မြတ်ﷺသည် အီမာန်ကို အစ္စလာမ်ထက် ဝိသေသပြု၍ အစ္စလာမ်တွင် အပါအဝင်ဖြစ်စေခြင်းဖြစ်သည်။

အီမာန်နှင့်အစ္စလာမ်ကို အဓိပ္ပါယ်တစ်ခုတည်းဖြင့် သုံးစွဲခြင်း၏ဥဒါဟရဏ်သည် ဤသို့ဖြစ်၏။ အစ္စလာမ် ၏အဓိပ္ပါယ်ကို နှလုံးသားဖြင့်၎င်း၊ အလုံးစုံသောဇဟိဒ္ဓတို့ဖြင့်၎င်း နာခံလိုက်နာခြင်း၏အဓိပ္ပါယ်ဖြင့် သုံးစွဲသကဲ့သို့ အီမာန်ကို အဆိုပါအဓိပ္ပါယ်ဖြင့် သုံးစွဲခြင်းဖြစ်သည်။ ဤသည်လည်း မှန်ကန်သောသုံးစွဲမှုပင်ဖြစ်သည်။ အဘယ် ကြောင့်ဆိုသော် အပြင်ပိုင်းမှ ပြောဆိုမှုနှင့်လုပ်ကိုင်ဆောင်ရွက်မှုဖြင့် နာခံလိုက်နာမှုသည် စင်စစ်တွင် အတွင်းပိုင်းမှ ယုံကြည်လက်ခံမှု၏အသီးအပွင့်နှင့်ရလဒ်ဖြစ်သောကြောင့်ဖြစ်သည်။ သစ်ပင်တစ်ပင်ကို အမည်ခေါ်တွင်ရာတွင် ထို အပင်မှ သီးပွင့်မည့်အသီးအပွင့်ကို စွဲခေါ်သကဲ့သို့ဖြစ်သည်။ ယေဘုယျသုံးစွဲမှုအဖြစ် အပင်နှင့်အသီးကို အဓိပ္ပါယ် တူထား၍ သုံးစွဲခြင်းဖြစ်သည်။ ဤသို့သုံးစွဲရာတွင် အီမာန်၏အဓိပ္ပါယ်အတွက် အစ္စလာမ်ဆိုသည့်အမည်နာမကို အပိုအလျော့မပါစေဘဲ ထပ်တူထပ်မျှအဓိပ္ပါယ်တူထား၍ သုံးစွဲခြင်းဖြစ်သည်။ ဤအတွက်အထောက်အထားအဖြစ် အလ္လာဟ်အရှင်၏မိန့်ကြားချက်-﴾فَمَا وَجَدْنَا فِيهَا غَيْرَ بَيْتٍ مِنَ الْمُسْلِمِينَ﴿

**'သို့နှင့်တိုင် ငါအရှင်သည် ထိုအရပ်၌ မွတ်စလင်မ်တို့၏အိမ်ဟူ၍ တစ်အိမ်သာလျှင် တွေ့ရှိတော်မူ ခဲ့၏။'**

(ဇုရာဇာရိယာတ် ၊၃၅-၃၆)

ကို ဖေါ်ပြခဲ့ပြီးပေပြီ။

**တတိယသုံးသပ်လေ့လာချက်** – ဤသုံးသပ်လေ့လာချက်သည် ရှရီအတ်၏ပညတ်ချက်ကို ရှင်းလင်းပြ ဆိုခြင်းဖြစ်သည်။ အစ္စလာမ်နှင့်အီမာန်သည် ပညတ်ချက်နှစ်ခုဖြစ်သည်။ ပညတ်တစ်ခုသည် အာခိရတ်နှင့်သက်ဆိုင် ၍ ကျန်တစ်ခုသည် ဒွန္နယာနှင့်သက်ဆိုင်သည်။ အာခိရတ်နှင့်သက်ဆိုင်ရာ ပညတ်ချက်မှာ အီမာန်ရှိသူကို ဂျဟန္နမ် ငရဲမှ ထုတ်ယူရန်နှင့် ထိုငရဲတွင် အမြဲနေရခြင်းမှ တားဆီးကာကွယ်ရန်ဖြစ်သည်။ တမန်တော်မြတ်ﷺ၏မိန့်ဆိုချက် ရှိထားသည်မှာ– يخرج من النار من كان في قلبه مثقال ذرة من الايمان. (خ.م)

'အကြင်သူ နှလုံးသားတွင် မြူမှုံခန့်မျှ အီမာန်ရှိလျှင် ထိုသူကို ဂျဟန္နမ်မှ ထုတ်ယူမည်ဖြစ်သည်။'*

---

* အီရာကီ^သခင်က ဤနေရာတွင် အလားတူဟဒီစ်အချို့ကို ဖေါ်ပြခဲ့သည်။ ယင်းတို့မှာ ကျမ်းတော်နှစ်စောင်တွင် ပါ ရှိသော အဗူစအီဒ်ခွဒ်ရီ‌ﷺသခင်၏ဆင့်ပြန်ချက်–

اذهبوا فمن وجدتم في قلبه مثقال ذرة من إيمان فأخرجوه

(အလ္လာဟ်အရှင်က ကောင်းကင်တမန်များသို့) 'အသင်တို့ သွားကြကုန်။ အကြင်သူ၏နှလုံးသားတွင် မြူ မှုံခန့် အီမာန်ရှိသူကိုတွေ့လျှင် ထိုသူ့ကို ဂျဟန္နမ်မှ ထုတ်ယူကြကုန်'–ဟူသော မိန့်ကြားတော်မူချက်တစ်ရပ်။

(စာမျက်နှာ ၃၃၉ သို့

သို့သော် ဤသို့ အီမာန်ကြောင့် ငရဲမှ ထုတ်ယူခြင်းခံရမည့် အီမာန်သည် မည်ကဲ့သို့သော အီမာန်ဖြစ်သည်-ဆိုခြင်းတွင် လူတို့သည် ကွဲလွဲလျက်ရှိကြသည်။ အချို့က ထိုအီမာန်သည် စွဲယူယုံကြည်မှုသက်သက်ဖြစ်သည်ဟု ဆိုသည်။ အချို့က ထိုအီမာန်သည် စိတ်နှလုံးမှ စွဲယူယုံကြည်ပြီး နှုတ်လျှာမှ ဝန်ခံမြွက်ဟမှုကို ခေါ်ခြင်းဖြစ်သည်ဟု ဆိုသည်။ အချို့ကမူ တတိယစည်းကမ်းချက်အဖြစ် ကာယကံမြောက် ကျင့်သုံးခြင်းကို တိုးချဲ့ထည့်သွင်းခဲ့ကြသည်။ ကျွန်ုပ်တို့သည် ဤကိစ္စနှင့်စပ်လျဉ်း၍ သစ္စာကြုတ်ဖွင့်စကားရပ်ကို ဖော်ထုတ်ကြမည်။

အကြင်သူ့တွင် စိတ်နှလုံးမှ စွဲယူယုံကြည်ခြင်း၊ **နှုတ်**လျှာမှ ဝန်ခံမြွက်ဟခြင်းနှင့်ကာယကံမြောက်ကျင့်သုံးခြင်းတည်းဟူသော အရည်အချင်းသုံးခုစလုံး **ပေါင်းရုံးရှိနေမည်ဆိုလျှင်** ထိုသူသည် ဂျန္နတ်ရရန် သေချာပေပြီ။ ဤကိစ္စနှင့်ပတ်သက်၍ အကွဲအလွဲမရှိပေ။ ဤ**အဆင့်**သည် **အီမာန်၏ပထမအဆင့်**ဖြစ်သည်။

**အီမာန်၏ဒုတိယအဆင့်** – ဤ**အဆင့်အတန်း**သည် **အရည်အချင်းနှစ်ခုနှင့်**တတိယအရည်အချင်း၏အချို့အဝက်ရှိခြင်းဖြစ်သည်။ ဆိုလိုသည်မှာ **နှုတ်လျှာမှ မြွက်**ဟခြင်း၊ စွဲယူယုံကြည်ခြင်းနှင့် အချို့သောကျင့်မှုရာများကို ကျင့်သုံးခြင်းဖြစ်သည်။ သို့သော် ထို**အရည်အချင်းများ** ရှိနေသူသည် ဒုစရိုက်ကြီးတစ်ခု သို့မဟုတ် တစ်ခုထက်မကကို ကျူးလွန်ခဲ့သူဖြစ်သည်။ သို့ဖြစ်ရာ **ထိုသူနှင့်ပတ်သက်၍** မုအ်တဇိလာတို့က 'ငင်းသည် အီမာန်၏ဘောင်မှ ထွက်သွားသည်။ သို့သော် ငင်းသည် **ကာဖိရ်၏ဘောင်သို့ ဝင်ရောက်ခြင်းကား မရှိပေ။ စင်စစ်၌** ဤလူမျိုးကို 'ဖါစစ်က်-မသူတော်'ဟု ခေါ်သည်။ ငင်းသည် **စခန်းနှစ်ခုကြားထဲမှ စခန်းတစ်ခုတွင် ရှိနေသည်။ သူ**သည် ဂျဟန္နမ်တွင် အမြဲထာဝရနေရမည့်သူဖြစ်သည်'ဟု **ပြောဆိုကြသည်။ မကြာမီ ကျွန်ုပ်တို့ ဖေါ်ပြမည့်**အတိုင်းပင် ဤသို့ပြောဆိုခြင်းသည် မှားယွင်းပေသည်။

**အီမာန်၏**တတိယ**အဆင့်** – ဤအဆင့်အတန်းသည် **စိတ်နှလုံး**က ယုံကြည်လက်ခံပြီး **နှုတ်**လျှာက ဝန်ခံမြွက်ဟသော်လည်း ကာယကံမြောက် **ကျင့်ဆောင်မှု** မရှိခြင်းဖြစ်သည်။ ဤအဆင့်အတန်းရှိသူ၏ပညတ်ချက်ကို သတ်မှတ်ကြရာတွင် **အကွဲအလွဲရှိသည်။ အဗူတွာလိတ်မက္ကီ**'က 'ကိုယ်ကာယဖြင့် ကျင့်ဆောင်ခြင်းသည် အီမာန်၏ အစိတ်အပိုင်း**ဖြစ်သည်။ သို့ဖြစ်ရာ လက်တွေ့ကျင့်သုံးမှုမရှိဘဲ အီမာန်**သည် မပြည့်စုံနိုင်ပါ'ဟု ဆိုသည်။ ထို့ပြင် ငင်းက 'လက်တွေ့ကျင့်သုံးမှုမရှိဘဲ **အီမာန်မပြည့်စုံပါ** ဆိုသောပညတ်ချက်သည် အွမ္မတ်၏ဥသံ့ညီသဘောတူချက်ဖြစ်သည်'ဟုပင် ထုတ်**ဖေါ်ခဲ့သည်။ သို့သော် ငင်းကိုယ်တိုင်ဖေါ်ပြခဲ့သည့် အထောက်အထားများက** ငင်း၏အဆိုပြုချက်နှင့် ဝိရောဓိဖြစ်လျက်ရှိသည်။ ဥပမာ ငင်းက အလ္လာဟ်အရှင် မိန့်တော်မူခဲ့သော–

---

**(စာမျက်နှာ ၃၃၈ မှ)**

ထို့ပြင် ကျမ်းတော်နှစ်စောင်တွင် ဖေါ်ပြပါရှိသော အနပ်စ် ﷺ သခင်၏–

فيقال انطلق فأخرج منها من كان في قلبه مثقال ذرة - أو خردلة - من إيمان

'ထိုအခါ အလ္လာဟ်အရှင်က ကောင်းကင်တမန်အား မိန့်တော်မူမည်မှာ 'အသင်သွားလော့။ အကြင်သူ၏နှလုံးသားတွင် မြူမှုံခန့်-သို့မဟုတ်-မုန်ညင်းစေ့ခန့် အီမာန်ရှိပါက ထိုသူ့ကို ဂျဟန္နမ်ထုတ်ယူကြကုန်'– ဟူသော ဆင့်ပြန်ချက်တစ်ရပ်။

ရာဝီစဉ်ဆက် မဖေါ်ပြတော့ဘဲ ဆင့်ပြန်ထားသော အနပ်စ် ﷺ သခင်၏ဆင့်ပြန်ချက်–

يخرج من النار من قال لا إله إلا الله وفي قلبه وزن ذرة من إيمان

'အကြင်သူ လာအိလာဟ အိလ္လလ္လာဟ် ဖတ်ရွတ်ပြီး သူ၏နှလုံးသားတွင် မြူမှုံ၏အလေးချိန်ခန့် အီမာန်ရှိလျှင် ထိုသူသည် ဂျဟန္နမ်မှ ထုတ်ယူခြင်းခံရမည်'–ဟူသောဆင့်ပြန်ချက်တစ်ရပ်တို့ဖြစ်သည်။ ယခုနောက်ဆုံးဖေါ်ပြသည် အနပ်စ် ﷺ သခင်၏ဆင့်ပြန်ချက်ကို ကျမ်းတော်နှစ်စောင်က ဖေါ်ပြရာတွင် 'နှလုံးသားတွင် အီမာန်ရှိလျှင်'ဆိုသည့်စကားလုံးအစား 'ကောင်းမှုရှိလျှင်'ဟု ပါသည်။

﴿اَلَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحَاتِ﴾

**'အကြင်သူတို့သည် အီမာန်ယူကြသည်။ ထို့နောက် ကောင်းမှုများကို ကျင့်ဆောင်ကြသည်။'**

ဆိုသည့်မိန့်ခွန်းတော်ကို အကိုးအကားပြုခဲ့သည်။ သို့နှင့်တိုင် ဤမိန့်ခွန်းတော်မှ သိရသည်မှာ ကျင့်ဆောင်မှုသည် အီမာန်၏အစိတ်အပိုင်းမဟုတ်ဘဲ ဤနှစ်ခုသည် သီးခြားအရာများဖြစ်သည်။ အကယ်၍ အီမာန်နှင့် ကျင့်ဆောင်မှုတို့သည် သီးခြားအရာနှစ်ခု မဟုတ်ဘဲ တစ်ခုတည်းဖြစ်ခဲ့လျှင် မိန့်ခွန်းတော်တွင် **'အီမာန်ယူကြသည်'**–ဆိုသည်ကိုသာ ဖေါ်ပြရမည်ဖြစ်သည်။ **'ကျင့်ဆောင်ကြသည်'**–ကို ဖေါ်ပြရန် မလိုအပ်ပေ။ အုံသြစရာမှာ ကျင့်သုံးမှုမပါသော အီမာန်သည် ပြည့်စုံသောအီမာန် မဟုတ်ကြောင်း ဥသုံ့ညီသဘောထားဟု ဆိုသူက မိမိ၏အဆိုနှင့်ဆန့်ကျင်သော တမန်တော်မြတ်ﷺမိန့်ဆိုမှုကို ကိုးကားထားခြင်းဖြစ်သည်။ ယင်းမိန့်ဆိုမှုမှာ–

لا يكفر أحد إلا بعد جحوده لما أقر به . (طس)

'တစ်စုံတစ်ယောက်ကို ကာဖိရ်ဖြစ်သည်ဟု မဆိုနှင့်ဦး။ မိမိဝန်ခံမြွက်ဟသည့်အချက်ကို ငြင်းဆန်ပြီး ဆိုမှ ထိုသူ့ကို ကာဖိရ်ဟု ဆိုပါ။'

အဗူတွာလိဘ်မက္ကီ်သည် 'ဂိုနာဒုစရိုက်ကြီးများ ကျူးလွန်သည့်အတွက်ကြောင့် ဂျဟန္နမ်တွင် အမြဲထာဝရနေရမည်' ဟူသော မုအ်တဇိလာတို့၏ပြောဆိုမှုကို ငြင်းပယ်ခဲ့သူဖြစ်သည်။ သို့သော် ၎င်းကိုယ်တိုင်က မုအ်တဇိလာတို့၏အယူအဆလမ်းစဉ်အပေါ်တွင် ရှိနေသည်။ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်တို့က ၎င်းအား 'ပုဂ္ဂိုလ်တစ်ဦးသည် နှလုံးသားဖြင့် ယုံကြည်လက်ခံပြီး နှုတ်လျှာဖြင့် ဝန်ခံမြွက်ဟခဲ့သည်။ ထိုအချိန်တွင် ကွယ်လွန်သေဆုံးသွားခဲ့ပါက ထိုသူသည် ဂျန္နတ်ရမည်လား'ဟု မေးမြန်းခဲ့မည်ဆိုလျှင်၊ ၎င်းက 'မှန်သည်။ ထိုသူ ဂျန္နတ်ရမည်'ဟု မုချအဖြေပေးလိမ့်မည်။ ဤနေရာတွင် ကျွန်ုပ်တို့မေးမြန်းခဲ့သည်မှာ ကျင့်သုံးမှု မရှိဘဲ အီမာန်သာရှိသော အနေအထားပုံစံကို ဖြစ်သည်။

ထို့နောက် ကျွန်ုပ်တို့က မေးခွန်းကို တစ်ဆင့်တက်၍ 'ထိုသူသည် အသက်ရှင်လျက်ရှိနေခဲ့ရာ နမာဇ်ချိန် တစ်ကြိမ်ကို တွေ့မိသွားခဲ့သည်။ ထိုသူသည် ထိုနမာဇ်ကို မဖတ်ခဲ့ဘဲ သေဆုံးသွားခဲ့သည်။ သို့မဟုတ် ထိုသူသည် ဇေနာကျူးလွန်ပြီး သေဆုံးသွားခဲ့သည်။ ထိုသူသည် ငရဲတွင် အမြဲထာဝရနေရမည်လား'ဟု မေးမြန်းခဲ့မည်ဆိုလျှင်၊ ၎င်းက 'မှန်သည်။ ထိုသူသည် ငရဲတွင် အမြဲထာဝရနေရမည်'ဟု ဖြေဦးမည်ဖြစ်သည်။ ဤအဖြေသည် မုအ်တဇိလာတို့၏အယူအဆသဘောထားနှင့် ထပ်တူထပ်မျှပင်ဖြစ်သည်။ အကယ်၍ ၎င်းက 'ထိုသူသည် ငရဲတွင် အမြဲထာဝရနေရမည်မဟုတ်ပါ'ဟု ဖြေမည်ဆိုလျှင်၊ ထိုအဖြေအရ ကျင့်သုံးမှုသည် အီမာန်၏အစိတ်အပိုင်း မဟုတ်ကြောင်း၊ ကျင့်သုံးမှုသည် အီမာန်ရှိရန် စည်းကမ်းချက် မဟုတ်ကြောင်း၊ ထိုကျင့်သုံးမှုပါမှ ဂျန္နတ်ကို ရရှိခြင်းလည်း မဟုတ်ကြောင်း ရှင်းလင်းစွာ သိရှိရပေသည်။

အကယ်၍ ၎င်းက အထက်ပါအဖြေအစား 'ကျွန်ုပ်က ထိုသူသည် ကာလကြာရှည်စွာ အသက်ရှင်နေထိုင်ခဲ့ပြီး နမာဇ်ဖတ်ရွတ်ခြင်းမပြု၊ ရှရီအတ်၏ကျင့်ဆောက်တည်မှုများကိုလည်း ကျင့်ဆောင်ခြင်းမပြုသည်ကို ရည်ရွယ်ပြောဆိုခြင်းဖြစ်သည်'ဟု ဖြေမည်ဆိုလျှင်၊ ကျွန်ုပ်တို့က 'ထိုကာလ၏အတိုင်းအတာကို မည်သို့ သတ်မှတ်ပါသလဲ၊ ထိုပြင် အမိန့်နာခံကျင့်သုံးမှုများကို အရေအတွက်မည်မျှ စွန့်လွှတ်ခြင်းဖြင့် အီမာန်ပျက်ယွင်းပါသလဲ။ ထို့ပြင် ပြစ်မှုဒုစရိုက်ကြီးများကို အရေအတွက်မည်မျှ ကျူးလွန်ခြင်းဖြင့် အီမာန်ပျက်ယွင်းပါသလဲ'ဟု မေးရလိမ့်မည်။ စင်စစ်ဤသို့ အရေအတွက် ဆုံးဖြတ်သတ်မှတ်ရန်ဆိုသည်မှာ ဖြစ်နိုင်သောကိစ္စ မဟုတ်ပါ။ အရေအတွက်ကို သတ်မှတ်ခဲ့သူဟူ၍လည်း မည်သူမှ မရှိခဲ့ပါ။

**အီမာန်၏စတုတ္ထအဆင့်** – ဤအဆင့်အတန်းသည် စိတ်နှလုံးက ယုံကြည်လက်ခံပြီး နှုတ်လျှာက ဝန်ခံမြွက်ဟမှု မပြုရသေးမီ၊ ကျင့်မှုရာများကို ကျင့်ဆောင်မှုမပြုရသေးမီ သေဆုံးခဲ့ရခြင်းဖြစ်သည်။ ထိုကဲ့သို့သောပုဂ္ဂိုလ်

မျိုးကို အလ္လာဟ်အရှင့်ထံတွင် အီမာန်ရှင်အဖြစ်နှင့် သေဆုံးသွားခြင်းဖြစ်ပါသည်ဟု ကျွန်ုပ်တို့ပြောရမည်လော။ ဤသည်မှာ အကွဲအလွဲရှိသောကိစ္စတစ်ခုဖြစ်သည်။ အီမာန်ပြည့်စုံရန် နှုတ်မှမြွက်ဟမှုရှိရမည်ဟု စည်းကမ်းချက်ချထားသူကမူ ထိုပုဂ္ဂိုလ်သည် အီမာန် မရမီအလျင် သေဆုံးခြင်းဖြစ်သည်ဟု ပြောဆိုလိမ့်မည်။ သို့နှင့်တိုင် ထိုစကားသည် စကားပျက်မျှသာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺ၏ မိန့်ဆိုချက်–

يخرج من النار من كان في قلبه مثقال ذرة من الايمان . (خ،م)

'အကြင်သူ နှလုံးသားတွင် မြူမှုံခန့်မျှ **အီမာန်ရှိလျှင်** ထိုသူသည် ဂျဟန္နမ်မှ ကယ်ထုတ်ခြင်းခံရမည်။'

ဟု ရှိထားသောကြောင့်ဖြစ်သည်။ အကြင်သူ၏ နှလုံးသားသည် **အီမာန်ဖြင့်** ပြည့်လျှမ်းနေလျှင် ထိုသူသည် အဘယ်ကြောင့် ငရဲတွင် အမြဲထာဝရနေရမည်နည်း။ ထို့ပြင် အီမာန်နှင့်ပတ်သက်၍ ဂျိဗ်ရီလ်ﷺသခင်၏ မေးလျှောက်မှုအပေါ် တမန်တော်မြတ်ﷺ၏ ဖြေဆိုချက်ကိုလည်း အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သည်။ ဂျိဗ်ရီလ်ﷺသခင်၏ ဟဒီစ်ဟု ကျော်ကြားသော ထိုဟဒီစ်တွင် **တမန်တော်မြတ်ﷺက အီမာန်၏ စည်းကမ်းချက်များအဖြစ်** 'အလ္လာဟ်အရှင့်ကိုငင်း၊ အလ္လာဟ်အရှင်၏ ကောင်းကင်တမန်များ၊ **ကောင်းကင်ကျမ်းတော်များနှင့်** တမန်တော်များကိုငင်း၊ ကိယာမတ်နေ့ကိုငင်း ယုံကြည်လက်ခံခြင်းဖြစ်သည်'ဟုသာ **ဖော်ပြထားသည်။**

**အီမာန်၏ ပဌမအဆင့်** – **ဤအဆင့်အတန်းသည် စိတ်နှလုံးက ယုံကြည်လက်ခံပြီး** ကလေမာရှဟာဒတ်ကို နှုတ်လျှာမှ ဖတ်ရွတ်ရန် **သက်တမ်းအတွင်း အကြောင်းအခွင့် သင့်ခြင်းဖြစ်သည်။** ထို့ပြင် ၎င်းက ဤသို့ဖတ်ရွတ်ခြင်းသည် ဝါဂျိဗ်တာဝန်ဖြစ်ကြောင်းလည်း **သိထားသည်။ သို့သော် ၎င်းသည် ဤသို့ဖတ်ရွတ်ခဲ့ခြင်း** မရှိချေ။ သို့ဖြစ်ရာ ကလေမာရှဟာဒတ်ကို **မဖတ်ခဲ့ခြင်းသည် နမာဇ် မဖတ်ခဲ့ခြင်းကဲ့သို့ အလားတူဖြစ်သည်။** သို့အတွက် ကျွန်ုပ်တို့က ၎င်းသည် အီမာန်ရှင်ဖြစ်ပြီး၊ **ဂျဟန္နမ်တွင် အမြဲနေရမည့်သူမဟုတ်**ဟု ပြောဆိုနိုင်သည်။

**အီမာန်ဆိုသည်မှာ ယုံကြည်လက်ခံခြင်းသက်သက်ကို** ဆိုခြင်းဖြစ်သည်။ နှုတ်လျှာသည် စိတ်နှလုံး၏ စွဲယူယုံကြည်မှုကို **ထင်ဟပ်ဖော်ထုတ်သည့်အရာမျှသာဖြစ်သည်။** သို့ဖြစ်ရာ နှုတ်လျှာမှ ဖော်ထုတ်ခြင်းမပြုမီကတည်းက **အီမာန်သည် ပြည့်စုံစွာရှိနေရမည်ဖြစ်သည်။ ထိုသို့ရှိမှသာ** နှုတ်လျှာက အီမာန်ရှိကြောင်း ထုတ်ဖော်နိုင်မည်မှာ ရှင်းနေပေသည်။ **စကားလုံး၏ အဓိပ္ပါယ်ကို** ကြည့်မည်ဆိုပြန်လျှင် ဤသည်မှာ မှန်ကန်သောအချက်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် **အီမာန်၏ အဓိပ္ပါယ်ကို** နှလုံးသားမှ ယုံကြည်လက်ခံခြင်းဖြစ်သည်ဟု ဖွင့်ဆိုထားသောကြောင့်ဖြစ်သည်။ **တမန်တော်မြတ်ﷺကလည်း** 'အကြင်သူ နှလုံးသားတွင် မြူမှုံခန့် အီမာန်ရှိလျှင် ထိုသူသည် ကယ်ထုတ်ခြင်းခံရမည်'ဟု မိန့်ဆို**ထားပြီးဖြစ်**သည်။ ဤနေရာ၌လည်း ဝါဂျိဗ်ဖြစ်သော ဝန်ခံမြွက်ဟမှုတစ်ခုကို မလုပ်ဘဲနေသဖြင့် နှလုံးသားတွင် **အီမာန်ကင်းမဲ့သည့်အဖြစ်သို့** မရောက်သကဲ့သို့၊ ဝါဂျိဗ်ဖြစ်သော ဝန်ခံမြွက်ဟမှုကို မပြုသဖြင့် အီမာန်ကင်းမဲ့သည့်အဖြစ်သို့ **မရောက်**ချေ။

အချို့ကဆိုသည်မှာ '**နှုတ်လျှာမှ** ဝန်ခံမြွက်ဟခြင်းသည် အီမာန်၏ အစိတ်အပိုင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကလေမာရှဟာဒတ်သည် နှလုံးသား၏ အခြေအနေကို ဖော်ပြမှုမဟုတ်ချေ။ အမှန်မှာ ကလေမာရှဟာဒတ်သည် စိတ်တွင် စွဲမြဲဖြစ်ပေါ်စေခြင်းဖြစ်သည်။ ထို့ပြင် ယုံကြည်မှုကို စတင်ရာဖြစ်သည်'ဟု ဖြစ်သည်။ ဤအဆိုနှင့်ယှဉ်လျှင် **အီမာန်ဆိုသည်မှာ** နှလုံးသား၏ ယုံကြည်မှုသက်သက်ဖြစ်ကြောင်း၊ နှုတ်လျှာသည် နှလုံးသား၏ ယုံကြည်မှုကို ဖော်ထုတ်ပေးခြင်းသာဖြစ်သည်ဟူသော ပထမအဆိုက ပို၍ရှင်းလင်းသည်။ သို့နှင့်တိုင် မုရ်ဂျိအာအုပ်စုသည် နှလုံးသားမှ ယုံကြည်ရုံဖြင့် လုံလောက်သည်ဟူသောကိစ္စတွင် အစွန်းရောက်ခဲ့ကြသည်။ ၎င်းတို့က 'ဤကဲ့သို့သူမျိုးသည် ဂျဟန္နမ်သို့ လုံးဝဝင်ရောက်ရမည်မဟုတ်ပါ'ဟု ပြောဆိုခဲ့ကြသည်။ ထို့ပြင် ၎င်းတို့က 'အကယ်၍ အီမာန်ရှင်သည် အမိန့်ဖီဆန်သူဖြစ်ခဲ့လျှင်လည်း ဂျဟန္နမ်သို့ ဝင်ရောက်ရမည်မဟုတ်'ဟု ပြောဆိုကြလေသည်။ မုရ်ဂျိအာတို့ မှားယွင်းကြောင်းကို များမကြာမီ ကျွန်ုပ်တို့ဖော်ပြမည်။

**အီမာန်၏ဆဋ္ဌမအဆင့်** – ဤအဆင့်အတန်းသည် နှုတ်လျှာက 'لا إله إلا الله محمد رسول الله'ကို ဖတ်သော်လည်း စိတ်နှလုံးက ယုံကြည်လက်ခံခြင်းမရှိပေ။ အာခိရတ်၏ပညတ်ချက်အရ ဤပုဂ္ဂိုလ်မျိုးသည် ကာဖိရ်ဖြစ်ပြီး၊ ငရဲတွင် အမြဲထာဝရနေရမည်ဖြစ်ကြောင်း ကျွန်ုပ်တို့ ဒွိဟသံသယမရှိကြပေ။ တဖန် ဒွန်နယာ၏ပညတ်ချက်အရ ၎င်းသည် မွတ်စလင်မ်ဖြစ်ပြီး အစ္စလာမ့်ခေါင်းဆောင်များ၊ အုပ်ချုပ်ရေးမှူးများ၏အမိန့်ပေးမှုများနှင့်တားမြစ်မှုများကို လိုက်နာရန် တာဝန်ရှိသူဖြစ်ကြောင်းတွင် ကျွန်ုပ်တို့ သံသယမဖြစ်ကြပေ။ ဤသို့ဆိုရခြင်းသည် ၎င်း၏စိတ်နှလုံးကို မသိနိုင်သောကြောင့်ဖြစ်သည်။ ကျွန်ုပ်တို့၏တာဝန်မှာ ၎င်း၏နှုတ်လျှာမှ ပြောဆိုမှုသည် နှလုံးသားတွင်ရှိနေသည့် အရာနှင့် ကိုက်ညီသည်ဟု ယူဆရန်သာဖြစ်သည်။

ကျွန်ုပ်တို့ သံသယရှိကြသည်မှာ တတိယကိစ္စတွင်ဖြစ်သည်။ ယင်းမှာ အလ္လာဟ်အရှင်နှင့် ထိုသူ၏အကြားရှိ ဒွန်နယာရေးကိစ္စ ပညတ်ချက်နှင့်ပတ်သက်၍ဖြစ်သည်။ ဥပမာအားဖြင့် ပုဂ္ဂိုလ်တစ်ဦးသည် စိတ်နှလုံးမပါ နှုတ်လျှာသက်သက်ဖြင့် အီမာန်ယူထားသည့်အခြေအနေ၌ ၎င်း၏မွတ်စလင်မ်ဆွေမျိုးသားချင်းတစ်ဦး သေဆုံးသွားခဲ့သည်။ ထိုသို့သေဆုံးပြီးနောက်မှ ၎င်းသည် အီမာန်ကို နှလုံးသားဖြင့် ယုံကြည်လက်ခံခဲ့သည်။ ထိုအခါတွင် ၎င်းက ဖတ္တဝါတောင်းခံသည်မှာ 'ကျွန်တော်သည် ထိုဆွေမျိုးသေဆုံးချိန်၌ နှလုံးသားထဲမှ ယုံကြည်လက်ခံသူတစ်ဦး မဟုတ်ခဲ့ပါ။ ယခုအခါ ထိုဆွေမျိုး၏အမွေပစ္စည်းများ ကျွန်တော်၏လက်တွင် ရှိနေပါသည်။ ကျွန်ုပ်နှင့် အလ္လာဟ်အရှင့် အကြားတွင် ထိုပစ္စည်းများသည် ကျွန်ုပ်အတွက် ဟလာလ်ဖြစ်ပါသလား။'

နောက်တစ်နည်း ဥပမာမှာ စိတ်က မပါ နှုတ်လျှာသက်သက်ဖြင့် အီမာန်ယူထားသူတစ်ဦးသည် မွတ်စလင်မ်အမျိုးသမီးတစ်ဦးကို နိကာဟ်ပြုခဲ့သည်။ ထို့နောက်မှ ၎င်းသည် အီမာန်ကို နှလုံးသားဖြင့် ယုံကြည်လက်ခံခဲ့သည်။ ထိုအခါ ၎င်းသည် ထိုအမျိုးသမီးနှင့် ဒုတိယအကြိမ် နိကာဟ်ဖတ်ရန် တာဝန်ရှိပါသလား။ ဤမေးခွန်းများအတွက် ယတိပြတ်အဖြေပေးရန် မဖြစ်နိုင်ချေ။ ဖြစ်နိုင်ချေရှိသော အဖြေတစ်ခုမှာ ဒွန်နယာရေးပညတ်ချက်များသည် နှုတ်မှ ထွက်ဟပြောဆိုမှုကြောင့် ဗဟိဒ္ဓအားကိုရော'အစ္စတ္တကိုပါ သက်ရောက်မှုရှိသည်။ ထို့ပြင် ဖြစ်နိုင်ချေရှိသော နောက်အဖြေတစ်ခုမှာ ဤအမိန့်ပညတ်များသည် နှုတ်မှ ထွက်ဟမှုကြောင့် အခြားသူအပေါ်တွင် သက်ရောက်မှုရှိသည်။ အဘယ်ကြောင့်ဆိုသော် အခြားသူသည် ကာယကံရှင်၏အတွင်းကို သိနိုင်သည်မဟုတ်ချေ။ ကာယကံရှင်ကသာ မိမိနှင့် အလ္လာဟ်အရှင်မြတ်အကြား ဖြစ်ရှိနေသော မိမိကိုယ်တိုင်၏အတွင်းပိုင်းကို သိနိုင်သည်။ သိသာထင်ရှားမှုအရှိဆုံးအဖြေမှာ ၎င်းသည် အမွေပစ္စည်းကို ယူပိုင်ခွင့်မရှိချေ။ ထို့ပြင် ၎င်းအတွက် ဒုတိယအကြိမ်နိကာဟ်ပြုရန် အရေးကြီးသည်။ ဤမေးခွန်းများ၏အဖြေကို အလ္လာဟ်အရှင်သာ အသိဆုံးဖြစ်တော်မူသည်။

ဤအတွက်ကြောင့် ဆွဖ္ယာဗဟ်ကြီးဟုဖိုင်ဖဟ်ﷺသခင်သည် မုနာဖိက်တို့သေသည့်အခါ ၎င်းတို့၏ဂျနာဇာနမာဇ်သို့ မသွားခဲ့ခြင်းဖြစ်သည်။ အိုမရ်ﷺသခင်သည်ပင် ဂျနာဇဟ်နမာဇ်နှင့်ပတ်သက်လျှင် ဟုဖိုင်ဖဟ်ﷺသခင်ကို စောင့်ကြည့်ခဲ့သည်။ ဟုဖိုင်ဖဟ်ﷺသခင် မသွားသော ဂျနာဇာနမာဇ်သို့ အိုမရ်ﷺသခင်လည်း မသွားခဲ့ပေ။ နမာဇ်သည် အလ္လာဟ်အရှင်နှင့်သာသက်ဆိုင်သည့် အိဗာဒတ်ဖြစ်သော်လည်း၊ ယင်းသည် ဒွန်နယာလောက၌ပင် ပေါ်လွင်သိသာသောကျင့်ဆောင်မှုဖြစ်သည်။ နမာဇ်ကဲ့သို့ပင် ဟရာမ်မှ ရှောင်ရှားခြင်းသည်လည်း အလ္လာဟ်အရှင့်အတွက် ပြုရသော မုချတာဝန်ဖြစ်သည်။ ထိုအတွက်ပင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

طلب الحلال فريضة بعد الفريضة . (ط.سنى)

'ဖရာဇ်တာဝန်များ၏နောက်တွင် ဟလာလ်ကို ရှာဖွေခြင်းသည် ဖရာဇ်တာဝန်တစ်ခုဖြစ်သည်။'

ဤတွင် ကျွန်ုပ်တို့၏ပြောဆိုမှုသည် အစ္စလာမ်၏အမွေခန်းပညတ်ချက်နှင့် ဆန့်ကျင်ခြင်းမရှိပေ။ အစ္စလာမ်ဆိုသည်မှာ လက်ခံနာယူခြင်းဖြစ်သည်။ အမှန်မှာ အပြည့်အဝလက်ခံနာယူခြင်းသည် အပြင်ရော အတွင်းပါလက်ခံမှုသာဖြစ်

သည်။ ယခုဆွေးနွေးသုံးသပ်နေသည်မှာ ဖိကဟ်ဆိုင်ရာနှင့်ထင်မြင်ယူဆချက်ဆိုင်ရာဖြစ်သည်။ ဤဆွေးနွေးချက်များသည် ပေါ်ထွက်သောစကားရပ်များ၊ ယေဘုယျပြောဆိုသုံးနှုန်းမှုများနှင့် ဆင်ခြင်တုံတရားကို အခြေခံသည်။ သို့ဖြစ်ရာ ပညာရပ်များကို နက်နက်နဲနဲမသိသူသည် ဤသုံးသပ်ဆွေးနွေးချက်များကို ကေန်သဘောဖြစ်သည်ဟု မထင်မှတ်သင့်ချေ။ ထုံးစံအားဖြင့် ကလာမ်အတတ်တွင်သာ ကေန်သဘောကို ဦးတည်ချက်ထားလေ့ရှိသည်။ အခြားသောပညာရပ်များနှင့်ပတ်သက်၍ကား အကြင်သူသည် ထုံးစံနောက်ကို လိုက်နေမည်ဆိုလျှင် အောင်မြင်မှုရလိမ့်မဟုတ်ပေ။

ဤနေရာတွင် စာရှုသူက 'မုအ်တဇိလာနှင့် မုရ်ဂျိအာတို့အပေါ် သံသယဖြစ်သည်မှာ ဘာကိုလဲ၊ ၎င်းတို့၏ယူဆပြောဆိုမှုများ မှားယွင်းကြောင်း အထောက်အထားသည် ဘာလဲ'ဟု မေးမြန်းလာမည်ဆိုပါက၊ ကျွန်ုပ်၏အဖြေသည် ဤသို့ဖြစ်သည်။ ၎င်းတို့အပေါ် **သံသယဖြစ်ရသည်မှာ** ကျမ်းမြတ်ကုရ်အာန်၏အများဆိုင်ပညတ်ချက်များကို အခြေခံ၍ဖြစ်သည်။ မုရ်ဂျိအာတို့က '**အီမာန်ရှင်သည်** အားလုံးသောအပြစ်ဒုစရိုက်များကို ကျူးလွန်ခဲ့မည်ဆိုသော်လည်း ဂျဟန္နမ်သို့ ဝင်ရောက်ရမည်မဟုတ်'ဟု ပြောဆိုကြသည်။ ဤသို့ပြောဆိုရာ၌ ၎င်းတို့က အထောက်အထားအဖြစ် အာယတ်များကို ဖေါ်ပြခဲ့ကြသည်။ **ယင်းတို့မှာ အလ္လာဟ်အရှင်၏မိန့်ခွန်းတော်**–

﴿فَمَنۡ يُؤۡمِنۡ بِرَبِّهٖ فَلَا يَخَافُ بَخۡسًا وَّلَا رَهَقًا﴾

**'စင်စစ် မည်သူမဆို မိမိ၏ရှင်အရှင်ကို အီမာန်ယူပါလျှင် ထိုသူသည် လျှော့နည်းခြင်းကို စိုးရိမ်ရမည်မဟုတ်ပေ။ ထို့ပြင် ၎င်းသည် မည်သည့်လွန်ကဲမှုကိုမှလည်း စိုးရိမ်ရမည်မဟုတ်ပေ။'** (စူရာဂျင်န် ၊ ၁၃)

ထို့ပြင် အလ္လာဟ်အရှင်မြတ်**၏မိန့်ခွန်းတော်**–

﴿وَالَّذِيۡنَ اٰمَنُوۡا بِاللّٰهِ وَرُسُلِهٖۤ اُولٰٓئِكَ هُمُ الصِّدِّيۡقُوۡنَ﴾

**'ထို့ပြင် အကြင်သူတို့သည် အလ္လာဟ်အရှင့်ကိုငှင်း၊ အလ္လာဟ်အရှင်၏ တမန်တော်များကိုငှင်း အီမာန်ယူကြလျှင်၊ ထိုသူတို့သည်သာလျှင် သစ္စာရှင်များဖြစ်ကြပေသည်။'** (စူရာဟဒီဒ် ၊ ၁၉)

ထို့ပြင် အလ္လာဟ်**အရှင်မြတ်၏မိန့်ခွန်းတော်**–

﴿كُلَّمَاۤ اُلۡقِىَ فِيۡهَا فَوۡجٌ سَاَلَهُمۡ خَزَنَتُهَاۤ اَلَمۡ يَاۡتِكُمۡ نَذِيۡرٌ ۔ قَالُوۡا بَلٰى قَدۡ جَآءَنَا نَذِيۡرٌ فَكَذَّبۡنَا وَقُلۡنَا مَا نَزَّلَ اللّٰهُ مِنۡ شَىۡءٍ﴾

**'ထိုငရဲအတွင်းသို့ အုပ်စုတစ်စုကို ပစ်ချသည့်အခါတိုင်း ငရဲ၏အစောင့်များက ၎င်းအုပ်စုဝင်များအား 'အသင်တို့ထံ သတိပေးသူ ရောက်မလာသလော'ဟု မေးမြန်းလိမ့်မည်။ ၎င်းတို့က 'ကျွန်ုပ်တို့ထံသို့ အမှန်ပင် သတိပေးသူရောက်လာပါသည်။ သို့နှင့်တိုင် ကျွန်ုပ်တို့က မုသားစွပ်စွဲခဲ့ကြပါသည်။ ထို့ပြင် 'အလ္လာဟ်အရှင်သည် မည်သည့်အရာကိုမှ ချပေးခဲ့ခြင်းမရှိပါ'ဟု ကျွန်ုပ်တို့က ပြောဆိုလွှတ်ခဲ့ကြပါသည်။**

(စူရာမုလ်က် ၊ ၈–၉)

ဤအာယတ်တွင် ﴿كُلَّمَاۤ اُلۡقِىَ فِيۡهَا فَوۡجٌ﴾ **'ထိုငရဲအတွင်းသို့ အုပ်စုတစ်စုကို ပစ်ချသည့်အခါတိုင်း'**ဟု အများဆိုင်**စကားရပ်ဖြင့်** ဖေါ်ပြထားသည်။ ထိုစကားရပ်ဖြင့် ငရဲအတွင်း ပစ်ချခြင်းခံရမည့်သူသည် မုသားစွပ်စွဲသူဖြစ်ကြောင်း သိရှိရသည်။ တဖန် အလ္လာဟ်အရှင်မြတ်၏မိန့်ခွန်းတော်–

﴿لَا يَصۡلٰٮهَاۤ اِلَّا الۡاَشۡقَى ۞ الَّذِىۡ كَذَّبَ وَتَوَلّٰى﴾

**'ထိုငရဲအတွင်းသို့ အလွန်အကြောင်းဆိုးသူမှအပ မည်သူမှ ကျရောက်မည်မဟုတ်။ ထိုသူသည်ကား ငြင်းပယ်ပြီး ကျောခိုင်းခဲ့သူဖြစ်၏။'** (စူရာလိုင်လ် ၊ ၁၅–၁၆)

ဤအာယတ်တွင် သမုစ္စည်းဖြင့် သိမ်းရုံးပြောဆိုမှု၊ စာသားကို အလေးအနက်ဖြစ်စေသည့်အတည်ပြုမှုနှင့်ငြင်းပယ်မှုများပါရှိသည်။ တဖန် အလ္လာဟ်အရှင်မြတ်၏မိန့်ခွန်းတော်–

﴿مَنْ جَاءَ بِالْحَسَنَةِ فَلَهُ خَيْرٌ مِّنْهَا وَهُمْ مِنْ فَزَعٍ يَوْمَئِذٍ امِنُوْنَ﴾

**'အကြင်သူသည် ကောင်းမှုတစ်စုံတစ်ရာ ယူဆောင်၍ လာခဲ့မည်ဆိုလျှင် ထိုသူ့အတွက် ထိုကောင်းမှုထက် သာလွန်ကောင်းမွန်သည့်အရာ ရှိပေသည်။ ထို့ပြင် ၎င်းသည် ထိုနေ့တွင် ကြောက်ကြောက်လန့်လန့်ဖြစ်ရခြင်းမှ လုံခြုံအေးချမ်းစွာ ရှိလိမ့်မည်။'** (စူရာနမလ် ၊ ၈၉)

ဤအာယတ်တွင် '**ကောင်းမှု**'ဟု ဖေါ်ပြထားရာ ကောင်းမှုအပေါင်းတို့၏ဦးသျှောင်သည် အီမာန်သာဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်၏မိန့်ခွန်းတော်–﴿وَ اللّٰهُ يُحِبُّ الْمُحْسِنِيْنَ﴾

**'ထို့ပြင် အလ္လာဟ်အရှင်သည် ကောင်းကျိုးပြုသူများကို ချစ်ခင်နှစ်သက်တော်မူပေသည်။'**

(စူရာအာလဣမ်ရာန် ၊ ၁၃၄)

ထို့ပြင် အလ္လာဟ်အရှင်၏မိန့်ကြားတော်မူချက်–

﴿إِنَّا لَا نُضِيعُ أَجْرَ مَنْ أَحْسَنَ عَمَلًا﴾

**'မုချ ငါအရှင်သည် တစ်စုံတစ်ဦး၏ကောင်းမွန်သော ကျင့်ဆောင်မှု၏အကျိုးကုသိုလ်ကို အချည်းနှီးဖျက်ဆီးစေမည်မဟုတ်ပေ။'** (စူရာကဟ်ဖ် ၊ ၃၀)

အထက်ပါတို့မှာ မုရ်ဂျိအာတို့ဘက်မှ ဖေါ်ပြသောအထောက်အထားများဖြစ်သည်။ သို့နှင့်တိုင် ဤအာယတ်များသည် ၎င်းတို့အတွက် အထောက်အထားမဖြစ်ချေ။ အဘယ်ကြောင့်ဆိုသော် ဤအာယတ်များ၌ အီမာန်ဟု ဖေါ်ပြထားလေသမျှသည် လက်တွေ့ကျင့်သုံးမှုနှင့်ယှဉ်လျက်ရှိသော အီမာန်ကို ဆိုလိုခြင်းဖြစ်သည်။ မကြာခဏ အီမာန်ဆိုသည့်စကားလုံးကို အစ္စလာမ်၏အဓိပ္ပါယ်ဖြင့် သုံးနှုန်းလေ့ရှိကြောင်း ကျွန်ုပ်တို့ ရှင်းလင်းပြဆိုခဲ့ပြီးဖြစ်သည်။ ဆိုလိုသည်မှာ စိတ်နှလုံး၊ ပြောဆိုမှုနှင့်ကျင့်သုံးမှုတို့ တိုက်ဆိုင်ကိုက်ညီသည့်အီမာန်ကို ဖြစ်သည်။ ဤအဓိပ္ပါယ်ကောက်ယူမှုအတွက် အထောက်အထားအဖြစ် ဟဒီစ်အမြောက်အမြား ရှိနေပြီးဖြစ်သည်။ ထိုဟဒီစ်များတွင် ဒုစရိုက်သားတို့ကို ပြစ်ဒဏ်ခတ်မည့်အကြောင်းများနှင့် ပြစ်ဒဏ်၏ပမာဏများကို ဖေါ်ပြထားသည်။ တမန်တော်မြတ်ﷺက–

يخرج من النار من كان في قلبه مثقال ذرة من الايمان . (خ.م)

'အကြင်သူ နှလုံးသားတွင် မြူမှုံခန့်မျှ အီမာန်ရှိလျှင် ထိုသူသည် ဂျဟန္နမ်မှ ကယ်ထုတ်ခြင်းခံရမည်။'

ဟု မိန့်ဆိုထားရာ ဂျဟန္နမ်သို့ ဝင်ရောက်ခြင်းမရှိဘဲ ဂျဟန္နမ်မှ ထုတ်ယူရန် အဘယ်သို့ဖြစ်နိုင်ပါမည်နည်း။ ထို့ပြင် ကျမ်းမြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿إِنَّ اللّٰهَ لَا يَغْفِرُ أَنْ يُّشْرَكَ بِهِ وَ يَغْفِرُ مَا دُوْنَ ذٰلِكَ لِمَنْ يَّشَاءُ﴾

**'စင်စစ်ကေန် အလ္လာဟ်အရှင်သည် မိမိနှင့် ယှဉ်တွဲကိုးကွယ်သည်ကို ခွင့်လွှတ်တော်မူမည် မဟုတ်ပေ။ ထိုယှဉ်တွဲကိုးကွယ်မှုမှအပ အခြားပြစ်မှုများကိုကား အလ္လာဟ်အရှင် အလိုရှိသူကို ခွင့်လွှတ်တော်မူမည်။'**

(စူရာနေစာ၊ ၄၈ ။ ၁၁၆)

ဤအာယတ်တွင် အလ္လာဟ်အရှင်သည် ခွင့်လွှတ်မှုကို မိမိ၏အလိုတော်ရှိလျှင်ဟု ချွင်းချက်ပြုတော်မူထားသည်။ ဤနည်းဖြင့် ဤအာယတ်အရ ပြစ်ဒဏ်ကျခံရမည့်သူများတွင် ယှဉ်တွဲကိုးကွယ်သူများသာမက အခြားပြစ်မှုဒုစရိုက်ကျူးလွန်သူများလည်း ပါဝင်ကြောင်း ထင်ရှားသိသာသည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူချက်–

﴿وَمَنْ يَعْصِ اللّٰهَ وَرَسُوْلَهُ فَإِنَّ لَهُ نَارَ جَهَنَّمَ خَالِدِيْنَ فِيْهَا﴾

**'ထို့ပြင် အကြင်သူသည် အလ္လာဟ်အရှင်ကိုငှင်း၊ အလ္လာဟ်အရှင်၏တမန်တော်ကိုငှင်း ဖီဆန်မည်ဆိုလျှင် ၎င်းအတွက်မှာ ဂျဟန္နမ်မီးသာရှိသည်။ ၎င်းသည် ထိုဂျဟန္နမ်တွင် အမြဲထာဝရနေမည်ဖြစ်သည်။'**

(စူရာဂျင်န် ၊ ၂၃)

ဤအာယတ်၏ဖော်ပြချက်ကို ကာဖိရ်တို့အတွက် သီးသန့်ဖြစ်သည်ဟု ဆိုသူတို့ကား တစ်ယူသန်တဘက်စွန်းသမားများဖြစ်ကြသည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿أَلَا إِنَّ الظَّالِمِينَ فِي عَذَابٍ مُّقِيمٍ﴾

**'အထူးသဖြင့်ကား မတရားသူများသည် ထာဝရပြစ်ဒဏ်တွင် နေကြရမည်။'** (စူရာရှူရာ ၊ ၄၅)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَمَن جَاءَ بِالسَّيِّئَةِ فَكُبَّتْ وُجُوهُهُمْ فِي النَّارِ﴾

**'ထို့ပြင် အကြင်သူသည် မကောင်းမှုပြုကျင့်ခဲ့မည်ဆိုလျှင် ၎င်းတို့မျက်နှာများ ညှိုးရှုံ့ငုံ့လျှိုးကြလျက် ငရဲတွင်းသို့ ဝင်ရခြင်း ခံရမည်။'** (စူရာနမ်လ် ၊ ၉၀)

အချုပ်ဆိုသော် မှန်ကိုအာတို့ ကိုးကားထားသောအာယတ်များသည် အများဆိုင်ဘုံပါသကအထောက်အထားများဖြစ်သည်။ ဤနည်းအတူ ယခုဖော်ပြလိုက်သောအာယတ်များသည်လည်း အပြစ်ဒုစရိုက်ကျူးလွန်သူများကို ပြစ်ဒဏ်ခတ်မည့်အကြောင်း ဘုံပါသကအထောက်အထားများသာဖြစ်ပေသည်။ ဤအာယတ်များထဲတွင် သီးသန့်ဖော်ပြမှုဟူ၍ မပါရှိချေ။ သို့ဖြစ်ရာ နှစ်ဘက်အထောက်အထားများသည် သီးသန့်ဝိဂြိုဟ်ပြုရန်နှင့် ကြံဆကောက်ယူရန် လိုအပ်နေပေသည်။ အဘယ်ကြောင့်ဆိုသော် ဟဒီစ်ဆင့်ပြန်မှုများ*တွင် အပြစ်ဒုစရိုက်ကျူးလွန်သူများကို ပြစ်ဒဏ်ခတ်မည်ဟု ရှင်းလင်းစွာဖော်ပြထားသည်။ သို့သာမက အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَإِن مِّنكُمْ إِلَّا وَارِدُهَا﴾

**'အသင်တို့အနက် ဂျဟန္နမ်ကို ဖြတ်သန်းခြင်း မပြုမည့်သူဟူ၍ မည်သူမျှ မရှိချေ။'**

(စူရာမရ်ယမ် ၊ ၇၁)

ဤအာယတ်တွင် **လူတိုင်းသည် ဂျဟန္နမ်သို့ သွားရမည်ဟု** အတိအလင်းဖော်ပြထားသည်။ အဘယ်ကြောင့်ဆိုသော် မကောင်းမှုကျူးလွန်ခြင်းမှ လုံးဝကင်းသော **အီမာန်ဟူ၍** မရှိသောကြောင့်ဖြစ်သည်။ တဖန် အလ္လာဟ်အရှင်က–

﴿لَا يَصْلَاهَا إِلَّا الْأَشْقَى ۞ الَّذِي كَذَّبَ وَتَوَلَّىٰ﴾

**'ထိုငရဲအတွင်းသို့ အလွန်အကြောင်းဆိုးသူမှအပ မည်သူမှ ကျရောက်မည်မဟုတ်။ ထိုသူသည်ကား ငြင်းပယ်ပြီး ကျောခိုင်းခဲ့သူဖြစ်သည်။'** (စူရာလိုင်လ် ၊၁၅–၁၆)

ဟုလည်း မိန့်ထားတော်မူသည်။ ဤနေရာတွင် သီးသန့်အုပ်စုတစ်ခုကို ရည်ရွယ်မိန့်ကြားခြင်းဖြစ်သည်။ သို့မဟုတ် **'အလွန်အကြောင်းဆိုးသူ'**–ဆိုသောစကားလုံးဖြင့် ခွဲခြားသတ်မှတ်ထားသော လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကို ရည်ရွယ်ခြင်းလည်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်က– ﴿كُلَّمَا أُلْقِيَ فِيهَا فَوْجٌ سَأَلَهُمْ خَزَنَتُهَا﴾ **'ထိုငရဲအတွင်းသို့ အုပ်စုတစ်ခုကို ပစ်ချသည့်အခါတိုင်း ၎င်းအုပ်စုဝင်များအား ငရဲ၏အစောင့်များက မေးမြန်းမည်မှာ'**–ဟု မိန့်တော်မူရာတွင် အုပ်စုဆိုသည်မှာ ကာဖိရ်အုပ်စုကို ဆိုလိုခြင်းဖြစ်သည်။ ဤနည်းအတူ အခြားအာယတ်များကို အများဆိုင်

---

* ဗုခါရီကျမ်းတွင် အနပ်စ်ﷺထံ၏ဆင့်ပြန်မှု'...ليصيبن أقواماً سفع من النار بذنوب أصابوها' (လူမျိုးနွယ်အသီးသီးတို့သည် မိမိတို့ပြုကျင့်ခဲ့သည့် မကောင်းမှုဒုစရိုက်များအတွက် ဂျဟန္နမ်မီး၏ပူလောင်ပြင်းထန်မှုကို မုချခံစားကြရမည်)ဟု ဖော်ပြထားသည်။ ဤအဲဟ်ယာကျမ်း၏သေခြင်းအကြောင်းကဏ္ဍတွင် အလားတူဟဒီစ် အတော်များများ ဖော်ပြလာရှိဦးမည်။

ဘုံပါသကအဖြစ်မှ သီးသန့်သက်ဆိုင်မှုအဖြစ် ဝိဂြိုဟ်ပြု ကြံဆကောက်ယူရမည်ဆိုခြင်းသည် နားလည်ရန် ခက်ခဲသောကိစ္စမဟုတ်ပေ။ ဤကဲ့သို့သောအာယတ်မျိုးနှင့် ကြုံရသည့်အခါ အဗွလ်ဟာစံအရှ်အရီနှင့်အခြားကလာမ်ပညာရှင်တို့သည် အာယတ်၏ဘုံပါသကဖြစ်ခြင်းကို ငြင်းဆန်ခဲ့ကြသည်။ ထို့ပြင် ၎င်းတို့က 'ဤကဲ့သို့သောစကားရပ်များနှင့်ပတ်သက်၍ ယင်းတို့၏အဓိပ္ပါယ်ကို ညွှန်ပြမည့် အဆက်အစပ်တစ်ခု ပေါ်ထွက်သည်အထိ စောင့်ကြည့်ရှာဖွေရမည်'ဟု ဆိုကြသည်။

မုအ်တဇိလာတို့သည် အာယတ်အချို့နှင့်ပတ်သက်၍ အမှောက်မှောက်အမှားမှားဖြစ်ခဲ့ကြသည်။ ယင်းတို့မှာ အလ္လာဟ်အရှင်၏မိန့်တော်မူချက်–

﴿وَ إِنِّي لَغَفَّارٌ لِّمَنْ تَابَ وَ آمَنَ وَعَمِلَ صَالِحًا ثُمَّ اهْتَدَىٰ﴾

**'သို့နှင့်တိုင် အကြင်သူ နောင်တရမည်၊ ထို့ပြင် အီမာန်ယူပြီး ကောင်းမှုကို ကျင့်ကြံမည်၊ ထို့နောက် တရားလမ်းမှန်အပေါ်တွင် ရှိခဲ့မည်ဆိုလျှင်၊ ထိုသူမျိုးအတွက် ငါအရှင်သည် အလွန်ခွင့်လွှတ်တော်မူသောအရှင်ပင်ဖြစ်သည်။'** (စူရာတွာဟာ ၊ ၈၂)

ထို့ပြင် အလ္လာဟ်အရှင်၏မိန့်ကြားတော်မူချက်–

﴿وَالْعَصْرِ ۞ إِنَّ الْإِنسَانَ لَفِي خُسْرٍ ۞ إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ﴾

**'ငါအရှင် ခေတ်သမယကို ကျိန်တွယ်၍ မိန့်ဆိုတော်မူအံ့။ အကြင်သူတို့ အီမာန်ယူခဲ့ကြပြီး ကောင်းမှုကောင်းရာများကို ကျင့်ဆောင်ခဲ့ကြသူများမှအပ၊ လူသားသည်ကား မုချအရှုံးထဲ၌ ရှိနေပေသည်။'** (စူရာအစွရ် ၊ ၁–၃)

ထို့ပြင် အလ္လာဟ်အရှင်၏မိန့်ကြားတော်မူချက်–

﴿وَإِن مِّنكُمْ إِلَّا وَارِدُهَا ۚ كَانَ عَلَىٰ رَبِّكَ حَتْمًا مَّقْضِيًّا﴾

**'အသင်တို့တွင် ဂျဟန္နမ်ကို ဖြတ်မသွားရမည့်သူဟူ၍ မည်သူမျှ မရှိချေ။ ဤသည်မှာ အသင်၏ရဗ်အရှင်ထံတွင် ပြီးစီးအောင်ပြုရမည့် တစ်ချက်လွှတ်အမိန့်ဖြစ်သည်။'** (စူရာမရ်ယမ် ၊ ၇၁)

ဆက်လက်၍ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿ثُمَّ نُنَجِّي الَّذِينَ اتَّقَوا﴾

**'ထို့နောက် ငါအရှင်သည် တက္ကဝါရှိသူများကို လွတ်မြောက်စေတော်မူမည်။'** (စူရာမရ်ယမ် ၊ ၇၂)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူထားသည့်–

﴿وَمَن يَعْصِ اللَّهَ وَرَسُولَهُ فَإِنَّ لَهُ نَارَ جَهَنَّمَ خَالِدِينَ فِيهَا﴾

**'ထို့ပြင် အကြင်သူသည် အလ္လာဟ်အရှင်ကိုငင်း၊ အလ္လာဟ်အရှင်၏တမန်တော်ကိုငင်း ဖီဆန်မည်ဆိုလျှင် ထိုသူအတွက်မှာ ဂျဟန္နမ်မီးသာရှိသည်။ ထိုသူသည် ထိုဂျဟန္နမ်တွင် အမြဲထာဝရနေမည်။'** (စူရာဂျင်န် ၊ ၂၃)

ဤအာယတ်အားလုံးတွင် အလ္လာဟ်အရှင်သည် ကောင်းမှုကျင့်ဆောင်ခြင်းကို အီမာန်နှင့်ဆက်တွဲထားတော်မူသည်။ ထို့ပြင် အလ္လာဟ်အရှင်၏မိန့်ကြားတော်မူချက်–

﴿وَمَن يَقْتُلْ مُؤْمِنًا مُّتَعَمِّدًا فَجَزَاؤُهُ جَهَنَّمُ خَالِدًا فِيهَا﴾

**'ထို့ပြင် အကြင်သူသည် အီမာန်ရှင်တစ်ဦးကို အကြောင်းမဲ့သတ်ဖြတ်လျှင် ထိုသူအတွက် အစားပေးမှုသည် ဂျဟန္နမ်ဖြစ်သည်။ ၎င်းသည် ထိုဂျဟန္နမ်တွင် ထာဝရနေရမည်။'** (စူရာနိသာအ် ၊ ၉၃)

မုအ်တဇိလာတို့သည် အထက်ပါအာယတ်များကို အထောက်အထားအဖြစ်ဖော်ပြခဲ့ကြသည်။ သို့နှင့်တိုင် ထို

အာယတ်များသည် အများဆိုင်ဘုံပါသကများဖြစ်ပြီး သီးသန့်သက်ဆိုင်မှုအဖြစ် ခွဲထုတ်ရန် လိုသေးသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَ يَغْفِرُ مَا دُونَ ذَٰلِكَ لِمَنْ يَشَاءُ﴾

**'ထို့ပြင် ထိုရှိရ်က် ယှဉ်တွဲကိုးကွယ်မှုမှအပ အခြားပြစ်မှုများကိုကား အလ္လာဟ်အရှင် အလိုရှိသူကို ခွင့်လွှတ်တော်မူမည်။'** (စူရာနေစာ၊ ၄၈ ။ ၁၁၆)

ဤအာယတ်၏ အလိုသဘောမှာ အလ္လာဟ်အရှင်သည် ရှိရ်က် ယှဉ်တွဲကိုးကွယ်မှုမှလွဲ၍ အခြားအပြစ်ဒုစရိုက်များကို ခွင့်လွှတ်တော်မူရန်ဆိုလျှင် အလိုတော်ရှိရန် လိုသေးသည်။ တမန်တော်မြတ်ﷺ၏–

يخرج من النار من كان في قلبه مثقال ذرة من الايمان . (خ.م)

'အကြင်သူ နှလုံးသားတွင် မြူမှုံခန့်မျှ အီမာန်ရှိလျှင် ထိုသူသည် ဂျဟန္နမ်မှ ကယ်ထုတ်ခြင်းခံရမည်'– ဆိုသော မိန့်ဆိုမှုသည်လည်း ဤနည်းအလားတူဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည့်–

﴿إِنَّا لَا نُضِيعُ أَجْرَ مَنْ أَحْسَنَ عَمَلًا﴾

**'မုချ ငါအရှင်သည် တစ်စုံတစ်ဦး၏ ကောင်းမွန်သော ကျင့်ဆောင်မှု၏ အကျိုးကုသိုလ်ကို အချည်းနှီး ပျက်စီးစေမည်မဟုတ်ပေ။'** (စူရာကဟဖ် ၊ ၃၀)

နှင့် အလ္လာဟ်အရှင်၏ မိန့်တော်မူချက်–﴿إِنَّ اللَّهَ لَا يُضِيعُ أَجْرَ الْمُحْسِنِينَ﴾

**'မုချအလ္လာဟ်အရှင်သည် ကောင်းကျိုးဆောင်သူများ၏ အကျိုးကုသိုလ်ကို အချည်းနှီးပျက်စီးစေမည် မဟုတ်ပေ။'** (စူရာတောင်ဗဟ် ၊ ၁၂၀)

အပြစ်ဖီဆန်မှုတစ်ခုခုကျူးလွန်ခြင်းကြောင့် အရင်းခံဖြစ်သောအီမာန်နှင့်အမိန့်နာခံခဲ့မှုများအားလုံး အချည်းနှီး ပျက်စီးရမည်ဆိုခြင်းသည် မဖြစ်စကောင်းသောကိစ္စဖြစ်သည်။ ဤအချက်ကို အထက်ပါအာယတ်များက သက်သေ ခံလျက်ရှိသည်။ သို့နှင့်အမျှ မုအ်တဇိလာတို့က အကိုးအကားပြုထားသည့်–

﴿وَمَنْ يَقْتُلْ مُؤْمِنًا مُتَعَمِّدًا فَجَزَاؤُهُ جَهَنَّمُ خَالِدًا فِيهَا﴾

**'ထို့ပြင် အကြင်သူသည် အီမာန်ရှင်တစ်ဦးကို အကြောင်းမဲ့သတ်ဖြတ်လျှင် ထိုသူအတွက် အစားပေးမှုသည် ဂျဟန္နမ်ဖြစ်သည်။ ၎င်းသည် ထိုဂျဟန္နမ်တွင် ထာဝရနေရမည်။'** (စူရာနိဆာ ၊ ၉၃)

ဟူသောအာယတ်တွင် အသတ်ခံရသူအား အီမာန်ရှင်ဖြစ်ကြောင်း သိထားပြီး ထိုသို့အီမာန်ရှိသည့်အတွက်ကြောင့် သတ်ဖြတ်ခဲ့ခြင်းကို ရည်ရွယ်မိန့်ဆိုခြင်းဖြစ်သည်။ အာယတ်၏ကျရောက်ခြင်းအကြောင်းခံကလည်း ဤအတိုင်းပင် ရှိခဲ့သည်။

အကယ်၍ အသင်က 'ကျင့်သုံးမှုမပါလျှင်လည်း အီမာန်ကတော့ ရှိနေသည်ဆိုခြင်းမှာ နှစ်သက်ရွေးချယ်ရမည့်အဆိုဖြစ်ကြောင်း သိရပါပြီ။ သို့နှင့်တိုင် 'အီမာန်ဟူသည် နှလုံးသားမှ ယုံကြည်ပြီး နှုတ်လျှာမှ ဝန်ခံမြွက်ဟကာ လက်တွေ့အားဖြင့်လည်း ကျင့်ကြံအားထုတ်ခြင်းဖြစ်သည်'ဟု ရှေးသူဟောင်းတို့ထံမှ ကျော်ကြားသော အဆိုအမိန့် တစ်ခုရှိထားသည်။ ထိုအဆိုအမိန့်၏ အလိုသဘောမှာ မည်သို့ပါလဲ'–ဟု မေးမြန်းလာမည်ဆိုပါက ကျွန်ုပ်၏အဖြေသည် ဤသို့ဖြစ်၏။ ကျင့်သုံးမှုသည် အီမာန်၏ အစိတ်အပိုင်းဖြစ်သည် ဆိုသောအချက်ကို နားလည်ရန်မခက်လှပါ။ အကြောင်းမှာ ကျင့်သုံးမှုသည် အီမာန်ကို ပြည့်ဝစုံလင်စေသောအရာဖြစ်သည်။ အီမာန်နှင့်ကျင့်သုံးမှု၏ ဥပမာသည် လူသား၏ ဦးခေါင်းနှင့်လက်နှစ်ဖက်ကဲ့သို့ဖြစ်သည်။ ဦးခေါင်းမပါသောလူကို လူဟု ဆိုနိုင်မည်မဟုတ်ပေ။ သို့သော် လက်ပြတ်နေသောလူကိုမူ လူဟု ဆိုနိုင်သည်။ ဤနည်းအလားတူ တက်ဗ်ဗီဟ်ဖတ်ခြင်းနှင့် တက္ကဗီရ်ဖတ်ခြင်းသည် နမာဇ်၏ အစိတ်အပိုင်းများဖြစ်သည်။ သို့သော် ထိုဖတ်ရွတ်မှုများ မပါသဖြင့် နမာဇ် မပျက်ချေ။ အီမာန်ရေးရာတွင်

နှလုံးသားမှ ယုံကြည်လက်ခံခြင်းသည် လူသား၏ဖြစ်တည်မှုတွင် ဦးခေါင်းသဖွယ်ဖြစ်သည်။ ဦးခေါင်းမရှိလျှင် လူသားဟူ၍ မဖြစ်တည်နိုင်သကဲ့သို့ နှလုံးသားမှ ယုံကြည်လက်ခံမှုမရှိလျှင် အီမာန် မရှိနိုင်ပေ။ အီမာန်မှအပ အခြားအမိန့်နာခံမှုများသည် လူသား၏ခြေလက်အစိတ်အပိုင်းများကဲ့သို့ဖြစ်သည်။ ထိုနာခံကျင့်သုံးမှုများသည် တစ်ခုနှင့်တစ်ခု ထွတ်မြတ်မှုခြင်းမတူကြချေ။ တမန်တော်မြတ်ﷺက မိန့်ဆိုထားသည်မှာ–

لا يزني الزاني حين يزني وهو مؤمن. (خ.م)

'ဖေနာမပြုနှင့်။ ဖေနာပြုသူသည် ဖေနာပြုကျင့်သောအချိန်မှာလည်း အီမာန်ရှင်အဖြစ်ပင်ရှိနေသည်။'

ဤဟဒီစ်အရ ဆွဟာဗဟ်ﷺသခင်တို့သည် မုအ်တဇိလာတို့၏လမ်းစဉ်ကို ခံယူခြင်းမပြုခဲ့ကြချေ။ မုအ်တဇိလာတို့၏လမ်းစဉ်မှာ လူသားသည် ဖေနာပြုကျင့်လျှင် အီမာန်၏ဘောင်မှ ထွက်သွားသည်ဟူ၍ဖြစ်သည်။ ဤဟဒီစ်၏အဓိပ္ပါယ်မှာ ထိုသူ၏အီမာန်သည် တကယ်တန်း စုံလင်ပြည့်ဝခြင်းမရှိတော့ပါ။ ဥပမာအားဖြင့် ခြေလက်အင်္ဂါပြတ်တောက်နေသူကို လူမဟုတ်ဟု ပြောဆိုခြင်း၏အဓိပ္ပါယ်သည် လူပီပီသသ မဟုတ်တော့ပါဟု ဆိုခြင်းဖြစ်သည်။ ထိုသို့လူမဟုတ်ဟု ပြောဆိုခြင်းသည် လူသား၏အရင်းခံပဓာနများ မရှိတော့ပါဆိုသော အဓိပ္ပါယ်မဟုတ်ချေ။

## ဒုတိယမတ်စအလာ

အကယ်၍ အသင်က စောဒကအဖြစ်– 'ရှေးသူဟောင်းတို့ အညီအညွတ် သဘောတူထားသောအချက်မှာ အီမာန်သည် အတိုးအလျှော့ရှိသည်။ အမိန့်နာခံမှုကြောင့် အီမာန်သည် တိုးပွါးပြီး အမိန့်ဖီဆန်မှုကြောင့် အီမာန်သည် လျှော့နည်းသွားသည်။ သို့ဖြစ်ရာ အီမာန်သည် နှလုံးသားမှ ယုံကြည်လက်ခံခြင်းကို ဆိုလိုခြင်းဖြစ်လျှင် အီမာန်၏ အတိုးအလျှော့ရှိခြင်းကို စဉ်းစားပုံဖေါ်၍ရနိုင်မည်မဟုတ်ချေ'ဟု ပြောဆိုမည်ဆိုလျှင် ကျွန်ုပ်၏အဖြေမှာ ဤသို့ဖြစ်သည်။

ရှေးသူဟောင်းတို့သည် မှန်ရာကန်ရာကို သက်သေခံသူများဖြစ်သည်။ ထိုသခင်တို့၏ဆိုမိန့်မှုကို မည်သူတစ်ဦးတစ်ယောက်ကမျှ ပြောင်းလဲပြင်ဆင်ခြင်း မပြုသင့်ပေ။ ထိုသခင်တို့ ဆိုမိန့်သမျှသည် အမှန်တရားဖြစ်သည်။ ထိုဆိုမိန့်မှုများကို နားလည်ရန်သာ အရေးကြီးသည်။ ထိုသခင်တို့၏အထက်ပါမိန့်ဆိုချက်ထဲတွင် ကျင့်သုံးမှုသည် အီမာန်၏အစိတ်အပိုင်းမဟုတ်ကြောင်း၊ ယင်းကျင့်သုံးမှုသည် အီမာန်တည်ရှိရန် အခြေခံလိုအပ်ချက်မဟုတ်ကြောင်း အထောက်အထားပါရှိနေသည်။ အမှန်မှာ ထိုကျင့်သုံးမှုသည် အပိုထပ်ဆောင်းသောအရာဖြစ်သည်။ ထိုကျင့်သုံးမှုဖြင့် အီမာန်သည် တိုးပွါးများပြားလာရသည်။

ရှင်းနေသည်မှာ အရာတစ်ခုသည် မိမိကိုယ်တိုင်က တိုးပွါးခြင်းမဖြစ်ဘဲ အပိုထပ်ဆောင်းသောအရာဖြင့် တိုးပွါးများပြားလာရခြင်းဖြစ်သည်။ သို့ဖြစ်ရာ လူသားသည် သူ၏ဦးခေါင်းက တိုးပွါးလာခြင်းဖြစ်သည်ဟု ပြောဆို၍ မရပေ။ အမှန်မှာ လူသားသည် ၎င်း၏မုတ်ဆိတ်နှင့် ဝဖြိုးမှုဖြင့်သာ တိုးပွါးလာခြင်းဖြစ်သည်။ ဤနည်းအလားတူ နမာဇ်သည် ရကူ စစ်ဂျဒဟ်တို့ဖြင့် တိုးပွါးများပြားရသည်ဟု ပြောဆို၍ မရနိုင်ပေ။ အမှန်မှာ နမာဇ်သည် စွန္နတ်များ မွစ်တဟဗ်များကြောင့်သာ တိုးပွါးလာခြင်းဖြစ်သည်။ သို့ရှိရာ အထက်ပါရှေးသူဟောင်းတို့၏ဆိုမိန့်မှုအရ အတိအလင်းသိရသည်မှာ အီမာန်သည် တည်ရှိမှုတစ်ခုဖြစ်သည်။ ထိုသို့တည်ရှိပြီးနောက်မှ အီမာန်သည် တိုးပွါးမှုနှင့်လျှော့နည်းမှုဟူ၍ အပြောင်းအလဲများဖြစ်ပေါ်သည်။

အကယ်၍ အသင်က 'စောဒကတက်စရာကတော့ ကျန်နေဆဲဖြစ်သည်။ ယုံကြည်လက်ခံမှုဆိုသည်မှာ **စိတ်**အခြေအနေတစ်ခုကို ခေါ်ဆိုခြင်းဖြစ်သည်။ သို့စင်လျက် ယင်းသည် အဘယ်ကြောင့် တိုးပွါးမှု လျှော့နည်းမှု**ဖြစ်ရ**ပါသလဲ'ဟု ပြောဆိုလာမည်ရှိသော် ထိုအတွက် ကျွန်ုပ်၏အဖြေသည် ဤသို့ဖြစ်သည်။

ကျွန်ုပ်တို့သည် မရောင်ရာဆီလူး တလွဲဆံပင်ကောင်းခြင်းများကို စွန့်လွှတ်ပြီး ပွဲဆူအောင်လုပ်သူများ၏ဆူဆူညံညံပြုမှုများကို ဥပက္ခာပြုနိုင်မည်၊ သစ္စာကြေတ်ဖုံးကို ဖွင့်နိုင်မည်ဆိုလျှင် ထိုဒွိဟသံသယသည် ပြေပျောက်ရမည်သာဖြစ်သည်။ ကျွန်ုပ်တို့ ပြောဆိုရှင်းပြမည့်အချက်မှာ အီမာန်ဆိုသောစကားလုံးသည် အဓိပ္ပါယ်အမျိုးမျိုးဖြင့် အသုံးပြုသောဝေါဟာရဖြစ်သည်။ ထိုဝေါဟာရကို နည်းလမ်းသုံးသွယ်ဖြင့် အသုံးပြုသည်။

**ပထမနည်းလမ်း**– ယင်းသည် **အီမာန်**ဆိုသည့်စကားလုံးကို ယုံကြည်လက်ခံမှု၏အဓိပ္ပါယ်ဖြင့် သုံးနှုန်းခြင်းဖြစ်သည်။ ထိုသို့သုံးနှုန်းရာ၌ မြင်တွေ့မှုအရလည်းမဟုတ်၊ အသိပွင့်လင်းမှုအရလည်းမဟုတ်ဘဲ၊ စွဲယူယုံကြည်မှုအရနှင့် သူတစ်ပါး၏နောက်လိုက်လုပ်မှု**အရဖြစ်သည်။** ယင်းသည် **လူသာမာန်**တို့၏အီမာန်ဖြစ်သည်။ သို့မှုမက သီးသန့်လူပုဂ္ဂိုလ်များမှလွဲ၍ လူအားလုံး**၏အီမာန်**သည် ဤအတိုင်း**သာ**ဖြစ်သည်။ ဤစွဲယူယုံကြည်မှုသည် စိတ်နှလုံးတွင် စွဲမြဲလျက်ရှိပြီး **ရံဖန်ရံခါ တောင့်တင်းအားကောင်းသည်။ ရံဖန်ရံခါ** အားနည်းပျော့ပြောင်းသည်။ ယင်းသည် ဥဒါဟရဏ်အားဖြင့် အပ်ချည်လုံးတွင် **ရစ်ပတ်လျက်ရှိသော**အပ်ချည်ကဲ့သို့ဖြစ်သည်။ အသင်သည် ဤအချက်ကို နားမလည်**မရှိလေနှင့်။ ဤအချက်ကို အသင်သည် ရဟူဒီများ၊ နဆွာရာနီများနှင့်** ဗိဒအတ်သမားများ၏အခြေအနေ**ကို ကြည့်၍ အသိတရားယူနိုင်သည်။ ၎င်းတို့အနက် စွဲယူယုံကြည်မှု ပြင်းထန်သူများရှိရာ၊** သတိပေးခြောက်လှန့်ခြင်း၊ **ဟောပြောဆုံးမခြင်း၊ အထောက်အထားသာဓကပြခြင်းများဖြင့် ၎င်းတို့၏စွဲယူယုံကြည်မှုကို** အမြစ်မှ နှုတ်ပယ်ရန် **မည်သို့မျှ** မဖြစ်နိုင်ချေ။ တဖန် ၎င်းတို့တွင် **သာမာန်စကားတစ်ခွန်းဖြင့်လည်း ဒွိဟသံသယဝင်သွားသူများ**ရှိသည်။ ၎င်းတို့၏စွဲယူယုံကြည်မှုကို ပြောင်းလဲရန်မှာ လွယ်ကူသည်**။ ၎င်းတို့အား အနည်းငယ်** **သတိပေးခြောက်လှန့်ရုံ**သာလိုသည်။ စင်စစ်တွင် ၎င်းတို့၏စွဲယူယုံကြည်မှုသည် ပထမ**လူများကဲ့သို့ပင် ဒွိဟသံသယမပါရှိပေ။ သို့နှင့်တိုင်** ဤအုပ်စုနှစ်ခုသည် ယုံကြည်ချက်တောင့်တင်းခိုင်မာမှုတွင် ကွာခြားလျက်ရှိလေသည်။

အမှန်တရားကို စွဲယူယုံကြည်ရာတွင်လည်း အထက်ပါအုပ်စုနှစ်ခု၏အနေအထားပုံစံမျိုး ရှိနေသည်။ လက်တွေ့ကျင့်ကြံအားထုတ်မှုက ထိုယုံကြည်ချက်ခိုင်မာမှုကို တိုးပွါးများပြားစေသည်။ ရေလောင်းခြင်းဖြင့် သစ်ပင်များစည်ပင်လာသကဲ့သို့ဖြစ်သည်။ ထိုအကြောင်းကြောင့်ပင် အလ္လာဟ်အရှင်က အီမာန်နှင့်ပတ်သက်၍ မိန့်ကြားရာတွင်–

﴿فَزَادَتْهُمْ إِيمَانًا﴾

**'သို့ဖြစ်ရာ ၎င်းတို့၏အီမာန်ကို တိုးတက်စေခဲ့သည်။'** (စူရာတောင်ဗဟ်၊ ၁၂၄)

ဟု မိန့်တော်မူခြင်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်က–

﴿لِيَزْدَادُوٓا إِيمَانًا مَّعَ إِيمَانِهِمْ﴾

**'၎င်းတို့တွင် အီမာန်ရှိနေသည်နှင့်အမျှ ၎င်းတို့၏အီမာန်ကို တိုးပွါးစေရန်ဖြစ်သည်။'**(စူရာဖတာဟ်၊ ၄)

ဟုလည်း မိန့်ကြားတော်မူထားသည်။ တမန်တော်မြတ်ﷺ၏အချို့သောမိန့်ဆိုမှုများတွင်–

الإيمان يزيد و ينقص ۰ (ق)

'အီမာန်သည် အတိုး အလျော့ဖြစ်သည်။'

ဟုဖော်ပြလာရှိသည်။ ဤသို့ အတိုးအလျော့ဖြစ်ခြင်းသည် နှလုံးသားတွင် အမိန့်နာခံကျင့်ဆောင်မှုများ၏အာနိသင်သက်ရောက်မှုရှိသောအခါမှာဖြစ်သည်။ ဤသို့အီမာန်အတိုးအလျော့ဖြစ်ခြင်းကို စိတ်စူးစိုက်ပြီး အိဗာဒတ်ပြုနေချိန်၌ရှိနေသော မိမိ၏အခြေအနေနှင့်အိဗာဒတ်မပြုဘဲနေချိန် မိမိ၏အခြေအနေကို သတိမူစောင့်ကြည့်သူကသာ သိလေသည်။ ဤအခြေအနေနှစ်ရပ်သည် သိသိသာသာ ကွာခြားလေသည်။ ပထမအခြေအနေတွင် ရှိနေသည့် ယုံကြည်စွဲယူမှုထဲသို့ တစ်စုံတစ်ယောက်က ဒွိဟသံသယတစ်ခုခု ထည့်သွင်းမည်ဆိုလျှင် ထည့်သွင်း၍ ရနိုင်မည်မဟုတ်ချေ။

အကြင်သူက ဖသဆိုးကလေးကို သနားကြင်နာရမည်ဟု ယုံကြည်ထားသည်။ ယုံကြည်မှုအလျောက် ထိုသူ

သည် ဖသဆိုးကလေးငယ်များ၏ခေါင်းကို လက်ဖြင့် ပွတ်သပ်ပြီး နည်းကြင်နာစွာ ဆက်ဆံခဲ့သည်။ ထိုလက်တွေ့လုပ်ရပ်ကြောင့် သူ၏အစ္စတ္တတွင် သနားကြင်နာမှုများ တဖွါးဖွါး တိုးပွါးလာသည်ကို တွေ့ရမည်။ ဤနည်းနှင်နှင် မိမိကိုယ်ကို ကျိုးငြဲနိမ့်ချရမည်ဟု ယုံကြည်ထားသူသည် ယုံကြည်မှုနှင့်အညီ အခြားသူများကို ရိုကျိုးဝပ်တွားစွာ ဆက်ဆံခဲ့မည်ဆိုလျှင် ထိုလက်တွေ့လုပ်ရပ်ကြောင့် သူ၏နှလုံးသားထဲတွင် ကျိုးငြဲနိမ့်ချမှုများ တိုးပွါးလာကြောင်း ခံစားသိရှိရမည်ဖြစ်သည်။ နှလုံးသား၏အရည်အချင်းဝိသေသများအားလုံးသည် ဤအတိုင်းသာဖြစ်သည်။ ထိုအရည်အချင်းများက ခန္ဓာကိုယ်တွင် လက်တွေ့ကျင့်သုံးမှုအဖြစ် ပေါ်ထွက်လာသည်နှင့်အမျှ ထိုလက်တွေ့ကျင့်သုံးမှု၏အာနိသင်က ထိုအရည်အချင်းများပေါ်သို့ တဖန်ပြန်၍ သက်ရောက်လေသည်။ ထိုအခါ ထိုအရည်အချင်းများသည် ပို၍ခိုင်မာပို၍တိုးပွါးများပြားလာရပေသည်။ ဤအကြောင်း အကျယ်ရှင်းလင်းချက်ကို မွန်ဂျီယတ်အပိုင်းနှင့်မုဟ်လိကတ်အပိုင်းများတွင် ဖေါ်ပြမည်။ ထိုအပိုင်းများတွင် အတွင်းနှင့်အပြင် ဆက်သွယ်မှု၊ လက်တွေ့ကျင့်သုံးမှုနှင့် ယုံကြည်ချက်များ၊ စိတ်နှလုံးများ၏ဆက်သွယ်နေမှုများအကြောင်း ပါရှိမည်ဖြစ်သည်။

ဤအကြောင်းအရာသည် အောက်လောကနှင့် အထက်လောကတို့၏ဆက်သွယ်မှုအမျိုးအစားမှ ဖြစ်သည်။ အောက်လောကဟု ဆိုရာမှာ အာရုံငါးပါးဖြင့် မြင်တွေ့သိရှိရသော လောကကို ကျွန်ုပ်ဆိုလိုသည်။ အထက်လောကဟုဆိုရာမှာ အတွင်းမျက်စေ့၏အလင်းရောင်ဖြင့် မြင်တွေ့ရသောလောကကို ဆိုလိုသည်။ စိတ်နှလုံးသည် အထက်လောကနှင့်သက်ဆိုင်သည်။ ခန္ဓာကိုယ်အစိတ်အပိုင်းများနှင့်ထိုအစိတ်အပိုင်းများ၏လုပ်ကိုင်ဆောင်ရွက်မှုများသည် အောက်လောကနှင့်သက်ဆိုင်သည်။ လောကနှစ်ခု၏ဆက်သွယ်နေမှုသည် အလွန်တရာ သိမ်မွေ့လှသည်ဖြစ်ရကား အချို့လူတို့သည် ထိုလောကနှစ်ခုကို တစ်ခုတည်းဖြစ်သည်ဟု ထင်မှတ်ကြ၏။ အချို့လူတို့ကမူ လောကဆိုသည်မှာ ဤရုပ်ခန္ဓာအာရုံငါးပါးနှင့် ထိတွေ့နေရသောလောကသာ ရှိပြီး ဤလောကအပြင် အခြားလောက မရှိဟု ထင်မှတ်ကြသည်။ ဤလောကနှစ်ခု၏တည်ရှိခြင်း၊ ၎င်းတို့၏သီးခြားဖြစ်တည်နေခြင်းနှင့်၎င်းတို့အချင်းချင်းဆက်စပ်နေခြင်းကို အောက်ပါကဗျာပိုဒ်က သွယ်ဝိုက်ဖေါ်ကျူးလျက်ရှိသည်။

رقَّ الـزخـاجُ ورقَّتِ الـخـمـر وتـشـابـهـا فـتـشـاكـل الأمـرُ

*ဖန်ခွက်ကလည်း အကြည်၊ သေရည်အရက်ကလည်း အကြည်*

*ထိုနှစ်ခုသည် တစ်ခုနှင့်တစ်ခု ဆင်တူရိုးမှားဖြစ်လျက်ရှိသည်။*

فـكـأنـمـا خـمـر ولا قـدحٌ وكـأنـمـا قـدحٌ ولا خـمـرٌ

*ဖန်ပြာခွက်နှင့်သေရည်အရက်၊ သေရည်အရက်နှင့်ဖန်ပြာခွက်*

*သေရည်လေလား၊ ဖန်ပြာခွက်လား ခွဲခြားရ ခက်လှတော့၏။*

ယခုကျွန်ုပ်တို့ မူလရည်မှန်းချက်ဆီသို့ ပြန်သွားကြမည်။ အထက်က ဖေါ်ပြခဲ့သောစကားချပ်သည် မုအာမိလတ်ပညာ၏အပြင်ဘက်မှဖြစ်သည်။ သို့သော် မုအာမိလတ်ပညာနှင့်မုကာရှိဖတ်ပညာ နှစ်ခုတို့သည်လည်း တစ်ခုနှင့်တစ်ခု ပတ်သက်ဆက်စပ်လျက်ရှိသည်။ အသင်သည် တမင်္ဂလာခွဲခြားမပစ်မချင်း မုကာရှိဖတ်ပညာသည် မုအာမိလတ်ပညာဘက်သို့ ယိမ်းညွှတ်လျက်ရှိကြောင်း တွေ့ရလိမ့်မည်။ ထိုအတွက်ကြောင့်ပင် အလီ كرم الله وجهه သခင်က 'အီမာန်သည် ဖြူစင်လင်းဝင်းသောအဆင်းဖြင့် ပေါ်ထွက်သည်။ လူသားက ကောင်းမှုများကို ကျင့်ဆောင်သောအခါ ထိုလင်းဝင်းမှုသည် တိုးလာပြီး နှလုံးသားတစ်ခုလုံးပင် ဖြူစင်လင်းဝင်းသွားသည်။ နိဖာက်သည် မဲနက်သောအစွန်းအထင်းတစ်ခုဖြစ်သည်။ လူသားသည် တားမြစ်မှုများကို ချိုးဖောက်ကျူးလွန်လျှင် ထိုအစွန်းအထင်းသည် ကြီးထွားလာသည်။ နောက်ဆုံး နှလုံးသားတစ်ခုလုံး မဲနက်သွားသည်အထိဖြစ်သည်။ ထိုနှလုံးသားပေါ်တွင် တံဆိပ်ထိုးလိုက်သလို ဖျက်မရအောင် စွဲမြဲသွားလိမ့်မည်။ ထိုသို့ပြောဆိုပြီးနောက် အလီ كرم الله وجهه သခင်က အောက်ပါအာယတ်ကို

ဖတ်ရွတ်ခဲ့သည်။

﴿كَلَّا بَلْ رَانَ عَلَى قُلُوبِهِمْ بِمَا كَانُوا يَكْسِبُونَ﴾

**'ဤသို့အလျှဉ်းမဟုတ်။ အမှန်မှာ ၎င်းတို့ရှာဖွေဆည်းပူးခဲ့သည်များက ၎င်းတို့၏နှလုံးသားတွင် စွဲထင်ပိတ်ဖုံးသွားခဲ့ပြီဖြစ်သည်။'** (မုတဖ်ဖိဖီန် ၁၄)

**ဒုတိယနည်းလမ်း**– ယင်းသည် အီမာန်ဆိုသည့်စကားလုံးကို လက်ခံယုံကြည်မှုနှင့်လက်တွေ့ကျင့်သုံးမှု နှစ်ခုစလုံး၏အဓိပ္ပါယ်ဖြင့် သုံးနှုန်းခြင်းဖြစ်သည်။ တမန်တော်မြတ် ﷺ ၏မိန့်ဆိုမှု–

الإيمان بضع سبعون بابًا . (خ.م)

**'အီမာန်တွင် တံခါးပေါက် ခုနစ်ဆယ်ကျော်ရှိသည်။'**

တွင် **ဖော်ပြထားသကဲ့သို့ဖြစ်သည်။ ထို့ပြင် တမန်တော်မြတ် ﷺ က–**

لا يزني الزاني حين يزني وهو مؤمن . (خ.م)

**'မေနာမပြုနှင့်။ မေနာပြုသူသည် မေနာပြုကျင့်သောအချိန်မှာလည်း အီမာန်ရှင်အဖြစ်ပင်ရှိနေသည်။'**

ဟုလည်း မိန့်ဆိုထားသည်။ **အကယ်၍ အီမာန်၏အဓိပ္ပါယ်တွင် လက်တွေ့ကျင့်သုံးမှုလည်း** ပါရှိသည်ဆိုလျှင် ထိုကျင့်သုံးမှုများကြောင့် အီမာန်တွင် **အတိုးအလျှော့ ရှိလာနိုင်သည်မှာ ရှင်းနေပေသည်။ ယုံကြည်လက်ခံမှုသက်သက်**တွင် ထိုသို့အီမာန်တိုးသည်ဟူ၍ ရှိနိုင်ပါမည်လား။ **ဤကိစ္စနှင့်ပတ်သက်၍ အယူအဆကွဲလွဲမှုများတော့ရှိနေသည်။** အီမာန်တွင် အတိုးအလျှော့ဟူ၍ ရှိသည့်အကြောင်း **ကျွန်ုပ်တို့ ညွှန်းဆိုဖော်ပြခဲ့ပြီးပြီ။**

**တတိယနည်းလမ်း**– ယင်းမှာ အီမာန်စကားလုံးကို **မုချဒိဋ္ဌလက်ခံယုံကြည်မှု၏အဓိပ္ပါယ်ဖြင့်** သုံးနှုန်းခြင်းဖြစ်သည်။ ဤမုချဒိဋ္ဌယုံကြည်မှုကို အသိပွင့်ခြင်းဖြင့်၎င်း၊ ရင်လင်းနှလုံးပွင့်သဘောပေါက်ခြင်းဖြင့်၎င်း၊ အတွင်းမျက်စေ့ဖြင့် တွေ့မြင်ရသဖြင့်၎င်း **ရရှိလေသည်။ အီမာန်၏အခြားအမျိုးအစားများနှင့်ယှဉ်လျှင်** ဤအမျိုးအစားအီမာန်သည် တိုးခြင်းလျော့ခြင်းကိုလက်ခံရန် **အလွန်အစေးဆုံးဖြစ်သည်။** သို့နှင့်တိုင် ကျွန်ုပ်ပြောဆိုမည့်အချက်မှာ မည်သို့မှ ဒွိဟဖြစ်ရန်မရှိသည့် ဒိဋ္ဌယုံမှုထဲတွင်လည်း **စိတ်ချလက်ချရှိမှုသည် အမျိုးမျိုးရှိနိုင်သေးသည်**ဟု ဖြစ်သည်။ ဥဒါဟရဏ်အားဖြင့် နှစ်သည် တစ်ထက် ပို၍များသည်ဆိုသောအချက်နှင့် လောကသည် အဖန်ဆင်းခံနှင့်အသစ်အရာဖြစ်သည် ဆိုသောအချက်နှစ်ချက်တွင် မည်သည့်အချက်ကိုမှ ဒွိဟပွါးရန်မဖြစ်နိုင်ပေ။ သို့သော် ပထမအချက်အပေါ် စိတ်ချလက်ချရှိမှုလောက် ဒုတိယအချက်အပေါ် စိတ်ချလက်ချရှိနိုင်မည်မဟုတ်ချေ။ အခြားသောမုချဒိဋ္ဌကိစ္စရပ်များသည်လည်း ဤနည်းအလားတူပင်ဖြစ်သည်။ ယကီန် ခေါ် ဒိဋ္ဌယုံမှု၏အကြောင်းကို အာခိရတ်ပညာရှင်များ၏အချင်းလက္ခဏာများကဏ္ဍတွင် ဖော်ပြခဲ့ပြီးဖြစ်ရာ၊ ယခုတစ်ကြိမ် ထပ်မံဖော်ပြရန် မလိုတော့ပြီ။

အီမာန် တိုးခြင်းလျော့ခြင်းနှင့်ပတ်သက်၍ ရှေးသူဟောင်းတို့ ပြောဆိုခဲ့သောသုံးနှုန်းဖော်ပြမှုများအားလုံးသည် မှန်ကန်ကြောင်း ထင်ရှားပေသည်။ ဤကိစ္စသည် ဟဒီးစ်တော်များတွင် လာရှိထားပြီးဖြစ်ရာ ရှေးသူဟောင်းတို့ ပြောဆိုခဲ့သောသုံးနှုန်းဖော်ပြမှုများသည် မမှန်မကန်ဟုဆိုရန် အကြောင်းမရှိပေ။ တမန်တော်မြတ် ﷺ မိန့်ဆိုခဲ့သည်မှာ–

يخرج من النار من كان في قلبه مثقال ذرة من إيمان . (خ.م)

'အကြင်သူ နှလုံးသားတွင် မြူမှုံခန့်မျှ အီမာန်ရှိလျှင် ထိုသူ့ကို ဂျဟန္နမ်မှ ထုတ်ယူမည်ဖြစ်သည်။'

ဤဟဒီးစ်သည် အချို့ဆင့်ပြန်ချက်များတွင် ' مثقال دينار '(ဒင်္ဂါးပြား ပမာဏခန့်)ဟူသောစကားလုံးဖြင့် လာရှိသည်။ နှလုံးသား၏စွဲယူယုံကြည်မှုတွင် အနည်းနှင့်အများ ကွာခြားခြင်းသာမရှိလျှင် ထိုသို့အတိုင်းအတာပမာဏများ ကွဲလွဲစွာရှိနေခြင်းသည် မည်သည့်အဓိပ္ပါယ်ဖြစ်သနည်း။

## မိမိ၏အီမာန်ကို 'အင်ရှာအလ္လာဟ်' ခံ၍ ပြောဆိုခြင်း၏ မတ်စအလာ

အကယ်၍ စာရှုသူက 'ရှေးသူဟောင်းတို့ ပြောဆိုခဲ့သည့် 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင် ကျွန်ုပ် အီမာန်ရှင်ဖြစ်သည်'ဟူသောစကားသည် ဘယ်လိုအကြောင်းပါလဲ'ဟု မေးမြန်းခဲ့မည်ဆိုပါက ကျွန်ုပ်၏အဖြေသည် ဤသို့ဖြစ်သည်။ စကားကို ချွင်းချက်ထား၍ ပြောဆိုခြင်းသည် ဒွိဟရှိသောကြောင့်ဖြစ်သည်။ အီမာန်ရေးရာတွင် ဒွိဟဖြစ်ခြင်းသည် ကွဖ်ရ်ဖြစ်သည်။ သို့နှင့်တိုင် ထိုရှေးသူဟောင်းအားလုံးသည် မိမိတို့အီမာန်ကို ဖော်ပြရာတွင် မုချစကားပြောဆိုရန် တုန့်ဆိုင်းလေ့ရှိကြသည်။ ထိုသို့ပြောဆိုခြင်းမှ ရှောင်ရှားလေ့ရှိကြသည်။

ဆွဖ်ယန်ဆောရ်ရီ ‌သခင်က 'အလ္လာဟ်အရှင့်ထံတော်တွင် ကျွန်ုပ်အီမာန်ရှင်ဖြစ်သည်ဟု ပြောဆိုသူသည် လူလိမ်ဖြစ်သည်။ ထို့ပြင် 'ကျွန်ုပ်သည် အစစ်အမှန် အီမာန်ရှင်ဖြစ်သည်'ဟု ပြောဆိုခဲ့လျှင် ထိုသို့ပြောဆိုခြင်းသည် ဗိဒအတ်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထိုသူသည် ကိုယ်တိုင်က အီမာန်ရှင်ဖြစ်ကြောင်း သိထားသည့်အပေါ်မှာ အီမာန်ရှိကြောင်း ပြောဆိုခြင်းသည် အဘယ်ကြောင့် လူလိမ်ဖြစ်ရပါသလဲ။ အကြင်သူသည် တကယ်တန်း အီမာန်ရှိသူဖြစ်ခဲ့လျှင် ထိုသူသည် အလ္လာဟ်အရှင့်ထံမှာလည်း အီမာန်ရှိသူပင် ဖြစ်ရမည်မဟုတ်ပါလော။ အကြင်သူ တကယ်တန်း အရပ်ရှည်သူဖြစ်လျှင်၊ သို့မဟုတ် ရက်ရောသူဖြစ်လျှင် ထိုသူသည် အလ္လာဟ်အရှင့်ထံမှာလည်း ထိုအတိုင်းသာဖြစ်ရလိမ့်သည်။ အကြင်သူသည် ပျော်ရွှင်သူဖြစ်လျှင်၊ စိတ်ညစ်သူဖြစ်လျှင်၊ နားကြားသူဖြစ်လျှင်၊ မျက်စေ့မြင်သူဖြစ်လျှင် ထိုအတိုင်းသာဖြစ်ရပေမည်။

အကယ်၍ လူသားတစ်ဦးအား 'အသင်သည် သက်ရှိဖြစ်သလား'ဟု မေးသည့်အခါ ၎င်းက 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင် ကျွန်ုပ်သက်ရှိတစ်ဦးဖြစ်ပါသည်'ဟု ဖြေမည်ဆိုလျှင် ထိုအဖြေသည် ဆီလျော်မှုရှိလိမ့်မည်မဟုတ်ပေ။ ဆွဖ်ယန်ဆောရ်ရီ ‌သခင့်အား အီမာန်နှင့်ပတ်သက်၍မေးလာလျှင် မည်သို့ဖြေရမည်လဲဟု မေးသောအခါ သခင်က 'ကျွန်ုပ်တို့သည် အလ္လာဟ်အရှင့်ကိုင်း၊ အလ္လာဟ်အရှင်က ကျွန်ုပ်တို့အပေါ် ချပေးသောအရာများကိုင်း အီမာန်ယူကြပါသည်ဟု ပြောဆိုကြပါ'ဟု ပြောဆိုခဲ့သည်။ ထိုအတိုင်း ဆွဖ်ယန်ဆောရ်ရီ ‌သခင် သင်ပေးသလို- 'ကျွန်ုပ်တို့ အလ္လာဟ်အရှင့်ကိုင်း၊ အလ္လာဟ်အရှင် ကျွန်ုပ်တို့အပေါ် ချပေးသောအရာများကိုင်း အီမာန်ယူကြပါသည်'ဟု ပြောဆိုခြင်းနှင့် 'ကျွန်ုပ် အီမာန်ရှင်ဖြစ်ပါသည်'ဟု ပြောဆိုခြင်း နှစ်ရပ်တွင် ဘာများကွာခြားပါသနည်း။

ဟစ်ဘာစွရီ ‌သခင့်အား လူတစ်ဦးက 'အသင် အီမာန်ရှင်ဖြစ်ပါသလား'ဟု မေးမြန်းရာ သခင်က 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်ဖြစ်သည်'ဟု ဖြေခဲ့၏။ မေးသူက 'အို ဟစ်ဘာစွရီ၊ အသင်သည် အီမာန်ကိစ္စတွင် ဒွိဟစကားကို အဘယ်ကြောင့်ပြောဆိုရသနည်း'ဟု ပြောဆိုသောအခါ သခင်က 'ကျွန်ုပ် အီမာန်ရှင်ဖြစ်သည်ဟု ပြောဆိုခဲ့လျှင် အလ္လာဟ်အရှင်က 'အို ဟစ်၊ အသင် မုသားပြောဆိုခဲ့သည်'ဟု မိန့်တော်မူပြီး ကျွန်ုပ်အား ပြစ်ဒဏ်ခတ်တော်မူမည်ကို ကြောက်ရွံ့၍ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ဟစ်ဘာစွရီ ‌သခင်က ပြောဆိုလေ့ရှိသည်မှာ 'ကျွန်ုပ် စိတ်အေးလက်အေး မနေနိုင်သည့်အရေးမှာ ဤသို့ရှိသည်။ အလ္လာဟ်အရှင် မိမိမနှစ်သက်သောအရာတစ်ခုကို ကျွန်ုပ်ထံမှတွေ့တော်မူပြီး ကျွန်ုပ်ကို မကောင်းမြင်တော်မူခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်က ကျွန်ုပ်အား 'အသင် သွားလော့။ ငါအရှင်သည် အသင်၏မည်သည့်ကျင့်ဆောင်မှုကိုမှ လက်မခံတော့ပါ'ဟု မိန့်တော်မူမည့်အရေးဖြစ်သည်။ ထိုအခါ ကျွန်ုပ်မလုပ်ခဲ့သောကိစ္စသည် လုပ်ခဲ့သကဲ့သို့ဖြစ်လိမ့်မည်။

အိဗ်ရာဟီမ်အဒ်ဟမ် ‌သခင်က 'အသင့်အား 'သင်သည် အီမာန်ရှင်ဖြစ်ပါသလား'ဟု မေးလာခဲ့လျှင် 'လာအိ

လာဟာအိလ္လလ္လာဟ်–အလ္လာဟ်အရှင်မှအပ ကိုးကွယ်ရာအရှင်မရှိပါ'ဟု ပြောလိုက်ပါ'ဟု မိန့်ဆိုခဲ့သည်။ အဆိုတစ်ခုတွင် သခင်က 'ထိုသို့မေးလာလျှင် 'ကျွန်ုပ်သည် အီမာန်တွင် ဒွိဟသံသယမရှိပါ။ အသင်က ကျွန်ုပ်အား ထိုသို့မေးလာခြင်းသည် ဗိဒအတ်ဖြစ်သည်'ဟု ပြောဆိုလိုက်ပါ'ဟု မိန့်ဆိုကြောင်း လာရှိသည်။ တစ်စုံတစ်ဦးက အလ်ကမာ ̃သခင့်အား 'အသင် အီမာန်ရှင်ဖြစ်ပါသလား'ဟု မေးမြန်းရာ သခင်က 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင် အီမာန်ရှင်ဖြစ်ရန် မျှော်လင့်ပါသည်'ဟု ဖြေခဲ့သည်။

ဆွဖ်ယန်ဆော်ရ်ရီ ̃သခင်က 'ကျွန်ုပ်တို့သည် အလ္လာဟ်အရှင့်ကိုငင်း၊ အလ္လာဟ်အရှင်၏ကောင်းကင်တမန်များကိုငင်း၊ ထိုအရှင်၏ကျမ်းတော်များကိုငင်း၊ **ထိုအရှင်၏ရစူလ်တမန်တော်များကိုငင်း** အီမာန်သက်ဝင်ယုံကြည်သူများဖြစ်ကြပါသည်။ အလ္လာဟ်အရှင်၏**ထံတော်**တွင် ကျွန်ုပ်တို့ ဘာ**ဖြစ်**မည်ကိုတော့ ကျွန်ုပ်တို့မသိကြပါ'ဟု ဆိုမိန့်ခဲ့သည်။

ဤသို့အကျယ်သိရပြီးနောက် **ထိုသခင်တို့သည် မိမိတို့၏အီမာန်ကို ဖေါ်ပြ**ရာတွင် ချွင်းချက်စကားဖြင့် ပြောဆိုကြခြင်း၏အလိုသဘောသည် **မည်သို့ပါနည်း။ အဖြေမှာ** ထိုသို့ **အလ္လာဟ်အရှင်**အလိုတော်ဖြင့်ဟု ချွင်းချက်ထားပြောဆိုခြင်းသည် မှန်ကန်သောလုပ်ရပ်**ဖြစ်သည်။ ထိုသို့ပြောဆိုကြခြင်းသည် နည်း**လမ်းပုံစံလေးခုဖြင့်ဖြစ်သည်။ ထိုလေးခုတွင် နှစ်ခုသည် ဒွိဟနှင့်**သက်ဆိုင်သည်။ သို့သော် အရင်းခံအီမာန်**ကို ဒွိဟဖြစ်ခြင်းကားမဟုတ်ပါ။ အမှန်မှာ အီမာန်၏နိဂုံးကမ္ဘတ်အဆုံးသတ်နှင့် **ထိုအီမာန်၏ပြည့်ဝစုံလင်မှုအပေါ်** ဒွိဟဖြစ်ခြင်းသာဖြစ်သည်။ ကျန်နည်းလမ်းပုံစံနှစ်ခုသည် အင်ရှာအလ္လာ**ဟ်ခံ၍ပြောဆိုခြင်းနှင့် သက်ဆိုင်မှုမရှိချေ။**

**ပထမနည်းလမ်းပုံစံ**– ဤနည်းလမ်းပုံစံသည် ဒွိဟနှင့် သက်ဆိုင်ခြင်းမရှိပေ။ မုချကျိန်းသေ အီမာန်ရှိပါသည်ဟု ပြောဆိုလိုက်လျှင် မိမိမွန်မြတ်**စင်ကြယ်ကြောင်း ဖေါ်ထုတ်ရာ ရောက်**မည်ကို စိုးရိမ်ကြောက်ရွံ့၍ ဤသို့ပြောဆိုခြင်းဖြစ်သည်။ ရှရီအတ်**တရားတော်တွင် မိမိကိုယ်ကို စင်ကြယ်**သည်ဟု ဖေါ်ထုတ်ခြင်းကို မကောင်းသောအပြုအမူဟု သတ်မှတ်ထားသည်**။ အလ္လာဟ်အရှင် မိန့်ကြားတော်မူ**သည်မှာ–

﴿فَلَا تُزَكُّوا أَنْفُسَكُمْ﴾

**'သို့ဖြစ်ရာ အသင်တို့သည် မိမိတို့ကိုယ်ကို စင်ကြယ်သည်ဟု မမှတ်ယူကြနှင့်။'** (စူရာနဂျ်မ်၊၃၂)

ထို့ပြင် အလ္လာဟ်**အရှင် မိန့်ကြားတော်မူ**သည်မှာ–

﴿ أَلَمْ تَرَ إِلَى الَّذِينَ يُزَكُّونَ أَنْفُسَكُمْ﴾

**'မိမိတို့ကိုယ်ကို စင်ကြယ်သည်ဟု မှတ်ယူသူများကို အသင်မမြင်သလော။'**

(စူရာနေစာ၊၄၉)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿أُنْظُرْ كَيْفَ يَفْتَرُوْنَ عَلَى اللهِ الْكَذِبَ﴾

**'ထိုသူတို့က အလ္လာဟ်အရှင့်အား မည်သို့ မုသားစွပ်စွဲနေသည်ကို အသင်ကြည့်လော့။'**

(စူရာနေစာ၊၅၀)

အီမာန်သည် လူသား၏ဝိသေသဂုဏ်ထူးများတွင် အဆင့်အမြင့်ဆုံးဖြစ်သည်။ ထိုအဆင့်အမြင့်ဆုံးဂုဏ်ထူး မိမိတွင်ကျိန်းသေရှိနေသည်ဟု ပြောဆိုခြင်းသည် မိမိလုံးဝမွန်မြတ်စင်ကြယ်သည်ဟု ပြောဆိုခြင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင့်အလိုတော်ဖြင့်ဟု ချွင်းချက်ပြု၍ ပြောဆိုမှုသည် ထိုကြီးကျယ်မြင့်မြတ်ကြောင်း ပြောဆိုမှုကို လျော့ကျသွားစေသည်။ ပမာအားဖြင့် လူသားတစ်ဦးကို 'အသင် ဆေးပညာရှင်ဖြစ်သလား'၊ သို့မဟုတ် 'ဖိကဟ်ပညာရှင်ဖြစ်သလား'၊ 'တဖ်စီရ်ပညာရှင်ဖြစ်သလား'ဟု မေးမြန်းရာ၊ ထိုသူက 'ဟုတ်ကဲ့၊ အလ္လာဟ်အရှင် အလိုတော်ရှိလျှင်ပါ'ဟု

ပြောဆိုသကဲ့သို့ဖြစ်သည်။ ထိုသို့ပြောဆိုခြင်းသည် မိမိ၏ပညာရှင်အဖြစ်ကို ဒွိဟသံသယရှိ၍ မဟုတ်ပေ။ အမှန်မှာ မိမိကိုယ်ကို ကြီးကျယ်ကြောင်း ပြောဆိုမှုမှ ရှောင်လွှဲရန်ရည်ရွယ်ခြင်းသာဖြစ်သည်။ 'အလ္လာဟ်အရှင်၏အလိုတော်ရှိလျှင်'ဆိုသောစာသားကိုယ်တိုင်က မရေရာမှုကို ဖေါ်ပြသည့်စာသားဖြစ်သည်။ အသိပေးပြောဆိုနေသည့်အချက်ကို အားပျော့သွားစေရန်အတွက် သုံးနှုန်းခြင်းဖြစ်သည်။ ကျွန်ုပ်အီမာန်ရှင်ဖြစ်သည်ဟု အသိပေးပြောဆိုလိုက်သည့်အချက်တွင် ပါဝင်သည့် စင်ကြယ်မွန်မြတ်ကြောင်းကို အားပျော့သွားစေရန်ဖြစ်သည်။

**ဒုတိယနည်းလမ်းပုံစံ**– ဤသို့ 'အလ္လာဟ်အရှင့်အလိုတော်ဖြင့်'ဟု ပြောဆိုခြင်းသည် အခြေအနေအားလုံးတွင် အလ္လာဟ်အရှင့်ကို သတိရခြင်းဖြစ်သည်။ ထို့ပြင် အရေးကိစ္စအားလုံးကို အလ္လာဟ်အရှင်၏အလိုတော်အတိုင်းဖြစ်စေရန်လွှဲအပ်ခြင်းဖြစ်သည်။ အလ္လာဟ်အရှင်သည် ဤအကျင့်ဓလေ့ကိုပင် မိမိ၏နဗီတမန်တော်ﷺအား သင်ပြပေးတော်မူခဲ့သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَلَا تَقُولَنَّ لِشَيْءٍ إِنِّي فَاعِلٌ ذَٰلِكَ غَدًا إِلَّا أَن يَشَاءَ اللَّهُ﴾

**'ထို့ပြင် အလ္လာဟ်အရှင်အလိုတော်ရှိလျှင်ဟု မပါဘဲ၊ မည်သည့်ကိစ္စအတွက်မှ 'ငါသည် ထိုကိစ္စကို နက်ဖြန်ခါတွင် ပြုလုပ်မည်'ဟု အသင်ပြောဆိုခြင်း မပြုလေနှင့်။'** (စူရာကဟ်ဖ် ၊ ၂၃–၂၄)

ထို့ပြင် 'အလ္လာဟ်အရှင် အလိုတော်ရှိလျှင်'ဆိုသည့်စကားရပ်ကို ဖြစ်မည်မဖြစ်မည် မသေချာသောကိစ္စများအတွက်သာ သုံးစွဲရမည်ဟု ကန့်သတ်ထားခြင်းမရှိချေ။ စင်စစ်အားဖြင့် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿لَتَدْخُلُنَّ الْمَسْجِدَ الْحَرَامَ إِن شَاءَ اللَّهُ آمِنِينَ مُحَلِّقِينَ رُءُوسَكُمْ وَمُقَصِّرِينَ﴾

**'အလ္လာဟ်အရှင် အလိုရှိတော်မူလျှင် မုချအသင်တို့သည် အသင်တို့၏ဦးခေါင်းများကို ရိပ်ကြလျက်၊ ဆံပင်များကို ဖြတ်ကြလျက်၊ မတ်စဂျိဒ်ဟရာမ်သို့ အေးချမ်းစွာ ဝင်ရောက်ကြရမည်။'** (စူရာဖတ်ဟ် ၊ ၂၇)

အမှန်မှာ အာယတ်ပါဖြစ်ရပ်တွင် တမန်တော်မြတ်ﷺနှင့် ဆွဟာဗဟ်အပေါင်း၏သည် မတ်စဂျိဒ်ဟရာမ်(မက္ကာမြို့ ကအ်ဘာဝတ်ကျောင်းတော်)သို့ မလွဲမသွေ ဝင်ရောက်ကြရမည်ဖြစ်ကြောင်း အလ္လာဟ်အရှင် မုချသိတော်မူပြီးဖြစ်သည်။ ထိုအတိုင်းဖြစ်လာရန်လည်း အလ္လာဟ်အရှင် အလိုတော်ရှိခဲ့ပြီးဖြစ်သည်။ သို့နှင့်တိုင် အလ္လာဟ်အရှင်၏ရည်ရွယ်တော်မူချက်သည် မိမိ၏တမန်တော်ﷺအား ထိုအကျင့်ဓလေ့ကို သင်ကြားပေးတော်မူရန်ဖြစ်သည်။ ဤနည်းဖြင့် တမန်တော်မြတ်ﷺသည် ထိုအကျင့်ဓလေ့ကို စွဲမြဲစွာ ကျင့်သုံးခဲ့သည်။ တမန်တော်မြတ်ﷺသည် သေချာသောကိစ္စတွင်ဖြစ်စေ၊ မသေချာသောကိစ္စတွင်ဖြစ်စေ အကြောင်းရပ်တစ်ခုကို ပြောဆိုရန် ရှိသည့်အခါတိုင်း 'အလ္လာဟ်အရှင် အလိုတော်ရှိလျှင်'ဟု ထည့်သွင်းပြောဆိုလေ့ရှိသည်။ မည်မျှအထိဆိုလျှင် တမန်တော်မြတ်ﷺသည် သင်္ချိုင်းသို့ သွားရောက်သည့်အခါမှာပင်–

السلام عليكم دار قوم مؤمنين و انا إن شاء الله بكم لاحقون . (م)

'အသင်တို့အပေါ် အေးချမ်းသာယာမှုသက်ရောက်ပါစေ။ အို အီမာန်ရှင်တို့၊ အလ္လာဟ်အရှင်၏အလိုတော်ဖြင့် ကျွန်ုပ်သည်လည်း အသင်တို့နှင့် ဆုံတွေ့ရမည်ဖြစ်သည်'

ဟု မိန့်ဆိုခဲ့လေသည်။ ကွယ်လွန်သေဆုံးပြီးသူ အီမာန်ရှင်များနှင့် ဆုံတွေ့ရမည့်ကိစ္စသည် ဒွိဟဖြစ်စရာ မလိုသောကိစ္စဖြစ်သည်။ သို့သော် ဤနေရာမျိုးမှာပင် အကျင့်ဓလေ့အရ အလ္လာဟ်အရှင်ကို သတိရပြောဆိုပြီး ကိစ္စရပ်ကို ထိုအရှင်၏အလိုတော်နှင့် ဆက်စပ်လိုက်ရမည်ဖြစ်သည်။ လူအများ၏သုံးရိုးသုံးစဉ်တွင်လည်း 'အလ္လာဟ်အရှင့်အလိုတော်ဖြင့်'ဆိုသောစကားရပ်သည် လိုလားတောင့်တမှုကို ဖေါ်ထုတ်ရာမှာ သုံးစွဲကြခြင်းဖြစ်သည်။ ဥပမာ အသင့်အား လူတစ်ယောက်က 'မည်သူမည်ဝါတော့ မကြာခင်သေတော့မှာဘဲ'ဟု ပြောဆိုရာ အသင်က 'အလ္လာဟ်အရှင် အလိုတော်ဖြင့်ပါ'ဟု ပြန်ပြောခြင်းသည် ထိုသူသေဆုံးမည့်ကိစ္စတွင် ဒွိဟသံသယရှိသည့် အလိုသဘောမဟုတ်ဘဲ၊

အသင့်အား ထိုသူမသေဘဲ ကျန်းကျန်းမာမာရှိဖို့ မျှော်လင့်ချက်ထားရန်ဖြစ်သည်။ တဖန် တစ်စုံတစ်ဦးက အသင့်အား 'မည်သူမည်ဝါသည် မကြာခင်ရောဂါပျောက်ကင်း ကျန်းမာလာတော့မည်'ဟု ပြောဆိုရာ အသင်က 'အလ္လာဟ်အရှင်အလိုတော်ဖြင့်ပါ'ဟု ပြန်ပြောခြင်းသည် ထိုသူပြန်လည်ကျန်းမာလာရန် လိုလားတောင့်တသည့်အဓိပ္ပါယ်ဖြစ်သည်။

သို့ဖြစ်ရာ ဤသုံးရိုးသုံးစဉ်တွင် 'အင်ရှာအလ္လာဟ်-အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဆိုသောစကားရပ်သည် ဖြစ်မည်မဖြစ်မည် မသေချာသောဒွိဟ၏အဓိပ္ပါယ်ရှိနေရာမှ လိုလားတောင့်တ မျှော်လင့်ချက်ထားသည့် အဓိပ္ပါယ်သို့ ပြောင်းလဲသွားသည်။ သို့မဟုတ် ဤနေရာတွင် 'အင်ရှာအလ္လာဟ်-အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု ဆိုခြင်းသည် အလ္လာဟ်အရှင်ကို သတိရတသသည့်အဓိပ္ပါယ်ဖြစ်သည်။ ဤအဓိပ္ပါယ်နှစ်ခုအနက် မည်သည့်အဓိပ္ပါယ်ဖြင့် သုံးစွဲသည်ဖြစ်စေ မှန်ကန်သည်သာဖြစ်၏။

**တတိယနည်းလမ်းပုံစံ–** မိမိ၏အီမာန်ကို 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု စကားခံပြောဆိုခြင်း၏တတိယနည်းလမ်းပုံစံသည် ဒွိဟကို အခြေခံ၍ဖြစ်သည်။ ထိုသို့ပြောဆိုခြင်း၏အဓိပ္ပါယ်သည် 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင် ကျွန်ုပ်သည် တကယ့်အစစ်အမှန် **အီမာန်ရှင်ဖြစ်သည်**'ဟုဖြစ်၏။ အလ္လာဟ်အရှင်က အချို့သောပုဂ္ဂိုလ်များကို သီးသန့်ပြု၍ မိန့်ကြားထားတော်မူသည်မှာ–

﴿أُوْلَئِكَ هُمُ الْمُؤْمِنُوْنَ حَقًّا﴾

**'ထိုသူတို့သာလျှင် တကယ့်အစစ်အမှန် အီမာန်ရှင်များဖြစ်ကြပေသည်။'**

(စူရာအန်ဖာလ် ၊၄)

ဤအာယတ်အရ **အီမာန်ရှင်သည် နှစ်မျိုးရှိကြောင်း** သိရသည်။ ယခုပုံစံတွင် 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု **ဆိုခြင်း၏မရေရာမသေချာမှုသည်** အရင်းခံအီမာန်ကို ရည်ညွှန်းခြင်းမဟုတ်ပေ။ အမှန်မှာ ပြည့်စုံကုံလုံသောအီမာန်ကို **ရည်ညွှန်းခြင်းသာဖြစ်သည်။** လူသားအားလုံးသည် မိမိတို့၏အီမာန် ပြည့်စုံကုံလုံမှု ရှိမရှိ၌ ဒွိဟဖြစ်ကြရသည်သာဖြစ်၏။ **ထိုသို့ဒွိဟဖြစ်ခြင်းသည်** ကုဖ်ရ်မဖြစ်ပေ။ အဘယ်ကြောင့်ဆိုသော် အီမာန် ပြည့်စုံကုံလုံမှုရှိမရှိ ဒွိဟဖြစ်ခြင်းသည် **ပုံစံနှစ်ခုတွင် ဖြစ်ပိုင်လေသည်။** ပုံစံတစ်ခုမှာ နိဖာက် ခေါ် ဘာသာရေးအရေခြုံမှုသည် ပြည့်စုံကုံလုံသော **အီမာန်၏ဆန့်ကျင်ဘက်အရာဖြစ်သည်။** တဖန် ထိုနိဖာက်သည် ဖုံးကွယ်လျက်ရှိပြီး သိနိုင်ရန် ခက်ခဲသောအရာဖြစ်သည်။ ထို့တွင် ထိုနိဖာက်မှ ကင်းရှင်းမှု ရှိမရှိမှာလည်း သိနိုင်ရန်ခက်ခဲသောကိစ္စဖြစ်သည်။

ဒုတိယပုံစံမှာ **အီမာန်သည် အမိန့်နာခံကျင့်ဆောင်မှုများဖြင့်** ပြည့်စုံကုံလုံမှုဖြစ်ရသည်။ သို့နှင့်တိုင် မိမိတို့၏အမိန့်နာခံကျင့်ဆောင်မှုများသည် **အီမာန်၏**ပြည့်စုံကုံလုံမှုအဆင့်သို့ ရောက်မည် မရောက်မည် သိနိုင်သည်မဟုတ်ချေ။ အီမာန်ကို ပြည့်စုံကုံလုံသည့်အဆင့်သို့ ရောက်စေသည့် ကျင့်ဆောင်မှုများကို အလ္လာဟ်အရှင် မိန့်ကြားဖော်ပြတော်မူသည်မှာ–

﴿إِنَّمَا الْمُؤْمِنُوْنَ الَّذِيْنَ اٰمَنُوْا بِاللهِ وَرَسُوْلِهٖ ثُمَّ لَمْ يَرْتَابُوْا وَجَاهَدُوْا بِأَمْوَالِهِمْ وَأَنْفُسِهِمْ فِيْ سَبِيْلِ اللهِ أُوْلَئِكَ هُمُ الصَّادِقُوْنَ﴾

**'အီမန်ရှင်များဆိုသည်ကား အလ္လာဟ်အရှင့်ကိုငှင်း၊ ထိုအရှင်၏ ရဆူလ်တမန်တော်များကိုငှင်း အီမာန်သက်ဝင်ယုံကြည်သူများဖြစ်ကြ၏။ ထို့နောက် ၎င်းတို့သည် ဒွိဟယနမဖြစ်မူဘဲ၊ မိမိတို့၏ဥစ္စာပစ္စည်းများဖြင့်ငှင်း၊ မိမိတို့၏အသက်များဖြင့်ငှင်း အလ္လာဟ်အရှင်၏ လမ်းတော်တွင် စွဲတော်ကြိုးပမ်းသူများဖြစ်ကြ၏။ ထိုသူတို့သည်သာလျှင် မှန်ကန်သူ သစ္စာဝါဒီများဖြစ်ကြပေသည်။'** (စူရာဟုဂျုရာတ် ၊၁၅)

ဒုတိယပုံစံအရ မိမိတို့၏အီမာန်ကို ဒွိဟဖြစ်သည်ဆိုရာမှာ ဤအာယတ်၌ဖော်ပြထားသည့် **'မှန်ကန်သူ သစ္စာဝါဒီများ'**

တွင် မိမိတို့ပါဝင်ခြင်း ရှိ မရှိကို ဒွိဟဖြစ်ကြခြင်းဖြစ်သည်။ တဖန် အလ္လာဟ်အရှင် မိန့်မြွက်တော်မူသည်မှာ–

﴿وَلٰكِنَّ الْبِرَّ مَنْ اٰمَنَ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ وَالْمَلٰٓئِكَةِ وَالْكِتٰبِ وَالنَّبِيّٖنَ﴾

**'သို့နှင့်တိုင် ကောင်းမြတ်မှုဆိုသည်မှာ အကြင်သူသည် အလ္လာဟ်အရှင့်ကိုငင်း၊ ကိယာမတ်နေ့ကိုငင်း၊ ထောင်းကင်တမန်များကိုငင်း၊ နဗီတမန်တော်များကိုငင်း အီမာန်သက်ဝင်ယုံကြည်ခြင်းဖြစ်သည်။'**

(စူရာဗကရာ ၊၁၇၇)

ဤအာယတ်တွင် အီမာန်ရှင်တို့၏အချင်းလက္ခဏာ အချက်နှစ်ဆယ်ကို ဖေါ်ပြထားသည်။ ဥပမာ ကတိသစ္စာတည်ကြည်ခြင်း၊ ဘေးဒုက္ခကြုံသည့်အခါ သည်းခံခြင်း စသည်ဖြင့်ဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿أُولٰٓئِكَ الَّذِيْنَ صَدَقُوْا﴾

**'ထိုသူတို့သာလျှင် မှန်ကန်သောသစ္စာရှင်များဖြစ်ကြသည်။'** (စူရာဗကရာ ၊၁၇၇)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူခဲ့သည်မှာ–

﴿يَرْفَعِ اللّٰهُ الَّذِيْنَ اٰمَنُوْا مِنْكُمْ وَالَّذِيْنَ أُوْتُوا الْعِلْمَ دَرَجٰتٍ﴾

**'အလ္လာဟ်အရှင်သည် အသင်တို့အနက် အီမာန်ယူကြသူများနှင့် ပညာရှီးမြှင့်ခံရသူများအား အဆင့်အတန်းများ တိုးမြှင့်ပေးတော်မူ၏။'** (စူရာမုဂျာဒလာ ၊၁၁)

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူထားသည်မှာ–

﴿لَا يَسْتَوِيْ مِنْكُمْ مَنْ أَنْفَقَ مِنْ قَبْلِ الْفَتْحِ وَقَاتَلَ﴾

**'အသင်တို့တွင် မက္ကာအောင်နိုင်ခြင်းမတိုင်မီ ပေးကမ်းလှူဒါန်းခဲ့သူ၊ ၎င်းတိုက်ပွဲဝင်ခဲ့သူသည် (မက္ကာအောင်နိုင်မှု၏နောက်တွင်မှ ပေးကမ်းလှူဒါန်းသူ၊ ၎င်းတိုက်ပွဲဝင်သူနှင့်) တန်းတူရည်တူ မဟုတ်ပေ။'**

(စူရာဟဒီဒ် ၊၁၀)

ထို့ပြင် အလ္လာဟ်အရှင် မိန့်တော်မူသည်မှာ–﴿هُمْ دَرَجٰتٌ عِنْدَ اللّٰهِ﴾

**'၎င်းတို့သည် အလ္လာဟ်အရှင့်ထံတွင် အဆင့်အတန်းများ ရှိကြပေသည်။'**

(စူရာအာလိအင်မ်ရာန် ၊၁၆၃)

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الايمان عريان ولباسه التقوى. (س)

'အီမာန်သည် လုံးတီးဗလာဖြစ်သည်။ ယင်းအီမာန်၏အဝတ်တန်ဆာသည် တက္ကဝါဖြစ်သည်။'

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الإيمان بضع سبعون بَابًا أدناها إماطة الأذى عن الطريق. (خ.م)

'အီမာန်သည် အဆင့်အတန်း ခုနစ်ဆယ်ကျော်ရှိသည်။ အီမာန်၏အနိမ့်ဆုံးအဆင့်သည် ဒုက္ခဖြစ်စေမည့်အရာကို လမ်းပေါ်မှ ဖယ်ရှားခြင်းဖြစ်သည်။'

အထက်ပါအာယတ်များနှင့်ဟဒီစ်များကို ကြည့်ခြင်းဖြင့် အီမာန်၏ပြည့်စုံကုံလုံမှုသည် လက်တွေ့ကျင့်သုံးမှုနှင့်ဆက်စပ်လျက်ရှိကြောင်း သိရှိရသည်။ တဖန် ပြည့်စုံကုံလုံသောအီမာန်နှင့် နိဖာက်ခေါ် ဘာသာရေးအရေခြုံမှု၊ ၎င်းရှိရ်က်ခဖီ ခေါ် အသေးစားယှဉ်တွဲကိုးကွယ်မှုတို့၏ဆက်စပ်မှုကို အောက်ပါဟဒီစ်များဖြင့် သိရသည်။

أربع من كنّ فيه فهو منافق خالص وإن صام وصلى وزعم أنه مؤمن : من إذا حدّث كذب، وإذا وعد أخلف، وإذا ائتمن خان، وإذا خاصم فجر. (خ.م)

'အကြင်သူ့၌ လေးခုသောအရာရှိလျှင်၊ ထိုသူသည် နမာဇ်ဖတ် ရိုဇာစောင့်ပြီး မိမိကိုယ်ကို အီမာန်ရှင်ဟု ထင်နေသော်လည်း ၎င်းသည် မုနာဖိက်အစစ်ဖြစ်သည်။ ထိုလေးခုမှာ ၎င်းသည် စကားပြောသည့်အခါ မုသားစကားပြောသည်။ ကတိပေးပြီးနောက် ထိုကတိကို တည်ကြည်ခြင်းမရှိပေ။ ထိန်းသိမ်းစောင့်ရှောက်ရန် အပ်နှံသည့်အခါ အလွဲသုံးစားလုပ်သည်။ ခိုက်ရန်ဖြစ်ပွါးသည့်အခါ ဆဲရေးတိုင်းထွာသည်။'

အချို့ဆင့်ပြန်မှုများတွင် 'وإذا عاهد غدر' – 'နှစ်ဦးနှစ်ဘက်ကတိရှိထားသည့်ကိစ္စကို လှည့်ဖျားသည်'ဟု လာရှိသည်။ အဗူစအီဒ်ခွဒ်ရီ؈သခင် ဆင့်ပြန်ခဲ့သည့်ဟဒီးစ်တွင်မူ–

القلوب أربعة : قلب أجرد وفيه سراج يزهر فذلك قلب المؤمن ، وقلب مصفح فيه إيمان ونفاق فمثل الإيمان فيه كمثل البقلة يمدها الماء العذب ومثل النفاق فيه كمثل القرحة يمدها القيح و الصديد فأي المادتين غلب عليه حكم له بها . (١)

'နှလုံးသားသည် လေးမျိုးရှိသည်။ တစ်မျိုးမှာ စင်ကြယ်သောနှလုံးသားဖြစ်သည်။ ထိုနှလုံးသားတွင် လင်းဝင်းသောမီးတိုင်ရှိသည်။ ယင်းသည် အီမာန်ရှင်၏နှလုံးသားဖြစ်သည်။ တစ်မျိုးမှာ တစ်စိုက်မတ်မတ်မရှိသောနှလုံးသားဖြစ်သည်။ ထိုနှလုံးသားထဲတွင် အီမာန်ရော နိဖာက်ပါ ရှိနေသည်။ ထိုနှလုံးသားထဲတွင်ရှိသည့်အီမာန်၏အလားပမာသည် သစ်သီးဝလံနှင့်တူသည်။ သစ်သီးဝလံက အချိုရည်ကို တိုးပွားစေသည်။ ထိုနှလုံးသားထဲတွင်ရှိသည့် နိဖာက်၏အလားသဏ္ဌာန်သည် **အနာနှင့်တူသည်။ အနာက** ပြည်နှင့် သွေးနံ့ရည်ကိုသာ တိုးပွားစေသည်။ နှလုံးသားသည် ထိုနှစ်ခုအနက် **တစ်ခုခု၏လွှမ်းမိုးချယ်လှယ်မှုအတိုင်း** ဩဇာခံလေသည်။'

ဆင့်ပြန်မှုတစ်ခုတွင် 'غلبت عليه ذهبت عليه' – 'လွှမ်းမိုးသော**အရာ၏ဆွဲဆောင်မှု**အတိုင်း လိုက်ပါသည်'ဟု လာရှိသည်။ ထို့ပြင် ကိုယ်တော်ﷺက မိန့်ဆိုခဲ့သည်မှာ–

**أكثر منافقي هذه الأمة قرّاؤها . (١)**

**'ဤအွမ္မတ်၏မုနာဖိက်အများစုသည် အွမ္မတ်ထဲမှ စာတတ်ပေတတ်များဖြစ်သည်။'**

**ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–**

الشرك أخفى في أمتي من دبيب النمل على **الصفا** . (أبو يعلى.ابن عدى)

**'ငါ၏အွမ္မတ်တွင် ရှိရ်က်တုဖက်ကိုးကွယ်မှုသည် ကျောက်ဖျာနက်ပေါ်တွင် တရွေ့ရွေ့သွားလာသည့် ပုရွက်ဆိတ်ထက်ပင်ပို၍ ပုန်းပုန်းလျှိုးလျှိုးရှိသည်။'**

**ဟုဇိုင်ဖဟ်؈သခင်က ဆိုမိန့်သည်မှာ–**

كان الرجل يتكلم بالكلمة على عهد رسول اللهﷺ يصير بها منافقًا إلى أن يموت وإني لأسمعها من أحدكم في اليوم عشر مرات . (١)

'တမန်တော်မြတ်ﷺ၏ခေတ်သမယက လူတစ်ယောက်သည် စကားတစ်ခွန်း ပြောဆိုခဲ့ရာ ၎င်းသည် ထိုစကားကြောင့် သေဆုံးသည်အထိ မုနာဖိက်ဖြစ်ခဲ့ရသည်။ ယနေ့ ကျွန်ုပ်သည် ထိုစကားကို အသင်တို့ထံမှ ဆယ်ကြိမ်ဆယ်ခါ ကြားနေရသည်။'

အချို့အိုလမာပညာရှင်များက ဆိုမိန့်သည်မှာ 'လူတို့တွင် နိဖာက် ဘာသာရေးအရေခြုံမှုနှင့် အနီးကပ်ဆုံးသူသည် မိမိကိုယ်ကို နိဖာက်နှင့် ကင်းရှင်းသည်ဟု ထင်နေသူဖြစ်သည်။'

**ဟုဇိုင်ဖဟ်؈သခင်ကပင် ဆိုမိန့်သည်မှာ–**

المنافقون اليوم أكثر منهم على عهد النبيﷺ ، فكانوا إذ ذاك يخفونه وهم اليوم يظهرونه . (خ)

'ယနေ့မုနာဖိက်များသည် တမန်တော်မြတ်ﷺခေတ်ကထက် ပို၍များသည်။ တမန်တော်မြတ်ﷺခေတ်က မုနာဖိက်များသည် မိမိတို့၏အရေခြုံမှုကို ဖုံးကွယ်ထားကြသည်။ ယနေ့တွင်မူ ၎င်းတို့သည် မိမိတို့၏ အရေခြုံမှုကို ပေါ်လွင်စွာထားကြသည်။'

ထိုနိဖာက်သည် စစ်မှန်မှုရှိပြီး ပြည့်စုံကုံလုံသောအီမာန်နှင့် ဝိရောဓိအရာဖြစ်သည်။ ထို့ပြင် ထိုနိဖာက်သည် ပုန်းလျှိုးဖုံးကွယ်လျက်ရှိသောအရာဖြစ်သည်။ ထိုနိဖာက်နှင့်အဝေးဆုံးလူသည် ထိုနိဖာက်ကို ကြောက်ရွံ့သူဖြစ်သည်။ ထိုနိဖာက်နှင့်အနီးဆုံးလူသည် မိမိကိုယ်ကို ထိုနိဖာက်မှ ကင်းရှင်းလှပြီဟု ထင်နေသူဖြစ်သည်။ ဟစ်ဘဇွရီ᷈သခင်အား တစ်စုံတစ်ဦးက 'ယခုခေတ်တွင် နိဖာက်ဟူ၍ မရှိတော့ပါဟု ပြောဆိုနေကြကြောင်း' မေးမြန်းရာ၊ သခင်က– 'အို ညီနောင်၊ အကယ်၍ မုနာဖိက်များသာ သေကုန်ကြလျှင် အသင်တို့ လမ်းများပေါ်တွင် ခြောက်ခြောက်ကပ်ကပ် ဖြစ်ကုန်ကြလိမ့်မည်'ဟုပြောဆိုခဲ့သည်။ ဟစ်ဘဇွရီ᷈သခင် သို့မဟုတ် အခြားသခင်တစ်ပါးက အဆိုအမိန့်ရှိခဲ့သည်မှာ 'အကယ်၍ မုနာဖိက်များသာ အမြီးများ ပေါက်ခဲ့လျှင် ကျွန်ုပ်တို့အဖို့ ကမ္ဘာမြေပြင်ပေါ်တွင် ခြေချရန်ပင် ဖြစ်နိုင်တော့မည်မဟုတ်ပါ။'

တစ်စုံတစ်ယောက်က ဟဂျာဂျ်အီဗ်နေ့ယူစွဖ်နှင့်ပတ်သက်ပြီး စောင်းချိတ်ပြစ်တင် ပြောဆိုနေသည်ကို အီဗ်နေ့ အိုမရ်ﷺသခင်ကြားခဲ့ရသည်။ ထိုအခါ သခင်က ထိုသူ့အား 'အကယ်၍ ဟဂျာဂျ်အီဗ်နေ့ယူစွဖ် ကြားလောက်သည့် ရှေ့မှောက်တွင် ရှိနေမည်ဆိုလျှင် အသင် ထိုသို့ပြောမည်လား'ဟု မေးခဲ့သည်။ ထိုသူက 'ပြောမည်မဟုတ်ပါ'ဟုဖြေခဲ့သည်။ ထိုအခါ အီဗ်နေ့အိုမရ်ﷺသခင်က 'တမန်တော်မြတ်ﷺခေတ်က ငါတို့သည် ဤအပြုအမူမျိုးကို နိဖာက်ဟု သတ်မှတ်လေ့ရှိကြသည်'ဟု မိန့်ဆိုခဲ့သည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

من كان ذالِسانين في الدنيا جعله الله ذالِسانين في الآخرة . (ဂ.ဒ)

'အကြင်သူ ဒွန္နယာတွင် လျှာနှစ်ခွရှိသူဖြစ်ခဲ့လျှင် အာခိရတ်တွင်လည်း အလ္လာဟ်အရှင်က သူ့ကို လျှာနှစ်ခွရှိသူအဖြစ် ပြုတော်မူမည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

شر الناس ذو الوجهين الذي يأتي هؤلاء بوجه ويأتي هؤلاء بوجه . (ဂ.မ)

'လူတို့တွင် အဆိုးယုတ်ဆုံးသူသည် မျက်နှာနှစ်မျိုး ရှိသူဖြစ်သည်။ ၎င်းသည် ဤသူတို့ထံ လာလျှင် မျက်နှာတစ်မျိုးဖြင့် လာသည်။ ထို့နောက် ထိုသူတို့ထံ သွားလျှင် မျက်နှာတစ်မျိုးဖြင့် သွားသည်။'

ဟစ်ဘဇွရီ᷈သခင့်အား လူတစ်ယောက်က 'အချို့သူတို့က 'ငါတို့ နိဖာက်ကို မကြောက်ပါ'ဟု ပြောဆိုလျက်ရှိသည်' ဟု တင်ပြပြောဆိုရာ သခင်က 'အကယ်၍ ကျွန်ုပ်သည် နိဖာက်မှ ကင်းရှင်းကြောင်း သိရမည်ဆိုလျှင် ကျွန်ုပ်အဖို့ တောင်ပုံရာပုံရွှေများထက် ပို၍နှစ်သက်ဖွယ်ဖြစ်သည်'ဟု ပြောဆိုခဲ့၏။ လူတစ်ယောက်က ဟုဇိုင်ဖဟ်ﷺသခင့်အား 'ကျွန်ုပ် မုနာဖိက်ဖြစ်သွားမည်ကို ကြောက်ရွံ့လှပါသည်'ဟု ပြောဆိုခဲ့ရာ သခင်က 'အကယ်၍ အသင် မုနာဖိက်ဖြစ်နေလျှင် အသင်သည် နိဖာက်ကို ကြောက်ရွံ့လိမ့်မည်မဟုတ်ပါ။ မုနာဖိက်ဆိုသည်မှာ နိဖာက်မှ မကြောက်မရွံ့ရှိသူသာ ဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။ အီဗ်နေ့အဗီမုလိုင်ကာ᷈သခင်က 'ကျွန်ုပ်သည် တမန်တော်မြတ်ﷺ၏ဆွဟာဗဟ်ကြီး တစ်ရာသုံးဆယ်ကို တွေ့မိခဲ့ပါသည်။ ထိုဆွဟာဗဟ်ﷺသခင်အားလုံးသည် နိဖာက်ကို ကြောက်ရွံ့နေခဲ့ကြသည်'ဟု ပြောပြသည်။ ဆင့်ပြန်ချက်တစ်ခုတွင် သခင်တွေ့ဆုံခဲ့ရသောဆွဟာဗဟ် အရေအတွက်ကို တစ်ရာ့ငါးဆယ်ဟု ဖော်ပြထားသည်။

ဆင့်ပြန်မှုတစ်ခုလာရှိသည်မှာ–

أنّ رسول اللهﷺ كان جالسًا في جماعة من أصحابه فذكروا رجلًا وأكثروا الثناء عليه فبينا هم كذلك

إذ طلع عليهم الرجل ووجهه يقطر ماء من أثر الوضوء وقد علق نعله بيده وبين عينيه أثر السجود فقالوا : يارسول الله هو هذا الرجل الذي وصفناه ، فقال ﷺ : أرى على وجهه سفعة من الشيطان ، فجاء الرجل حتى سلم وجلس مع القوم ، فقال ﷺ : نشدتك الله هل حدّثت نفسك حين أشرفت على القوم أنه ليس فيهم خير منك ؟ فقال : اللهم نعم . (၁)

တစ်ကြိမ်တွင် တမန်တော်မြတ်ﷺသည် ဆွဟာဗဟ်အုပ်စုတစ်ခုသို့ ရောက်ရှိခဲ့သည်။ ထိုဆွဟာဗဟ်များသည် ပုဂ္ဂိုလ်တစ်ဦး၏အကြောင်းကို များစွာချီးမွမ်းပြောဆိုလျက်ရှိကြသည်။ ထိုအချိန်မှာပင် ထိုပုဂ္ဂိုလ်သည် ၎င်းတို့ဆီသို့ ရောက်လာခဲ့သည်။ ထိုပုဂ္ဂိုလ်၏မျက်နှာတွင် ဝုဇူ၏လက္ခဏာအဖြစ် ရေစက်များ ကျလျက်ရှိသည်။ ၎င်း၏လက်တွင် ဖိနပ်ကို ကိုင်ထားသည်။ ၎င်း၏မျက်လုံးနှစ်ခုအကြားတွင် စီဂျ်ဒဟ်၏အမှတ်အသား ရှိနေသည်။ ဆွဟာဗဟ်များက တမန်တော်မြတ်ﷺအား 'အို အလ္လာဟ့်တမန်တော်၊ ကျွန်ုပ်တို့ပြောဆိုနေသည့်ပုဂ္ဂိုလ်သည် ထိုသူပင်ဖြစ်ပါသည်'ဟု တင်ပြခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ငါသည် သူ၏မျက်နှာတွင် ရှိုင်တွာန်၏အမဲကွက်ကို မြင်တွေ့နေရသည်'ဟု မိန့်ဆိုခဲ့သည်။ ထိုအချိန်တွင် ထိုပုဂ္ဂိုလ် ရောက်လာပြီး ဆလာမ်ဆိုကာ ဆွဟာဗဟ်များနှင့်အတူဝင်ထိုင်လိုက်သည်။ တမန်တော်မြတ်ﷺက ၎င်းအား 'အလ္လာဟ်အရှင့်ကို တိုင်တည်၍ ငါအသင့်ကို မေးမည်။ လူတို့ထံ သင်လာရောက်စဉ် သင်၏စိတ်ထဲမှ 'သူတို့အထဲတွင် ငါ့ထက်မြင့်မြတ်သူ မည်သူမှမရှိ'ဟု ပြောဆိုလျက်ရှိသည် မဟုတ်ပါလော'ဟု မေးမြန်းခဲ့သည်။ ၎င်းက 'အမှန်ပင် ထိုအတိုင်းဖြစ်ပါသည်'ဟု ပြောဆိုဝန်ခံခဲ့သည်။

တမန်တော်မြတ်ﷺက–

اللهم إني أستغفرك لما علمت ولما لم أعلم ، فقيل له : أتخاف يا رسول الله ؟ فقال : وما يؤمنني و القلوب بين أصبعين من أصابع الرحمن يقلبها كيف يشاء ! وقد قال سبحانه :﴿وَبَدَا لَهُمْ مِنَ اللهِ مَا لَمْ يَكُونُوا يَحْتَسِبُونَ﴾ (၂)

မိမိ၏ဒိုအာတွင် 'ကျွန်တော်မျိုးသည် ကျွန်တော်မျိုးသိထားသည့်အရာမှ၎င်း၊ ကျွန်တော်မျိုးမသိသည့်အရာမှ၎င်း ကိုယ်တော်အရှင့်ထံ ခွင့်လွှတ်ရန် တောင်းခံပါသည်'ဟု ပန်ကြားခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺအား 'အိုအလ္လာဟ့်တမန်တော်၊ ကိုယ်တော် ကြောက်ရွံ့၍ပါလား'ဟု မေးမြန်းခဲ့သည်။ တမန်တော်မြတ်ﷺက 'ငါသည် အဘယ်မှာ စိတ်အေးလက်အေး ရှိနေနိုင်မည်နည်း။ နှလုံးသားများသည် အလ္လာဟ်အရှင်၏လက်ချောင်းများထဲမှ လက်နှစ်ချောင်း၏အကြားတွင် ရှိနေသည်။ အလ္လာဟ်အရှင်သည် ထိုနှလုံးသားများကို မိမိအလိုရှိသလို လှည့်ပြောင်းတော်မူသည်။ အလ္လာဟ်အရှင် မိန့်ထားတော်မူသည်မှာ–

﴿وَبَدَا لَهُمْ مِنَ اللهِ مَا لَمْ يَكُونُوا يَحْتَسِبُونَ﴾

**'ထို့ပြင် ၎င်းတို့ စဉ်းစားမထားခဲ့သောကိစ္စရပ်များသည် ၎င်းတို့ရှေ့မှောက်တွင် အလ္လာဟ်အရှင့်ဘက်တော်မှ ပေါ်ထွက်လာလိမ့်မည်။'** **(စူရာဇုမရ် ၊ ၄၇)**

ပညာရှင်များက ဤအာယတ်၏အကျယ်ဖွင့်ကို မိန့်ဆိုသည်မှာ 'လူတို့သည် ကျင့်မှုရာများကို ကျင့်ဆောင်ကြမည်။ ထို့နောက် ထိုကျင့်မှုရာများကို ကောင်းမှုများဟု မှတ်ယူကြလိမ့်မည်။ သို့နှင့်တိုင် ထိုကျင့်မှုရာများသည် မကောင်းမှု၏ချိန်ခွက်တွင် ရှိနေလိမ့်မည်။' **စစ်ရ်ရီဆကတီ**ႁသခင်က မိန့်ဆိုသည်မှာ 'လူတစ်ဦးသည် ဥယာဉ်တစ်ခုအတွင်းသို့ ဝင်ရောက်ခဲ့ရာ ထိုဥယာဉ်အတွင်းမှ သစ်ပင်များအားလုံးပေါ်တွင် ကျေးငှက်အမျိုးအစားအားလုံး ရှိနေပြီး ကျေးငှက်တိုင်းက ထိုသူ့အား သူ့စကားဖြင့် 'အို အလ္လာဟ်အရှင်၏အချစ်တော်၊ အသင့်အပေါ် ချမ်းမြေ့သာယာမှုသက်ရောက်ပါစေ'ဟု ပြောဆိုကြသည်။ ထိုသို့ပြောဆိုသည့်အပေါ်မှာ သူက စိတ်အေးလက်အေးရှိခဲ့မည်ဆိုလျှင် သူသည် ၎င်းတို့၏လက်တွင်း၌ အကျဉ်းသားဖြစ်ရပေလိမ့်မည်။'

ယခုဖော်ပြခဲ့သောဟဒီစ်များ၊ဩဝါဒများဖြင့် နိဖာက်နှင့်ရိုရ်ာကသေးတို့သည် စိုးရိမ်ထိပ်လန့်ဖွယ်ကိစ္စများဖြစ်ကြောင်း အသင်သိရပေပြီ။ အိမရ် ﷺ သခင်ကဲ့သို့ ပုဂ္ဂိုလ်ကြီးက နိဖာက်ကို ကျွမ်းကျင်သူ ဟုဇိုင်ဖဟ် ﷺ သခင့်ထံမှာ **မိမိ၏စိတ်အခြေအနေကို** ဖော်ပြ၍ မုနာဖိက်များတွင် မိမိပါဝင်နေခြင်း ရှိမရှိ မေးမြန်းခဲ့သည်ကို ထောက်ရှုခြင်းအားဖြင့် **နိဖာက်မှ မစိုးရိမ်**ဘဲနေ၍လည်း မဖြစ်ပေ။ အဗူဆုလိုင်မာန်ဒါရာနီ သခင်က 'ကျွန်ုပ်သည် အုပ်ချုပ်ရေးမှူးအချို့ထံမှ **တစ်စုံတစ်ခု**ကို ကြားသိရပြီး ထိုအချက်ကို ချေပမည်ဟု စိတ်ကူးခဲ့သည်။ ထိုသို့ချေပသည့်အတွက် ကျွန်ုပ်အား **သတ်ဖြတ်ရန်အမိန့်ထုတ်မည်**ကိုငှင်း၊ ကျွန်ုပ်သေရမည်ကိုငှင်း ကြောက်ရွံ့ခြင်းလည်းမရှိပါ။ သို့သော် ကျွန်ုပ်၏စိတ်**ထဲတွင် ကျွန်ုပ်**၏အသက်ဝိဉာဉ်ထွက်ခွါသည့်အခါ လူတို့က ကျွန်ုပ်အပေါ် ကောင်းသောထင်မြင်ချက်ထားကြမှာဘဲ**ဟူသောအတွေး**ဝင်မည်ကိုတော့ ကြောက်ရွံ့မိပါသည်။ ထို့ကြောင့် ကျွန်ုပ် ဘာမှမပြောဘဲ နှုတ်ပိတ်နေလိုက်ပါသည်' ဟု **ရှင်းပြမိန့်**ဆိုခဲ့သည်။

ဤသို့သောနိဖာက်မျိုးသည် အိမာန်၏အရင်းခံနှင့် ဆန့်ကျင်ခြင်းတော့မရှိပါ။ သို့သော် အိမာန်၏မှန်ကန်မှု၊ **အိမာန်၏စစ်မှန်မှု**၊ အိမာန်၏ပြည့်စုံကုံလုံမှု၊ အိမာန်၏စင်ကြယ်မှုတို့နှင့်မူ ဆန့်ကျင်လျက်ရှိပါသည်။ ဤသို့ရှိရခြင်းမှာ နိဖာက်သည် နှစ်မျိုးနှစ်စားရှိသည်။ ပထမအမျိုးအစားသည် သာသနာ့ဘောင်မှ လွတ်ထွက်ပြီး ကာဖိရ်များတွင် အပါအဝင်ဖြစ်ကာ ငရဲတွင် အမြဲထာဝရနေရမည့်အုပ်စုဝင်ဖြစ်စေသောနိဖာက်ဖြစ်သည်။ ဒုတိယအမျိုးအစားသည် ကျူးလွန်သူကို ကာလတစ်ခုကြာအောင် ငရဲတွင် ကျရောက်စေသည့်နိဖာက်ဖြစ်သည်။ သို့မဟုတ် ကျူးလွန်သူကို အစ်လီယီန်ဘုံမြင့်စံများနှင့် ဆွစ်ဒီကီန်သစ္စာရှင်တို့၏အဆင့်အတန်းမှ နိမ့်ကျလျော့ဆင်းစေသည့် နိဖာက်ဖြစ်သည်။ ဤဒုတိယအမျိုးအစားမှ မိမိလွတ်ကင်းမည် မလွတ်ကင်းမည်မှာ မသေချာပေ။ သို့ဖြစ်သောကြောင့် 'အလ္လာဟ်အရှင်အလိုတော်ဖြင့်' ဟု ပြောဆိုခြင်းသည် ကောင်းသောကျင့်မူရာဖြစ်သည်။ ဤနိဖာက်အမျိုးအစား၏အရင်းခံမူလသည် အတွင်းတစ်မျိုး အပြင်တစ်မျိုးရှိခြင်းဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင် ပေးမည့်ပြစ်ဒဏ်ကို စိုးရိမ်ကြောက်ရွံ့မှုမရှိခြင်းနှင့်မိမိကိုယ်ကို အထင်ကြီးခြင်းဖြစ်သည်။ ထို့ပြင် ဆွစ်ဒီက်သစ္စာရှင်များမှအပ မည်သူမျှ လွတ်ကင်းနိုင်ခြင်းမရှိသည့် အခြားကိစ္စရပ်များကြောင့် ဤနိဖာက်အမျိုးအစား ဖြစ်ပေါ်လာပေသည်။

**စတုတ္ထနည်းလမ်းပုံစံ–** မိမိ၏အိမာန်ကို 'အလ္လာဟ်အရှင်အလိုတော်ဖြင့်' ဟု စကားခံပြောဆိုခြင်း၏စတုတ္ထနည်းလမ်းပုံစံသည်လည်း ဒွိဟကိုပင် အခြေခံသည်။ ထိုဒွိဟသည် မိမိ၏နောက်ဆုံးနိဂုံးအတွက် ကြောက်ရွံ့စိုးရိမ်ခြင်းဖြစ်သည်။ ဆိုလိုသည်မှာ လူသားသည် မိမိကွယ်လွန်သေဆုံးချိန်တွင် အိမာန်ပါမည် မပါမည်ကို စိတ်မအေးရချေ။ အကယ်၍ သူ့အတွက် အဆုံးနိဂုံးသည် ကုဖ်ရ်ဖြစ်ခဲ့လျှင် မူလက ရှိခဲ့သောအိမာန်သည် အချည်းနှီးဖြစ်ရတော့မည်။ သို့နှင့်အမျှ သူ့အဖို့ နိဂုံးချုပ်ကောင်းမွန်ခြင်းသည် အဓိကအခရာဖြစ်လျက်ရှိသည်။

ရိုဇာသမားတစ်ယောက်အား မွန်းတည့်ချိန်တွင် သူ၏ရိုဇာပိုင်ခြင်းနှင့်ပတ်သက်၍ မေးမြန်းရာ သူက 'ကျွန်ုပ်သည် လုံးလုံးလျားလျားရိုဇာစောင့်နေသူဖြစ်သည်' ဟု ဖြေခဲ့၏။ ထို့နောက် သူက နေ့ခင်းအချိန်မှာပင် ရိုဇာကို လွှတ်လိုက်မည်ဆိုလျှင် သူ၏ပထမစကားသည် မုသားဖြစ်သွားလိမ့်မည်။ အကြောင်းမှာ ရိုဇာပိုင်ရန် နေ့၏နောက်ဆုံးနေလုံး ကွယ်ပျောက်ခြင်းအပေါ် မူတည်လျက်ရှိသောကြောင့်ဖြစ်သည်။ ဤနည်းနှင်နှင် နေ့အချိန်တစ်ခုလုံးသည် ရိုဇာအတွက် ကန့်သတ်ထားသော အချိန်အပိုင်းအခြားဖြစ်သကဲ့သို့ ဘဝသက်တမ်းတစ်ခုလုံးသည် အိမာန်အတည်ဖြစ်ရန်အတွက် ကန့်သတ်ထားသော အချိန်အပိုင်းအခြားဖြစ်လေသည်။ သို့နှင့်တိုင် အိမာန်အတည်ဖြစ်ရန်နှင့်ပြည့်စုံကုံလုံရန်မှာ နိဂုံးချုပ်အဆုံးသတ်အပေါ်တွင် အဓိကမူတည်လျက်ရှိသည်။ အိမာန်ရှင်အဖို့ ထိုနောက်ဆုံးအချိန်တွင် ထိုအိမာန် ရှိနေမည် မရှိမည်မှာ မသေချာသောကိစ္စပင်ဖြစ်သည်။ ထိုနိဂုံးရလဒ်သည် ကြောက်ရွံ့စိုးရိမ်ဖွယ်လည်းဖြစ်သည်။ များစွာသောအကြောက်ထားသူတို့သည် ထိုအတွက် ငိုကြွေးကြခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထို

နိဂုံးချုပ်သည် ကာယကံရှင်၏အထက်က အပြုအမူများ၏**အကျိုးဆက်**နှင့် အလ္လာဟ်အရှင်၏ပကတူးဆန္ဒတော်၏ ရလဒ်ဖြစ်သည်။ ထိုအကျိုးဆက်ရလဒ်သည် **နောက်ဆုံးနိဂုံး မရောက်မချင်း** ပေါ်ထွက်ခြင်းမရှိပေ။ ပကတူးဆန္ဒတော်မည်သို့ ရှိသည်ကို မည်သည့်လူသားတစ်ဦးမှ သိသည်မဟုတ်ချေ။ ပကတူးဆန္ဒတော်ထားရှိမှုသည် လက်ရှိအခြေအနေ၌ ပေါ်လွင်သိရှိရသောအချက်နှင့် များသောအားဖြင့် ဆန့်ကျင်လျက်ရှိတတ်သည်။ သို့နှင့်အမျှ အလ္လာဟ်အရှင်သည် မည်သူတို့အတွက် ကောင်းမွန်သောတက္ကဒီရ်ပြဋ္ဌာန်းတော်မူကြောင်း မည်သူသိနိုင်ပါအံ့နည်း။

အလ္လာဟ်အရှင် မိန့်တော်မူချက်– ﴿وَجَاءَتْ سَكْرَةُ الْمَوْتِ بِالْحَقِّ﴾

**'ထို့ပြင် သေခြင်း၏ပြင်းထန်မှုသည် အစစ်အမှန်အားဖြင့် ဆိုက်ရောက်လာမည်ဖြစ်သည်။'**

(စူရာကာဖ် ၊ ၁၉)

အာယတ်တွင် ဖေါ်ပြထားသည့် '**အစစ်အမှန်အားဖြင့်**' ဆိုသည်မှာ ပကတူးက သိမှတ်ပြဋ္ဌာန်းတော်မူချက်ဖြစ်သည်ဟု အချို့က ဖွင့်ဆိုကြသည်။ အချို့ရှေးသူဟောင်းတို့က 'ကျင့်ဆောင်မှုများကို ချိန်စက်မည်ဆိုခြင်းသည် နောက်ဆုံးနိဂုံး၏ကျင့်ဆောင်မှုများကို ဆိုခြင်းဖြစ်သည်' ဟု မိန့်ဆိုကြသည်။ အဗူဒရ်ဒါအ်ဴ ❀ သခင်က အလ္လာဟ်အရှင့်ကို ကျိန်တွယ်၍ 'မိမိ၏အီမာန် နှုတ်သိမ်းခံရမည့်အဖြစ်မှ စိတ်အေးလက်အေးရှိသူသည် အီမာန်နှုတ်သိမ်းခြင်းခံရမည်' ဟု ဆိုမိန့်ခဲ့သည်။ ထို့ပြင် အချို့ပုဂ္ဂိုလ်များက ဆိုမိန့်သည်မှာ 'အချို့သောအပြစ်ဒုစရိုက်များ၏ပြစ်ဒဏ်သည် နိဂုံးမကောင်းခြင်းဖြစ်သည်။' *ကျွန်ုပ်တို့သည် ထိုအပြစ်ဒုစရိုက်များမှ ကင်းရှင်းရန် အလ္လာဟ်အရှင့်ထံ ခိုလှုံပါ၏*။

ထို့ပြင် 'မိမိ ဝလီသူတော်စင်ဖြစ်ကြောင်း၊ မိမိတွင် ကရာမတ်ရှိကြောင်း လိမ်ညာပြောဆိုသူအတွက် ပြစ်ဒဏ်သည် နိဂုံးမကောင်းခြင်းဖြစ်သည်' ဟုလည်း အဆိုအမိန့်ရှိထားသည်။ အချို့အာရိဖ်သူတော်စင်များက ဆိုမိန့်သည်မှာ 'ကျွန်ုပ်အတွက် သက်သေခံချက်သည် အိမ်၏တံခါးတွင် ရှိနေမည်။ တဖန် တောင်ဟီဒ်ကို လက်ခံထားသည့်အဖြစ်နှင့်သေဆုံးရခြင်းသည် အိမ်၏အခန်းထဲ၌ ရှိနေမည်ဆိုလျှင် ကျွန်ုပ်သည် တောင်ဟီဒ်ကို လက်ခံသည့်အဖြစ်နှင့် သေဆုံးရခြင်းကို ရွေးချယ်မည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တံခါးပေါက်သို့ သွားနေစဉ် ကျွန်ုပ်၏နှလုံးသားထဲမှ တောင်ဟီဒ်ခံယူချက်တွင် ဘယ်လို အပြောင်းအလဲ ဖြစ်လာမည်ကို ကျွန်ုပ် မသိနိုင်သောကြောင့်ဖြစ်သည်။' ထို့ပြင် အချို့က ဆိုမိန့်သည်မှာ 'ကျွန်ုပ်သည် လူတစ်ယောက်ကို အနှစ်ငါးဆယ်တိုင်တိုင် တောင်ဟီဒ်ဝါဒီအဖြစ် သိခဲ့မည်။ ထို့နောက် ကျွန်ုပ် ထိုသူနှင့် ကွဲကွာသွားခဲ့မည်။ ထိုအချိန်၌ ထိုသူ သေဆုံးသွားခဲ့မည်လျှင် ထိုသူ့ကို တောင်ဟီဒ်ကို လက်ခံပြီး သေဆုံးခဲ့ခြင်းဖြစ်သည်ဟု ကျွန်ုပ် မပြောနိုင်ချေ။'

ဟဒီစ်တစ်ပုဒ်လာရှိသည်မှာ–

من قال أنا مؤمن فهو كافر ومن قال أنا عالم فهو جاهل ۔ (طس)

'အကြင်သူ မိမိကိုယ်ကို 'ကျွန်ုပ်အီမာန်ရှင်ဖြစ်သည်' ဟု ပြောဆိုလျှင် ထိုသူသည် ကာဖိရ်ဖြစ်၏။ ထို့ပြင် အကြင်သူ မိမိကိုယ်ကို 'ကျွန်ုပ် အာလင်မ်ပညာရှင်ဖြစ်သည်' ဟု ပြောဆိုလျှင် ထိုသူသည် အသိမရှိသူဖြစ်၏။'

အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ–

﴿وَتَمَّتْ كَلِمَاتُ رَبِّكَ صِدْقًا وَعَدْلًا﴾

**'ထို့ပြင် အသင်၏ရဗ်အရှင်၏မိန့်ကြားချက်သည် မှန်ကန်မှု၌၎င်း၊ တရားမျှတမှု၌၎င်း ပြည့်စုံပေ၏။'**

(စူရာအန်အာမ် ၊ ၁၁၅)

ဤအာယတ်ထဲမှ '**မှန်ကန်မှု**' သည် အီမာန်ရှိသူအဖြစ် နောက်ဆုံးနိဂုံးချုပ်ခြင်းကို ဆိုလိုသည်ဟု၎င်း၊ '**တရားမျှတမှု**' သည် ရှိရ်ကကျူးလွန်သူအဖြစ် နောက်ဆုံးနိဂုံးချုပ်ခြင်းကို ဆိုလိုသည်ဟု၎င်း မိန့်ဆိုကြသည်။ တဖန် အလ္လာဟ်အရှင်

F.47.A

မိန့်ကြားတော်မူသည်မှာ– ﴿وَلِلّٰهِ عَاقِبَةُ الْأُمُوْرِ﴾

**'ထို့ပြင် အရေးကိစ္စများ၏ နိဂုံးချုပ်ရလဒ်သည် အလ္လာဟ်အရှင်အတွက်သာ ဖြစ်တော်မူပေသည်။'**

(ဟူရာဟ်ဂျ် ၊ ၄၁)

**မရေရာမသေချာမှုက** ဤမျှအဆင့်အထိဖြစ်နေရာ 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု ပြောဆိုခြင်းသည် ဝါဂျိဗ်ဖြစ် **လာပေ**သည်။ အီမာန်သည်ကား ဂျန္နတ်အတွက် အကျိုးပြုမှုဖြစ်သည်။ ရိုဇာသည် ပေးအပ်သောတာဝန်ကို ကျေပြွန် **ခြင်းဖြစ်**သည်။ နေမဝင်မီ ရိုဇာကို လွှတ်လိုက်လျှင် ရိုဇာ၏တာဝန်ကို မကျေပြွန်နိုင်တော့ပေ။ အီမာန်သည်လည်း **ဤနည်း**အလားတူသာဖြစ်သည်။

ဤရှင်းပြချက်၏နောက်တွင် အကြင်သူတစ်ဦးအား ယမန်နေ့က ပြီးဆုံးခဲ့သည့်ရိုဇာနှင့်ပတ်သက်၍ 'အသင် **မနေ့က** ရိုဇာထားပါသလား'ဟု မေးမြန်းမည်ဆိုပါက ထိုသူက 'ဟုတ်ကဲ့၊ အလ္လာဟ်အရှင့်အလိုတော်ဖြင့်ပါ'ဟု ဖြေ **မည်**ဖြစ်သည်။ ရိုဇာအစစ်အမှန်သည် အလ္လာဟ်အရှင် လက်ခံခဲ့သောရိုဇာသာဖြစ်သည်။ အလ္လာဟ်အရှင် လက်ခံမှု ရှိမရှိကို အလ္လာဟ်အရှင်မှအပ မည်သူမှ သိနိုင်သည်မဟုတ်ပေ။ သို့ဖြစ်ရာ ကောင်းမြတ်သောလုပ်ရပ်တိုင်းအတွက် 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု ပြောဆိုခြင်းသည် ကောင်းမွန်လေသည်။ ထိုသို့ပြောဆိုခြင်းသည် မိမိ၏ကျင့်ဆောင်မှုကို အလ္လာဟ်အရှင် လက်ခံမည်လက်မခံမည် မသေချာကြောင်း ထုတ်ဖော်ခြင်းသာဖြစ်သည်။ မိမိ၏ကျင့်ဆောင်မှုတွင် အပြင်ပန်းအားဖြင့် ရှိအပ်သည့်အချက်အင်္ဂါများအားလုံး ညီညွတ်ပြည့်စုံနေသော်လည်း အလ္လာဟ်အရှင်မှအပ မည်သူမှမသိနိုင်သည့် အတွင်းကြောင်းများ ရှိနေသေးသည်။ ထိုအတွင်းကြောင်းများသည် ကျင့်ဆောင်မှုကို အလ္လာဟ်အရှင် လက်မခံစေမည့် အတားအဆီးများ ဖြစ်လာနိုင်သေးသည်။ သို့ဖြစ်သောကြောင့် မိမိ၏ကျင့်ဆောင်မှုကို လက်ခံမည်လက်မခံမည် ဒွိဟမကင်းရှိခြင်းသည် ကောင်းမွန်လေသည်။

ယခုဖော်ပြခဲ့သည်တို့မှာ မိမိ၏အီမာန်ကို အဖြေပေးရာ၌ 'အလ္လာဟ်အရှင်အလိုတော်ရှိလျှင်'ဟု စကားခံခြင်း ကောင်းမွန်သည့်အကြောင်း ရှင်းပြချက်များပင်ဖြစ်သည်။ ကျွန်ုပ်တို့သည် အကီဒဟ်အခြေခံကဏ္ဍကို ဤနေရာတွင် အဆုံးသတ်လိုက်ရပေသည်။

بحمدالله تعالى وصلى الله وسلم على سيدنا وعلى كل عبد مصطفى .

---

အိဟာအတ်အပိုင်း၊ တာတိယကာဏ္ဍ

# သန့်ရှင်းခြင်း၏အတွင်းရေးများ

بسم الله الرحمن الرحيم

**ချီးမွမ်းခြင်းဟူသမျှသည်** အလ္လာဟ်အရှင့်အဖို့သာ။ ထိုအရှင်သည် မိမိ၏ကျေးကျွန်လူသားများကို သန့်ပြန့်မှုနှင့် အသားကျယဉ်ပါးစေတော်မူသည်။ ထိုလူသားတို့၏အတွင်းပိုင်းစိတ်မနောများ သန့်ရှင်းရန်အတွက် ၎င်းတို့၏နှလုံးသားများအပေါ် မိမိ၏အလင်းရောင်နှင့်အမြုတေများကို သွန်းလောင်းပေးတော်မူသည်။ ထို့ပြင် ထိုအရှင်သည် ကြည်စင်သောရေကို ထိုလူသားတို့၏ဗဟိဒ္ဓကိုယ်ကာယများ သန့်ရှင်းမှုရရှိစေရန် အသင့်ပြုပေးတော်မူသည်။ တဖန် အလ္လာဟ်အရှင်သည် တမန်တော်မြတ်မုဟမ္မဒ်ﷺသခင့်အပေါ် ကောင်းချီးအဖြာဖြာပြုတော်မူပါစေ။ ထိုကိုယ်တော်၏လမ်းမှန်ပြမှု လင်းရောင်ခြည်သည် ကမ္ဘာလောက၏ဘက်ပေါင်းစုံ အစွန်အဖျားအထိ လွှမ်းခြုံလျက်ရှိပေသည်။ ထို့ပြင် ထိုကိုယ်တော်၏အိမ်သား နောက်လိုက်များအပေါ်သို့လည်း ကောင်းချီးအဖြာဖြာ ပြုတော်မူပါစေ။ ထိုအိမ်သားနောက်လိုက်များသည် သန့်ရှင်းစင်ကြယ်သောသခင်များဖြစ်ကြသည်။ ယခုပြုသည့် ကောင်းချီးမေတ္တာပို့မှု၏ဘရကတ်ဖြင့် ကြောက်မက်ဖွယ်ကိယာမတ်နေ့တွင် ကျွန်တော်မျိုးတို့အား လွတ်မြောက်အောင်မြင်မှုပြုတော်မူပါ။ ထို့ပြင် ဘေးဒုက္ခအန္တရာယ်များကို ကာဆီးပေးမည့် ဒိုင်းလွှားအဖြစ် ပြုတော်မူပါ။

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ- بني الدين على النظافة.
'သာသနာသည် သန့်ပြန့်မှုကို အခြေခံသည်'*

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ-(ဒ.ဒ) مفتاح الصلاة الطهور.
'နမာဇ်၏သော့တန်သည် သန့်ရှင်းမှုဖြစ်သည်။'

တဖန် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ-

﴿فِيهِ رِجَالٌ يُحِبُّونَ أَنْ يَتَطَهَّرُوا وَاللَّهُ يُحِبُّ الْمُطَّهِّرِينَ﴾

**'ထိုအထဲတွင် သန့်ရှင်းစွာနေရန် နှစ်သက်ကြသောလူများရှိသည်။ အလ္လာဟ်အရှင်သည် သန့်ရှင်းသူများကို ချစ်ခင်တော်မူသည်။'** (စူရာတောင်ဗဟ် ၊ ၁၀၈)

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ- الطهور نصف الإيمان. (တ)
'သန့်ရှင်းခြင်းသည် အီမာန်၏တစ်ဝက်ဖြစ်သည်။'

ထို့ပြင် အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ-

﴿مَا يُرِيدُ اللَّهُ لِيَجْعَلَ عَلَيْكُمْ مِنْ حَرَجٍ وَلَٰكِنْ يُرِيدُ لِيُطَهِّرَكُمْ﴾

**'အလ္လာဟ်အရှင်သည် အသင်တို့အပေါ် ကျပ်တည်းမှုပြုရန် လိုလားတော်မူခြင်းမရှိချေ။ သို့သော် ထိုအရှင်သည် အသင်တို့ကို သန့်ရှင်းရန်သာ လိုလားတော်မူသည်။'** (စူရာမာအိဒဟ် ၊၆)

---

*အီရာကီသခင်ˀက 'ကျွန်ုပ် ဤဟဒီစ်ကို ဤအတိုင်းမတွေ့ဘူးပါ။ သို့သော် အီဗ်နေ့ဟစ်ဘာန်ˀက ဖုအာဖာအ်ကျမ်း၌ အာအိရှာ‌ﷺသခင်မ ဆင့်ပြန်သောဟဒီစ်- تنظفوا فإن الإسلام نظيف (သန့်ပြန့်စွာနေကြကုန်။ အကြောင်းမှာ အစ္စလာမ်သည် သန့်ပြန့်သောသာသနာဖြစ်သည်)ကို၎င်း၊ တွဗ်ဗရာနီˀက အောင်စာတွဲကျမ်းတွင် အလွန်အားနည်းသောစနဒ်ဖြင့် လာရှိသော အီဗ်နေ့မတ်စအူဒ်ﷺသခင် ဆင့်ပြန်သည့်ဟဒီစ်- النظافة تدعوا إلى الإيمان (သန့်ပြန့်မှုသည် အီမာန်ကို ဖိတ်ခေါ်သည်)ကို၎င်း ဖေါ်ပြထားသည်'ဟု ဆိုပါသည်။

အမျှော်အမြင်ရှိသူတို့သည် ဤအာယတ်များနှင့်ဟဒီစ်များကို ကြည့်ရှုပြီးနောက် အတွင်းပိုင်း သန့်ရှင်းခြင်းသည် အရေးအကြီးဆုံးကိစ္စဖြစ်ကြောင်း ရိပ်စားနားလည်ကြလေသည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည့်-'သန့်ရှင်းခြင်းသည် အီမာန်၏တစ်ဝက်ဖြစ်သည်'ဟူသော မိန့်ဆိုမှု၏စာသားအဓိပ္ပါယ်သည် 'လူသားက မိမိ၏အပြင်ပိုင်းကို ရေလောင်းချ သန့်ပြန့်ပြီး အတွင်းပိုင်းကိုမူ မသန့်မရှင်းအရာများဖြင့် ညစ်ညမ်းစွာ ရှိစေခြင်းဖြစ်သည်'ဟု နားလည်မည်ဆိုက နားလည်နိုင်သည်။ အမှန်မှာ ဤသို့ လုံးဝမဟုတ်ပါပေ။ စင်စစ်တွင် သန့်ရှင်းခြင်းသည် အဆင့်လေးဆင့်ရှိသည်။

**ပထမအဆင့်**- ဗဟိဒ္ဓပိုင်း ခန္ဓာကိုယ် **အစရှိသည်တို့ကို** မသန့်၊ ညစ်ညမ်းမှု၊ မစင်ဘင်ပုတ်များမှ သန့်ရှင်းစွာထားခြင်းဖြစ်သည်။

**ဒုတိယအဆင့်**- ခန္ဓာကိုယ်**အစိတ်အပိုင်းများကို** မကောင်းမှု ဒုစရိုက်များမှ သန့်ရှင်းစွာထားခြင်းဖြစ်သည်။

**တတိယအဆင့်**- နှလုံးသားကို **မကောင်းသောအကျင့်စာရိတ္တများနှင့်စက်ဆုပ်ဖွယ်**အကျင့်စရိုက်များမှ သန့်ရှင်းစွာထားခြင်းဖြစ်သည်။

**စတုတ္ထအဆင့်**- အတွင်းမနောကို **အလ္လာဟ်အရှင်မှအပ အခြားအရာများမှ** သန့်ရှင်းစွာထားခြင်းဖြစ်သည်။ ဤစတုတ္ထအဆင့်သန့်ရှင်းမှုသည် **နဗီတမန်တော်များ**ﷺ**နှင့် ဆွစ်ဒီက်သစ္စာရှင်များ**အတွက် သီးသန့်ဖြစ်လေသည်။ အဆင့်အတန်းအသီးသီးတွင် **သန့်ရှင်းမှုသည် လက်တွေ့ကျင့်သုံးမှု၏**တစ်ဝက်ဖြစ်သည်။ စတုတ္ထအဆင့်၏အဆုံးစွန်ပန်းတိုင်သည် အတွင်းပိုင်း**ကျင့်ကြံမှုဖြင့် အလ္လာဟ်အရှင်၏**ဘုန်းတန်းခိုးအာနုဘော်ကို ပွင့်လင်းသိရှိရန်ဖြစ်သည်။ သို့နှင့်တိုင် အလ္လာဟ်**အရှင်မှအပ အခြားအရာများကို အတွင်းပိုင်းမှ** ထုတ်ပယ်ပစ်ခြင်းမပြုသ၍ အလ္လာဟ်အရှင်ကို သိသောမအ်ရိဖတ်အသိထူးသည် **ထိုအတွင်းသို့** ဝင်ရောက်မည်မဟုတ်ချေ။ သို့ဖြစ်သောကြောင့် အလ္လာဟ်အရှင်မိန့်ကြားတော်မူသည်မှာ- ﴿قُلِ اللّٰهُ ثُمَّ ذَرْهُمْ فِيْ خَوْضِهِمْ يَلْعَبُوْنَ﴾

**'(ကျမ်းဂန်ကို ချပေးသူသည်) အလ္လာဟ်အရှင်ဖြစ်သည်'ဟု အသင်ပြောလော့။ ထို့နောက် ၎င်းတို့အား အကျိုးမဲ့ထိစွများတွင် မြူးထူးနစ်စွန်းနေသည့်အဖြစ်နှင့် စွန့်ထားလော့။'** (စူရာအန်အာမ် ၊၉၁)

ထို့နောက်တဖန် အလ္လာဟ်အရှင်မိန့်တော်မူထားသည်မှာ-

﴿مَا جَعَلَ اللّٰهُ لِرَجُلٍ مِنْ قَلْبَيْنِ فِيْ جَوْفِهٖ﴾

**'အလ္လာဟ်အရှင်သည် လူသား၏ရင်ဘတ်ထဲတွင် နှလုံးသားနှစ်ခု ပြုလုပ်ပေးတော်မမူချေ။'**

(စူရာအဟ်ဇာဗ် ၊၄)

သို့ဖြစ်ရာ အလ္လာဟ်အရှင်သည် မည်သည့်လူသားကိုမှ အရှင့်ကိုသိရန်အတွက် နှလုံးသားတစ်ခု၊ အရှင်မှအပအခြားအရာများကိုသိရန်အတွက် နှလုံးသားတစ်ခု-ဟူ၍ နှလုံးသားနှစ်ခုပြုလုပ်ပေးတော်မမူချေ။ ဤနေရာတွင် အလ္လာဟ်အရှင်မှအပ အခြားအရာများမှ နှလုံးသားကို သန့်ရှင်းစွာထားရေးသည် ကိစ္စရပ်တစ်ခုဖြစ်ပြီး၊ အလ္လာဟ်အရှင်ကို သိသည့်မအ်ရိဖတ်အသိထူးရရှိရေးသည် ဒုတိယကိစ္စဖြစ်သည်။ သို့ဖြစ်ရာ သန့်ရှင်းမှု၏တစ်ဝက်သည် အတွင်းပိုင်းကို သန့်ရှင်းခြင်းဖြစ်ရသည်။

ဤနည်းအလားတူ တတိယအဆင့်သန့်ရှင်းခြင်း၏အန္တိမရည်ရွယ်ချက်သည် နှလုံးသားက ကောင်းမွန်သောအကျင့်စာရိတ္တများကို ကျင့်ဆောက်တည်ရန်နှင့် ရှရီအတ်လာ အကီဒဟ်ခံယူချက်များကို စွဲမြဲရန်ဖြစ်သည်။ ဤသို့ကျင့်ဆောင်စွဲမြဲနိုင်ရန်မှာ နှလုံးသားကို ဖေါက်ပြန်သောအကီဒဟ်များနှင့် စက်ဆုပ်ဖွယ်အကျင့်စရိုက်များမှ သန့်ပြန့်အောင်ပြုလုပ်ပြီးနောက်မှသာ ဖြစ်နိုင်ပေသည်။ ဤနေရာတွင်လည်း အပိုင်းနှစ်ပိုင်းရှိသည်။ ပထမပိုင်းဖြစ်သောနှလုံး

သားကို သန့်ရှင်းအောင်လုပ်ခြင်းသည် ဒုတိယပိုင်းအတွက် အကြိုလိုအပ်ချက်ဖြစ်သည်။ သန့်ရှင်းခြင်းကို 'အီမာန်၏တစ်ဝက်ဖြစ်သည်' ဟုဆိုခြင်းသည် ဤအဓိပ္ပါယ်အရဖြစ်၏။ ဤနည်းအလားတူ ခန္ဓာကိုယ်အစိတ်အပိုင်းများကို မကောင်းမှုဒုစရိုက်များမှ ကင်းရှင်းအောင်ထားခြင်းက အပိုင်းတစ်ပိုင်း၊ ထိုအစိတ်အပိုင်းများကို အမိန့်နာခံမှုများဖြင့် မြဲစေခြင်းက အပိုင်းတစ်ပိုင်းဖြစ်သည်။ ပထမပိုင်းသည် ဒုတိယပိုင်းအတွက် အကြိုလိုအပ်ချက်ဖြစ်သည်။

ဆိုခဲ့ပါအဆင့်များသည် အီမာန်၏အဆင့်နေရာများဖြစ်သည်။ အဆင့်နေရာတစ်ခုတိုင်းတွင် အဆင့်အတန်းတစ်ခုစီရှိကြသည်။ လူသားသည် အဆင့်နိမ့်ကို ပြီးမြောက်ကျော်ဖြတ်ခဲ့ခြင်းမရှိသ၍ အဆင့်မြင့်သို့ မရောက်နိုင်ပေ။ ဥပမာ အတွင်းပိုင်းကို မကောင်းသောအကျင့်စာရိတ္တများမှ သန့်ရှင်းပြီး ကောင်းမွန်သောအကျင့်စာရိတ္တများ ဖြင့်ဖြိုးခြင်းသည် အဆင့်တစ်ခုဖြစ်သည်။ နှလုံးသားကို မကောင်းသောအကျင့်စာရိတ္တများမှ သန့်ရှင်းခြင်းမပြုသ၍ ထိုအဆင့်သို့ မရောက်နိုင်ချေ။ ဤနည်းအလားတူပင် ခန္ဓာကိုယ်အစိတ်အပိုင်းများမှ မကောင်းမှုဒုစရိုက်များကို သန့်ရှင်းပြီး၊ အမိန့်နာခံမှုများ ဖြင့်ဖြိုးကျင့်သုံးခြင်းမရှိသ၍၊ နှလုံးသားကို မကောင်းသောအကျင့်စာရိတ္တများမှ သန့်ရှင်းသည့်အဆင့်သို့ မရောက်နိုင်ချေ။

ဤနေရာတွင် ရည်မှန်းချက်ပန်းတိုင်သည် မြင့်မြတ်မှုရှိသလောက် ပေါက်ရောက်ရန် ခက်ခဲလေသည်။ လမ်းခရီးသည် ရှည်လျားပြီး ခလုတ်ဆူးငြောင့်များ များပြားလှသည်။ ဤအရေးကိစ္စသည် လက်တွေ့ကြိုးပမ်းအားထုတ်မှုမပါဘဲ စိတ်ဆန္ဒမျှော်လင့်မှုသက်သက်ဖြင့် ပေါက်မြောက်ရောက်ရှိနိုင်သောကိစ္စဖြစ်သည်ဟု မထင်မှတ်အပ်ချေ။ မှန်သည်။ အကြင်သူ၏အတွင်းမျက်စေ့က ထိုအဆင့်အတန်းကွဲပြားမှုများကို မမြင်နိုင်ဘဲရှိမည်၊ ထို့ပြင် ၎င်းက သန့်ရှင်းမှုဆိုသည်မှာ အပြင်ပိုင်းသန့်ရှင်းမှုသာဖြစ်သည်ဟု နားလည်နေလျှင်တော့ ဤသို့ထင်မှတ်မည်သာဖြစ်သည်။

စင်စစ်တွင် အပြင်ပိုင်းသန့်ရှင်းမှုနှင့် အခြားသန့်ရှင်းမှုအဆင့်အတန်းများ၏ဆက်စပ်မှုသည် အခွံအကာနှင့် အနှစ်အသားတို့၏ဆက်စပ်မှုကဲ့သို့ဖြစ်သည်။ သို့နှင့်တိုင် အတွင်းမျက်စေ့မမြင်သူကမူ အပြင်ပိုင်းသန့်ရှင်းမှုကသာ အဓိကဦးတည်ချက်ဟု မှတ်ယူပြီး ထိုအတွက် လေးလေးနက်နက် အာရုံစိုက်သည်။ မိမိ၏အချိန်အများစုကို ကိုယ်လက်သုတ်သင်ခြင်း၊ အဝတ်လျှော်ဖွတ်ခြင်း၊ ခန္ဓာကိုယ်သန့်ရှင်းခြင်း၊ ရေကြည်ရေသန့်ကို များနိုင်သလောက်များများရအောင် ရှာဖွေစုဆောင်းခြင်းစသည်ကိစ္စရပ်များတွင် ကုန်ဆုံးစေလေသည်။ သို့ဖြင့် ၎င်းက ဤအပြင်ပိုင်းသန့်ရှင်းမှုသည်ပင် အဓိကဦးတည်ရည်မှန်းအပ်သည့်အရာဟု နားလည်သဘောပေါက်လေသည်။ ဤသည်မှာ ဝဿဝသာဖြစ်ခြင်းနှင့် အသိဉာဏ်ဖေါက်ပြန်နေခြင်းကြောင့်ပင်ဖြစ်ရသည်။ ၎င်းသည် အာဒိပုဂ္ဂိုလ်တို့၏ဘဝထုပ္ပတ်ကိုလည်း မသိတော့ချေ။ ထိုအာဒိပုဂ္ဂိုလ်တို့သည်နှလုံးသား၏သန့်ရှင်းမှုကို အထူးအလေးအနက်ထားခဲ့ကြသည်။ အပြင်ပိုင်းကိစ္စကိုမူ သာမာန်လောက်သာ သဘောထားခဲ့ကြသည်။

အိုမရ်ﷺသခင်သည် အရိုက်အရာမြင့်မားသောပုဂ္ဂိုလ်ဖြစ်ပါလျက် နဆ္ဆရာနီအမျိုးသမီးတစ်ဦး၏အိုးထဲမှ ရေဖြင့် ဝုဇူပြုခဲ့သည်။ ဆွဟာဗဟ်ﷺသခင်တို့သည် စားသောက်ပြီးစီးသည့်အခါ မိမိတို့၏လက်များကို ဟင်းနံ့ကျွေးနံ့များပြောင်စင်အောင် ဆေးကြောလေ့မရှိခဲ့ကြချေ။ သို့သာမက ထိုသခင်တို့သည် မိမိတို့၏လက်များကို ခြေဖဝါးများတွင် သုတ်ပစ်လေ့ရှိခဲ့ကြသည်။ ထို့ပြင် ထိုသခင်တို့က လက်ဆေးရွက်*ကို အသစ်ထွင်ထားသောဗိဒအတ်ဟု သတ်မှတ်ခဲ့ကြသည်။ ဗလီများတွင် နမာဇ်ဖတ်သည့်အခါမှာလည်း အခင်းမပါဘဲ မြေကြီးပေါ်တွင် ဖတ်လေ့ရှိကြသည်။

---

* အရဗီလို 'اشنان'ဟု ခေါ်သည်။ ကပ်ပါးပင်ငယ်တစ်မျိုးဖြစ်ပြီး ရှေးခေတ်က ထိုအပင်ကို လက်သန့်စင်ရန်အသုံးပြုကြသည်။ အဘိဓာန်တစ်ခုတွင် 'اشنان'ကို ရုက္ခမူဆားဟု ဖေါ်ပြသည်။ သစ်ပင်အမြစ်၊ အခေါင်းစသည်တို့ကို မီးဖုတ်၍ရရှိသည့်ပြာကို ချက်ရာမှရသောဆားဖြစ်သည်။ သို့ဖြစ်ရာ 'اشنان'သည် ဆွဟာဗဟ်များﷺခေတ်က လက်များကို သန့်စင်ရာတွင် ဆပ်ပြာကဲ့သို့ အသုံးပြုရသောသဘာဝပစ္စည်းတစ်ခုဖြစ်သည်။ – ဘာသာပြန်သူ။

လမ်းများပေါ်တွင် ဖိနပ်မပါ ခြေဗလာဖြင့် သွားလာလေ့ရှိကြသည်။ လှဲလျောင်းသည့်အခါမှာလည်း အခင်းအကျင်း မပါဘဲ မြေကြီးပေါ်တွင် သည်အတိုင်း လှဲလျောင်းလေ့ရှိကြသည်။ ဆွဟာဗဟ်ထဲမှ အကြီးအကဲများပင် ဤအတိုင်း ရှိခဲ့ကြသည်။ ကိုယ်လက်သုတ်သင်ရာတွင် ကျောက်ခဲများဖြင့် ပြီးစီးခဲ့ကြသည်။

အဗူဟုရိုင်ရဟ်ﷺအစရှိသည့် **ဆွဟ်ဗဟ်**သခင်များက–

كنا نأكل الشواء فتقام الصلاة فندخل أصابعنا في الحصى ثم نفركها بالتراب ونكبر . (ق)

'ကျွန်ုပ်တို့သည် အသားကြော် **စားပြီး**နောက် နမာဇ်ဖတ်ကြရတော့မည်ဆိုသောအခါ မိမိတို့၏လက်ချောင်းများကို ကျောက်စရစ်များထဲသို့ ထိုးသွင်းခဲ့ကြသည်။ ထို့နောက် မြေကြီးဖြင့် ပွတ်လူးလိုက်ကြသည်။ ထို့နောက် တက္ကဗီရ်ဖတ်ပြီး **နမာဇ်စ**လိုက်ကြသည်။'

အိုမရ်ﷺသခင်က မိန့်ဆိုသည်မှာ–

ما كنا نعرف الأشنان في عصر رسول الله ﷺ وإنما كانت مناديلنا بطون أرجلنا كنا إذا أكلنا الغمر مسحنا بها . (ق)

**'ကျွန်ုပ်တို့သည် တမန်တော်မြတ်ﷺ၏** ခေတ်က လက်ဆေးရွက်ဆိုသည်ကို မသိခဲ့ကြပေ။ ကျွန်ုပ်တို့ **၏ခြေဖဝါးများသည် ကျွန်ုပ်တို့အတွက်** လက်သုတ်ပဝါများဖြစ်ခဲ့**သည်။ ကျွန်ုပ်**တို့သည် ဟင်းကျွေးကို စားပြီးသည့်အခါ **ထိုခြေဖဝါးများကို သုတ်ခဲ့ကြသည်။'**

အဆိုရှိသည်မှာ **'တမန်တော်မြတ်ﷺလွန်**ပြီးနောက် ပထမဦးဆုံး **ပေါ်ထွက်သည့်**တီထွင်**မှု**များမှာ လေးခုဖြစ်သည်။ ယင်းတို့မှာ (**ဂျုံမှုန့်အနုချရန်) ဆန်ခါ**စိတ်၊ လက်ဆေးရွက်၊ စားပွဲ အခင်းနှင့် ဝမ်းဗိုက်အပြည့်စားသောက်ခြင်း တို့ဖြစ်သည်။ သို့နှင့်**အမျှ ဆွဟာဗဟ်**ﷺသခင်တို့၏ အဓိကဦးစားပေးမှုသည် အတွင်းပိုင်း သန့်ပြန့်ရေးသာ ဖြစ်ခဲ့သည်။ **အချို့ဆွဟာဗဟ်များ**ﷺ**ကဆိုလျှင်** 'ဖိနပ်စီးပြီး နမာဇ်ဖတ်ခြင်းက ပို၍မြတ်**သည်။ အကြောင်း**မှာ **တမန်တော်**မြတ်ﷺသည် **မိမိစီးထားသည့် ဖိနပ်များ**တွင် အညစ်အကြေးများ လူးပေနေသဖြင့် **ဂျိဗ်ရီလ်**ﷺ**သခင်က သတိ**ပေးသောအခါ ဖိနပ်ချွတ်**ပြီး နမာဇ်ဖတ်ခဲ့**သည်။ ထိုအခါ လူတို့ကလည်း ဖိနပ်များကို **ချွတ်ပစ်ခဲ့ကြသည်။ ထို**အခါ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ– لما خلعتم نعالكم . (د)

**'အသင်တို့** ဘာကြောင့် ဖိနပ်များကို ချွတ်ခဲ့ကြသနည်း'

ပညာရှင်တစ်ပါးဖြစ်သူ **နခအီ**သခင်သည် ဖိနပ်ချွတ်ပြီး နမာဇ်ဖတ်ခြင်းကို **မနှစ်မြို့သူဖြစ်သည်။** ၎င်းက ဖိနပ်ချွတ်ပြီး နမာဇ်ဖတ်ကြသူများနှင့်ပတ်သက်၍ 'ဖိနပ်လိုအပ်သူများ ရောက်လာပြီး **သူတို့၏ဖိနပ်များကို** ကောက်ယူသွားရန် ကျွန်ုပ်ဆန္ဒဖြစ်မိသည်'ဟုပင် မိန့်ဆိုခဲ့သည်။

အချုပ်ဆိုရသော် အပြင်ပန်းကိစ္စများနှင့်ပတ်သက်လျှင် အာဒိပုဂ္ဂိုလ်**တို့သည် ဤမျှ**ပြီးလွယ်စီးလွယ်သဘောထားခဲ့ကြသည်။ ဗွက်ထနေသောလမ်းများတွင် ခြေဗလာသွားလာကြပြီး **ထိုနေရာမှာ**ပင် ထိုင်ကြသည်။ ဗလီများထဲ၌ မြေကြီးပေါ်မှာပင် နမာဇ်ဖတ်ကြသည်။ **တိရိစ္ဆာန်များဖြင့် နယ်လေ့ထားသော** မုယောမှုန့်နှင့်ဂျုံမှုန့်ကို စားကြသည်။ ထိုတလင်းများပေါ်တွင် တိရိစ္ဆာန်များက ကျင်ငယ်စွန့်လေ့ရှိကြသည်။ **ထိုသခင်**တို့သည် ကုလားအုတ်ချေးနှင့်မြင်းချေးကို ရှောင်ရကောင်းမှန်း မသိကြချေ။ **ထိုတိရိစ္ဆာန်များသည်** အညစ်အပတ်များထဲတွင် လူးလိမ့်လေ့ရှိကြသည်။ ထိုသခင်တို့အနက် မည်သူကမျှ အညစ်အကြေးနှင့်ပတ်သက်၍ အသေးစိတ်ကိစ္စများကို မေးမြန်းခဲ့သည့်အကြောင်း ရေးသားဖော်ပြခြင်း လုံးဝမတွေ့ရပေ။ အချုပ်ဆိုသော် အပြင်ပန်းကိစ္စများနှင့်ပတ်သက်လျှင် ထိုပုဂ္ဂိုလ်တို့သည် ဤမျှ ပြီးလွယ်စီးလွယ်သဘောထားခဲ့ကြသည်။

ယခုကား အနေအထားသည် ပြောင်းသွားခဲ့ပေပြီ။ လူတို့သည် ပေါ်ကျောနေခြင်းကို သန့်ပြန့်ခြင်းဟု အမည်

ပေးလိုက်ကြလေသည်။ ထို့နောက် ၎င်းတို့က 'ဤသည်ပင် သာသနာ၏အရင်းခံပဓာနဖြစ်သည်'ဟု ပြောဆိုကြလေသည်။ ထို့နောက် ၎င်းတို့သည် အလှပြင်ဖြီးသင်သူက သူတို့သမီးများကို ချယ်သ သကဲ့သို့ အချိန်အများစုအား မိမိတို့၏အပြင်ပိုင်းကို ချယ်သခြင်းဖြင့် ကုန်ဆုံးကြလေသည်။ သို့နှင့်တိုင် ၎င်းတို့၏အတွင်းပိုင်းသည် မာန၊ မိမိကိုယ်ကို အထင်ကြီးခြင်း၊ မသိမိုက်မဲခြင်း၊ ပြစ်မှားခြင်း၊ အရေခြုံခြင်းတို့ဖြင့် ပြည့်နှက်လျက်ရှိသည်။ ၎င်းတို့သည် ထိုအရာများအပေါ် မနှစ်မသက်ဖြစ်ခြင်းလည်းမရှိ၊ ထိုအရာများကို ရှင်းထုတ်ရန် ကြိုးစားခြင်းလည်း မရှိကြချေ။ အကယ်၍ တစ်ဦးတစ်ယောက်အား ကျောက်စရစ်ခဲဖြင့် ကိုယ်လက်သုတ်သင်သည်ကိုငင်း၊ မြေပေါ်တွင် ခြေဗလာသွားလာနေသည်ကိုငင်း၊ မြေကြီးပေါ်တွင် နမာဇ်ဖတ်နေသည်ကိုငင်း၊ ဗလီများထဲရှိ အခင်းကြမ်းပေါ်တွင် မုဆလ္လာအပေါ်ခင်းမပါဘဲ နမာဇ်ဖတ်သည်ကိုငင်း၊ ခြေထောက်တွင် သားရေစီးမပါဘဲ သွားလာနေသည်ကိုငင်း တွေ့မြင်ရမည်ဆိုပါက ၎င်းတို့သည် အလွန်ပင်မနှစ်မြို့နိုင်အောင်ရှိကြလိမ့်မည်။ ထိုသူ့ကို ညစ်ပတ်သူဟု သမုတ်ကြလိမ့်မည်။ ထိုသူမျိုးနှင့်အတူ စားသောက်ခြင်း၊ ရောနှောဆက်ဆံခြင်းများမပြုဘဲ ဝေးဝေးမှရှောင်ကြလိမ့်မည်။ အံ့သြစရာပင်။ ၎င်းတို့သည် အီမာန်၏အစိတ်အပိုင်းဖြစ်သော မိမိကိုယ်ကို ချိုးနှိမ်ခြင်း၊ ကျိုးနွံခြင်းကို အညစ်အပတ်ဟု သတ်မှတ်ကြသည်။ ထို့နောက် ပေါ့ကျော့နေခြင်းကို သန့်ပြန့်မှုဟု အမည်ပေးကြသည်။ ကောင်းမှုသည် မကောင်းမှုဖြစ်ပြီး မကောင်းမှုသည် ကောင်းမှုဖြစ်လျက်ရှိသည်။ သာသနာသည် ထုံးတမ်းစဉ်လာဖြစ်ရလေပြီ။ သာသနာ၏အစစ်အမှန်သဘောနှင့် သာသနာ့အသိပညာသည် တိမ်ကောရလေပြီ။

အကယ်၍ စာရှုသူက ကျွန်ုပ်အား 'ဆူဖီသခင်များက မိမိတို့၏သရုပ်သဏ္ဌာန်နှင့်သန့်ပြန့်မှုတွင် တီထွင်ကျင့်သုံးခဲ့သော ဤအကျင့်ဓလေ့များကို အသင်က တားမြစ်ချက်များ၊ မကောင်းမှုများဟု ပြောဆိုမည်လား'ဟု ဆိုခဲ့လျှင် ကျွန်ုပ်က ဤသို့အဖြေပေးမည်။ ကျွန်ုပ်သည် ပိုင်းပိုင်းခြားခြားမပြုဘဲ မည်သည့်အရာကိုမှ မကောင်းမှုသက်သက်ဖြစ်သည်ဟု ပြောဆိုခြင်းမပြုပေ။ စင်စစ် ကျွန်ုပ်ပြောဆိုသည်မှာ ဤသို့သန့်ပြန့်စွာနေခြင်း၊ တမူတယုရှိခြင်း၊ အိုးခွက်နှင့်အသုံးအဆောင်များ ထားရှိခြင်း၊ ခြေစွပ် ဝတ်ခြင်း၊ ဦးခေါင်းကို ဖုံမှုန့်များမှ ကာကွယ်ရန် ပဝါရုံခြင်း အစရှိသည်တို့သည် သူချည်းသက်သက် ပင်ကိုယ်သဘောအရဆိုလျှင် ပြုပိုင်သောကိစ္စများသာဖြစ်သည်။ ပြုမူသည့်အခြေအနေနှင့် ရည်ရွယ်ချက်များ ကွဲပြားခြားနားသည့်အပေါ်မှာ ဤကိစ္စများသည် တစ်ခါတစ်ရံ ကောင်းမှုများဖြစ်ပြီး တစ်ခါတစ်ရံ မကောင်းမှုများဖြစ်ရသည်။

ပင်ကိုယ်အားဖြင့် အဆိုပါကိစ္စများကို ပြုပိုင်ခြင်းမှာ ရှင်းနေပြီဖြစ်သည်။ ဖြုန်းတီးခြင်းနှင့်အပိုသုံးခြင်း မဟုတ်လျှင်၊ မိမိ၏ပစ္စည်း၊ မိမိ၏ခန္ဓာကိုယ်နှင့် မိမိ၏အဝတ်အစားကို ထိုကိစ္စများအတွက် သုံးစွဲခြင်းသည် ပြုပိုင်သောအရာဖြစ်သည်။ ထိုကိစ္စများ၏မကောင်းမှုဖြစ်ရခြင်းမှာ ယင်းတို့ကို သာသနာ၏အရင်းခံပဓာနဖြစ်သည်ဟု သတ်မှတ်ခဲ့ကြခြင်းကြောင့်ဖြစ်သည်။ ထို့ပြင် တမန်တော်မြတ်ﷺ၏–

بني الدين على النظافة .

'သာသနာသည် သန့်ပြန့်မှုကို အခြေခံသည်'

ဆိုသော မိန့်ဆိုမှုသည် အဆိုပါကိစ္စများအား ဆိုလိုခြင်းဖြစ်သည်ဟု ဖွင့်ဆိုကြသောကြောင့်ဖြစ်သည်။ ထို့ပြင် အာဒိပုဂ္ဂိုလ်များက ထိုကိစ္စများကို သာမညသဘောထားခဲ့သည့်အတိုင်း လိုက်ပါသဘောထားသူအပေါ် စောဒကတက်ကြသည်။ သို့မဟုတ်ကလည်း ထိုကိစ္စများကို အပြင်ပန်းတင့်တယ်ပြီး လူတို့ထံတွင် အမြင်ကောင်းစေရန် ရည်ရွယ်ချက်ဖြင့် ပြုမူကြသောကြောင့်ဖြစ်သည်။ ထိုအခါ ထိုကိစ္စများသည် ပြစ်မှားမှုတွင်ပါဝင်ကာ မကောင်းမှုဖြစ်သွားရသည်။

ထိုကိစ္စများ ပြုပိုင်ရန်မှာ ပကာသနအတွက်မဟုတ်ဘဲ ကောင်းသောရည်ရွယ်ချက်အတွက်ဖြစ်ရမည်။ ထို့ပြင် ထိုကိစ္စများကို မပြုဘဲလွှတ်ထားသူအား အငြင်းဝင်စောဒကမတက်ရပေ။ ထို့ပြင် ထိုကိစ္စများဆောင်ရွက်နေရသဖြင့်

နမာဇ်၏အချိန်ဦးကို မမီတော့ဘဲ နှောင့်နှေးခြင်းမဖြစ်ရပေ။ တဖန် ထိုကိစ္စများကို ဆောင်ရွက်နေရသဖြင့် ထိုကိစ္စများ ထက်မြတ်သည့် ဥပမာ ပညာရေးစသည့်တို့ကို လက်လွှတ်လက်မဲ့မဖြစ်စေရပေ။ အကယ်၍ ဤအချက်များနှင့်ကိုက်ညီခဲ့လျှင် ထိုကိစ္စများသည် ပြုပိုင်သောကိစ္စများပင်ဖြစ်သည်။ သို့သော်မကာ ရည်ရွယ်ချက်အပေါ်မှာ ကုသိုလ်ရဖို့ပင်ရှိသေးသည်။ သို့ဖြစ်ရာ ထိုကိစ္စများကိုမှ လုပ်မနေရလျှင် ၎င်းတို့၏အချိန်များသည် အိပ်ခြင်းနှင့် အဓိပ္ပါယ်မဲ့စကားပြောဆိုခြင်းတွင် ကုန်ဆုံးရတော့မည်ဆိုသူတို့အဖို့ကား ထိုကိစ္စများတွင် နစ်မြုတ်နေခြင်းကသာ၍ကောင်းလေသည်။ အဘယ်ကြောင့်ဆိုသော် သန့်ရှင်းမှုကိစ္စများကို ဆောင်ရွက်နေခြင်းက အလ္လာဟ်အရှင်ကို သတိရတသမှုတွင် စိတ်သစ်ကိုယ်သစ်ဖြစ်စေပြီး အိဗာဒတ်ကို နိုးဆော်ပေးသောကြောင့်ဖြစ်သည်။ သို့ဖြစ်အမျှ လူပြင်းလူပေါ့များအတွက် မကောင်းမှုလည်းမဖြစ်၊ အပိုသုံးမှုလည်း မဖြစ်စေလျှင် ထိုသန့်ရှင်းမှုကိစ္စက ပိုကောင်းသည်ဟု ဆိုရခြင်းဖြစ်သည်။

ပညာဆည်းပူးကျင့်ဆောင်နေသူများအဖို့ကား မိမိတို့၏အချိန်များကို ထိုကိစ္စများတွင် သုံးစွဲရန် ခထိုက်ချေ။ အချိန်ကို လိုအပ်သလောက်သာ သုံးသင့်ပြီး ထို့ထက်ပိုလျှင် ၎င်းတို့အတွက် မကောင်းဖြစ်လိမ့်မည်။ ဘဝသက်တမ်းသည် တန်ဖိုးအရှိဆုံးနှင့် အလေးအထားထိုက်ဆုံးအရာဖြစ်ရာ အလဟဿဖြုန်းတီးပစ်ခြင်းငှါ မထိုက်ချေ။ လူအချို့အတွက် အကျိုးရှိသောကိစ္စရပ်တစ်ခုသည် လူအချို့အတွက် အကျိုးမဲ့သောကိစ္စဖြစ်စေသည်။ လူကောင်းသူကောင်းတို့ထံတွင် ကောင်းမှုဖြစ်နေသောကိစ္စများသည် သူတော်စင်သူတော်ကောင်းတို့ထံတွင် မကောင်းမှုများဖြစ်ရသည်မှာ အံ့ဩစရာမဟုတ်ပါ။ လူပြိန်းတို့သည် မိမိတို့ကိုယ်တိုင်က သန့်ပြန့်မှုကို လက်လွှတ်စပယ်ထားပြီး ဆူဖီသခင်များအပေါ် စောဒကတက်ရန်မသင့်ပေ။ ထို့ပြင် မိမိတို့ကိုယ်ကို ဆွဖာဗဟ်သခင်များ ﷺနှင့် နှိုင်းယှဉ်ချက်ထုတ်ရန်လည်း မသင့်ပေ။ သန့်ပြန့်မှုကိစ္စများထက်ပိုပြီး အရေးကြီးသောကိစ္စများတွင် မအားမလပ်အောင်ရှိနေမည်ဆိုမှသာ ဆွဖာဗဟ်သခင်များ ﷺနှင့် နှိုင်းယှဉ်ချက်ထုတ်နိုင်မည်ဖြစ်သည်။

ဒါဝုဒ်တွာအီ ^သခင်အား လူတစ်ယောက်က 'သခင် အဘယ်ကြောင့် မုတ်ဆိတ်ကို ဖြီးသင်ခြင်းမပြုပါသလဲ' ဟုမေးမြန်းခဲ့သည်။ သခင်က 'ငါသည် ထိုအလုပ်ပိုအတွက် အားလပ်သူမဟုတ်ပါ'ဟု အဖြေပေးခဲ့သည်။ သို့ဖြစ်၍ ကျွန်ုပ်တို့အမြင်တွင် ပညာရှင်၊ ပညာသင်နှင့် တရားကျင့်ကြံနေသူတို့သည် အဝတ်လျှော်ဖွတ်သူ၏ပေါ့ဆမှုကြောင့် အဝတ်များ မသန့်မရှင်းဖြစ်မည်ဟူသော အတွေးအထင် ရှောင်ကျဉ်မှုဖြင့် အဝတ်ကို ကိုယ်တိုင်လျှော်ဖွတ်ပြီး မိမိတို့၏အချိန်ကို မဖြုန်းတီးစေသင့်ပေ။ ခေတ်ဦးပိုင်းဆီက လူတို့သည် ကျက်နယ်ထားသော သားရေစဖြင့် နမာဇ်ဖတ်လေ့ရှိကြခဲ့သည်။ အမှန်အားဖြင့် လျှော်ဖွတ်ထားသောအဝတ်အထည်နှင့် ကျက်နယ်ထားသော သားရေစ တို့သည် သန့်မှုနှင့် မသန့်မှုတွင် လွန်စွာ ကွာခြားလေသည်။ သို့နှင့်တိုင် ထိုသခင်တို့သည် မသန့်ကို မျက်မြင်ထင်ရှား တွေ့ရသည့်အခါမှသာ ရှောင်ဖယ်လေ့ရှိကြသည်။ မသန့်၏ဖြစ်နိုင်ချေကို အသေးစိတ်အထိ လက်ကုန်နှိုက်၍ စဉ်းစားတွေးဆခြင်းမပြုကြပေ။ ထိုအစား သခင်တို့သည် ပြစားမှုဖြစ်မည့်ကိစ္စများ၊ တရားမဲ့မှုဖြစ်မည့်ကိစ္စများတွင် အသေးစိတ်စဉ်းစားတွေးဆလေ့ရှိကြသည်။

ဆွဖ်ယန်ဆော်ရီ ^သခင်သည် အဖော်တစ်ဦးနှင့်အတူ လျှောက်သွားနေစဉ် မြင့်စွင့်သောအိမ်တစ်ဆောင်၏ တံခါးပေါက်ကို ကြည့်လိုက်မိသည်။ ထိုအခါ မိမိ၏အဖော်အား သခင်က 'အသင် ဤအိမ်မျိုးကို မဆောက်နှင့်။ အကယ်၍ လူတို့ကသာ ကြည့်ရှုခြင်းမပြုလျှင် အိမ်ရှင်သည် ဤသို့သောအပိုသုံးဖြုန်းမှုပြုလုပ်လိမ့်မည်မဟုတ်ပါ'ဟု ပြောဆိုခဲ့သည်။ ဤစကားအရ အပိုသုံးဖြုန်းမှုကို အရသာခံကြည့်ရှုသူသည် အပိုသုံးဖြုန်းသူနှင့် အလိုတူအလိုပါဖြစ်ကြောင်း သိရသည်။ ထိုသခင်တို့သည် မသန့်ဖြစ်ကောင်းဖြစ်နိုင်မည့်ကိစ္စကို စဉ်းစားမည့်အစား ဤကဲ့သို့သောကိစ္စမျိုးတွင် မိမိတို့၏ဉာဏ်စွမ်းရှိသမျှဖြင့် စေ့ငုစဉ်းစားလေ့ရှိကြသည်။

အကယ်၍ ပညာရှင်တစ်ဦးသည် မိမိ၏အဝတ်များအား ဂရုတစိုက်လျှော်ဖွတ်ပေးမည့် လူသာမန်တစ်ဦးကို

F.48.A

တွေ့ရမည်ဆိုလျှင် ဤသည်မှာ အကျိုးရှိစေမှုပင်ဖြစ်သည်။ အကြောင်းမှာ အပြင်းဖက်နေမည့်အစား ဤအလုပ်က ထိုသူ့အဖို့ ကောင် သည်။ ထိုလူသာမန်အဖို့ ဤမှုဗဟ်အလုပ်ကို လုပ်ကိုင်နေရသဖြင့် မိမိ၏နဖ်စိစိတ်က လှုံ့ဆော်သောကြောင့် မကောင်းမှုကျူးလွန်ဖြစ်မည့်အရေးမှ အခိုက်အတန့်ကာကွယ်မှုရလေသည်။ နဖ်စိစိတ်သည် အလုပ်တစ်ခုခုထဲတွင် ရှိမနေလျှင် ၎င်းက မိမိ၏ပိုင်ရှင်ကို မိမိ၏အလုပ်များထဲသို့ ဆွဲဆောင်သောကြောင့်ဖြစ်သည်။

ထိုလူသည် ကုသိုလ်၏မျှော်မှန်းချက်ဖြင့် ပညာရှင်၏အဝတ်လျှော်ပေးမည်ဆိုလျှင် ထိုလုပ်ရပ်သည် သူ့အဖို့ အမြတ်ဆုံးကုသိုလ်ရေးကိစ္စပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ပညာရှင်၏အချိန်သည် ထိုကဲ့သို့အလုပ်များတွင် အသုံးချလုပ်ကိုင်ခြင်းထက် ပို၍မြတ်သည်။ ထိုအလုပ်မျိုးကို လူသာမန်က ဝင်၍တာဝန်ယူခြင်းဖြင့် ပညာရှင်အတွက် အချိန်ပို ထွက်လာမည်ဖြစ်သည်။ တဖန် လူသာမန်အတွက် အမြတ်ဆုံးအချိန်သည် ထိုကဲ့သို့အလုပ်မျိုးကို လုပ်ကိုင်နေခြင်းဖြစ်သည်။ ထိုသို့လုပ်ကိုင်ခြင်းဖြင့် ထိုသူ့အတွက် ဘက်ပေါင်းစုံမှ ကောင်းကျိုးများခံစားရရှိမည်ဖြစ်လေသည်။ ဤဥဒါဟရဏ်ဖြင့် အခြားအလားတူအလုပ်များ၊ ထိုအလုပ်များ၏ထွတ်မြတ်မှုအဆင့်အတန်းများ၊ အလုပ်တစ်ခုနှင့်တစ်ခုတွင် ဦးစားပေးရမည့်အကြောင်းများကို ရိပ်စားနားလည်နိုင်ပေသည်။ လောကီရေးကိစ္စများတွင် အသေးစိတ်စဉ်းစားသုံးသပ်ခြင်းထက် မိမိ၏ဘဝသက်တမ်း၏တဒင်္ဂတိုင်းကို ထွတ်မြတ်သောကိစ္စများတွင် အသုံးချရန် အသေးစိတ်တွက်ဆစ်ခြင်းက ပို၍အရေးကြီးပေသည်။

ယခုဖော်ပြခဲ့သည်တို့မှာ သန့်ရှင်းခြင်း၏အတွင်းရေးများအကြောင်း စကားဦးသန်းခြင်းမျှဖြစ်သည်။ ဤတွင် သန့်ရှင်းခြင်းသည် အဆင့်အတန်းလေးခုရှိကြောင်း စာရှုသူသိရပြီဖြစ်သည်။ ကျွန်ုပ်သည် ဤကဏ္ဍတွင် အပြင်ပိုင်းနှင့်သက်ဆိုင်ရာသန့်ပြန့်မှုအကြောင်းကို ပြဆိုမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်သည် ဤကျမ်း၏ရှေ့ပိုင်းတစ်ဝက်တွင် အပြင်ပိုင်းဗဟိဒ္ဓနှင့်သက်ဆိုင်ရာ အကြောင်းရပ်များကို အဓိကတင်ပြရမည်ဖြစ်သောကြောင့်ပင်။

အပြင်ပိုင်းသန့်ရှင်းမှုသည် အမျိုးအစားသုံးခုရှိသည်။ ညစ်ညမ်းမှုမှ သန့်ရှင်းခြင်း၊ မသန့်ဖြစ်မှုမှ သန့်ရှင်းခြင်းနှင့်ခန္ဓာကိုယ်၏အပိုအလျှံများကို သန့်ရှင်းခြင်းတို့ဖြစ်သည်။ ယင်းအပိုအလျှံများကို ဖြတ်တောက်ခြင်း၊ ရိပ်ပယ်ခြင်းနှင့် ထုံးအသုံးပြုခြင်းတို့ဖြင့် သန့်ရှင်းနိုင်သည်။

### ပထမအမျိုးအစား

## ညစ်ညမ်းမှုမှ သန့်ရှင်းခြင်း

**ဤအခန်းတွင် ဖယ်ရှားရမည့်အရာ၊ ဖယ်ရှားရာတွင် အသုံးပြုသည့်ပစ္စည်းနှင့် ဖယ်ရှားပုံဖယ်ရှားနည်းတို့နှင့်သက်ဆိုင်ရာများကို ကြည့်ရှုသုံးသပ်ထားသည်။**

### ဖယ်ရှားရမည့်အရာ

ဖယ်ရှားပစ်ရမည့် ညစ်ညမ်းမှုအရာသည် မူရင်းအားဖြင့် သုံးမျိုးရှိသည်။ သက်မဲ့အရာများ၊ သက်ရှိအရာများနှင့် သက်ရှိ၏အစိတ်အပိုင်းများဟူ၍ဖြစ်သည်။ သက်မဲ့အရာများတွင် အရက်နှင့်မူးယစ်စေသည့်စိမ်ရည်များမှလွဲ၍ ကျန်အရာဝတ္ထုအားလုံးသည် အသန့်ဖြစ်သည်။ သက်ရှိများတွင် ခွေး၊ ဝက်နှင့် ထိုသတ္တဝါနှစ်မျိုးမှ ထွက်ပေါ်သည့်

အရာများမှလွဲလျှင် ကျန်သက်ရှိအရာအားလုံး အသန့်ဖြစ်သည်။ သက်ရှိငါးမျိုးမှလွဲ၍ ကျန်သက်ရှိများအားလုံးသည် သေသည့်အခါ မသန့်ဖြစ်သွားသည်။ သေသော်လည်း မသန့်မဖြစ်သည့်သက်ရှိများမှာ လူသား၊ ငါး၊ နှံကောင်၊ ပန်းသီး၏ပိုးတို့ဖြစ်သည်။ အစားအစာ သို့မဟုတ် ရှလကာရည်စသည်တို့တွင် ကျသောပိုးမျိုးလည်း ဤပန်းသီးပိုးတွင် အကျုံးဝင်သည်။ သေသော်လည်း မသန့် မဖြစ်သည့် ပဉ္စမမြောက် သက်ရှိအမျိုးအစားမှာ စီးတွေသောသွေး မပါရှိသည့် ယင်ကောင်၊ ပိုးစီတုတ် အစရှိသည့်တို့ဖြစ်သည်။ ဤအမျိုးအစားသက်ရှိများ ရေတွင် ကျသဖြင့် ရေသည် မသန့်မဖြစ်ပါ။

သက်ရှိ၏အစိတ်အပိုင်းများသည် နှစ်မျိုးရှိသည်။ တစ်မျိုးမှာ သက်ရှိမှ ပြတ်တောက်သည့်အစိတ်အပိုင်းဖြစ်သည်။ ၎င်း၏အမိန့်သည် အသေကောင်၏အမိန့်နှင့်အတူတူဖြစ်သည်။ သို့သော် အမွေးအမှင်သည် သီးခြားကွဲကွာနေသော်လည်း မသန့်မဖြစ်ချေ။ အရိုးသည် မသန့်ဖြစ်သည်။[*] သက်ရှိ၏အစိတ်အပိုင်း နှစ်မျိုးအနက် ဒုတိယအမျိုးမှာ သက်ရှိ၏ခန္ဓာကိုယ်အတွင်းမှ ထွက်လာသည့်အစိုဓါတ်များဖြစ်သည်။ ထိုအရည်များသည်လည်း နှစ်မျိုးရှိသည်။ ပြောင်းလဲမှုလည်းမရှိ၊ ခန္ဓာကိုယ်တွင် တည်ရာနေရာလည်းမရှိသော အရည်အားလုံးသည် အသန့်ဖြစ်သည်။ ဥပမာ မျက်ရည်၊ ချွေး၊ တံတွေး၊ နှာရည်တို့ဖြစ်သည်။ တည်ရာနေရာရှိပြီး ပြောင်းလဲမှုရှိသော အရည်များသည် မသန့်ဖြစ်သည်။ သို့သော် သုတ်[†] နှင့် ဥကဲ့သို့သော သက်ရှိ၏ပင်မအရာများသည် အသန့်ဖြစ်သည်။ သက်ရှိအားလုံးတို့၏ ပြည်၊ သွေး၊ မစင်၊ ကျင်ငယ်တို့သည် မသန့်ဖြစ်သည်။ ဤအရာများသည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ခွင့်လွှတ်မှုမရှိချေ။ သို့သော် နေရာငါးခုတွင် ခွင့်လွှတ်မှုရှိသည်။ ပထမမှာ ခဲဖြင့် ကိုယ်လက်သုတ်သင်ပြီးနောက် မသန့်၏အစအနကျွင်းကျန်ပါက ခွင့်လွှတ်မှုရှိသည်။ ဤခွင့်လွှတ်မှုတွင် ဒွါရမှ နောက်ထပ် ထွက်ကျမှုမပါချေ။

ဒုတိယမှာ လမ်းများပေါ်မှ ရွံ့နှင့် လမ်းပေါ်ရှိ တိရိစ္ဆာန်မစင်အမှုန်အမွှားများသည် မုချ အညစ်အကြေးများပင် ဖြစ်သော်လည်း ရှောင်ရန် ခဲယဉ်းသည့် ပမာဏခန့် ခွင့်လွှတ်မှုရှိသည်။ ယင်းသည် တစ်စုံတစ်ဦးက တွေ့မြင်ပြီး အညစ်အကြေးတွင် ဒရွတ်တိုက်လူးပေခဲ့သည် သို့မဟုတ် အညစ်အကြေးထဲသို့ ချော်ကျခဲ့သည်ဟု ပြောဆိုရလောက်အောင် မဟုတ်သည့်ပမာဏဖြစ်သည်။

တတိယမှာ မော်စာခြေအိတ်၏အောက်မှ ပွတ်သပ်ချပြီးနောက် ကပ်ကျန်နေသော မသန့်သည် ခွင့်လွှတ်မှုရှိသည်။ လမ်းသည် မသန့်မရှင်းအရာများမှ ကင်းနိုင်သည်မဟုတ်ပေ။ သို့ဖြစ်ရာ ဤအတွက် ခွင့်လွှတ်မှုရှိရန် လိုအပ်သည်။

စတုတ္ထမှာ သန်းလေးတို့၏သွေးသည် နည်းသည်ဖြစ်စေ များသည်ဖြစ်စေ ခွင့်လွှတ်မှုရှိသည်။ သို့သော် ဖြစ်ရိုးဖြစ်စဉ်ထက် ကျော်လွန်လျှင်မူ၊ ထိုသွေးသည် အသင်၏အဝတ်တွင် စွဲသည်ဖြစ်စေ၊ အခြားသူ၏အဝတ်ကို အသင်ဝတ်၍ စွဲသည်ဖြစ်စေ ခွင့်လွှတ်မှုမရှိတော့ပေ။

ပဉ္စမမှာ ဝက်ခြံမှ သွေးပြည် စသည် ထွက်ကျလျှင် သန့်သည်။ အိဗ်နေ့အိုမရ်ﷺသခင်သည် မိမိမျက်နှာမှ ဝက်ခြံကို ဖိညှစ်လိုက်ရာ သွေးထွက်ကျခဲ့သည်။ ထို့နောက် သွေးကို ဆေးကြောခြင်းမပြုဘဲ နမာဇ်ဖတ်ခဲ့သည်။ အနာများ

---

[*] ဟနဖီမဇ်ဟဗ်တွင် အရိုးသည် အမွေးအမှင်ကဲ့သို့ အသန့်ပင်ဖြစ်သည်။ အသေကောင်၏အရိုးဖြစ်စေ၊ လူ၏အရိုးဖြစ်စေ အသန့်ဖြစ်သည်။ (ရှရဟွလ်ဘိဒါယာ အတွဲ ၁၊ စာမျက်နှာ၄၅) – ဘာသာပြန်သူ။

[†] အိမာမ်ရှာဖအီသခင်ﷺနှင့်အိမာမ်အဟ်မဒ်သခင်ﷺတို့ထံတွင် သုတ်သည် အသန့်ဖြစ်သည်။ အိမာမ်အဗူဟနီဖဟ်သခင်ﷺနှင့်အိမာမ်မာလိက်ﷺသခင်တို့၏လမ်းစဉ်အရ မသန့်ဖြစ်သည်။ သုတ်သည် အရည်ကျဲဖြစ်လျှင် လျှော်ဖွတ်ပစ်ရန် လိုအပ်သည်။ ပြစ်ခဲလျှင် တုတ်ချောင်း လက်သည်း အစရှိသည်ဖြင့် ခြစ်ပစ်ရုံဖြင့် လုံလောက်သည်။ ရှာဖအီမဇ်ဟဗ်တွင် သုတ်သည် အသန့်ဆိုသော်လည်း လျှော်ဖွတ်ရန်မှု ဖော်ပြသည်။ သို့သော် ယင်းသည် ပြောင်စင်မှုအတွက်သာဖြစ်ပြီး ဝါဂျိဗ်တာဝန်အနေဖြင့် ဖော်ပြခြင်းမဟုတ်ချေ။ (ဟိဒါယာ အတွဲ၁၊ သန့်ရှင်းခြင်းကဏ္ဍ) – ဘာသာပြန်သူ။

မှ စိမ့်စိုထွက်သည့်အရိအရွဲများသည်လည်း ဤအမိန့်အတိုင်းပင်ဖြစ်သည်။ တွင်စုပ်ရန် အသားကို ခွဲရာမှ ထွက်ကျသည့်သွေးသည် ခွင့်လွှတ်မှုရှိသည်။ သို့သော် ဖြစ်ခဲသော ပွန်းပဲ့ထိခိုက်မှု အစရှိသည့်အနာတရဖြစ်မှုတို့မှ ထွက်ကျသည့်သွေးမှာမူ ခွင့်လွှတ်မှုမရှိချေ။ ၎င်းသည် အမျိုးသမီးများတွင်ပေါ်သည့် ရောဂါသွေး၏ အမိန့်အတိုင်းဖြစ်သည်။ လူသားသည် များသောအားဖြင့် ဝက်ခြံနှင့် ကင်းနိုင်ခြင်းမရှိချေ။

ဤသည်မှာ တရားတော်က သက်သာကင်းလွတ်ခွင့်ပြုထားသည့် မသန့်ငါးမျိုးဖြစ်သည်။ သို့ဖြစ်ရာ တရားတော်တွင် လာရှိသည့်သန့်ရှင်းရေးကဏ္ဍသည် လွယ်ကူမှုကို အခြေခံထားကြောင်း စာရှုသူသိရပြီဖြစ်သည်။ ထိုသန့်ရှင်းရေးနှင့်ပတ်သက်၍ အသစ်အဆန်းပေါ်ထွက်မှုများသည် ဝစ္ဆဝဿာ ယုံမှားသံသယဖြစ်မှုကိုသာ အခြေခံသည်။ ထိုဝစ္ဆဝဿာဖြစ်မှုများတွင် ဘာအခြေအမြစ်မှ မရှိပေ။

## ဖယ်ရှားရာတွင် အသုံးပြုသည့်ပစ္စည်း

မသန့်ကို ဖယ်ရှားရာတွင် အသုံးပြုသည့်ပစ္စည်းသည် အဆိုင်အခဲနှင့်အရည်များဟူ၍ နှစ်မျိုးရှိသည်။ အဆိုင်အခဲတွင် ကိုယ်လက်သုတ်သင်သောခဲသည် သန့်ရှင်းမှုပြုပေးနိုင်သောအရာဖြစ်သည်။ ထိုခဲဖြင့် မသန့်အရာ ကုန်ခမ်းသွားသောအခါ သန့်ရှင်းမှု ရရှိသည်။ ထိုသို့ သန့်ရှင်းမှုပြုနိုင်ရန်အတွက် စည်းကမ်းချက်မှာ ခဲသည် မာကျစ်ရမည်၊ သန့်ရှင်းရမည်၊ အစိုဓါတ်ကို စုပ်ရမည်၊ အကြောင်းခံတစ်ခုခုအရ ဂုဏ်ပေးမြတ်နိုးရမည့်အရာ မဖြစ်ရပေ။

မသန့်မရှင်းအရာများကို ဖယ်ရှားပေးနိုင်မည့် အရည်ဓါတ်ဟူ၍ ရေတစ်ခုသာရှိသည်။* သို့နှင့်တိုင် အားလုံးသောရေများသည် သန့်ရှင်းမှုပြုပေးနိုင်သည်မဟုတ်ပေ။ စင်စစ်တွင် လိုအပ်ချက်မဟုတ်သော အခြားအရာနှင့် ရောနှောရာမှ သိသာထူးခြားစွာ ပြောင်းလဲခြင်းမရှိသော သန့်ရှင်းသည့် ရေကသာ သန့်ရှင်းအောင်ပြုပေးနိုင်သည်။

အကယ်၍ ရေသည် မသန့်အရာတစ်ခုခုနှင့် ထိတွေ့ပြီး ထိုရေ၏ အရသာသော်၎င်း၊ အရောင်သော်၎င်း၊ အနံ့သော်၎င်း ပြောင်းလဲသွားပါက ထိုရေသည် သန့်ရှင်းခြင်းမရှိတော့ပေ။ မသန့်အရာနှင့် ထိတွေ့သော်လည်း ထိုရေ၏ ဂုဏ်သတ္တိသုံးမျိုးအနက် တစ်ခုခု မပြောင်းဘဲရှိမည်၊ ထို့ပြင် ထိုရေ၏ ပမာဏသည် မန် နှစ်ရာ့ငါးဆယ်နီးနီးရှိမည်၊ သို့မဟုတ် အီရတ်သုံး ရတ္တိလ် တစ်ရာ့ငါးဆယ် ရှိမည်ဆိုလျှင် ထိုရေသည် မသန့်မဖြစ်ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺ မိန့်ထားသည်မှာ–

إذا بلغ الماء قلتين لم يحمل خبثًا . (حب.مس)

'ရေသည် ကိလ္လတ်နှစ်ခု၏ ပမာဏအထိ ရှိခဲ့လျှင် မသန့်မရှင်းမဖြစ်နိုင်တော့ပေ။'

အကယ်၍ ထိုပမာဏထက် နည်းခဲ့လျှင် ထိုရေသည် အိမာမ်ရှာဖအီ^ထံတွင် မသန့်ဖြစ်သည်။ ယခုပြောဆိုနေသည်မှာ ရေသေနှင့်ပတ်သက်၍ဖြစ်သည်။ ရေရှင်နှင့်ပတ်သက်၍ကား မသန့်ကြောင့် ပြောင်းသွားသောရေ၏ အပိုင်းသာလျှင် မသန့်ဖြစ်သည်။ ထိုရေ၏ အထက်ပိုင်းနှင့်အောက်ပိုင်းရှိ ရေများသည် မသန့်မဖြစ်ပေ။ အဘယ်ကြောင့်ဆိုသော် ရေ၏စီးဆင်းမှုများသည် သူ့အပိုင်းနှင့်သူ ဖြစ်သောကြောင့်ပင်။ ဤနည်းအလားတူ စီးတွေသောမသန့်အရာသည် ရေနှင့်အတူ လိုက်ပါစီးဆင်းနေမည်ဆိုပါက ထိုမသန့်ရှိသည့်နေရာမှ ရေနှင့် ထိုရေ၏ ညာဘက် ဘယ်ဘက်ရှိရေများသည် မသန့်ဖြစ်သည်။ ဤသို့ရှိရန်မှာ ရေသည် ကိလ္လတ်နှစ်ခုထက် လျော့နည်းမှသာဖြစ်သည်။ အကယ်၍ ရေ၏

---

* ယင်းသည် အိမာမ်ရှာဖအီ^သခင်၏ လမ်းစဉ်အရဖြစ်သည်။ ဟနဖီတို့ထံတွင် သန့်ရှင်းပြီး စီးတွေမှုရှိသော ရှလကာရည်၊ နှင်းဆီရည် အစရှိသည့် အရည်အားလုံးသည် မသန့်များကို ဖယ်ရှားပြီး သန့်ရှင်းမှုပြုပေးနိုင်သည်။ (ကူဒူရီကျမ်း သန့်ရှင်းမှုကဏ္ဍ) – ဘာသာပြန်သူ။

စီးဆင်းမှုက မသန့်၏စီးဆင်းမှုထက် မြန်ဆန်နေလျှင် ထိုမသန့်၏အထက်ပိုင်းရှိ ရေသည် သန့်ပြီး အောက်ပိုင်းရှိ ရေ မသန့်ချေ။ အကယ်၍ ထိုအောက်ပိုင်းရှိ ရေသည် ဝေးကွာပြီး များပြားသော်လည်း မသန့်ဖြစ်သည်။ ထိုရေကို ကန်တွင် စုသည့်အခါ ကိလ္လတ်နှစ်ခုစာ ပမာဏရှိလျှင် မသန့်မဖြစ်ချေ။ ကိလ္လတ်နှစ်ခုစာရှိသဖြင့် မသန့်မဖြစ်ခဲ့သော ရေကို အနည်းငယ်စီ ခွဲစိပ်လိုက်မည်ဆိုလျှင်လည်း မသန့်မဖြစ်ချေ။ ဤသည်မှာ ရှာဖအီ ‌ ်သခင်၏မဇ်ဟဗ်အရဖြစ်သည်။

ကျွန်ုပ်သည် ရေနှင့်သက်ဆိုင်ရာတွင် အိမာမ်ရှာဖအီ ‌ ်သခင်၏မဇ်ဟဗ်ကို အိမာမ်မာလိက် ‌ ်သခင်၏မဇ်ဟဗ်နည်းတူဖြစ်ရန် လိုလားမိသည်။ ဆိုလိုသည်မှာ ရေသည် ကိလ္လတ်နှစ်ခုစာထက် နည်းသော်လည်း ဂုဏ်သတ္တိသုံးမျိုးအနက် တစ်ခုခုမပြောင်းလဲသ၍ မသန့်မဖြစ်ချေ။ အိမာမ်ရှာဖအီ ‌ ်သခင်၏မဇ်ဟဗ်သည်လည်း ဤအတိုင်းဖြစ်လျှင် ကောင်းသည်။ **ရေသည် အရေးကြီးသောလိုအပ်ချက်ဖြစ်ရာ** ထိုရေသန့်ရန်အတွက် ကိလ္လတ်နှစ်ခုစာ ပမာဏရှိရမည်ဟု **စည်းကမ်းသတ်မှတ်ခြင်းဖြင့် သို့လောသို့လောဖြစ်စရာ**များရှိသည်။ ထိုစည်းကမ်းချက်ဖြင့် လူတို့အခက်ကြုံကြရသည်။ **လက်တွေ့တွင် ထိုစည်းကမ်းချက်သည် အခက်**အခဲအဟန့်အတားဖြစ်လျက်ရှိသည်။ ဤအချက်ကို ကိုယ်**တွေ့ကြုံဖူးသူသည် ထောက်ချင့်သိရှိနိုင်ပါသည်။**

အကယ်၍ ဤစည်းကမ်းချက်**အတိုင်းသာဆိုလျှင် သန့်ရှင်းမှုအတွက် အခက်**ကြုံကြရမည့် အရပ်ဒေသများရှိသည်။ ထိုအရပ်ဒေသများတွင် **ရှေ့ဆုံးကရှိနေသည်မှာ မက္ကာနှင့်မဒီနာဖြစ်ကြောင်း** ဒွိဟသံသယဖြစ်စရာမလိုချေ။ ထိုမြို့တော်နှစ်ခုတွင် ရေရှင်လည်း **များများစားစား ရှိသည်မဟုတ်။ ထိုနည်းအတူ** ရေသေလည်း များများစားစား ရှိသည်မဟုတ်ချေ။ သို့နှင့်ပင် တမန်တော်မြတ်ﷺ**၏ခေတ်ကာလမှ အစပြု၍ ဆွဟာဗဟ်များ**ﷺ၏ခေတ်အဆုံးအထိ ကြည့်မည်ဆိုလျှင်၊ သန့်ရှင်းမှုနှင့်သက်ဆိုင်ရာ **အချင်းဖြစ်ရပ်တစ်ခုတစ်လေ ပေါ်ပြလာ**ရှိသည်ကိုငင်း၊ ရေကို မသန့်မရှင်းများမှ ထိန်းသိမ်းစောင့်ရှောက်သည့်နည်းလမ်းကို **စုံစမ်းမေးမြန်း**သည်ဟူ၍လည်း တွေ့ရလိမ့်မည်မဟုတ်ပေ။ ထိုပုဂ္ဂိုလ်တို့၏**ရေအိုးရေခွက်များကို မသန့်မရှင်းများမှ ရှောင်ဖယ်လေ့**မရှိသည့် ကလေးငယ်များနှင့် ကျွန်မများက ကိုင်တွယ်သုံးစွဲလျက်ရှိခဲ့ကြသည်။

အိုမရ်ﷺ**သခင်သည် နဆွ်ရာနီအမျိုးသမီးတစ်ဦး**၏ရေတကောင်းထဲမှ ရေဖြင့် ဝိုဇူပြုခဲ့သည်။ ဤအချက်က အိုမရ်ﷺသခင်သည် **မျက်မြင်ထင်ရှား ရေ**၏အပြောင်းအလဲဖြစ်မှုမှလွဲ၍ အခြားမည်သည့်စည်းကမ်းချက်ကိုမှ အလေးမထားခဲ့ကြောင်း ရှင်းရှင်းလင်းလင်း ထောက်ပြလျက်ရှိသည်။ သို့နှင့်တိုင် သာမန်စဉ်းစားကြည့်ရုံဖြင့် နဆွ်ရာနီအမျိုးသမီးနှင့်သူမ၏ရေတကောင်းတို့ မသန့်ဖြစ်ခြင်းသည် အားသာထင်ချက်ဖြစ်ကြောင်း သိသာနိုင်ပေသည်။ သို့ဖြစ်ရာ အဆိုပါစည်းကမ်းချက်သည် အပိုဖြစ်ပြီး ရှာဖအီမဇ်ဟဗ်တွင် ခဲရာခဲဆစ်ဖြစ်စေကြောင်းမှာ ရှေးဦးခေတ်များတွင် ဤအကြောင်း မေးခွန်းပင်မပေါ်ပေါက်ခဲ့သည့်အချက်က ပထမအထောက်အထားဖြစ်သည်။ အိုမရ်ﷺသခင်၏လုပ်ရပ်က ဒုတိယအထောက်အထားဖြစ်သည်။ တတိယအထောက်အထားမှာ တမန်တော်မြတ်ﷺသည် ကြောင်တစ်ကောင်ဘက်သို့ ရေအိုးကို ငဲ့စောင်းပေးခဲ့သည့်လုပ်ရပ်ဖြစ်သည်-(طہ۔ ق)။ ထိုခေတ်က လူတို့သည် အိုးခွက်များကို ကြောင်မနိုက်နိုင်ရန် ဖုံးအုပ်ခြင်းမပြုခဲ့ကြချေ။ ၎င်းတို့သည် ကြောင်က ကြွက်ကို စားနေသည်ကို မြင်တွေ့ကြရသည့်ကြားက ထိုသို့မဖုံးအုပ်ဘဲနေခဲ့ကြခြင်းဖြစ်သည်။ ထိုသို့ပင်ရှိခဲ့သော်လည်း ၎င်းတို့၏မြို့ရွာများတွင် ပါးစပ်နှစ်ပြီး သောက်နိုင်သည့်ရေကန်များ၊ ဆင်း၍ရသည့် ရေတွင်းများ ရှိခဲ့သည်မဟုတ်ပေ။

စတုတ္ထအထောက်အထားမှာ အိမာမ်ရှာဖအီ ‌ ်သခင်ကိုယ်တိုင်က မသန့်ဆေးကြောလိုက်သော ဆေးရေကြွင်းသည် ရေ၏ဂုဏ်သတ္တိပြောင်းလဲမှု မရှိလျှင် သန့်သည်၊ ပြောင်းလဲမှု ရှိလျှင် မသန့်ဟု အတိအကျမိန့်ဆိုထားသည်။ ဤ၌ ရေကို မသန့်ပေါ်သို့ လောင်းချခြင်းနှင့်ရေထဲသို့ မသန့်ကျခြင်း-နှစ်ရပ်တွင် ကွာခြားချက် ည်သို့ရှိပါသနည်း။

ထို့ပြင် အချို့၏ပြောဆိုချက်အရ မသန့်ပေါ်သို့ ရေလောင်းချခြင်း၏အားက မသန့်ကို ဖယ်ရှင်းပေးသည်ဟုဆိုလျှင်၊ ထိုသို့လောင်းချခြင်းကြောင့် ရေသည် မသန့်နှင့်ရောနှောမှုကော မဖြစ်သလောဟု စောဒကတက်ရန်ရှိလေသည်။

အကယ်၍ လိုအပ်ချက်အရ ဆေးရေကြွင်းကို အသန့်သတ်မှတ်ရပါသည်ဟု အကြောင်းပြလျှင် မသန့်ကျပြီး နောက် ရေ၏ဂုဏ်သတ္တိ မပြောင်းလဲမချင်း ထိုရေကို အသန့်ဟု သတ်မှတ်ရန်မှာလည်း လိုအပ်ချက်ပင်ဖြစ်သည်။ အကြောင်းမှာ မသန့်သောအဝတ်များရှိနေသည့် အင်တုံထဲသို့ ရေလောင်းချခြင်းနှင့် ရေရှိသောအင်တုံထဲသို့ မသန့်သောအဝတ်များ ပစ်ထည့်ခြင်းတွင် ဘာမှကွာခြားမှုမရှိသောကြောင့်ဖြစ်သည်။ လူတို့သည် အဝတ်လျှော်ရာတွင်၎င်း အိုးခွက်များ ဆေးကြောရာတွင်၎င်း ဤနှစ်နည်းစလုံးကို အသုံးပြု အလေ့အကျင့်ဖြစ်လျက်ရှိသည်။

ပဥ္စမအထောက်အထားမှာ ဆွဟာဗဟ်ﷺသခင်တို့သည် နည်းသော ရေရှင်၏ဘေးနှုတ်ခမ်းတွင် ကိုယ်လက်သုတ်သင်ခဲ့ကြသည်။ အိမာမ်ရှာဖအီ⁽ʳ⁾သခင်၏မဇ်ဟဗ်တွင် နည်းသောရေရှင်ထဲသို့ ကျင်ငယ်ကျသွားပြီး ရေ၏ဂုဏ်သတ္တိမပြောင်းခဲ့သော် ထိုရေဖြင့် ဝုဇူပြုခြင်း ပိုင်သည်ဆိုသည့်ကိစ္စတွင် အကွဲအလွဲမရှိချေ။ ဤနေရာတွင်လည်း ရေရှင်နှင့်ရေသေ မည်သို့ကွာခြားသနည်းဟု စောဒကတက်ရန်ရှိသည်။ တဖန် ရေ၏သန့်ခြင်းကို ရေ၏ဂုဏ်သတ္တိများ မပြောင်းမလဲရှိနေမှုအပေါ် မူတည်စေခြင်းက ကောင်းမွန်သလော၊ သို့မဟုတ် စီးဆင်းမှုကြောင့် ထွက်ပေါ်လာသည့် ရေ၏အင်အားအပေါ် မူတည်စေခြင်းက ကောင်းမွန်သလော။ ထို့ပြင် ထိုရေ၏အင်အားကို မည်သို့တိုင်းတာသတ်မှတ်ရမည်–ဆိုသည့်အချက်နှင့် ရေချိုးရုံများရှိ ရေပြွန်များမှ ထွက်ကျသည့်ရေတွင် ထိုပညတ်ချက် သက်ရောက်မှုရှိ မရှိဆိုသည့်အချက်တို့မှာ မေးခွန်းထုတ်စရာပင်။ အကယ်၍ သက်ရောက်မှုမရှိပါဆိုလျှင် ကွာခြားချက်က မည်သို့ရှိသလဲ။ တဖန် သက်ရောက်မှုရှိသည်ဟု ဆိုပြန်လျှင် ရေချိုးရုံ၏ရေထဲသို့ ကျသောမသန့်နှင့် အိုးခွက်များထဲမှ ခန္ဓာကိုယ်များပေါ်သို့ လောင်းချလိုက်သောရေထဲမှ မသန့်တို့သည် ဘာများကွာခြားပါသလဲ။ ဤသည်မှာလည်း စီးဆင်းနေသော ရေပင်ဖြစ်သည်မဟုတ်ပါလော။

ထို့ပြင် ကျင်ငယ်သည် ရေရှင်ထဲတွင် အဆိုင်အခဲဖွဲ့တည်နေသော မသန့်ထက် ပိုပြီး ရောနှောပေါင်းစပ်လွယ်သည်။ သို့နှင့်တိုင် ထိုအဆိုင်အခဲဖွဲ့တည်နေသော မသန့်ပေါ်မှ ဖြတ်စီးသွားသောရေသည် ဂုဏ်သတ္တိမပြောင်းသော်လည်း၊ ထို့ပြင် ထိုရေကို ကန်ထဲတွင် စုလိုက်လျှင်ကိုလ္လတ်နှစ်ခုစာ ရှိသော်လည်း မသန့်ဖြစ်သည်ဟု အဆုံးအဖြတ်ရှိထားလေသည်။ ရေတစ်မျိုးထဲတွင် အဆိုင်အခဲဖွဲ့တည်နေသောမသန့်နှင့် အရည်ဖြစ်သောမသန့်တို့ မည်သို့ကွာခြားပါသလဲ။ ရေထဲတွင် ရောနှောပေါင်းစပ်ခြင်းက ရေဖြတ်သန်း စီးဆင်းခြင်းထက်ပို၍ မသန့်ဖြစ်စေသည် မဟုတ်ပါသလော။

ဆဋ္ဌမအထောက်အထားမှာ အကယ်၍ ရေနှစ်ကိုလ္လတ်ထဲသို့ ကျင်ငယ်တစ်ရတ္တီလ် ကျသွားမည်။ ထို့နောက် ထိုရေကို ခွက်တစ်ခုဖြင့် ခပ်ယူလိုက်မည်ဆိုလျှင် ထိုခွက်ထဲမှ ရေသည် သန့်သည်။ ရှင်းနေသည့်အချက်မှာ ထိုခွက်ထဲတွင် အနည်းငယ်မျှဖြစ်သော်လည်း ကျင်ငယ်စက်အချို့ကတော့ပါနေမည်ဖြစ်သည်။ သို့ဖြစ်ရာ ရေ၏သန့်ခြင်းကို ဂုဏ်သတ္တိများ မပြောင်းမလဲရှိနေမှုအပေါ် အကြောင်းပြသတ်မှတ်ခြင်းက ပိုကောင်းသလော၊ သို့မဟုတ် ရေ၏များပြားစွာရှိမှုအင်အားအပေါ် သတ်မှတ်ခြင်းက ပိုကောင်းသလော။ ခွက်ဖြင့် ခပ်ယူလိုက်ပြီးနောက် ထိုများပြားမှုသည် ရှိမနေတော့ချေ။ သို့နှင့်တိုင် မသန့်အရာ၏အစိတ်အပိုင်းများကမူ ကျန်မြဲကျန်နေကြောင်း သိရပြီးဖြစ်သည်။

သတ္တမအထောက်အထားမှာ ရှေးဦးခေတ်များက လူတို့သည် ပေပေရေရေနေထိုင်ခဲ့ကြပြီး ရေချိုးအိမ်များတွင် ရှိနေသော ရေကန်များထဲသို့ လက်များနှင့် အိုးခွက်များကို နှိုက်ပြီး ဝုဇူပြုလေ့ရှိခဲ့ကြသည်။ ထိုသို့ပြုရာတွင် ရေသည် အနည်းပိုင်းဖြစ်ပြီး မသန့်သောလက်များရော၊ သန့်သောလက်များပါ နှိုက်သုံးနေခဲ့ကြောင်း သိပြီး ထိုရေဖြင့် ဝုဇူပြုခဲ့ကြခြင်းဖြစ်သည်။ သို့ဖြစ်ရာ ဤဖြစ်ရပ်များက ခေတ်ဦးပိုင်းလူတို့သည် ရေ၏ဂုဏ်သတ္တိပြောင်းလဲမှု မရှိခြင်းအပေါ်

သာ အမှီပြုအားထားခဲ့ကြောင်း အထောက်အထားများဖြစ်လေသည်။ ရေသည် အဓိကလိုအပ်ချက်ဖြစ်သည့်အပေါ်မှာ ဤအထောက်အထားကို စွဲယူရန် စိတ်တွင် အခိုင်အမာဖြစ်စေပေသည်။ ထို့ပြင် ထိုပုဂ္ဂိုလ်တို့က လမ်းညွှန်တရားအဖြစ်လက်ခံလိုက်နာခဲ့သော တမန်တော်မြတ်ﷺမိန့်ဆိုချက်မှာ–

خلق الماء طهوراً لا ينجسه شيء إلا ما غير لونه طعمه أو ريحه . (ق)

'အလ္လာဟ်အရှင်သည် ရေကို သန့်ရှင်းသောအဖြစ်နှင့် ဖန်ဆင်းတော်မူသည်။ ရေ၏အရောင်သော်၎င်း၊ ရေ၏အရသာသော်၎င်း၊ ရေ၏အနံ့သော်၎င်း ပြောင်းလဲခြင်းမှအပ၊ ထိုရေကို မည်သည့်အရာကမှ မသန့်မဖြစ်စေနိုင်ပါ။'

တမန်တော်မြတ်ﷺ၏မိန့်ဆိုချက်အလိုသဘောမှာ အားလုံးသောအာပေါဓါတ်များ၏သဘာဝသည် မိမိအထဲသို့ ကျရောက်လာသည့် အနည်းစုဖြစ်သောအရာအားလုံးကို မိမိ၏ဂုဏ်သတ္တိသို့ ပြောင်းလဲပစ်ခြင်းဖြစ်သည်။ ထင်သာမြင်သာ ဥပမာမှာ ဆားတွင်းထဲသို့ ကျနေသောခွေးသည် ဆားဖြစ်သွားမည်ဖြစ်သည်။ ထိုအခါ ထိုခွေးကို သန့်သည်ဟု ဆုံးဖြတ်ရမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုခွေးတွင် ခွေး၏ဂုဏ်သတ္တိ ပျောက်ကွယ်ပြီး ဆား၏ဂုဏ်သတ္တိဖြစ်ပေါ်လာသောကြောင့်ဖြစ်သည်။ ဤနည်းအလားတူ ရုလကာရည် အနည်းငယ် ရေထဲသို့ကျမည်၊ သို့မဟုတ် နို့အနည်းငယ် ရေထဲသို့ကျမည်ဆိုလျှင် ထိုရုလကာရည်နှင့်နို့၏ဂုဏ်သတ္တိသည် ချုပ်ငြိမ်းကွယ်ပျောက်သွားပြီး ရေ၏ဂုဏ်သတ္တိ ရေ၏သဘာဝဖြစ်ပေါ်လာမည်ဖြစ်သည်။ သို့သော် ရေထဲသို့ ကျရောက်သောအရာသည် များပြားပြီး လွှမ်းမိုးမှုရှိမည်ဆိုလျှင် ရေသည် ထိုအရာ၏အရသာ ထိုအရာ၏အရောင်နှင့် ထိုအရာ၏အနံ့သို့ ပြောင်းလဲသွားကြောင်း တွေ့ရလိမ့်မည်။ ထိုသို့ ဂုဏ်သတ္တိများ၏အပြောင်းအလဲဖြစ်ခြင်းသည် စံချိန်စံညွှန်းဖြစ်သည်။

မသန့်မရှင်းကို ဖယ်ရှားရန်အတွက် ရေကို ထိုစံချိန်နှင့် ကိုက်ညီရမည်ဟု တရားတော်က ညွှန်ပြထားသည်။ ဤညွှန်ပြချက်အပေါ်မှာသာ အားကိုးအားထားပြုရန်ထိုက်သည်။ သို့မှသာ အွမ္မတ်သည် အခက်အခဲမှ ရှောင်လွှဲနိုင်မည်။ ထို့ပြင် ရေ၏သန့်ရှင်းခြင်း အရင်းခံသဘောလည်း ပေါ်ထွက်လာမည်။ ယင်းမှာ ရေသည် မသန့်မရှင်းအရာအပေါ် လွှမ်းမိုးပြီး မသန့်သောအရာကို သန့်အောင်လုပ်ပေးနိုင်ခြင်းဖြစ်သည်။ ဥဒါဟရုဏ်အားဖြင့် ကိလ္လတ်နှစ်ခုထက် ပိုသောရေ၊ မသန့်ကို ဆေးကျောလျှော်ဖွတ်ထားသောရေ၊ ရေရှင်၊ ကြောင်အတွက် ငှဲစောင်းပေးထားသော အိုးထဲမှရေ–တို့၏သန့်ရှင်းမှုရှိခြင်းသည် ခွင့်လွှတ်မှုအရဖြစ်သည်ဟု မထင်မှတ်အပ်ချေ။ ထိုရေများ၏သန့်ခြင်းသည် ခွင့်လွှတ်မှုအရဖြစ်သည်ဆိုလျှင် ထိုရေများသည် ကိုယ်လက်သုတ်သင်ရာမှ ကျွင်းကျန်သည့် အစအန၊ သန်းလေးတို့၏သွေးကဲ့သို့ ဖြစ်ကုန်ကြတော့မည်။ ထိုအရာများနှင့် ထိတွေ့သောရေသည် မသန့်ဖြစ်သွားတော့မည်။ စင်စစ်တွင် ဆေးရေကျွင်းကြောင့် မသန့်မဖြစ်ချေ။ ထိုနည်းအတူ နည်းသောရေကို ကြောင်က လျက်သဖြင့် မသန့်မဖြစ်ချေ။

တမန်တော်မြတ်ﷺမိန့်ထားသည့်–(لم يحمل خبثاً)'မသန့်မရှင်း မဖြစ်နိုင်တော့ပေ'ဆိုသည့်စကားရပ်သည် 'အကယ်၍ ရေ၏ဂုဏ်သတ္တိပြောင်းလဲခဲ့လျှင် မသန့်မရှင်းဖြစ်နိုင်သည်'ဆိုသော အဓိပ္ပါယ်အလိုသဘော ဖုံးကွယ်ပါဝင်လျက်ရှိသည်။ အကယ်၍ ထိုစကားရပ်သည် 'ရေ၏ဂုဏ်သတ္တိပြောင်းလဲခြင်းမရှိသ၍ မသန့်ကို ခံနိုင်ခြင်းမရှိပါ ဆိုသောအလိုသဘောဖြစ်သည်'ဟုပြောဆိုလျှင်၊ 'ရေသည် တွေ့ကြုံနေကျ မသန့်အရာများကြောင့် များသောအားဖြင့် အပြောင်းအလဲ မဖြစ်နိုင်ပါ'ဆိုသောအလိုသဘောဖြစ်သည်ဟုလည်း ပြောဆိုနိုင်ရပေမည်။ သို့သော် ဤပုံစံမှာမူ ရေ ကိလ္လတ်နှစ်ခုစာ ပမာဏထက် လျော့နည်းသောအခါတွင်လည်း ဖြစ်နိုင်သည်သာဖြစ်၏။

တဖန် (لم يحمل خبثاً)၏စာသားအဓိပ္ပါယ်သည် 'ထိန်းထားနိုင်ခြင်းမရှိသည့်'အဓိပ္ပါယ်ဖြစ်သည်ဆိုလျှင်၊ အလိုသဘောမှာ 'ရေသည် မသန့်ကို မိမိ၏ဂုဏ်သတ္တိသို့ ပြောင်းပစ်လိမ့်မည်'ဟုဖြစ်မည်။ ဥပမာ 'ဆားတွင်းသည် ခွေးကို ထိန်းထားနိုင်ခြင်းမရှိ'ဟုဆိုခြင်းသည် 'ခွေးကို အပြောင်းအလဲမဖြစ်အောင် ထိန်းမထားနိုင်'ဆိုသည့်အဓိပ္ပါယ်

ဖြစ်လေသည်။ ဤအဓိပ္ပါယ်ကို ကောက်ယူရခြင်းမှာ လူတို့သည် အနည်းငယ်မျှသောရေထဲတွင် ကိုယ်လက်သုတ်သင်လေ့ရှိကြသည်။ ထို့ပြင် မိမိတို့၏မသန့်သောအိုးခွက်များကို ထိုရေထဲသို့ နှစ်ကြလေ့ရှိသည်။ ထို့နောက် ဤသို့ပြုသည့်အတွက် ရေသည် ပြောင်းလဲခြင်းရှိမရှိ ဇဝေဇဝါဖြစ်ကြလေ့ရှိသည်။ သို့ဖြစ်ရာ ရေသည် ကိုလ္လတ်နှစ်ခုစာရှိလျှင် ထိုတွေ့ကြုံနေကျ မသန့်အရာများကြောင့် အပြောင်းအလဲမဖြစ်ဟု သတ်မှတ်ပေးလိုက်ခြင်းဖြစ်သည်။

အကယ်၍ အသင်က 'တမန်တော်မြတ်ﷺ၏-(لم يحمل خبثًا)'မသန့်မရှင်း မဖြစ်နိုင်တော့ပေ' ဆိုသည့်မိန့်ဆိုမှုသည် 'မည်မျှပင် မသန့်များပါစေ ထမ်းဆောင်နိုင်သည်'ဆိုသောအဓိပ္ပါယ်ဖြစ်သည်ဟု ပြောဆိုလျှင်၊ အသင့်အပေါ် တစ်ပြန်တက်လာမည့်မေးခွန်းပုစ္ဆာမှာ 'လက်ဆုပ်လက်ကိုင်အကောင်အထည်ရှိသည့် မသန့်များစွာကို ထမ်းဆောင်နိုင်သည်ဆိုလျှင် ပညတ်အရဖြစ်သော မသန့်ကိုလည်း ထမ်းဆောင်နိုင်ရမည်'ဟူ၍ ဖြစ်သည်။ သို့နှင့်အမျှ မဇ်ဟဗ်နှစ်ခုစလုံးတွင် တွေ့ကြုံနေကျမသန့်မရှင်းများဟု ပိုင်းပိုင်းခြားခြားဖော်ပြရန် လိုအပ်လျက်ရှိသည်။

အချုပ်ဆိုရသော် ကြုံတွေ့နေကျ မသန့်မရှင်းဖြစ်မှုများနှင့်ပတ်သက်၍ ကျွန်ုပ်၏စိတ်တိမ်းညွှတ်မှုသည် ပြီးလွယ်စီးလွယ်ရှိရေးဘက်သို့ဖြစ်သည်။ အာဒိပုဂ္ဂိုလ်တို့၏ဘဝသရုပ်များကလည်း ဤအတိုင်းဖော်ပြလျက်ရှိသည်။ ထို့ပြင် ပြီးလွယ်စီးလွယ်ရှိခြင်းကသာ သို့လောသို့လောဖြစ်မှုများကို အမြစ်မှနှုတ်ပယ်နိုင်မည်ဖြစ်သည်။ ထို့ကြောင့် ဤကဲ့သို့သောမတ်စအလာများနှင့်ပတ်သက်၍ အကွဲအလွဲဖြစ်ကြရာတွင် ကျွန်ုပ်သည် သန့်ရှင်းသည်ဆိုသည့်ဘက်မှ အဆုံးအဖြတ်ပေးမည်ဖြစ်သည်။*

## ဖယ်ရှားပုံဖယ်ရှားနည်း

မသန့်အရာသည် ပညတ်ချက်အရဖြစ်လျှင်၊ ဆိုလိုသည်မှာ မြင်တွေ့နိုင်ခြင်းမရှိသော မသန့်ဖြစ်လျှင် သက်ဆိုင်ရာအစိတ်အပိုင်းများပေါ်သို့ ရေလောင်းချရုံဖြင့် သန့်ရှင်းမှုရရန် လုံလောက်သည်။ အကယ်၍ မသန့်အရာသည် အကောင်အထည်နှင့် ရှိနေခဲ့လျှင် ထိုအကောင်အထည်ကို ဖယ်ရှားပစ်ရန် လိုအပ်သည်။ မသန့်အရာ၏အရသာ ကျန်

---

* ဤနေရာတွင် အိမာမ်ဂဇာလီသခင်ˆ’သည် ရေ၏သန့်ရှင်းမှုနှင့်သက်ဆိုင်ရာမတ်စအလာကို အကျယ်ရေးသားသွားခဲ့သည်။ အရေးကြီးလိုအပ်၍ ရေးခြင်းဖြစ်ပါ၏။ အိမာမ်ဂဇာလီˆ’သခင်သည် မွဂ်ျတဟိဒ်တစ်ပါး၏အရည်အချင်းအပြည့်အဝရှိသူဖြစ်ကြောင်း ပညာရှင်တစ်လောကလုံးက လက်ခံအသိအမှတ်ပြုထားပြီးဖြစ်သည်။ ဆိုလိုသည်မှာ အကယ်၍ အိမာမ်ဂဇာလီˆ’သခင်ကသာ ဆန္ဒရှိလျှင် မည်သည့်မဇ်ဟဗ်တစ်၏နောက်ကိုမှ မလိုက်ဘဲ ကိုယ်ပိုင်အီဂ်ျတိဟာဒ်ဖြင့် ရပ်တည်နိုင်သူဖြစ်သည်။ သို့နှင့်တိုင် သခင်သည် အိမာမ်ရှာဖအီˆ’သခင်၏မဇ်ဟဗ်ကို လိုက်ခဲ့သည်။ သို့သော် ထိုသို့လိုက်ရာတွင် ကိုယ်တိုင်က မွဂ်ျတဟိဒ်တစ်ပါးဖြစ်နေသည့်အပေါ်မှာ အိမာမ်ရှာဖအီˆ’၏အချို့မတ်စအလာများကို သုံးသပ်စီစစ်မှုများ ပြုလုပ်ခဲ့သည်။ သခင်၏အဆင့်အတန်းအရ ပြုလုပ်ခွင့်ရှိသောကိစ္စဖြစ်ပါ၏။ သို့ဖြစ်ရာ စာရှုသူသည် အိမာမ်ဂဇာလီသခင်ˆ’၏ဤရေးသားချက်မျိုးကို ဖတ်ပြီး ရှာဖအီမဇ်ဟဗ်အပေါ် ဝေဖန်စောကြောနေခြင်းဖြစ်သည်ဟု မယူဆသင့်ပေ။ ဟာနဖီမဇ်ဟဗ်တွင် အိမာမ်အဗူဟာနီဖဟ်ˆ’သခင်နှင့်အိမာမ်အဗူယူစွဖ်ˆ’အိမာမ်မုဟမ္မဒ်ˆ’အစရှိသခင်တို့၏အကွဲအလွဲမျိုးကဲ့သို့ ဤရေးသားချက်ကို ရှာဖအီမဇ်ဟဗ်အတွင်းရှိ အိမာမ်ကြီးများ၏အကွဲအလွဲအဖြစ်သဘောထားသင့်သည်။

မဇ်ဟဗ်လေးခုစလုံးမှ အိမာမ်များအားလုံး အညီအညွတ်ရှိထားသည်မှာ ရေတွင် မသန့်ကျပြီး ရေ၏ဂုဏ်သတ္တိသုံးခုအနက် တစ်ခုပြောင်းသွားခဲ့လျှင် ထိုရေဖြင့် သန့်ရှင်းမှုပြုခြင်းမပိုင်ဟုဖြစ်သည်။ ထိုသို့ဂုဏ်သတ္တိတစ်ခုပြောင်းသွားသောရေသည် နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ ရေရှင်ဖြစ်စေ၊ ရေသေဖြစ်စေ တစ်မိန့်ထဲပင်ဖြစ်သည်။ ထို့ပြင် နည်းသောရေသည် မသန့်၏အာနိသင်သက်ရောက်မှုကို လက်ခံပြီး များသောရေသည် မသန့်၏အာနိသင်သက်ရောက်မှုကို လက်မခံ-ဆိုသောအချက်ကိုလည်း အိမာမ်များအားလုံး အညီအညွတ်ရှိကြသည်။ ရေ၏အနည်းအများ ပမာဏကို သတ်မှတ်ရာတွင်သာကွဲလွဲမှုရှိခဲ့ကြသည်။

(စာမျက်နှာ ၃၅၅သို့)

နေသေးလျှင် ထိုမသန့် ကျန်နေသေးသည်ဟု သိနိုင်သည်။ မသန့်၏အရောင် ကျန်နေသေးလျှင်လည်း ဤနည်းအလားတူဖြစ်သည်။ သို့သော် အရောင်သည် အခိုင်အမာစွဲနေပြီး တိုက်ချွတ်ပါသော်လည်း ပြောင်စင်မှုမရှိခဲ့လျှင် ခွင့်လွှတ်မှုရှိသည်။ မသန့်၏အနံ့ ကျန်နေခြင်းသည် မသန့်ကျန်ရှိနေခြင်းပင်ဖြစ်သဖြင့် ခွင့်လွှတ်မှုမရှိချေ။ ဖယ်ရှားရန်ခက်ခဲပြီး အလွန်ပြင်းထန်သောအနံ့ရှိသည့် မသန့်မရှင်းအရာများနှင့်ပတ်သက်၍ကား အကြိမ်ကြိမ် ပွတ်တိုက်ညှစ်ထုတ်ခြင်းဖြင့် လုံလောက်သည်။ ယင်းသို့အကြိမ်ကြိမ်ပြုခြင်းသည် အရောင်အခိုင်အမာစွဲနေသည်ကို ကြိုးစားတိုက်ချွတ်ပစ်လိုက်သည့်အလားဖြစ်သည်။

အရာတစ်ခု သန့်သည်မသန့်သည် သို့လောသို့လောဖြစ်မှုကို ဖယ်ရှားရန်နည်းလမ်းမှာ အရာဝတ္ထုများသည် မူချဒိဋ္ဌ သန့်ရှင်းသောအဖြစ်နှင့် ဖန်ဆင်းခြင်းခံခဲ့ရကြောင်း စဉ်းစားရန်ဖြစ်သည်။ အရာတစ်ခုအပေါ်တွင် မသန့်ကို မျက်မြင်ထင်ရှားမတွေ့ရမချင်း၊ အရာတစ်ခု မသန့်ဖြစ်နေကြောင်း ကေန်ကေ မသိရမချင်း ထိုအရာကို ဝတ်၍ ခင်း၍ နမာဇ်ဖတ်ရန်ဖြစ်သည်။ မသန့်အရာများ၏အတိုင်းအဆကို ဝေခွဲပိုင်းခြားနိုင်ရန် နှိုက်နှိုက်ချွတ်ချွတ်စေ့ငုစူးစမ်းခြင်း မပြုသင့်ပေ။

———

(စာမျက်နှာ ၃၇၆ အောက်ခြေမှတ်စု အဆက်)

ဟနဖီတို့က ရေ၏တစ်ဖက်ထိပ်ရှိ မသန့်၏အာနိသင်သည် အခြားတစ်ဖက်သို့ ရောက်မည်ဆိုလျှင် ထိုရေသည် ရေနည်း(الماء القليل)ဖြစ်သည်၊ ထိုသို့ မရောက်လျှင် ထိုရေသည် ရေများ(الماء الكثير)ဖြစ်သည်ဟု ဆိုကြ၏။ ရေ၏အနည်းအများကို ခန့်တွက်နိုင်ရန် အတိုင်းအတာကိုလည်း သတ်မှတ်ပေးခဲ့ကြသည်။ ယင်းမှာ ရေကန်တစ်ခုသည် အလျားဆယ်တောင် အနံဆယ်တောင်ရှိပြီး၊ အပေါ်မျက်နှာပြင်ရှိ ရေ၏လှုပ်ရှားမှုကြောင့် အောက်ခြေရှိ မြေမှုန်ကို မလှုပ်ရှားနိုင်လောက်သည့် အနက်ရှိလျှင် ထိုရေသည် ရေရှင်၏ပညတ်ချက်အတိုင်းဖြစ်သည်။ ထိုရေထဲသို့ မျက်စေ့ဖြင့် မမြင်နိုင်သည့် ကျင်ငယ်၊ သွေး၊ အရက်စသည် ကျခဲ့မည်ဆိုလျှင်လည်း ကန်၏လေးဘက်လေးတန်မှာ ဝုဇူပြုခြင်းပိုင်သည်။ အကယ်၍ ထိုကန်ထဲသို့ မျက်စေ့ဖြင့် မြင်ရသော ချေးသေ အစရှိသည် ကျနေမည်ဆိုလျှင် ထိုချေးသေရှိသည့်ဘက်တွင် ဝုဇူ မပြုဘဲ အခြားဘက်တွင် ပြုရမည်။ ထိုကန်ထဲသို့ ရေ၏အရောင် သို့မဟုတ် အရသာ ပြောင်းသွားလောက်အောင် မသန့်များ ကျမည်၊ သို့မဟုတ် ရေမှအနံ့ထွက်လောက်အောင် ကျမည်ဆိုလျှင် ထိုရေသည် မသန့်ဖြစ်လိမ့်မည်။ ဤသည်မှာ အီမာမ်အဗူဟနီဖဟ်ـ သခင်၏မဇ်ဟဗ်လာ ရှင်းပြချက်ဖြစ်သည်။

အီမာမ်ရှာဖအီ ـ သခင်၏မဇ်ဟဗ်ကမူ ရေ၏အနည်းအများကို ကိလ္လတ်ဖြင့် တိုင်းတာသတ်မှတ်သည်။ ရေသည် ကိလ္လတ်နှစ်ခုထက် လျှော့နည်းပြီး ထိုရေထဲသို့ မမြင်ရသောမသန့်ကျခဲ့လျှင် ထိုရေသည် မသန့်ဖြစ်မည်။ ရေသည် နှစ်ကိလ္လတ်ထက် များခဲ့လျှင် မသန့်မဖြစ်ပါ။ အီမာမ်ရှာဖအီ ـ သခင်သည် ဤအတွက် အီမာမ်ဂဇာလီ ـ သခင် ဖော်ပြခဲ့သည့် ဟဒီစ်ကိုပင် အထောက်အထားအဖြစ် ပြုခဲ့သည်။ ထို့ပြင် အီမာမ်မာလိက် ـ သခင်ကလည်း ဤဟဒီစ်ကိုပင် အထောက်အထားအဖြစ်ယူခဲ့သည်။ ဤဟဒီစ်သည် အိဗ်နေ့အိုမရ် ﷺ သခင်၏ဆင့်ပြန်မှုဖြစ်သည်။ ဤဟဒီစ်နှင့်ပတ်သက်၍ ဟဒီစ်ပညာရှင်အသီးသီးတို့သည် ပညာရပ်ရှုဒေါင့်မှ ဆွေးနွေးသုံးသပ်ခဲ့ကြသည်။ ဟဒီစ်၏စနဒ်ဆက်၊ စာကိုယ်နှင့်အဓိပ္ပာယ် ယထများကို သုံးသပ်စစ်ဆေးခဲ့ကြသည်။

ဟနဖီတို့ကမူ ဤဟဒီစ်ကို တမန်တော်မြတ် ﷺ ၏အခြားမိန့်ဆိုမှုနှစ်ခုနှင့် အလားတူသည်ဟု ရှုမြင်သတ်မှတ်ခဲ့ကြသည်။ တမန်တော်မြတ် ﷺ ၏မိန့်ဆိုမှုများမှာ— ان الارض لا تنجس

'မြေကြီးသည် မသန့်မဖြစ်ပါ။'

ان المسلم لا ينجس

'မွတ်စလင်မ်သည် မသန့်မဖြစ်ပါ။' (စာမျက်နှာ ၃၇၈သို့)

## ဒုတိယအမျိုးအစား

# မသန့်ဖြစ်မှုများမှ သန့်အောင်လုပ်ခြင်း

**ဤအခန်းတွင် ဝုဇူပြုခြင်း၊ ရေချိုးခြင်းနှင့် တယမ်မွမ်ပြုခြင်း၏အကြောင်းရပ်များ ပါဝင်သည်။ ထိုအနက်မှ ကိုယ်လက်သုတ်သင်ခြင်းကို ဦးစွာဖော်ပြမည်ဖြစ်သည်။**

**ကျွန်ုပ်**တို့သည် သန့်ရှင်းခြင်း၏နည်းနာနိသျှများကို သက်ဆိုင်ရာအကျင့်ဝလေ့များ၊ စွန္နတ်များနှင့်ယှဉ်တွဲ၍ **အစီအစဉ်**တကျ ရေးသားဖော်ပြမည်ဖြစ်သည်။ ဦးစွာပထမ ဝုဇူထိုက်စေသည့်အကြောင်းခံနှင့် ကျင်ကြီးကျင်ငယ်စွန့်ခြင်း၏အကျင့်ဝလေ့များကို ရေးသားမည်ဖြစ်သည်။ (إن شاء الله تعالى)

---

**(စာမျက်နှာ ၃၅၅ အောက်ခြေမှတ်စုမှ အဆက်)**

**ထိုမိန့်**ဆိုမှုများက 'မြေကြီးသည် ဘယ်သောအခါမှ မသန့်မဖြစ်ပါ''မွတ်စလင်မ်သည် ဘယ်တော့မှ မသန့်မဖြစ်ပါ'ဆိုသည့်အလိုသဘော လုံးဝမထွက်ရှိချေ။ ထိုမိန့်ဆိုမှုများ၏ဆိုလိုသည်မှာ မြေကြီးနှင့်မွတ်စလင်မ်သည် အရင်းခံအားဖြင့် သန့်ပြန့်သောအရာများဖြစ်သည်။ သို့သော် မသန့်မရှင်းအရာများ စွဲကပ်ခဲ့မည်ဆိုလျှင် ထိုမြေကြီးနှင့်လူသားသည်လည်း မသန့်ဖြစ်လိမ့်မည်။ ဤနည်းအလားတူ ရေသည် ပင်ကိုယ်အားဖြင့် အသန့်ဖြစ်သည်။ သို့သော် ရေထဲသို့ မသန့်ကျခဲ့လျှင် ထိုရေသည်လည်း မသန့်ဖြစ်သွားမည်။

ဤပုံစံတွင် ဟနဖီတို့၏လမ်းစဉ်သည် ရှင်းလင်းမှုရှိသည်။ ရေသေတွင် မသန့်ကျခဲ့လျှင် ရေနည်းဖြစ်စေ ရေများဖြစ်စေ ထိုရေဖြင့် ဝုဇူပြုခြင်း မပိုင်ပါ။ သို့သော် ရေသည် ဆယ်တောင်ပတ်လည်ရှိမည်ဆိုလျှင် ပိုင်သည်။ ရေသေတွင် ဝုဇူပြုရာ၌ မသန့်၏သက်ရောက်မှုဖြင့် ရေ၏ဂုဏ်သတ္တိများ ပြောင်းလဲသည်ဖြစ်စေ၊ မပြောင်းလဲသည်ဖြစ်စေ အတူတူပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺက ရေကို မသန့်မှ ထိန်းသိမ်းရန် ညွှန်ကြားခဲ့သောကြောင့် ဖြစ်သည်။

لا يبولن احدكم فى الماء الدائم ثم يتوضا منه .(د.ق)

'အသင်တို့အနက် မည်သူမှ တည်တံ့နေသောရေထဲသို့ ကျင်ငယ်မစွန့်ကြနှင့်၊ ထို့နောက် ထိုရေဖြင့် ဝုဇူ မပြုကြနှင့်။'

ဤဟဒီစ်က သာဓကပြနေသောအချက်မှာ ရေသေတွင် ကျင်ငယ်စွန့်ခြင်းဖြင့် အရောင်၊ အရသာနှင့်အနံ့တို့ မည်သို့မျှ ထူးပြီး မပြောင်းသော်လည်း တမန်တော်မြတ်ﷺက ထိုရေဖြင့် ဝုဇူမပြုရန် တားမြစ်ခဲ့သည်။ ဤတွင် ဂုဏ်သတ္တိပြောင်းလဲခြင်းသည် အဓိကစံချိန်စံညွှန်းမဟုတ်ကြောင်း သိရ၏။ အမှန်မှာ အဓိကစံချိန်စံညွှန်းသည် ရေ၏နည်းခြင်းများခြင်း သာဖြစ်သည်။ ထိုအတွက် တမန်တော်မြတ်ﷺ၏မိန့်ဆိုချက်အထောက်အထားများမှာ–

اذا استيقظ احدكم من نومه فليغسل يده قبل ان يدخلها فى الاناء .(ع)

'အသင်တို့အနက်မည်သူမဆို အိပ်ယာမှ နိုးထသည့်အခါ မိမိ၏လက်ကို မဆေးသေးဘဲ အိုးထဲသို့ လက် မနှိုက်နှင့်။'

اذا ولغ الكلب فى اناء احدكم فليغسل الخ .(ت)

'အကယ်၍ ခွေးက အိုးထဲသို့ လျှာဖြင့် လျက်ခဲ့လျှင် ထိုအိုးကို ဆေးကျောကြကုန်။'

(ဘာသာပြန်သူ)

## ကျင်ကြီးကျင်ငယ်စွန့်ခြင်း၏အကျင့်ဓလေ့များ

ကျင်ကြီးကျင်ငယ်စွန့်ခြင်းကို လူတို့၏မြင်ကွင်းမှ ဝေးကွာရာ တောထဲတွင် ပြုသင့်သည်။ ဖြစ်နိုင်ပါက တစ်စုံတစ်ခုဖြင့် ကာကွယ်သင့်သည်။ ထိုင်မည့်နေရာသို့ မရောက်မချင်း မိမိ၏အရှက်အင်္ဂါကို ဖွင့်ဖေါ်ခြင်းမပြုရပါ။ ထို့ပြင် နေဘက်သို့၎င်း၊ လဘက်သို့၎င်း မျက်နှာမူခြင်းမပြုရပါ။ ကေဘလာဘက်သို့ မျက်နှာမူခြင်း၊ ကျောပေးခြင်းများမပြုရပါ။ အကယ်၍ အိမ်သာထဲတွင်ဖြစ်လျှင် ကေဘလာဘက်သို့ မျက်နှာမူခြင်းနှင့်ကျောပေးခြင်းများ ကိစ္စမရှိပါ။* သို့သော် အိမ်သာထဲမှာပင် ကေဘလာဘက်သို့ မလှည့်ခြင်းသည် မွတ်စတဟာဗ်ဖြစ်သည်။ တောထဲတွင် မိမိ၏အစီးအနင်းတိရိစ္ဆာန်ဖြင့်ဖြစ်စေ၊ မိမိ၏အင်္ကျီမြိတ်ဖြင့်ဖြစ်စေ အကာအကွယ်ယူခြင်း ပြုပိုင်သည်။ လူတို့ထိုင်နေသောနေရာတွင် စွန့်ခြင်းမှ ရှောင်ရမည်။ ဤနည်းအတူ ရေသောက်ဆင်း၊ သီးပွင့်နေသောသစ်ပင်အောက်တွင်၎င်း၊ တွင်းပေါက်ဝတွင်၎င်း မစွန့်ရပေ။ မာကျောသောနေရာတွင် စွန့်ခြင်းမှလည်း ရှောင်ရမည်။ ထို့ပြင် လေကို မျက်နှာမူ၍ သီးသွားခြင်းမပြုအပ်ပေ။ ဆီးစက်များ ထိစင်ခြင်းမှ လွတ်ကင်းရန်ဖြစ်သည်။ ထိုင်သည့်အခါ ဘယ်ဘက်ခြေထောက်ပေါ်မှာ အားပြုပြီး ထိုင်ရမည်။ အိမ်သာဝင်လျှင် ဘယ်ခြေဖြင့် ဝင်ရမည်။ ထွက်လျှင် ညာခြေဖြင့် ထွက်ရမည်။

မတ်တပ်ရပ်ပြီး ဆီးသွားခြင်းမပြုရပါ။ အာအိရှား(ရ)သခင်မက မိန့်ဆိုသည်မှာ–

من حدثكم أن النبي كان يبول قائماً فلا تصدقوه . (ت.س.ق)

'တစ်စုံတစ်ဦးက တမန်တော်မြတ်ﷺသည် ရပ်လျက် ဆီးသွားသည်ဟု အသင်တို့အား ပြောလာလျှင် အသင်တို့ ထိုသူ့ကို မယုံကြနှင့်။'

ထို့ပြင် အိုမရ်(ရ)သခင်က–

رآني رسول الله ﷺ و أنا أبول قائماً فقال : (( يا عمر لا تبل قائماً )) قال عمر فما بلت بعد . (ق)

'ကျွန်ုပ် ရပ်လျက်ဆီးသွားသည်ကို တမန်တော်မြတ်ﷺမြင်တွေ့သွားခဲ့၏။ ထိုအခါ ကိုယ်တော်ﷺက ကျွန်ုပ်အား 'အို အိုမရ်၊ ရပ်လျက် ဆီးမသွားပါနှင့်'ဟု ပြောဆိုခဲ့သည်။ အိုမရ်သခင်က 'နောက်နောင်တွင် ကျွန်ုပ်သည် ရပ်လျက် ဆီးမသွားတော့ပါ'ဟု ပြောဆိုခဲ့သည်။

မတ်တပ်ရပ်ပြီး ဆီးသွားခြင်းနှင့်ပတ်သက်၍ တမန်တော်မြတ်ﷺထံမှ သီးသန့်ခွင့်ပြုချက်လည်း လာရှိသေးသည်။ ဟုဇိုင်ဖဟ်(ရ)သခင် ဆင့်ပြန်ခဲ့သည်မှာ–

أنه عليه الصلاة و السلام بال قائماً فأتيته بوضوء فتوضأ ومسح على خفيه . (خ.م)

'တမန်တော်မြတ်ﷺသည် မတ်တပ်ရပ်ပြီး ဆီးသွားခဲ့၏။ ကျွန်ုပ်သည် ကိုယ်တော့်ထံ ဝုဇူရေယူသွားခဲ့ရာ ကိုယ်တော်ﷺသည် ဝုဇူပြုခဲ့သည်။ ထို့နောက် မိမိ၏မော်ဇာခြေအိတ်နှစ်ဘက်ကို သုတ်သပ်ခဲ့သည်။'†

---

* ဟနဖီမဇ်ဟဗ်တွင် ကျင်ကြီးကျင်ငယ်စွန့်ချိန်၌ ကေဘလာဘက်သို့ မျက်နှာမူခြင်း၊ သို့မဟုတ် ကျောပေးခြင်းသည် မက္ကရူတဟ်ရီမဟ်ဖြစ်သည်။ စွန့်သူသည် တောထဲတွင် ရှိနေသည်ဖြစ်စေ၊ နေအိမ်ရှိ အိမ်သာထဲတွင် ရှိနေသည်ဖြစ်စေ ပညတ်ချက်သည် အတူတူပင်ဖြစ်သည်။ (ရဒ္ဒုလ်မွဟ်တရ်ကျမ်း၊ ကိုယ်လက်သုတ်သင်ခြင်းကဏ္ဍ၊ စာမျက်နှာ ၃၁၆)–

† အကြောင်းမဲ့ မတ်တပ်ရပ်ပြီး ဆီးသွားခြင်းသည် တားမြစ်ချက်နှင့် မက္ကရူကိစ္စဖြစ်သည်။ တမန်တော်မြတ်ﷺသည် တစ်ကြိမ်သာ မတ်တပ်ရပ်၍ ဆီးသွားခဲ့ဖူးသည်။ ထိုတစ်ကြိမ်မှာလည်း မလွဲသာအကြောင်းရှိ၍ဖြစ်သည်။ ဟုဇိုင်ဖဟ်(ရ)သခင်၏ဆင့်ပြန်မှုကို ဖေါ်ပြပြီးနောက် မစ်ရ်ကာတ်ကျမ်းရှင်က 'قيل كان ذلك لعذر'(ဤသို့ပြုခဲ့ခြင်းသည် အကြောင်းရှိ၍ဖြစ်သည်)ဟု ရေးခဲ့သည်။ (မစ်ရ်ကာတ်ကျမ်း၊ အိမ်သာဝင်ခြင်း၏အကျင့်ကောင်းများအခန်း၊ စာမျက်နှာ ၄၃)။ သို့ရှိရာ အိမာမ်ဂဇာလီ(ရ)သခင်က 'မတ်တပ်ရပ် ဆီးသွားရန် ခွင့်ပြုချက်ရှိသည်'ဟု ရေးသားခြင်းသည် မလွဲသာအကြောင်းထူးရှိသောအခါမှာဖြစ်သည်ဟု နားလည်အပ်သည်။ – ဘာသာပြန်သူ။

ရေချိုးသည့်နေရာတွင် ဆီးမသွားရပေ။ တမန်တော်မြတ်ﷺက ထိုသို့ပြုခြင်းကြောင့် ဝဆွဝဆွာ အများဆုံးဖြစ်ရသည်ဟု မိန့်ဆိုခဲ့သည်။

لن ينولن احدكم فى مستحمه ثم يتوضأ فيه ، فان عامة الوساوس منه . (ع۸)

'အသင်တို့အနက် မည်သူမှ ရေချိုးခန်းထဲတွင် ဆီးသွားခြင်း၊ ထို့နောက် ဝုဇူပြုခြင်းမပြုနှင့်။ အဘယ်ကြောင့်ဆိုသော် အများဆုံးဝဆွဝဆွာဖြစ်ခြင်းသည် ထိုမှဖြစ်သည်။'

**အိဗ်နေ့မုဘာရပ်က်**ﷺသခင်က 'အကယ်၍ ရေချိုးခန်းသည် ရေစီးသောနေရာတွင် ဖြစ်ခဲ့လျှင် မတ်တပ်ရပ်၍ ဆီးသွားခြင်း ကိစ္စမရှိပါ'ဟု မိန့်ဆိုခဲ့သည်။* ဤအကြောင်းအရာကို တိရ်မဇီကျမ်းတွင် ဖော်ပြထား၏။

အိမ်သာတက်သောအခါ အလ္လာဟ်အရှင်၏နာမတော်ငင်း၊ တမန်တော်မြတ်ﷺ၏အမည်နာမပါရှိသောအရာကို မိမိနှင့်အတူ ယူဆောင်ခြင်းမပြုရပါ။ ရေအိမ်သို့ဝင်သောအခါ ဦးခေါင်းတွင် အအုပ်အဆောင်းမပါဘဲ မဝင်ရပါ။

**ရေအိမ်ဝင်ချိန်တွင်**– بِسْمِ اللّٰهِ اَعُوْذُ بِاللّٰهِ مِنَ النَّجِسِ الْخَبِيْثِ الْمُخْبِثِ الشَّيْطَانِ الرَّجِيْمِ

('ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်၏နာမတော်ဖြင့် အစပြုပါ၏။ ထို့ပြင် ရဟ်မတ်တော်နှင့် ကင်းဝေးရသူ ရှိုင်တွာန်၏နှောက်ယှက်မှုမှ ကင်းရန် အလ္လာဟ်အရှင့်ထံ ခိုလှုံပါ၏။ ထိုရှိုင်တွာန်သည် မိမိကိုယ်တိုင်ညစ်ညမ်းပြီး အခြားသူများကို ညစ်ညမ်းအောင်ပြုသည့် မသန့်မရှင်းအရာဖြစ်ပါသည်။')

ကို ဖတ်ရမည်။ ထို့နောက် ထွက်သောအခါ–

اَلْحَمْدُ لِلّٰهِ الَّذِيْ اَذْهَبَ عَنِّيْ مَا يُؤْذِيْنِيْ وَ اَبْقٰى عَلَيَّ مَا يَنْفَعُنِيْ

('ချီးမွမ်းခြင်းသည် အလ္လာဟ်အရှင်အဖို့သာဖြစ်ပါ၏။ ထိုအရှင်သည် ကျွန်တော်မျိုးထံမှ ကျွန်တော်မျိုးကို ဒုက္ခပေးမည့်အရာမှ ဖယ်ရှားပေးတော်မူပါသည်။ ထို့ပြင် ကျွန်တော်မျိုးထံတွင် အကျိုးပြုမည့်အရာကို ကျန်ရှိစေတော်မူပါသည်။')

ကို ဖတ်ရမည်။ ထိုဒိုအာကို အိမ်သာ၏အပြင်ရောက်မှ ဖတ်ရမည်။ အိမ်သာသို့ ဝင်၍ မထိုင်မီ ခဲများကို ရေတွက်ထားရမည်။ ရေဖြင့် သန့်ရှင်းမှုယူခြင်းကို စွန့်သည့်နေရာတွင် မပြုရပေ။ ဆီးသွားပြီးနောက် သုံးကြိမ် ချောင်းဟန့်၍ ညှစ်ထုတ်ရမည်။ ထို့ပြင် ကျင်ချောင်း၏အောက်ဘက်ကို လက်ဖြင့် ဖိသပ်ရမည်။ သို့မှသာ ဆီးကျွင်းဆီးကျန်များ ကုန်စင်စေရန်ဖြစ်သည်။ ကုန်စင်မှု မရှိမည်ကို များစွာစိုးရိမ်သောက မဖြစ်သင့်ပါ။ သို့မဟုတ်လျှင် ထိုသူ့အတွက် အခက်အခဲဖြစ်လိမ့်မည်။ ဆီးသွားပြီးနောက် စွတ်စိုမှုတွေ့ရလျှင် ယင်းသည် ရေ၏အကျွင်းအကျန်ဖြစ်သည်ဟု မှတ်ယူရမည်။ ထိုသို့စွတ်စိုနေသည့်အတွက် စိတ်အနှောက်အယှက်ဖြစ်ခဲ့သော်၊ စိတ်သန့်သွားရန် ထိုနေရာကို ရေဖြင့် တောက်လိုက်ရမည်။ ထိုအတွက်ဝဆွဝဆွာဖြစ်ကာ ရှိုက်တွာန်က မိမိအပေါ် လွှမ်းမိုးချယ်လှယ်ခြင်း မပြုစေသင့်ပေ။ တမန်တော်မြတ်ﷺသည် အဆိုပါအတိုင်း ရေဖြင့် တောက်ခဲ့သည့်အကြောင်း ဟဒီစ်ဆင့်ပြန်မှုများတွင် ဖော်ပြလာရှိသည်။ (ဒ.ဟ.ဂ)

အာဒိပုဂ္ဂိုလ်များတွင် သန့်စင်မှုကို ပြီးလွယ်စီးလွယ် အပြုဆုံးပုဂ္ဂိုလ်တို့သည် ဖိကဟ်သိနားလည်မှု အရှိဆုံးပုဂ္ဂိုလ်များဖြစ်ခဲ့ကြသည်။ သို့နှင့်အမျှ သန့်စင်မှုနှင့်ပတ်သက်၍ ဝဆွဝဆွာဖြစ်ပေါ်ခြင်း ဖိကဟ်အသိ နည်းပါးခြင်းကို ညွှန်ပြလျက်ရှိသည်။

ဆလ်မာန်ဖါရစီﷺသခင် ဆင့်ပြန်သည့် ဟဒီစ်တွင်–

علمنا رسول اللهﷺ كل شيء حتى الخراءة فأمرنا أن لا تستنجي بعظم ولا روث ونهانا أن نستقبل

القبلة بغائط أو بول . (م)

'တမန်တော်မြတ်ﷺက ကျွန်ုပ်တို့အား အခင်းကြီးအခင်းလေးမှအစ အရာရာကို သင်ပြပေးခဲ့သည်။ ကျွန်ုပ်တို့အား အရိုး၊ တိရိစ္ဆာန်မစင်ခြောက်တို့ဖြင့် ကိုယ်လက်သုတ်သင်ခြင်းမပြုရန် အမိန့်ပေးခဲ့သည်။ ထို့ပြင် အခင်းကြီးအခင်းလေးသွားရာတွင် ကေဘလာဘက်သို့ မျက်နှာမူခြင်းမပြုရန် တားမြစ်ခဲ့သည်။'

အရပ်ကျေးတောသားတစ်ယောက်သည် ဆွဟာဗဟ်တစ်ဦးနှင့် စကားများရန်ဖြစ်ခဲ့သည်။ ထိုကျေးတောသားက ဆွဟာဗဟ်အား 'ခင်ဗျားသည် အခင်းကြီးအခင်းလေးကိုပင် ကောင်းစွာပြုတတ်သူမဟုတ်ဟု ကျုပ်သိထားသည်' ဟုပြောဆိုခဲ့သည်။ ထိုအခါ ဆွဟာဗဟ်က 'မလုပ်တတ်စရာမရှိပါ။ ထိုအမှုကို ကျွန်ုပ်ကောင်းစွာတတ်ကျွမ်းပါသည်။ စိတ်ရှိလာသောအခါ ကျွန်ုပ်သည် လူသူလေးပါးနှင့် ကင်းဝေးရာသို့ သွားပါသည်။ ခဲလုံးများကို ရေတွက်ပါသည်။ ရှီဟ်မြက်များဘက်သို့ မျက်နှာလှည့်ပါသည်။ လေကို ကျောပေးပါသည်။ ကျွန်ုပ်သည် ထိုင်သည့်အခါ သမင်ထိုင်ထိုင်သည်။ ငှက်ကုလားအုတ်ကဲ့သို့ လည်**ဆန့်**သည်'ဟု ပြောဆိုခဲ့သည်။

ဆွဟာဗဟ်၏ပြောဆိုမှုတွင် **ရှီဟ်သည် တောအရပ်တွင် ပေါက်သော** ရနံ့ရှိသည့် မြက်တစ်မျိုးဖြစ်သည်။ 'သမင်ထိုင်'သည် ခြေဖျားထောက်၍ **ထိုင်ခြင်းဖြစ်သည်။** 'ငှက်ကုလားအုတ်လည်ဆန့်'သည် ခေါင်းကို ထောင်ထားခြင်းဖြစ်သည်။

လူတစ်ဦးသည် **ဆီးသွားသည့်အခါ မိမိ၏အဖော်ကို အနီးတွင်ထားပြီး** အကာအကွယ်ယူခြင်း ပြုပိုင်သည်။ တမန်တော်မြတ်ﷺသည် **အလွန်ပင်အရှက်ကြီးသူဖြစ်ပါလျက် လူတို့အား** သင်ကြားပေးသည့်အနေဖြင့် ဤအတိုင်းကျင့်သုံးပြခဲ့သည်။ (ب.م)

## ကိုယ်လက်သုတ်သင်နည်း

**အခင်းကြီးပြီးဆုံးသည့်အခါ ဒွါယကို** ခဲလုံးသုံးဖြင့် သုတ်သင်ရမည်။* သုံးခဲဖြင့် ပြောင်စင်နိုင်လျှင် ကောင်းသည်။ **သို့မဟုတ် ခဲလေးခဲ သုံးရမည်။ ဤနည်းအတူ** အကယ်၍ ပြောင်စင်မှုမရှိခဲ့လျှင် ခဲငါးခဲ သုံးရမည်။ ပြောင်စင်ခြင်းက ဝါဂျိဗ်ဖြစ်သည်။ **မဂဏန်းသုံးခြင်းက** မွစ်တဟာဗ်ဖြစ်သည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

من استجمر فليوتر . (ب.م)

'အကြင်သူ ခဲသုံးလျှင် မဂဏန်းသုံးပါလေ။'

ခဲအသုံးပြုနည်းမှာ ခဲကို ဘယ်လက်ဖြင့် ကိုင်ပြီး ဒွါယ၏မသန့်နေရာတွင် ရှေ့ဘက်မှ နောက်ဘက်သို့ ခဲကို သုတ်လိမ့်၍ ဆွဲယူရမည်။ ထို့နောက် ဒုတိယခဲကို ယူပြီး ဤနည်းအတိုင်း နောက်ဘက်မှ ရှေ့သို့ ဆွဲယူရမည်။ ထို့နောက် တတိယခဲကို ယူပြီး ဒွါယပတ်လည်ကို လှည့်ယူရမည်။ ထိုသို့ လှည့်ယူရန် ခက်ခဲလျှင် ရှေ့ဘက်မှ နောက်

---

* ကိုယ်လက်သုတ်သင်ခြင်း၏ရည်ရွယ်ချက်သည် ဒွါယကို သန့်ရှင်းရန်ဖြစ်သည်။ သို့ဖြစ်ရာ ခဲ၏အရေအတွက် သတ်မှတ်ခြင်း စွန္နတ်မဟုတ်ပေ။ အိမာမ်ရှာဖအီ ထံတွင် ခဲ၏အရေအတွက်ကို မဂဏန်း(သုံးခဲ၊ ငါးခဲ၊ ခုနစ်ခဲ)အသုံးပြုခြင်း စွန္နတ်ဖြစ်သည်။ ထိုအတွက် အိမာမ်ရှာဖအီ သခင်က အိမာမ်ဂဇာလီ သခင်ဖော်ပြသည့် ဆင့်ပြန်ချက်ကို အထောက်အထားပြခဲ့သည်။ ဟနဖီတို့က တမန်တော်မြတ်ﷺ၏–

من فعل فقد احسن و من لا فلا حرج . (د.ق)

'အကြင်သူ အရေအတွက်ကို မဂဏန်းသုံး၍ ပြီးနိုင်လျှင် ကောင်းသည်။ ထိုသို့မပြီးနိုင်လျှင်လည်း မည်သို့မှထိခိုက်နစ်နာမှုမရှိချေ'–ဆိုသောမိန့်ဆိုချက်ကို အထောက်အထားအဖြစ် ဖော်ပြကြသည်။ – ဘာသာပြန်သူ။

သို့ သုတ်သပ်ခြင်းဖြင့် လုံလောက်သည်။ ထို့နောက် ကြီးသောခဲတစ်ခုကို ညာလက်ဖြင့် ယူပြီး ဘယ်လက်ဖြင့် ကျင်ချောင်းကို ကိုင်ကာ ခဲဖြင့် သုတ်သပ်ရမည်။ ညာဘက်လက်ကို လှုပ်ရှားကာ ခဲကို သုံးနေရာ ရွှေ့ပြီး သုံးကြိမ် သုတ်သပ်၍ဖြစ်စေ၊ ခဲသုံးလုံးဖြင့်ဖြစ်စေ၊ တံတိုင်း၏နေရာသုံးခုတွင် သုံးကြိမ်သုတ်သပ်၍ဖြစ်စေ ကျင်ဝထိပ်တွင် အစိုဓါတ်မမြင်ရတော့သည်အထိ သန့်ရှင်းရမည်။ အကယ်၍ နှစ်ခဲဖြင့် သန့်ရှင်းမှုရလျှင် တတိယခဲကို သုံးရမည်။ ရေမသုံးဘဲ ခဲဖြင့် အပြီးအစီးဆောင်ရွက်တော့မည်ဆိုလျှင် အစိုဓါတ်မရှိတော့ခြင်းကို အဓိကမူတည်ဆောင်ရွက်ရမည်။ ဤတွင် အကယ်၍ လေးခဲဖြင့် သန့်ရှင်းမှုရလျှင် မဂဏန်းဖြစ်ရန်အတွက် ပဉ္စမခဲကို သုံးရမည်။

ထို့နောက် ထိုနေရာမှ ရွှေ့ရမည်။ ထို့နောက် ညာဘက်လက်မှ ရေလောင်းချပြီး ဘယ်လက်ဖြင့် ကျင်ချောင်းကို ပွတ်သပ်ရမည်။ လက်ထဲတွင် မသန့်၏အာရုံ ထိတွေ့မှု မကျန်တော့သည်အထိ ထိုသို့ဆေးကျောရမည်။ ဒွါယအတွင်းအထိ နှိုက်ဆေးပြီး အလွန်အကျွံပြုရန် မလိုပေ။ ထိုသို့ပြုခြင်းသည် ဝစ္စဝစ္စာကို ပေါ်ပေါက်စေသောကြောင့် ဖြစ်သည်။ ရေမရောက်နိုင်သောနေရာကို ဒွါယအတွင်းပိုင်းဟု ခေါ်ကြောင်း သိထားရမည်။ ထိုအတွင်းပိုင်းမှ အစာဟောင်းများသည် အပြင်သို့မထွက်သေးလျှင် မသန့်၏ပညတ်ချက်တွင် မပါဝင်ချေ။ အပြင်သို့ ထွက်လာသောအခါမှ ၎င်းကို မသန့်အဖြစ် ပညတ်သတ်မှတ်ရမည်ဖြစ်သည်။ ၎င်းမသန့်၏သန့်ရှင်းမှုအတိုင်းအတာသည် ၎င်းရှိနေသည့်နေရာသို့ ရေရောက်ပြီး ၎င်းကို ဖယ်ရှားသည်အထိဖြစ်သည်။ ထို့ထက်ပို၍ မည်သည့်ဝစ္စဝစ္စာမှဖြစ်ရန်အကြောင်းမရှိပေ။ ကိုယ်လက်သုတ်သင်ပြီးသည့်အခါ အောက်ပါဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ طَهِّرْ قَلْبِيْ مِنَ النِّفَاقِ وَحَصِّنْ فَرْجِيْ مِنَ الْفَوَاحِشْ

('အိုအလ္လာဟ်အရှင်၊ ကျွန်တော်မျိုး၏နှလုံးသားကို အရေခြုံစိတ်ထားမှ သန့်ရှင်းပေးတော်မူပါ။ ထို့နောက် ကျွန်တော်မျိုး၏အရှက်အင်္ဂါကို ကာကွယ်ထိန်းသိမ်းတော်မူပါ။')

ထို့နောက် လက်တွင် အနံ့များ ကျန်နေလျှင် ပြောင်စင်သွားရန် နံရံတံတိုင်းသို့မဟုတ် မြေကြီးဖြင့် ပွတ်တိုက်ရမည်။ ကိုယ်လက်သုတ်သင်ရာတွင် ရေနှင့်ခဲ နှစ်မျိုးစလုံးကို အသုံးပြုခြင်း မွှစ်တဟတ်ဖြစ်သည်။ ဆင့်ပြန်ချက်ရှိသည်မှာ–

'အလ္လာဟ်အရှင်၏– ﴿فِيْهِ رِجَالٌ يُّحِبُّوْنَ أَنْ يَّتَطَهَّرُوْا وَاللّٰهُ يُحِبُّ الْمُطَّهِّرِيْنَ﴾

**'ထိုအထဲတွင် သန့်ရှင်းစွာနေရန် နှစ်သက်ကြသောလူများရှိသည်။ အလ္လာဟ်အရှင်သည် သန့်ရှင်းသူများကို ချစ်ခင်တော်မူသည်။'** (**နူရာတောင်ဗတ် ၊၁၀၈**)

ဤမိန့်ကြားမှု ကျရောက်လာသောအခါ၊ တမန်တော်ﷺက ကုဘာအရပ်သားတို့အား–

قال رسول اللهﷺ لأهل قباء : ما هذه الطهارة التي أثنى الله بها عليكم ؟ قالوا . كنا نجمع بين الماء والحجر . (بز)

'အသင်တို့အား အလ္လာဟ်အရှင်က ချီးကျူးမိန့်ကြားရသည့် သန့်ရှင်းမှုသည် ဘာလဲ'ဟု မေးခဲ့သည်။ လူတို့က 'ကျွန်တော်မျိုးတို့သည် ရေနှင့်ခဲကို နှစ်မျိုးစလုံး ကျင့်သုံးကြပါသည်'ဟု ဖြေခဲ့ကြသည်။'

## ဝုဇူပြုနည်း

ကိုယ်လက်သုတ်သင်ပြီးသောအခါ ဝုဇူပြုရမည်။ တမန်တော်မြတ်ﷺကို အိမ်သာမှ ထွက်လာပြီးနောက် ဝုဇူမပြုသည့်အခါဟူ၍ လုံးဝမတွေ့ရဖူးပေ။ ထိုသို့ ဝုဇူပြုရာတွင်လည်း တမန်တော်မြတ်ﷺသည် တံပူမစားသောအခါဟူ၍ မရှိခဲ့ဘူးပေ။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

إن أفواهكم طرق القرآن فطيبوها بالسواك . (بم بز)

'အသင်တို့၏ပါးစပ်များသည် ကုရ်အာန်၏လမ်းကြောင်းများဖြစ်သည်။ ထိုလမ်းများကို တံပူဖြင့် မွှေးကြိုင်အောင် ပြုကြကုန်။'

သို့နှင့်အမျှ တံပူစားသည့်အခါ ကုရ်အာန်ဖတ်ရွတ်ရန်နှင့် နမာဇ်ဖြင့် အလ္လာဟ်အရှင်ကို သတိရတသရန်အတွက် မိမိ၏နှုတ်ကို သန့်ရှင်းမည်ဟု စိတ်ရည်သန်ရမည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

صلاة على أثر سواك أفضل من خمس وسبعين صلاة بغير سواك . (ا.س)

'တံပူစားပြီးနောက် ဖတ်သောနမာဇ်တစ်ကြိမ်သည် တံပူမစားဘဲ ဖတ်သောနမာဇ်အကြိမ် ခုနစ်ဆယ်ထက်ပို၍ မြတ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

**لولا أن أشق على أمتي لأمرتهم بالسواك عند كل صلاة .** (خ.م)

'အကယ်၍သာ ငါ၏အုမ္မတ်**အတွက် အခက်အခဲဖြစ်ရန်မရှိလျှင်** ငါသည် ၎င်းတို့ကို နမာဇ်ဖတ်တိုင်း တံပူစားရန် အမိန့်ပေးမည်**ဖြစ်သည်။**'

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

**مالي أراكم تدخلون علي قلحاً استاكوا .** (بر.منی)

'အသင်တို့ ငါ့ထံသို့ **လာသည့်အခါ သွားအဝါများဖြင့် လာရသလော။** တံပူစားကြကုန်။'

တမန်တော်မြတ်ﷺသည် ညအခါ**များတွင် တံပူကို အကြိမ်ကြိမ်စားနေလေ့ရှိ**သည်။ အိဗ်နေ့အဗ္ဗာစ်ﷺသခင်က ဆင့်ပြန်ပြောသည်မှာ– أنه كان لم يزل يأمرنا باسواك حتى ظننا **أنه سينزل عليه فيه** شيء . (ه)

'**တမန်တော်မြတ်ﷺက အမြဲလိုပင် ကျွန်ုပ်တို့အား တံပူစားရန်** အမိန့်ပေးလေ့ရှိခဲ့သည်။ ကျွန်ုပ်တို့မှာ **တမန်တော်မြတ်ﷺထံသို့ မကြာမီ ဤကိစ္စနှင့်**ပတ်သက်၍ အာယတ်တော်တစ်ခုခု ကျရောက်တော့မည်ဟု ထင်မှတ်ကြသည်**အထိဖြစ်သည်။**'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

عليكم بالسواك فأنه مطهرة للفم ومرضاة للرب . (ا)

'**အသင်တို့ တံပူကို** စွဲစွဲမြဲမြဲစားကြကုန်။ ဤအရာသည် ပါးစပ်၏သန့်ရှင်းမှုနှင့်ရဗ်အရှင်၏ကျေနပ်မှုအတွက် အကြောင်းခံဖြစ်သည်။'

အလီكرم الله وجههသခင်က 'တံပူစားခြင်းသည် မှတ်ဉာဏ်ကို တိုးပွါးစေသည်။ ချွဲသလိပ်ကို ကင်းရှင်းစေသည်'ဟု ဆိုမိန့်ခဲ့သည်။ တမန်တော်မြတ်ﷺ၏ဆွဟာဗဟ်များﷺသည် တံပူကို မိမိတို့၏နားရွက်ကြားတွင် ညှပ်၍ သွားလာနေလေ့ရှိခဲ့ကြပေသည်။(ꩻ.ꩻ)

## တံပူစားနည်း

သွားချေးများကို ဖယ်ရှားပေးနိုင်သည့် အရာက်သား သို့မဟုတ် မာတောင့်သောအခြားသစ်ပင်များ၏အကိုင်းများဖြင့် တံပူစားရသည်။ တံပူစားရာတွင် သွားကို ဒေါင်လိုက်ရော အလျားလိုက်ပါ တိုက်ရမည်။ အကျဉ်းရုံးလိုပါက ဒေါင်လိုက်သာ တိုက်ရမည်။ နမာဇ်အားလုံးနှင့် ဝုဇူပြုသည့်အခါတိုင်းတွင် တံပူစားခြင်း မွတ်စတဟဗ်ဖြစ်သည်။ အကယ်၍ ဝုဇူပြုပြီးနောက် နမာဇ်ဖတ်ရန် ရည်ရွယ်ချက် မရှိလျှင်လည်း တံပူစားရမည်။ အိပ်ယာမှ ထချိန်တွင်၎င်း၊ အချိန်ကြာမြင့်စွာပါးစပ်ပိတ်ထားပြီးနောက်တွင်၎င်း၊ နံစော်သောအရာများကို စားသောက်ပြီးနောက်တွင်၎င်း တံပူစား

**ရမည်။** တံပူစားပြီးနောက် ဝုဇူပြုရန်အတွက် ကေဘာလာဘက်သို့ မျက်နှာမူပြီး ထိုင်ရမည်။ ထို့နောက် ဗိစ္စမစ်လ္လာဟ်–

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

(အလွန်သနားကြင်နာတော်မူသော မဟာဂရုဏာတော်ရှင် အလ္လာဟ်အရှင်၏ နာမတော်ဖြင့် အစပြုပါ၏)

**ကို** ဖတ်ရမည်။ တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

لا وضوء لمن لم بسم الله تعالى . (ت.خ)

'အကြင်သူ ဗိစ္စမစ်လ္လာဟ် မဖတ်လျှင် ထိုသူ၏ ဝုဇူသည် ဝုဇူ မမည်ပေ။'

**ထိုသူ၏** ဝုဇူသည် ပြည့်စုံမရှိဟု ဆိုလိုခြင်းဖြစ်သည်။* ဗိစ္စမစ်လ္လာဟ်ဖတ်ပြီးနောက်–

أَعُوۡذُ بِكَ مِنۡ هَمَزَاتِ الشَّيۡطَانِ وَأَعُوۡذُ بِكَ رَبِّ أَنۡ يَحۡضُرُوۡنَ .

('ကျွန်တော်မျိုးသည် ရှိုက်တွာန်များ၏ ဖြားယောင်းနှောင့်ယှက်မှုမှ ကင်းဝေးရန် ကိုယ်တော်အရှင့်ထံ ခိုလှုံပါသည်။ အို ကျွန်တော်မျိုး၏ ရဗ်အရှင်၊ ကျွန်တော်မျိုးသည် မိမိထံရောက်လာမည့်အရာမှ ကိုယ်တော် အရှင့်ထံ ခိုလှုံပါသည်။')

ကို ဖတ်ရမည်။ ထို့နောက် လက်နှစ်ဘက်ကို ရေမနှိုက်မီ ခွက်တွင် သုံးကြိမ် ဆေးကြောရမည်။ ထိုအချိန်တွင် ဖတ်ရမည်မှာ– اَللّٰهُمَّ إِنِّيۡ أَسۡأَلُكَ الۡيُمۡنَ الۡبَرَكَةِ وَأَعُوۡذُ بِكَ مِنَ الشُّؤۡمِ وَ الۡهَلَكَةِ .

('အို အလ္လာဟ်အရှင် ကျွန်တော်မျိုးသည် ကိုယ်တော်အရှင့်ထံမှ အီမာန်ယုံကြည်ချက်နှင့် ဘရ်ကတ် မင်္ဂလာရှိမှုကို တောင်းခံပါ၏။ ထို့နောက် ကျွန်တော်မျိုးသည် လာဘ်တိတ်မှုနှင့် ပျက်စီးမှုမှ ကင်းဝေးရန် ကိုယ်တော်အရှင့်ထံတွင် ခိုလှုံပါသည်။')

ထို့နောက် မသန့်ငယ်ဖြစ်မှုမှ ဖယ်ရှားရန်နှင့် နမာဇ်ဖတ်ပိုင်ရန် နိယတ်ပြု ရည်စူးရမည်။ မျက်နှာကို ဆေးကြောချိန် အထိ နိယတ်ပြု၍ ရသေးသည်။ မျက်နှာကို ဆေးကြောပြီးနောက်မှ နိယတ်ပြုရန် သတိရခဲ့လျှင် ထိုသူ၏ ဝုဇူ အထ မမြောက်တော့ပေ။† နိယတ်ပြုပြီးနောက် လက်ခုပ်ဖြင့် ရေယူပြီး သုံးကြိမ် ပလုတ်ကျင်းရမည်။ ထို့နောက် အာခေါင် အထိ အကြိမ်ကြိမ်ရေရောက်အောင် အာလုတ်ကျင်းရမည်။ ရိုဇာရှိသူဖြစ်လျှင် အာလုတ် မကျင်းရပေ။ ထိုအချိန်တွင် ဖတ်ရမည်မှာ– اَللّٰهُمَّ أَعِنِّيۡ عَلٰى تِلَاوَةِ كِتَابِكَ وَكَثۡرَةِ الذِّكۡرِ لَكَ .

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးအား ကိုယ်တော်အရှင်၏ ကျမ်းတော်ကို ရွတ်ဖတ်နိုင်ရန်နှင့်ကိုယ် တော်အရှင်အား များစွာ သတိရ တသနိုင်ရန် ကူမ တော်မူပါ။')

ထို့နောက် နှာခေါင်းအတွက် ရေလက်တစ်ခုပ် ယူပြီး သုံးကြိမ် ရှူရှိုက်ရမည်။ ရေကို ရှူသက်ဖြင့် နှာရင်းသို့ ပေါက် ရောက်အောင် ရှူရမည်။ နှာခေါင်းအတွင်းမှ ရှိနေသည်များကို ညှစ်ထုတ်ရမည်။ ရေရှူရှိုက်ချိန်တွင် ဖတ်ရမည်မှာ–

اَللّٰهُمَّ أَرِحۡنِيۡ رَائِحَةَ الۡجَنَّةِ وَأَنۡتَ عَنِّيۡ رَاضٍ .

('အို အလ္လာဟ်အရှင်၊ ကိုယ်တော်က ကျွန်တော်မျိုးအား ကျေနပ်တော်မူသောအဖြစ်နှင့် ကျွန်တော်မျိုး အား ဂျန္နတ်၏ မွှေးရနံ့ကို ရှူရှိုက်ခွင့်ပြုတော်မူပါ။')

**ညှစ်ထုတ်ချိန်** ဖတ်ရမည်မှာ– اَللّٰهُمَّ أَعُوۡذُ بِكَ مِنۡ رَوَائِحِ النَّارِ وَمِنۡ سُوۡءِ الدَّارِ .

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးသည် ဂျဟန္နမ်၏ အနံ့ဆိုးများနှင့်အိုးအိမ်၏ မကောင်းခြင်းမှ ကင်း

---

* **အိမာမ်အဗူဟနီဖဟ်**၊ အိမာမ်မာလိက်၊ အိမာမ်ရှာဖအီနှင့် အခြားပညာရှင်များထံတွင် ဝုဇူ၏အစ၌ ဗိစ္စမစ်လ္လာဟ် **ဖတ်ခြင်း စွန္နတ်ဖြစ်သည်။** ဝါဂျိဗ်မဟုတ်ပါ။

† **အိမာမ်ရှာဖအီ**နှင့်အိမာမ်မာလိက်စသူတို့ထံတွင် ဝုဇူ၏အစ၌ နိယတ်ပြုခြင်း ဖရာဇ်ဖြစ်သည်။ ဟနဖီတို့ထံတွင် ဖရာဇ်မဟုတ်ပါ။

ရန် ကိုယ်တော်အရှင့်ထံတွင် ခိုလှုံပါသည်။')

ရေရှုသွင်းချိန်တွင် ပထမဒိုအာက **ဆီလျှော်မှုရှိပြီး** ရေညှစ်ထုတ်ချိန်တွင် နှာခေါင်း၌ ရှိနေသည်များကို ရှင်းလင်းရသဖြင့် ဤဒိုအာက ဆီလျှော်မှုရှိသည်။ ထို့နောက် ရေလက်တစ်ခုပ်ယူပြီး မျက်နှာကို ဆေးကြောရမည်။ မျက်နှာသည် ဒေါင်လိုက် နဖူးဆံစမှ မေးစေ့အဆုံးထိ၊ အလျားလိုက် နားတစ်ဘက်မှ အခြားနားတစ်ဘက်အထိဖြစ်သည်။ နားထင်နှစ်ဘက်ရှိ ဆံပင်ဖုံးနေသောအပိုင်းများသည် မျက်နှာ၏သတ်မှတ်ချက်တွင် ပါဝင်ခြင်းမရှိပေ။ ယင်းအပိုင်းများသည် **ဦးခေါင်းတွင်ပါဝင်သည်။** မျက်နှာထိပ်ရေရောက်ရမည့်အပိုင်းသည် အမျိုးသမီးများ ဆံပင်ကို နှုတ်ပစ်လေ့ရှိသောနေ**ရာဖြစ်သည်။** ယင်းသည် ချည်စတစ်ချောင်းကို နားရွက်တစ်ဘက်၏ထိပ်မှ အခြားတစ်ဘက်ထိပ်သို့ ဖြတ်ဆွဲလိုက်လျှင် **နဖူး**ထိပ်မှ ချည်စဖြတ်သွားသည့်နေရာဖြစ်သည်။

မျက်ခုံးနှစ်ဘက်၊ နှုတ်ခမ်းမွေး၊ **နားထင်နှစ်ဘက်**မှ နားရှေ့ရှိ ဆံပင်နှင့် မျက်တောင်နှစ်ဘက်တို့၏ အရင်းများသို့ ရေရောက်ရမည်။ အဘယ်ကြောင့်**ဆိုသော်** မျက်နှာ၏ ထိုအမွေးအမျှင်လေးခုသည် များသောအားဖြင့် နည်းနည်းပါးပါးသာဖြစ်သည်။ မုတ်ဆိတ်သည် **ပါးလျှ**ပါသော် အရင်းသို့ ရေရောက်ရန် အရေးကြီးသည်။ မုတ်ဆိတ်ပါးခြင်း၏ လက္ခဏာမှာ မျက်နှာ၏အရေပြားကို **မြင်ရခြင်း**ဖြစ်သည်။ မုတ်ဆိတ်သည် ထူထဲလျှင် အရင်းသို့ ရေရောက်ရန် အရေးမကြီးပေ။ အောက်နှုတ်ခမ်းနှင့်မေးစေ့အကြားတွင် ပေါက်လေ့ရှိသည့်မုတ်ဆိတ်ကလေးသည် ထူလျှင်ထူသလို ပါးလျှင်ပါးသလို မုတ်ဆိတ်၏အမိန့်**အတိုင်းဖြစ်**သည်။ မျက်နှာ၏အပိုင်းများကို သုံးကြိမ် ဆေးကြောရမည်။

မုတ်ဆိတ်၏အပေါ်ယံတွင် **ရေစီးကျစေ**ရမည်။ မျက်ဒေါင့်များ၊ မျက်ဝတ်ထွက်သည့်နေရာနှင့်စွရ်မာစုသည့်နေရာကို လက်ချောင်းများဖြင့် **နိုက်ပြီး သန့်စင်**ရမည်။ တမန်တော်မြတ်ﷺသည် ဤအတိုင်း ပြုမူခဲ့ကြောင်းဆင့်ပြန်လာရှိသည်။(၂၉) ဤအပြုအမူဖြင့် **မျက်စိနှစ်**ဘက်၏ပြစ်မှုများ ထွက်သွားမည်ဟု မျှော်လင့်ချက်ထားရမည်။ ဤနည်းအလားတူ အစိတ်အပိုင်းအသီးသီးကို **ဆေးကြော**ရာမှာလည်း ထိုအစိတ်အပိုင်းများဖြင့် ကျူးလွန်ခဲ့သည့်ပြစ်မှုဒုစရိုက်များ ကင်းကွာသွားပြီဟု **မျှော်လင့်ချက်ထား**ရမည်။ မျက်နှာကိုဆေးကျောချိန်တွင် ဖတ်ရမည်မှာ–

اَللّٰهُمَّ بَيِّضْ وَجْهِىْ بِنُوْرِكَ يَوْمَ تَبْيَضُّ وُجُوْهُ أَوْلِيَائِكَ وَلاَ تُسَوِّدْ بِظُلُمَاتِكَ يَوْمَ تَسْوَدُّ وُجُوْهُ أَعْدَائِكَ .

('အို အလ္လာဟ်အရှင်၊ **ကိုယ်တော်အရှင်**၏အချစ်တော်များ၏မျက်နှာများ ဖြူဖွေးမည့်နေ့တွင် ကိုယ်တော်အရှင်၏**အလင်းရောင်ဖြင့် ကျွန်တော်မျိုး**၏မျက်နှာကို ဖြူဖွေးအောင်ပြုတော်မူပါ။ ထို့နောက် ကိုယ်တော်အရှင်၏ **ရန်သူများ၏မျက်နှာများ** မဲနက်မည့်နေ့တွင် ကိုယ်တော်အရှင်၏မဲမှောင်မှုဖြင့် ကျွန်တော်မျိုး၏မျက်နှာကို မဲနက်အောင် ပြုတော်မမူပါနှင့်။')

မျက်နှာကို ဆေးကြောရာတွင် **ထူထဲသောမုတ်ဆိတ်အတွင်းသို့** လက်ချောင်းများ ထိုးသွင်းသုတ်သပ်ရမည်။ ယင်းသည် **မွတ်စ်တဟာဗ်ဖြစ်သည်။** ထို့နောက် လက်နှစ်ဘက်ကို တံတောင်ဆစ်အထိ သုံးကြိမ်စီ ဆေးကြောရမည်၊ လက်စွပ်ကို လှုပ်ရှားပေးရမည်။ လင်းဝင်းတောက်ပမှုများကို ရှည်လျားအောင်လုပ်ရမည်။ ရေကို တံတောင်ဆစ်၏အပေါ်ဘက်သို့ ရောက်စေရမည်။ အကြောင်းမှာ ကိယာမတ်နေ့တွင် ဝုဇူပြုခဲ့သူတို့၏ခြေလက်မျက်နှာများသည် ဝုဇူ၏အရောင်ဟပ်ကာ ထွန်းလင်းတောက်ပလျက်ရှိမည်ဖြစ်သောကြောင့်ပင်။ ဟဒီးစ်တွင် ဤအတိုင်း ဖော်ပြပါရှိသည်။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–(ခ.မ) من استطاع أن يطيل غرته فليفعل .

'မိမိကိုယ်ကို တောက်ပအောင်လုပ်နိုင်စွမ်းရှိသူသည် တောက်ပမှုကို တိုးတက်အောင်လုပ်နေပါလေ။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

تبلغ الحلية من المؤمن حيث يبلغ الوضوء . (ခ.မ)

'အီမာန်ရှင်၏လက်ဝတ်တန်ဆာသည် ဝုဇူရေ ရောက်သည့်နေရာအထိ ရောက်လိမ့်မည်။'

ညာဘက်လက်ကို ပထမဆေးကြောရမည်။ ထိုစဉ် ဖတ်ရမည်မှာ–

اَللّٰهُمَّ اَعْطِنِيْ كِتَابِيْ بِيَمِيْنِيْ وَ حَاسِبْنِيْ حِسَابًا يَسِيْرًا ۔

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုး၏ကိုယ်ကျင့်မှတ်တမ်းစာအုပ်ကို ကျွန်တော်မျိုး၏လက်ယာလက်တွင် ပေးတော်မူပါ။ ထို့ပြင် ကျွန်တော်မျိုးအား သက်ညှာစွာစာရင်းစစ်ဆေးတော်မူပါ။')

ထို့နောက် ဘယ်ဘက်လက်ကို ဆေးကြောစဉ်တွင် ဖတ်ရမည်မှာ–

اَللّٰهُمَّ اَعْطِنِيْ كِتَابِيْ بِشِمَالِيْ اَوْ مِنْ وَرَاءِ ظَهْرِيْ ۔

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုး၏ကိုယ်ကျင့်မှတ်တမ်းစာအုပ်ကို ကျွန်တော်မျိုး၏လက်ဝဲလက်မှငင်း၊ ကျွန်တော်မျိုး၏ကျောဘက်မှငင်း ပေးတော်မမူပါနှင့်။')

ထို့နောက် ဦးခေါင်းတစ်ခုလုံး နှံ့စပ်အောင် သုတ်သပ်ရမည်။* သုတ်သပ်ပုံမှာ လက်နှစ်ဘက်ကို ရေစွတ်ပြီး ညာလက်၏လက်ချောင်းထိပ်များကို ဘယ်လက်၏လက်ချောင်းထိပ်များနှင့် ထိကပ်ထားရမည်။ ထို့နောက် ထိုနှစ်ဘက်ကို ဦးခေါင်း၏ရှေ့ပိုင်းတွင် တင်ပြီး ကုပ်ဘက်သို့ ဆွဲယူရမည်။ ယင်းသည် တစ်ကြိမ်သုတ်သပ်မှုဖြစ်၏။ ဤနည်းအတိုင်း သုံးကြိမ်ပြုလုပ်ရမည်။ ထိုစဉ်ဖတ်ရမည်မှာ–

اَللّٰهُمَّ غَشِّنِيْ بِرَحْمَتِكَ وَاَنْزِلْ عَلَيَّ مِنْ بَرَكَاتِكَ وَاَظِلَّنِيْ تَحْتَ ظِلِّ عَرْشِكَ يَوْمَ لَا ظِلَّ اِلَّا ظِلُّكَ ۔

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးအား ကိုယ်တော်အရှင်၏ဂရုဏာတော်ဖြင့် အုပ်ဆိုင်းတော်မူပါ။ ကျွန်တော်မျိုးအပေါ် ကိုယ်တော်၏ဘရ်ကတ်မင်္ဂလာများ သွန်ချပေးတော်မူပါ။ ကိုယ်တော်အရှင်၏အရိပ်မှတစ်ပါး အခြားမည်သည့်အရိပ်အာဝါသမှ မရှိမည့်နေ့တွင် ကိုယ်တော်အရှင်၏အရရှ်တော်အရိပ်အောက်တွင် ကျွန်တော်မျိုးအား အရိပ်အာဝါသပေးတော်မူပါ။')

ထို့နောက် နားနှစ်ဘက်၏အပြင်ပိုင်း အတွင်းပိုင်းတို့ကို သုတ်သပ်ရမည်။ နားများကို သုတ်သပ်ရန်အတွက် ရေအသစ်ယူရမည်။† လက်ညှိုးနှစ်ချောင်းကို နားပေါက်နှစ်ခုအတွင်း ထိုးနှိုက်၍ငင်း လက်မနှစ်ချောင်းကို နားရွက်နှစ်ဘက်၏ကျောဘက်ကို လှည့်ပတ် ပွတ်သပ်ရမည်။ လက်ဝါးကို နားရွက်၏အပြင်ပိုင်းအတွက် ထားရမည်။ နားရွက်များကို သုံးကြိမ် သုတ်သပ်ရမည်။ ထိုစဉ် ဖတ်ရမည်မှာ–

اَللّٰهُمَّ اجْعَلْنِيْ مِنَ الَّذِيْنَ يَسْتَمِعُوْنَ الْقَوْلَ فَيَتَّبِعُوْنَ اَحْسَنَهٗ ، اَللّٰهُمَّ اَسْمِعْنِيْ مُنَادِيَ الْجَنَّةِ مَعَ الْاَبْرَارِ ۔

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးအား အလ္လာဟ်အရှင်၏မိန့်ကြားမှုကို နားထောင်သောပုဂ္ဂိုလ်များ၊ ကောင်းမွန်သောစကားကို နာခံသော ပုဂ္ဂိုလ်များတွင် ထည့်သွင်းပါဝင်စေတော်မူပါ။ အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးအား ဂျန္နတ်၏ဟစ်ခေါ်သံကို သူတော်ကောင်းတို့နှင့်အတူ နားဆင်ခွင့်ပြုတော်မူပါ။')

ထို့နောက် လည်ကုတ်ကို ရေအသစ်ဖြင့် သုတ်သပ်ရမည်။‡ **တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–**

---

* ဟနဖီတို့အတွက် ဦးခေါင်းတစ်ခုလုံးကို သုတ်သပ်ခြင်း **ဖရာဇ်မဟုတ်ပါ**။ သုံးကြိမ်သုတ်သပ်ရန်လည်း အရေးမကြီးပါ။ ဦးခေါင်း၏လေးပုံတစ်ပုံကို တစ်ကြိမ်သုတ်သပ်ရန်သာ ဖရာဇ်ဖြစ်သည်။ ဟနဖီတို့အတွက် ဦးခေါင်းတစ်ခုလုံးကို သုတ်သပ်ခြင်းသည် စွန္နတ်ဖြစ်သည်။ (မရာကီလ်ဖလဟ်၊ စာမျက်နှာ ၁၈)။

† ဟနဖီတို့ထံ၌ နားရွက်များကို သုတ်သပ်ခြင်း ဖရာဇ်မဟုတ်ပါ။ ထိုအတွက် ရေအသစ်ယူရန်လည်း အရေးမကြီးပါ။ ဦးခေါင်းကို သုတ်သပ်သည့်ရေဖြင့် ဆက်၍သုတ်သပ်လျှင် လုံလောက်ပါသည်။ အကယ်၍ လက်များတွင် အစိုဓါတ်မရှိတော့လျှင် ရေအသစ် စွတ်ရမည်။ နားရွက်များကို တစ်ကြိမ်သာ သုတ်သပ်ခြင်း စွန္နတ်ဖြစ်သည်။ (ထက်ညွှန်းကျမ်း)။

‡ ဟနဖီတို့အတွက် လည်ကုပ်ကို သုတ်သပ်ခြင်းသည်လည်း စွန္နတ်သာဖြစ်သည်။ ထိုအတွက် ရေအသစ်ယူရန် အရေးမကြီးပါ။ (ထက်ညွှန်းကျမ်း) – ဘာသာပြန်သူ။

مسح الرقبة أمان من الغل يوم القيامة. (دلم)

'လည်ကုပ်ကို သုတ်သပ်ခြင်းသည် ကိယာမတ်နေ့တွင် ထမ်းပိုးတင်ခံရခြင်းမှ သက်သာလွတ်ကင်းမှု ရစေသည်။'

လည်ကုပ်ကို သုတ်သပ်ပြီးနောက် ဖတ်ရမည်မှာ–

اَللّٰهُمَّ فَكَّ رَقَبَتِي مِنَ النَّارِ وَاَعُوْذُ بِكَ مِنَ السَّلَاسِلِ وَالْاَغْلَالِ .

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုး၏လည်ကုပ်ကို ငရဲဘေးမှ လွတ်ကင်းမှုပြုတော်မူပါ။ ကျွန်တော်မျိုးသည် ငရဲရှိ ဇက်ကြိုးများနှင့်ထမ်းပိုးများ၏ဘေးဒုက္ခမှ **ကိုယ်တော်အရှင့်ထံတွင်** ခိုလှုံပါသည်။')

ထို့နောက် ညာဘက်ခြေထောက်ကို သုံးကြိမ် ဆေးကြောရမည်။ ဆေးကြောရာတွင် ဘယ်လက်ဖြင့် ညာခြေခြေချောင်းများ၏အတွင်းပိုင်းကို ထိုးနှိုက်ဆေးကြောရမည်။ ညာခြေ၏ခြေသန်းမှ အစပြုပြီး ဘယ်ခြေ၏ခြေသန်းတွင် အဆုံးသတ်ရမည်။ ညာဘက်ခြေကို ဆေးကြောစဉ် ဖတ်ရမည်မှာ–

اَللّٰهُمَّ ثَبِّتْ قَدَمِي عَلَى الصِّرَاطِ الْمُسْتَقِيْمِ يَوْمَ تَزِلُّ الْاَقْدَامُ فِي النَّارِ .

('အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုး၏ခြေကို ဖြောင့်မတ်မှန်ကန်သောလမ်းပေါ်တွင် ခိုင်မြဲအောင် ပြုပေးတော်မူပါ။ ထိုနေ့တွင် ခြေထောက်များ ငရဲတွင်းသို့ **ချော်ကျကုန်မည်ဖြစ်သည်။**')

ထို့နောက် ဘယ်ဘက်ခြေကို ဆေးကြောစဉ် ဖတ်ရမည်မှာ–

اَعُوْذُ بِكَ اَنْ تَزِلَّ قَدَمِي عَلَى الصِّرَاطِ يَوْمَ تَزِلُّ الْاَقْدَامُ الْمُنَافِقِيْنَ .

('အို အလ္လာဟ်အရှင်၊ မုနာဖိက်ဘာသာရေးအရေခြုံများ **ခြေချော်ကြမည့်**နေ့တွင် ကျွန်တော်မျိုး၏ခြေ ဆွေရာတ်တံတားပေါ်က ချော်ကျမည့်အဖြစ်မှ ကိုယ်တော်**အရှင့်ထံ** ခိုလှုံပါသည်။')

ခြေထောက်များကို ဆေးကြောသည့်အခါ ရေကို ခြေသလုံးတစ်ဝက်အထိ ရောက်စေရမည်။ ဝုဇူပြုပြီးသောအခါ မိုးကောင်းကင်ဘက်သို့ ဦးခေါင်းကို **မော့ပြီး အောက်ပါဒိုအာကို ဖတ်ရမည်။**

اَشْهَدُ اَنَّ لَا اِلٰهَ اِلَّا اللّٰهُ وَحْدَهُ لَا شَرِيْكَ لَهُ وَاَشْهَدُ اَنَّ مُحَمَّدًا عَبْدُهُ وَرَسُوْلُهُ ، سُبْحَانَكَ اللّٰهُمَّ وَبِحَمْدِكَ لَا اِلٰهَ اِلَّا اَنْتَ عَمِلْتُ سُوْءًا وَظَلَمْتُ نَفْسِي ، اَسْتَغْفِرُكَ اللّٰهُمَّ وَاَتُوْبُ اِلَيْكَ فَاغْفِرْلِي وَتُبْ عَلَيَّ اِنَّكَ اَنْتَ التَّوَّابُ الرَّحِيْمُ ، اَللّٰهُمَّ اجْعَلْنِي مِنَ التَّوَّابِيْنَ وَاجْعَلْنِي مِنَ الْمُتَطَهِّرِيْنَ ، وَاجْعَلْنِي مِنْ عِبَادِكَ الصَّالِحِيْنَ وَاجْعَلْنِي عَبْدًا صَبُوْرًا شَكُوْرًا وَاجْعَلْنِي ذِكْرًا كَثِيْرًا وَاُسَبِّحَكَ بُكْرَةً وَّاَصِيْلًا .

('အလ္လာဟ်အရှင်မှတစ်ပါး ကိုးကွယ်ခြင်းခံထိုက်သူ မရှိကြောင်း၊ ထိုအရှင်သည် တစ်ပါးတည်း တည်တော်မူပြီး၊ ထိုအရှင်နှင့်ယှဉ်ဖက်၍ ကိုးကွယ်ခံထိုက်သူမရှိကြောင်း ကျွန်တော်မျိုး သက်သေခံပါသည်။ ထို့ပြင် မုဟမ္မဒ်ﷺသခင်သည် ထိုအရှင်၏ကျေးကျွန်နှင့်ထိုအရှင်၏ရစူလ်တမန်တော်ဖြစ်ကြောင်း ကျွန်တော်မျိုး သက်သေခံပါသည်။ ကိုယ်တော်အရှင်သည် ပြစ်ဆာအပေါင်းမှ ကင်းစင်တော်မူကြောင်း ကျွန်တော်မျိုး မြွက်ဆိုပါသည်။ အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးသည် ကိုယ်တော်အရှင့်အား ချီးမွမ်းထောပနာပြုပါ၏။ ကိုယ်တော်အရှင်မှတစ်ပါး ကိုးကွယ်ရာအရှင်မရှိပါ။ ကျွန်တော်မျိုးသည် မကောင်းသောအမှုကို ပြုကျင့်မိခဲ့ပါသည်။ မိမိကိုယ်ကို ညှင်းပန်းနှိပ်စက်မိခဲ့ပါသည်။ ကိုယ်တော်အရှင် ခွင့်လွှတ်တော်မူရန် ကျွန်တော်မျိုး အသနားခံပါ၏။ အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုး ကိုယ်တော်အရှင့်ထံ အမှားဝန်ခံတောင်ဗဟ်ပြုပါ၏။ ကျွန်တော်မျိုးအား ခွင့်လွှတ်တော်မူပါ။ ကျွန်တော်မျိုး၏တောင်ဗဟ်ကို လက်ခံတော်မူပါ။ ကိုယ်တော်အရှင်သည် တောင်ဗဟ်အမှားဝန်ခံမှုကို အလွန်လက်ခံတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူပါသည်။ အို အလ္လာဟ်အရှင်၊ ကျွန်တော်မျိုးအား တောင်ဗဟ်ပြုသူများတွင် အပါအဝင်ပြုတော်မူပါ။ ကျွန်တော်မျိုး

အား သန့်ရှင်းစွာနေထိုင်ကြသူများတွင် အပါအဝင်ပြုတော်မူပါ။ ကျွန်တော်မျိုးအား ကိုယ်တော်အရှင်၏ သူတော်ကောင်း ကျေးကျွန်များတွင် အပါအဝင်ပြုတော်မူပါ။ ထို့ပြင် ကိုယ်တော်အရှင်အား များမြောင်စွာ သတိရတသသူ၊ နေ့ရောညပါ ကိုယ်တော်အရှင် စင်ကြယ်တော်မူကြောင်း မြွက်ဆိုသူအဖြစ် ကျွန်တော်မျိုး ကို ပြုတော်မူပါ။')

အဆိုရှိသည်မှာ ဝုဇူပြုပြီးနောက် အထက်ပါဒိုအာကို ဖတ်ရွတ်သူ၏ဝုဇူကို အမှတ်တံဆိပ် ခပ်နှိပ်မှတ်သား လိမ့်မည်။ ထိုဝုဇူကို အရှ်ရှ်တော်၏အောက်သို့ ပို့ဆောင်ထားလိမ့်မည်။ ထိုတွင် ထိုဝုဇူသည် အလ္လာဟ်အရှင်၏ စင်ကြယ်တော်မူကြောင်း၊ ကြီးကျယ်မြတ်ထွတ်တော်မူကြောင်းများကို ရွတ်ဆိုစီးဖြန်းလျက်ရှိနေမည်။ ထိုရွတ်ဆိုစီးဖြန်းမှုများ၏အကျိုးစွဝါဗ်ကို ကိယာမတ်နေ့တိုင် ဝုဇူပြုသူအတွက် ရေးမှတ်ပေးနေမည်ဖြစ်သည်။

ဝုဇူတွင် မက္ကရူဖြစ်သောကိစ္စရပ်များ ရှိသည်။ ယင်းတို့အနက်တစ်ခုမှာ အဆစ်အပိုင်းများကို သုံးကြိမ်ထက်ပို၍ ဆေးကြောခြင်းဖြစ်သည်။ ထိုသို့အပိုသုံးစွဲသူသည် တရားမဲ့ပြုသူပင်ဖြစ်သည်။ တမန်တော်မြတ်ﷺသည် အဆစ်အပိုင်းများကို သုံးကြိမ်စီသာ ဆေးကြောခဲ့သည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

من زاد فقد ظلم و أساء . (د.س.ق)

'မည်သူမဆို သုံးကြိမ်ထက် ပို၍ ဆေးကြောလျှင် ထိုသူသည် တရားမဲ့ပြုသူဖြစ်သည်။ ထို့ပြင် ထိုသူသည် မကောင်းသောအလုပ်ကို လုပ်သူဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

سيكون قوم من هذه الأمة يعتدون في الدعاء و الطهور . (د.ق.حب)

'များမကြာမီ ဤအုမ္မတ်ထဲ၌ ဒိုအာနှင့်ဝုဇူကို အလွန်အကျွံပြုသောလူများ ပေါ်ပေါက်လာလိမ့်မည်။'

သန့်ရှင်းမှုတွင် ရေကို လောဘတကြီး သုံးစွဲခြင်းက ထိုသူသည် ပညာနုံနဲ့ချို့တဲ့လျက်ရှိကြောင်း လက္ခဏာပင်ဖြစ်သည်ဟု အဆိုအမိန့်ရှိလေသည်။ အီဗ်ရာဟီမ်အီဗ်နေ့အဒ်ဟမ်ရ်သခင်ကမူ 'ဝိစိကိစ္ဆာ၏အစသည် သန့်ရှင်းမှုမှဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။ ဟစ်ဘာစွရီရ်သခင်ကမူ 'လူသား၏ဝုဇူကို ရယ်သွမ်းသွေးသော ရှိုင်တွာန်တစ်ကောင်ရှိသည်။ ထိုရှိုင်တွာန်၏အမည်သည် ဝိလ်ဟာန်ဖြစ်သည်'ဟု ဆိုမိန့်ခဲ့သည်။

ဝုဇူပြုရာတွင် မက္ကရူကိစ္စတစ်ခုမှာ ရေစက်များ စင်အောင် လက်ကို ခါခြင်းဖြစ်သည်။ နောက်တစ်ခုမှာ ဝုဇူပြုနေစဉ် စကားပြောခြင်းဖြစ်သည်။ နောက်တစ်ခုမှာ မျက်နှာကို ရေဖြင့် ရိုက်ခြင်းဖြစ်သည်။ အချို့ပုဂ္ဂိုလ်တို့က ဝုဇူရေကို ခြောက်အောင်သုတ်ပစ်ခြင်းကို မက္ကရူဖြစ်သည်ဟု ဆိုကြသည်။* ထိုပုဂ္ဂိုလ်တို့က 'ဝုဇူရေသည် ကိယာမတ်နေ့ ချိန်ခွင်တော်တွင် ချိန်တွယ်ခြင်းခံရမည့်အရာဖြစ်သည်'ဟု ဆိုကြသည်။ ဤသို့ဆိုသူများမှာ စအီဒ်အီဗ်နေ့မုစိုင်ယီဗ်ရ်နှင့် ဇွဟ်ရီရ်သခင်တို့ဖြစ်ကြသည်။ သို့သော် မအာဇ်သခင်ထံမှ ဆင့်ပြန်လာရှိသည်မှာ–

أنه النبى عليه السلام مسح وجهه بطرف ثوبه . (ت)

'တမန်တော်မြတ်ﷺသည် မိမိ၏မျက်နှာကို မိမိအဝတ်၏အနားတစ်ဘက်ဖြင့် သုတ်ပစ်ခဲ့သည်။'

ထို့ပြင် အာအိရှာသခင်မကလည်း 'တမန်တော်မြတ်ﷺထံတွင် ရေသုပ်ဝတ်တစ်ထည် ရှိခဲ့သည်'ဟု ဆင့်ပြန်ခဲ့၏ သို့သော် အာအိရှာသခင်မထံမှ ဤဆင့်ပြန်ချက်ကို စောကြောမှုများရှိသည်။

ကြေးဝါခွက်မှ ရေဖြင့် ဝုဇူပြုခြင်း မက္ကရူဖြစ်သည်။† ထို့ပြင် နေပူခံထားသောရေဖြင့် ဝုဇူပြုခြင်းလည်း မက္က

* ဟနဖီတို့အတွက်မူ ဝုဇူပြုပြီးနောက် ဝုဇူ၏အဆစ်အပိုင်းများကို တဘက်ဖြင့် သုတ်ပစ်ခြင်း မွစ်တဟာဗ်ဖြစ်ပါသ; ယင်းကို ဝုဇူ၏အကျင့်ဝလေ့များတွင် ထည့်သွင်းရေတွက်ထားသည်။ (ဒွရ်ရွလ်မွခ်တရ်၊ စာ ၁၂၁) – ဘာသာပြန်သူ

† သံ၊ ကြေးနီ၊ ကြေးဝါ၊ ဖန်၊ သစ်သား၊ မြေကြီး စသည်တို့ဖြင့် ပြုလုပ်ထားသောအိုးခွက်များတွင်– (စာမျက်နှာ ၃၀၉

ဖြစ်သည်။ ယင်းကို မက္ကရူဟု ဆိုခြင်းသည် ဆေးပညာရှုဒေါင့်မှဖြစ်သည်။

ကြေးဝါဖြင့် ပြုလုပ်သောအိုးခွက်ဖြင့် ဝုဇူပြုခြင်း မက္ကရူဖြစ်ကြောင်း ဆင့်ပြန်သူများမှာ အီဗ်နေ့အိုမရ်နှင့် အဗူ ဟုရိုင်ရာ ﷺသခင်တို့ဖြစ်သည်။ ထို့ပြင် **အချို့က** ဆင့်ပြန်ပြောပြကြသည်မှာ 'ရှအ်ဘာ ﷺသခင်အတွက် ကြေးဝါအိုးဖြင့် ရေယူလာရာ သခင်က ထိုအိုးဖြင့် **ဝုဇူပြုရန်** ငြင်းဆန်ခဲ့သည်။ ထို့နောက် သခင်က အီဗ်နေ့အိုမရ်နှင့် အဗူဟုရိုင်ရာ ﷺသခင်တို့သည် ထိုအိုးမျိုးကို **မနှစ်မြို့ခဲ့ကြ**ပါဟု ပြောဆိုခဲ့သည်။'

ဝုဇူပြုပြီးနောက် နမာဇ်ဖတ်ရန် **ဦး**တည်သောသူသည် စိတ်တွင် စဉ်းစားရမည်မှာ 'ဝုဇူပြုလိုက်သဖြင့် မိမိ၏ အပြင်ပန်းခန္ဓာကိုယ်ကတော့ သန့်ရှင်းသွားပြီ။ ထိုခန္ဓာကိုယ်သည် လူတို့ မြင်တွေ့ရသောအရာပင်ဖြစ်သည်။ တဖန် မိမိသည် မိမိ၏နှလုံးသားကို သန့်ရှင်းခြင်းမပြုဘဲ အလ္လာဟ်အရှင့်ရှေ့တော်တွင်ရပ်ပြီး တိုးလျှိုးပန်ကြားလျက်ရှိသည် မှာ ရှက်စရာကောင်းလှသည်။ **အဘယ်ကြောင့်ဆိုသော် ထိုနှလုံးသားသည်** အလ္လာဟ်အရှင် မြင်တွေ့ရသောနေရာ ဖြစ်သည်။' **ထိုသို့စဉ်းစားပြီးနောက် ၎င်းသည် တောင်ဗဟ်အမှားဝန်ခံပြီး** နှလုံးသားကို သန့်ရှင်းရန် သံဓိဋ္ဌာန်ချသင့် သည်။ **နှလုံးသားမှ မကောင်းသောအကျင့်စာရိတ္တများကို ဖယ်ရှင်းရမည်။** ထို့နောက် ကောင်းမွန်သောအကျင့်စာရိတ္တ **များ** စွဲမြဲကျင့်သုံးခြင်းသည် **အကောင်းဆုံးဖြစ်သည်။**

မိမိ၏အပြင်ပန်းခန္ဓာကိုယ်ကို **သန့်ရှင်းလိုက်ရုံဖြင့် ပြည့်စုံလုံလောက်ပြီ**ဟု ထင်မှတ်ယူဆနေသူ၏ဥပမာသည် ဘုရင်ကို မိမိအိမ်သို့ **ဖိတ်ကြားထားသူတစ်ဦးနှင့်အလားတူလေသည်။** ထိုသူသည် မိမိအိမ်အပြင်ပိုင်း ပြူတင်းတံခါး များကိုတော့ ချယ်လှယ်မွမ်းမံထားသည်။ **သို့သော် အိမ်၏အတွင်းပိုင်းမှာမူ အမှိုက်သရိုက်အညစ်အကြေးများ** ဗလပွ ရှိနေသည်။ **ထိုသူမျိုးမှာ ဘုရင့်အမျက်တော် ရာဇမာန်ရှခြင်းနှင့်သာ ထိုက်တန်သူဖြစ်**လေသည်။ *အလ္လာဟ်အရှင်မြတ် သာ အသိဆုံး ဖြစ်တော်မူပါ၏။*

## ဝုဇူ၏ထွတ်မြတ်ခြင်း

တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من توضأ فأحسن الوضوء وصلى به ركعتين لم يحدث فيهما بشئ من الدنيا خرج من ذنوبه كيوم ولدته أمه (وفي لفظ آخر) لم يسه فيهما غفر له ما تقدل من ذنبه .(كتاب الزهد والرقائق لإبن المبارك عثمن إبن عفان)

'အကြင်သူသည် ဝုဇူကို ကောင်းစွာပြုမည်။ ထို့နောက် ထိုဝုဇူဖြင့် နမာဇ် နှစ်ရကအတ်ဖတ်မည်။ ထို နမာဇ်နှစ်ရအတ်ကို ဖတ်ရာတွင် စိတ်ထဲ၌ ဒွန္နယာ့ကိစ္စတစ်ခုခု မပေါ်အောင် ထိန်းသိမ်းမည်ဆိုလျှင် ထိုသူ့ ထံမှ အပြစ်ဒုစရိုက်များသည် သူကိုယ်တိုင် သူ့အမေဝမ်းမှ ကျွတ်ထွက်ခဲ့သကဲ့သို့ ထွက်သွားမည်ဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

ألا أنبئكم بما يكفر الله به الخطايا ويرفع به الدرجات ؟ إسباغ الوضوء على المكاره ونقل الأقدام إلى المساجد وانتظار الصلاة بعد الصلاة فذلكم الرباط . (م)

'ငါသည် အသင်တို့အား အလ္လာဟ်အရှင်က အပြစ်များကို ပလပ်ပြီး အဆင့်အတန်းများကို မြှင့်တင် ပေးမည့်အရာကို အသိပေး ပြောဆိုရမည်လော။ ယင်းသည် စိတ်မပါသည့်[illegible]းက ဝုဇူကို ပြည့်စုံစွာလုပ်

---

**(စာမျက်နှာ ၃၈၈ မှ)**–စားသောက်ခြင်း ပိုင်သည်။ ဤအချက်ကို အထောက်အထားပြုပြီး ဖိကဟ်ပညာရှင်များက အဆိုပါ အိုးခွက်များဖြင့် ဝုဇူပြုခြင်းသည်လည်း မက္ကရူမဖြစ်၊ ပြုပိုင်သောကိစ္စဖြစ်သည်ဟု ဆိုကြသည်။ (ဒွရ်ရှလ်မွခ်တရ်ကျမ်း၊ စာမျက်နှာ ၃၀၀) – ဘာသာပြန်သူ။

ပြီး ဗလီများဆီသို့ သွားရောက်ကာ နမာဇ်ကို တစ်ကြိမ်ပြီး တစ်ကြိမ် စောင့်ဆိုင်းဖတ်ရွတ်ခြင်းဖြစ်သည်။ ယင်းသည် အသင်တို့အဖို့ မိမိတို့ကိုယ်ကို ချည်နှောင်ထိန်းချုပ်လိုက်ခြင်းပင်ဖြစ်သည်။'

တမန်တော်မြတ်ﷺသည် နောက်ဆုံးစကားရပ်ကို သုံးကြိမ်သုံးခါ မိန့်ဆိုခဲ့သည်။ ထို့ပြင် တစ်ကြိမ်တွင်–

وتوضأ مرة مرة وقال : هذا وضوء لا يقبل الله الصلاة إلا به ، وتوضأ مرتين مرتين وقال : من توضأ مرتين أتاه الله أجره مرتين ، وتوضأ ثلاثًا ثلاثًا وقال : هذا وضوئي ووضوء الأنبياء من قبلي ووضوء خليل الرحمن إبراهيم عليه السلام . (ق)

'တမန်တော်မြတ်ﷺသည် အဆစ်အပိုင်းများကို တစ်ကြိမ်စီဆေးကြော၍ ဝုဇူပြုခဲ့သည်။ ထို့နောက် မိန့်ဆိုသည်မှာ 'ဤသည်မှာ ဝုဇူဖြစ်၏။ ဤဝုဇူမပါဘဲ အလ္လာဟ်အရှင်က နမာဇ်ကို လက်မခံပါ။' ထို့နောက် တမန်တော်မြတ်ﷺက နှစ်ကြိမ်နှစ်ခါစီ ဆေးကြော၍ ဝုဇူပြုခဲ့သည်။ ပြီးနောက် တမန်တော်မြတ်ﷺက 'မည်သူမဆို နှစ်ကြိမ်နှစ်ခါစီဆေးကြော၍ ဝုဇူပြုမည်ဆိုလျှင် ထိုသူ့ကို အလ္လာဟ်အရှင်က အကျိုးကုသိုလ် နှစ်ဆနှစ်ပြန် ချီးမြှင့်တော်မူမည်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ ထို့နောက် တမန်တော်မြတ်ﷺက သုံးကြိမ်သုံးခါစီ ဆေးကြော၍ ဝုဇူပြုခဲ့သည်။ ပြီးနောက် တမန်တော်မြတ်ﷺက 'ဤသည်မှာ ငါ၏ဝုဇူဖြစ်သည်။ ထို့ပြင် ငါ၏အလျင် ပေါ်ထွန်းခဲ့သော နဗီတမန်တော်အပေါင်းတို့၏ဝုဇူဖြစ်သည်။ ထို့ပြင် ရဟ်မာန်အရှင်၏အဆွေတော်ကြီး တမန်တော်အိဗ်ရာဟီမ်ﷺသခင်၏ဝုဇူဖြစ်သည်။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

من ذكر الله عند وضوئه طهّر الله جسده كله ، ومن لم يذكر الله لم يطهر منه إلا ما أصاب الماء . (قط)

'အကြင်သူ ဝုဇူပြုသည့်အခါ အလ္လာဟ်အရှင်ကို သတိရလျှင် အလ္လာဟ်အရှင်က ထိုသူ၏ခန္ဓာကိုယ်တစ်ခုလုံးကို သန့်ရှင်းပေးတော်မူမည်ဖြစ်သည်။ တဖန် အကြင်သူ ဝုဇူပြုရာတွင် အလ္လာဟ်အရှင်ကို သတိရခြင်းမရှိလျှင် အလ္လာဟ်အရှင်က ထိုသူ၏ခန္ဓာကိုယ် ရေထိသောအပိုင်းမှလွဲ၍ အခြားမည်သည့်ကိုမှ သန့်ရှင်းပေးတော်မူမည်မဟုတ်ပေ။'

ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

فإذا حث من توضأ على طهر كتب الله له به عشر حسنات . (د.ت.ق)

'အကြင်သူ ဝုဇူရှိပါလျက် ဝုဇူထပ်၍ပြုခဲ့လျှင် အလ္လာဟ်အရှင်သည် ထိုသူ့အတွက် ကောင်းမှုကုသိုလ်ဆယ်ခု ရေးမှတ်တော်မူမည်။'

တဖန် တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

الوضوء على الوضوء نور على نور .

'ဝုဇူ၏အပေါ် ဝုဇူထပ်ပြုခြင်းသည် နူရ်အလင်းရောင်အပေါ် နူရ်အလင်းရောင်ဆင့်ခြင်းဖြစ်သည်။'*

တမန်တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ–

إذا توضأ العبد المسلم فتمضمض خرجت الخطايا من فيه ، فإذا استنثر خرجت الخطات من أنفه ، فإذا غسل وجهه خرجت الخطايا من وجهه حتى تخرج من تحت أشفار عينيه ، فإذا غسل يديه خرجت الخطايا من يديه حتى تخرج من تحت أظفاره ، فاذ امسح برأسه خرجت الخطايا من رأسه حتي تخرج من تحت أذنيه ، وإذا غسل رجليه خرجت الخطايا من رجليه حتى تحت أظفار رجليه ثم كان مشيه إلى المسجد وصلاة نافلة له . (د.ق)

---

* အီရာကီသခင်⁻¹က 'ကျွန်ုပ် ဤဟဒီးစ်၏ရင်းမြစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။

'မွတ်စလင်မ်ဘန္ဒာတစ်ဦး ဝုဇူပြုသောအခါ ၎င်းကနှုတ်ကျင်းလျှင် ၎င်း၏ပါးစပ်မှ အပြစ်များ ထွက်သွားသည်။ ၎င်းနှာညှစ်လျှင် နှာခေါင်းအတွင်းမှ အပြစ်များ ထွက်သွားသည်။ ထို့နောက် ၎င်းက မျက်နှာကို ဆေးကြောသောအခါ မျက်လုံးနှစ်ဖက်၏မျက်တောင်များအောက်ရှိ အပြစ်များကအစ မျက်နှာရှိအပြစ်များအားလုံး ထွက်သွားသည်။ ထို့နောက် ၎င်းက လက်နှစ်ဘက်ကို ဆေးကြောသောအခါ လက်သည်းများတွင်ရှိ အပြစ်များကအစ သူ့လက်နှစ်ဘက်မှ အပြစ်များ ထွက်သွားသည်။ ထို့နောက် ၎င်းက ခြေနှစ်ဘက်ကို ဆေးကြောသောအခါ ခြေနှစ်ဘက်ခြေသည်းများတွင်ရှိ အပြစ်များကအစ သူ့ခြေနှစ်ဘက်မှ အပြစ်များ ထွက်သွားသည်။ ဝုဇူပြုပြီးနောက် **သူ၏**ဗလီသွားခြင်းနှင့်**သူ၏**နမာဇ်ဖတ်ခြင်းတို့သည် သူ့အတွက် နဖီလ် အိဗာဒတ်များဖြစ်လာသည်။'

ထို့ပြင် ဆင့်ပြန်ချက်ရှိသည်မှာ– إنّ الطاهر كالصائم. (ﻧـﺎ)

'သန့်ရှင်းစွာ **ရှိနေသူသည် ရိုဇာစောင့်နေသူနှင့်** အလားတူပေသည်'

တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ–

من توضأ فأحسن الوضوء ثم رفع طرفه إلى السماء فقال أشهد أن لا إله إلا الله وحده لا شريك له وأشهد أنّ محمداً عبده ورسوله فتحت له أبوب الجنة الثمانية يدخل من أيها شاء . (م.د.س)

'အကြင်သူသည် ဝုဇူကို **ကောင်းမွန်စွာ ပြုမည်။ ထို့နောက်** မိုးကောင်းကင်ဘက်သို့ မော့ကြည့်ပြီး–
'ကျွန်တော်မျိုး အလ္လာဟ်အ**ရှင်မှတစ်ပါး ကိုးကွယ်ခြင်းခံထိုက်သူမရှိကြောင်း**၊ ထိုအရှင်သည် တစ်ပါးတည်းတည်တော်မူပြီး၊ **ထိုအရှင်နှင့်ယှဉ်ဖက်၍ ကိုးကွယ်ခံထိုက်သူမရှိကြောင်း** သက်သေခံပါသည်'ဟု မြွက်ဆိုခဲ့လျှင် ၎င်းအတွက် **ဂျန္နတ်၏တံခါးပေါက်**ရှစ်ခုလုံးကို ဖွင့်ပေးလိမ့်မည်။ ၎င်းသည် ထိုတံခါးပေါက်များထဲက မိမိအလိုရှိရာ **တံခါးပေါက်မှ ဂျန္နတ်အတွင်း**သို့ ဝင်ရမည်ဖြစ်သည်။'

အိမန်ရှ်သခင်က **'ရိုက်တွာန်သည် ဝုဇူကို** ကောင်းမွန်ကျနစွာပြုလုပ်သူထံမှ ဝေးရာသို့ ထွက်ပြေးသည်'ဟု မိန့်ဆိုခဲ့သည်။ **မုဂျာဟိဒ်**သခင်ကလည်း 'အကြင်သူ တတ်စွမ်းနိုင်၍ အိမ်ရာမဝင်မီ ဝုဇူပြုမည်။ ထို့နောက် အိပ်မပျော်မီ **အလ္လာဟ်အရှင်ကို သတိရတသနေ**မည်။ အလ္လာဟ်အရှင့်ထံ ခွင့်လွှတ်မှုတောင်းခံနေမည်။ တတ်နိုင်လျှင် ထိုသူသည် ဤအတိုင်း **စွဲမြဲစွာကျင့်ဆောင်**ထိုက်သည်။ အဘယ်ကြောင့်ဆိုသော် ရူဟ်ဝိဉာဉ်များသည် လူသားထံမှ နှုတ်ယူခဲ့စဉ်က အခြေအနေအတိုင်း ရှင်ပြန်ထရမည်ဖြစ်သောကြောင့်ပင်'ဟု ဆိုမိန့်ခဲ့သည်။

## ရေချိုးနည်း

ရေချိုးနည်းမှာ ရေအိုးကို မိမိ၏ညာဘက်တွင် ထားပြီး ဗိစ္စမ်လ္လာဟ်ကို ရွတ်ဆိုရမည်။ ထို့နောက် မိမိ၏လက်နှစ်ဘက်ကို သုံးကြိမ်ဆေးကြောရမည်။ ထို့နောက် အထက်တွင် ဖော်ပြခဲ့သည့်နည်းအတိုင်း ကိုယ်လက်သုတ်သင်ရမည်။ ခန္ဓာကိုယ်တွင် မသန့်ရှိနေလျှင် ဆေးပစ်ရမည်။ ထို့နောက် ကျွန်ုပ်တို့ဖော်ပြခဲ့သည့် နမာဇ်အတွက်ရှိရမည့် ဝုဇူအတိုင်း ဝုဇူပြုရမည်။ သို့သော် ဝုဇူတွင် ဆေးရမည့် ခြေထောက်ကို မဆေးသေးဘဲ ရေချိုးပြီးနောက်မှ ဆေးရမည်။ ခြေနှစ်ဘက်ကို အလျှင်ဆေးပြီးနောက် ရေချိုးရန် မြေကြီးပေါ် ခြေချခဲ့မည်ဆိုလျှင် ရေကို ဖြုန်းတီးရာရောက်မည်ဖြစ်သောကြောင့်ဖြစ်သည်။

ဝုဇူပြုပြီးနောက် ရေကို မိမိ၏ဦးခေါင်းပေါ်မှ သုံးကြိမ်လောင်းချရမည်။ ထို့နောက် ညာဘက်ပုခုံးပေါ်မှ သုံးကြိမ်လောင်းချရမည်။ ထို့နောက် ဘယ်ဘက်ပုခုံးပေါ်မှ သုံးကြိမ်လောင်းချရမည်။ ထို့နောက် ခန္ဓာကိုယ်ရှေ့နောက်ကို

ပွတ်တိုက်ရမည်။ ဆံပင်နှင့်မုတ်ဆိတ်အတွင်း ထိုးနှိုက်သန့်ရှင်းရမည်။ မုတ်ဆိတ်သည် ထူသည်ဖြစ်စေ ပါးသည်ဖြစ်စေ အခြေအရင်းသို့ ရေရောက်ရန်အရေးကြီးသည်။ အမျိုးသမီးများသည် ရေချိုးသည့်အခါ မိမိ၏ဆံထုံးကို ဖြေရန်မလိုပေ။ သို့သော် ဆံပင်အကြားသို့ ရေမရောက်ဘဲနေမည်ဟု သိရှိစိုးရိမ်ရသောအခါမှသာ ဆံထုံးကို ဖြေရမည်။ ရေချိုးရာတွင် ခန္ဓာကိုယ်၏အကြိုအကြားများကို ဂရုတစိုက်ရှိရမည်။ ထို့ပြင် ရေချိုးနေစဉ် မိမိ၏အရှက်အင်္ဂါကို မကိုင်မိရန် သတိထားရမည်။ ရေချိုးနေစဉ် ထိုသို့ကိုယ်တွယ်မိလျှင် ဝုဇူပြန်ပြုရမည်ဖြစ်သောကြောင့်ဖြစ်သည်။*ရေမချိုးမီ ဝုဇူပြုခဲ့လျှင် ရေချိုးပြီးနောက် ဝုဇူပြန်ပြုရန် မလိုတော့ချေ။

ယခုဖော်ပြခဲ့သမျှသည် ဝုဇူပြုခြင်းနှင့်ရေချိုးခြင်း၏စွန္နတ်နည်းလမ်းများဖြစ်သည်။ ကျွန်ုပ်တို့သည် အာခိရတ်လမ်းကို လျှောက်လှမ်းမည့်သူတစ်ဦး သိရှိကျင့်သုံးရန် အရေးကြီးလိုအပ်သလောက်ကို ဖော်ပြခဲ့ခြင်းဖြစ်သည်။ ယခုဖော်ပြခဲ့သည်တို့အပြင် ပေါ်ပေါက်လာသောအခြေအနေအရ နောက်ထပ်လိုအပ်ချက်များ ရှိလာမည်ဆိုလျှင် ဖိကဟ်ကျမ်းများတွင်ကြည့်ရှုလေ့လာရမည်။ ကျွန်ုပ်တို့ဖော်ပြခဲ့သည်ကို ချုပ်၍ဆိုရသော် ရေချိုးခြင်း၏ဖရာဇ်သည် နှစ်ခုသာဖြစ်သည်။ ယင်းမှာ နိယတ်ပြုခြင်း† နှင့်ရေချိုးရာတွင် တစ်ကိုယ်လုံး နှံ့စပ်အောင် ရေရောက်ရှိစေခြင်းဖြစ်သည်။ ထို့နောက် ဝုဇူ၏ဝါဂျိဗ်များမှာ နိယတ်ပြုခြင်း၊ မျက်နှာကို ဆေးကြောခြင်း၊ လက်နှစ်ဘက်ကို တံတောင်ဆစ်အထိ ဆေးကြောခြင်း၊ ဦးခေါင်းဟု ခေါ်ဆိုသောအပိုင်းကို ရေသုတ်သပ်ခြင်း၊ ခြေထောက်နှစ်ဘက်ကို ခြေမျက်စိအထိ ဆေးကြောခြင်းနှင့် ယခုပြဆိုသည့်အတိုင်း ရှေ့နောက်အစီအစဉ်အတိုင်း ပြုလုပ်ခြင်းတို့ဖြစ်သည်။ ဆေးကြောသုတ်သပ်မှုများကို တစ်ခုပြီးတစ်ခု ဆက်တိုက်လုပ်ရန်မှာမူ ဝါဂျိဗ်မဟုတ်ပေ။

ရေချိုးရန် ဖရာဇ်ဖြစ်ရခြင်းသည် အကြောင်းလေးခုကြောင့်ဖြစ်သည်။ ယင်းမှာ သုတ်ထွက်ခြင်း၊ ဖိုမအင်္ဂါနှစ်ခုထိတွေ့ခြင်း‡၊ ရာသီသွေးပေါ်ခြင်းနှင့် ရောဂါသွေးပေါ်ခြင်းတို့ဖြစ်သည်။ ဤလေးခုမှလွဲ၍ ကျန်ရေချိုးခြင်းများသည်- ဥပမာ အီဒ်နှစ်ရက်၊ ဂျုမ္မအာနေ့၊ ဟဂ်ျပြုရန်အဲဟ်ရာမ်ဝတ်ခြင်း၊ အရဖတ်နှင့်မွဇ်ဒလိဖဟ်တွင် ရပ်တန့်ခြင်း၊ မက္ကာမြို့သို့ ဝင်ရောက်ခြင်းနှင့် အီဒ်ကြီးပြီးနောက် တရှိရိက်သုံးရက်တို့တွင် ရေချိုးခြင်း စွန္နတ်ဖြစ်သည်။ ထို့ပြင် အဆိုတစ်ခုအရ တွဝါဖွလ်ဝိဒအ်အတွက် ရေချိုးခြင်းလည်း မွစ်တဟဗ်ဖြစ်သည်။

ထို့ပြင် ကာဖီရ်တစ်ဦး အစ္စလာမ်ကို လက်ခံလာသောအခါ၊ ထိုအချိန်တွင် သူသည် မသန့်မရှင်းမဖြစ်ခဲ့လျှင်၊ သူ့အဖို့ ရေချိုးခြင်း၊ ရူးသွပ်သွားသူတစ်ဦး သတိပြန်လည်လာသောအခါ ရေချိုးခြင်း၊ သူသေကို ရေချိုးပေးခဲ့သူ၏ ရေချိုးခြင်းတို့သည် အားလုံးမွတ်စ်တဟဗ်များဖြစ်သည်။

---

* ဟနဖီတို့အတွက် အရှက်တန်ဆာကို ကိုင်တွယ်သဖြင့် ဝုဇူမပျက်ပေ။ (ဒွရ်ရွလ်မွခ်တရ်၊ အတွဲ ၁၊ စာမျက်နှာ ၁၃၆၊ ဝုဇူပျက်ခြင်းအခန်း)။ သို့ဖြစ်ရာ အသေအချာကိုင်သည်ဖြစ်စေ၊ မတော်တဆကိုင်မိသည်ဖြစ်စေ ဝုဇူပြန်ပြုရန် မလိုအပ်ချေ။ – ဘာသာပြန်သူ။

† ဟနဖီတို့က နိယတ်ပြုခြင်းကို ဖရာဇ်ဟု မဆို၊ စွန္နတ်ဟုသာဆိုသည်။ (ရဒ်ဒွလ်မုဟ်တရ်ကျမ်း၊ အတွဲ ၁၊ ရေချိုးခြင်းအကြောင်းကဏ္ဍ၊ စာမျက်နှာ ၁၄၄)။ နိယတ်မပြုသော်လည်း ရေချိုးခြင်း ထမြောက်ကြောင်း ဒွိဟဖြစ်စရာမရှိချေ။ သို့သာမက ပုဂ္ဂိုလ်တစ်ဦးသည် စီးတွေသောရေ သို့မဟုတ် ရေကန်ကြီးတစ်ခုထဲသို့ ကျသွားမည်၊ သို့မဟုတ် မိုးရွာထဲ ရပ်နေခဲ့ပြီးနောက် နှာခေါင်းနှင့် ပါးစပ်တွင် ရေထည့်လိုက်မည်ဆိုလျှင် နိယတ်မပါသော်လည်း ထိုသူ့အတွက် ရေချိုးခြင်း အထမြောက်သွားမည်ဖြစ်သည်။ (မွန္နယတွလ်မုဆွလ္လီ၊ စာမျက်နှာ ၆၅)။ ဤနေရာတွင် ဟနဖီတို့အတွက် ရေချိုးခြင်း၏ဖရာဇ်များသည် သုံးခုဖြစ်သည်။ ယင်းမှာ နှုတ်ကျင်းခြင်း၊ နှာခေါင်းအတွင်း ရေထည့်ခြင်းနှင့် တစ်ကိုယ်လုံး ရေစွတ်စိုခြင်းတို့ဖြစ်သည်။ (ဟိဒါယာ၊ အတွဲ ၁၊ စာမျက်နှာ ၃၄)။ – ဘာသာပြန်သူ။

‡ အင်္ဂါဇာတ်နှစ်ခု ထိတွေ့ရုံဖြင့် ရေချိုးရန် တာဝန်မဖြစ်ပါ။ ယောကျ်ားအင်္ဂါထိပ်သည် မိန်းမကိုယ်အတွင်းသို့ နစ်မြုပ်သွားသောအခါမှသာ ရေချိုးရန် ဖရာဇ်ဖြစ်သည်။ (ဖတာဝါဟင်ဒီယာ၊ အတွဲ ၁၊ စာမျက်နှာ ၁၀) – ဘာသာပြန်သူ။

## တယမ်မွမ်ပြုနည်း

ပုဂ္ဂိုလ်တစ်ဦးသည် ရေကို **သုံးစွဲရန် အခက်အခဲဖြစ်နေမည်**။ ထိုသို့အခက်အခဲဖြစ်ခြင်းသည် ရေရရန် ဝေးလံသောကြောင့်ဖြစ်စေ၊ သို့မဟုတ် ရေရှိရာသို့ သွားရောက်ရာတွင် သားရဲတိရစ္ဆာန်နှင့် ရန်သူ၏အဟန့်အတားများ ရှိနေသောကြောင့်ဖြစ်စေ၊ သို့မဟုတ် မိမိတွင် **ရေက ရှိနေပြီး** ထိုရေကို သုံးလိုက်ခြင်းဖြင့် မိမိသည်၎င်း မိမိ၏အဖေါ်သည်၎င်း ရေငတ်ရတော့မည်ဆိုလျှင်၊ **သို့မဟုတ် ရေသည် အခြားသူတစ်ဦး၏**ပိုင်ဆိုင်မှုတွင် ရှိနေပြီး ရေပိုင်ရှင်က ရေကို တန်ဘိုးထက် များစွာပိုသောနှုန်းထားဖြင့်သာ ရောင်းချမည်ဟု ဆိုလျှင်၊ သို့မဟုတ် ထိုပုဂ္ဂိုလ်၏ခန္ဓာကိုယ်ပေါ်တွင် ဒဏ်ရာဒဏ်ချက်ရှိနေလျှင်၊ သို့မဟုတ် **ထိုပုဂ္ဂိုလ်တွင် ရောဂါရှိနေပြီး** ရေသုံးသဖြင့် ရောဂါတိုးမည်ကို စိုးရိမ်ရလျှင်၊ သို့မဟုတ် ထိုပုဂ္ဂိုလ်၏ခန္ဓာကိုယ်**အစိတ်အပိုင်းတစ်ခုခု ပျက်စီးမည်**၊ သို့မဟုတ် အပြင်းအထန် မသန်မစွမ်းဖြစ်မည်ကို စိုးရိမ်ရလျှင် ထိုပုဂ္ဂိုလ်သည် **တယမ်မွမ်ဖြင့် နမာဇ်ဖတ်ရမည်ဖြစ်သည်**။

ထိုပုဂ္ဂိုလ်သည် နမာဇ်၏**ဖရာဇ်အချိန် ဝင်ရောက်လာသောအခါ** သန့်ပြန့်သောမြေကြီးကို ရှာဖွေရမည်။ သန့်ရှင်းပြီး ညက်ဖုန်သောမြေသက်**သက်ကို တွေ့ရသောအခါ** ထိုမြေပေါ်သို့ လက်ချောင်းများစုထားသော လက်ဝါးနှစ်ဘက်ဖြင့် ပုတ်လိုက်ရမည်။ **ထို့နောက် ထိုလက်ဖဝါးနှစ်ဘက်ဖြင့် မျက်နှာ**တစ်ခုလုံးကို တစ်ကြိမ် သုတ်သပ်ရမည်။ ထိုအချိန်တွင် နမာဇ်ဖတ်ပိုင်ရန် **နိယတ်ပြုရမည်။ မျက်နှာတွင် အမွေးအမျှင်**သည် ပါးသည်ဖြစ်စေ ထူသည်ဖြစ်စေ မြေမှုန်များ ထိုအမွေးအမျှင်**၏အခြေသို့ ရောက်အောင် အားထုတ်ရန် မလိုချေ**။ မျက်နှာ၏အပေါ်ယံ တစ်ပြင်လုံးသို့ မြေမှုန်ရောက်အောင် **ကြိုးစားရမည်။ အဓိကမှာ** လက်ဝါးနှစ်ဘက်ဖြင့် တစ်ချက်တည်းပုတ်ပြီး မျက်နှာတစ်ခုလုံး **နှံ့စပ်ရန်ဖြစ်သည်။ အကြောင်းမှာ မျက်နှာ၏ဧရိယာ**သည် လက်ဝါးနှစ်ဘက်၏ဧရိယာထက် မပိုပါ။ နှံ့စပ်မှုရှိခြင်းသည် **အားသာထင်ချက်ဖြင့် လုံလောက်သည်။**

**ထိုအချိန်တွင် လက်စွပ်ဝတ်ထားလျှင်** ချွတ်ရမည်။ ထို့နောက် မြေပေါ်သို့ ဒုတိယအကြိမ် ပုတ်လိုက်ရမည်။ **လက်ချောင်းများကို ချဲ့ထားရမည်။ ထို့နောက်** ညာဘက်လက်ဖမိုးကို ဘယ်လက် လက်ချောင်းများ၏လက်ဝါးဘက်ဖြင့် **ကပ်ထားရမည်။ ထိုသို့ကပ်ရာ၌** လက်ချောင်းထိပ်များသည် လက်ဝါးအနံ့ထက် မကျော်စေရပါ။ ထို့နောက် မိမိ**၏ညာလက်၏လက်ဖျံအပြင်ပိုင်း**မှ တံတောင်ဆစ်အထိကို ဘယ်လက်ဖြင့် ပွတ်သပ်ရမည်။ ထို့နောက် ဘယ်ဘက်လက်ဝါးအတွင်းပိုင်းကို လှန်၍ ညာဘက်လက်ဖျံအတွင်းပိုင်းမှ လက်ကောက်ဝတ်အထိ ပွတ်သပ်ရမည်။ ထို့နောက် ညာလက်မအပြင်ပိုင်းကို ဘယ်လက်မ၏အတွင်းပိုင်းဖြင့် ပွတ်သပ်ရမည်။ ထို့နောက် ဘယ်ဘက်လက်ကိုလည်း ညာလက်ကို လုပ်ခဲ့သည့်အတိုင်း လုပ်ရမည်။ ထို့နောက် လက်ဝါးနှစ်ခုကို ပွတ်သပ်ရမည်။ လက်ချောင်းများအကြား ထိုးယှက်ပွတ်သပ်ရမည်။ ယခုကဲ့သို့ ဂရုမမူထားပြီး လုပ်ကိုင်ခြင်း၏ရည်ရွယ်ချက်သည် မြေကြီးကို တစ်ကြိမ်ပုတ်ရုံဖြင့် လက်နှစ်ဘက်လုံးကို တံတောင်ဆစ်အထိ နှံ့စပ်သုတ်သပ်မိရန်ဖြစ်သည်။ အကယ်၍ ယခုလို တစ်ကြိမ်တည်းနှင့် နှံ့စပ်ရန် မလွယ်ကူလျှင် မြေကြီးကို နှစ်ကြိမ် သို့မဟုတ် သုံးကြိမ်ပုတ်နိုင်သည်။

ထိုတယမ်မွမ်ဖြင့် ဖရာဇ်နမာဇ်ဖတ်ပြီးနောက် ၎င်းသည် မိမိအလိုရှိရာ နဖိလ်နမာဇ်များကို ဖတ်ရွတ်နိုင်သည်။ အကယ်၍ ဖရာဇ်နမာဇ်နှစ်ခုကို ပေါင်း၍ ဖတ်မည်ဆိုလျှင် ဒုတိယနမာဇ်အတွက် တယမ်မွမ်ပြန်ပြုရမည်။ ဤနည်းအတိုင်း နမာဇ်အားလုံးအတွက် တယမ်မွမ် သီးသန့်ပြုရမည်။* *အလ္လာဟ်အရှင်သာ အသိဆုံးဖြစ်တော်မူပါသည်*။

---

* ဟနဖီတို့အတွက်မူ တယမ်မွမ်တစ်ကြိမ်ဖြင့် ဖရာဇ်နမာဇ်နှင့် နဖိလ်နမာဇ်များကို အလိုရှိသလောက် ဖတ်နိုင်သည်။ (နူရုလ်အီဇွာဟ်၊ တယမ်မွမ်အခန်း၊ စာ ၄၆)။ တယမ်မွမ်အတွက် နိယတ်ပြုရမည်ဆိုသောအချက်တွင် ဟနဖီနှင့်ရှာဖအီ အတူတူဖြစ်သည်။ (မွန္နယတွလ်မုဆွလ္လီ၊ စာ ၂၉၊ ရှရဟွတ်တန်ဝီရ်၊ အတွဲ ၁၊ စာ ၂၁၀) – ဘာသာပြန်သူ။

F.51.A

## သန့်ပြန့်မှု၏တတိယအမျိုးအစား

# ခန္ဓာကိုယ်၏အပိုအလျှံများကို သန့်ပြန့်ခြင်း

**ခန္ဓာကိုယ်၏အပိုအလျှံများကို သန့်ပြန့်ရာ၌ ကြေးညှော်ကို သန့်ပြန့်ခြင်းနှင့်အစိတ်အပိုင်းကို သန့်ပြန့်ခြင်းဟူ၍ နှစ်မျိုးရှိသည်။ တဖန် ကြေးညှော်နှင့် စိုထိုင်းမှုများသည် ရှစ်မျိုး ရှိသည်။**

**ပထမအမျိုး**– ယင်းသည် ဦးခေါင်းဆံပင်၏ညစ်ပေမှုနှင့်သန်းများဖြစ်သည်။ ယင်းတို့မှ သန့်ပြန့်ရန်နှင့် ဆံပင်ဖွတ်သိုက် မဖြစ်ရန်အတွက် ခေါင်းလျှော်ခြင်း၊ ခေါင်းဖြီးခြင်း၊ ဆီလိမ်းခြင်းတို့သည် မွှစ်တဟတ်ဖြစ်သည်။

وكان ﷺ يدهن الشعر ويرجله غبًا . (ت س)

'တမန်တော်မြတ်ﷺသည် ရံဖန်ရံခါ ဆံပင်ကို ဆီလိမ်းလေ့ရှိသည်။ ထို့ပြင် ရံဖန်ရံခါ ဆံပင်ကို ဖြီးသင်လေ့ရှိသည်။'

ထို့ပြင် တမန်တော်မြတ်ﷺက– ويقول عليه السلام : ادهنو غبًا . (ت س)

'အသင်တို့ ရံဖန်ရံခါ ဆံပင်ကို ဆီလိမ်းကျံကြကုန်'ဟု အမိန့်ပေးခဲ့လေသည်။

ထို့ပြင် တမန်တော်မြတ်ﷺက– من كان له شعرة فليكرمها . (د)

'အကြင်သူ့မှာ ဆံပင်ရှိလျှင် ထိုဆံပင်ကို ဂုဏ်ပေးပါလေ'ဟု မိန့်ဆိုခဲ့သည်။ ဂုဏ်ပေးရမည်ဆိုသည့်အလိုသဘောသည် ဆံပင်ကို ကြေးညှော်များမှ ကာကွယ်စောင့်ရှောက်ရန်ဖြစ်သည်။

دخل عليه الصلاة السلام رجل ثائر الراس أشعث اللحية فقال : (( أما كان لهذا دهن به شعره )) ثم قال : أحدكم كأنه شيطان . (د.ت.حب)

'တမန်တော်မြတ်ﷺထံ လူတစ်ယောက်သည် ဆံပင်များ ပွယောင်းပြီး မုတ်ဆိတ်ဗရပျစ်ဖြင့် ရောက်လာခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'ဘာလဲ၊ သူ့ဆီမှာ ဆံပင်များ သေသေသပ်သပ်ဖြစ်ရန် ဆီမရှိလို့လား'ဟု မိန့်ဆိုခဲ့သည်။ ထို့နောက် တမန်တော်မြတ်ﷺက 'အသင်တို့အထဲမှ တစ်ဦးသည် ရှိုင်တွာန်၏အသွင်ဖြင့် ရောက်ရှိလာခဲ့သည်'ဟု ဆိုမိန့်ခဲ့သည်။

**ဒုတိယအမျိုး**– ယင်းသည် နားပေါက်အတွင်း၌ စုမိနေသောကြေးညှော်နားဖာများဖြစ်သည်။ နားအပြင်ပိုင်းတွင် ရှိသောကြေးညှော်များသည် သုတ်သပ်ရာတွင် ရှင်းလင်းသွားမည်ဖြစ်သည်။ နား၏အတွင်းပိုင်း၌ စုမိနေသောနားဖာများကိုမူ ရေချိုးရုံမှ ပြန်ထွက်လာသောအချိန်များတွင် ညင်သာစွာရှင်းလင်းပစ်သင့်သည်။ ကြမ်းတမ်းစွာ ရှင်းလင်းမိလျှင် အကြားအာရုံကို ထိခိုက်နိုင်သည်။

**တတိယအမျိုး**– ယင်းသည် နှာခေါင်းအတွင်း ဘေးပတ်လည်တွင် တွယ်ကပ်နေသော စိုထိုင်းမှုများဖြစ်သည်။ ယင်းတို့သည် နှာခေါင်းအတွင်း ရေသွင်းခြင်းဖြင့်၎င်း၊ နှာညှစ်ခြင်းဖြင့်၎င်း ဖယ်ရှားရှင်းလင်းသွားသည်။

**စတုတ္ထအမျိုး**– ယင်းသည် သွားများနှင့်ပါးစောင်များတွင် ကပ်နေသောသွားချေးများဖြစ်သည်။ ယင်းတို့သည် တံပူစားခြင်းဖြင့်၎င်း ပလုပ်ကျင်းခြင်းဖြင့်၎င်း ဖယ်ရှားရှင်းလင်းသွားသည်။ ဤအကျင့်နှစ်ခုအကြောင်း ကျွန်ုပ်တို့ ဖော်ပြခဲ့ပြီးဖြစ်သည်။

**ပဉ္စမအမျိုး**– ယင်းသည် မုတ်ဆိတ်တွင် စွဲကပ်သော ကြေးညှော်နှင့် မုတ်ဆိတ်ကို ဂရုတစိုက်မရှိသဖြင့် ပေါက်ပွါးသောသန်းများဖြစ်သည်။ ယင်းတို့သည် ရေလျှော်ခြင်းဖြင့်၎င်း၊ ဘီးဖြင့် ဖြီးသင်ခြင်းဖြင့်၎င်း ဖယ်ရှားရှင်းလင်းသွား

သည်။ ကျော်ကြားသောဟဒီစ်တစ်ပုဒ်အရ–

أنه ﷺ كان لا يفارقه المشط و المدري و المرآة في سفر و لا حضر . (طس)

'တမန်တော်မြတ်သည် လမ်းခရီးမှာဖြစ်စေ၊ အိမ်မှာရှိသည်ဖြစ်စေ ဘီး၊ ကိုယ်လက်သုတ်သင်သည့်ခဲ လုံးများနှင့် ကြည့်မှန်တို့ကို မခွဲမခွါ ဆောင်ထားလေ့ရှိသည်။'

ဤသည်မှာ အရဗ်လူမျိုးတို့၏အကျင့်ဓလေ့တစ်ခုလည်းဖြစ်သည်။ တွေ့ခဲ့မှုဟဒီစ်တစ်ပုဒ်တွင်–

كان يسرح لحيته في اليوم مرتين . (ت)

'တမန်တော်မြတ်ﷺသည် မိမိ၏မုတ်ဆိတ်ကို တစ်နေ့လျှင် နှစ်ကြိမ် ဖြီးသင်လေ့ရှိသည်။'

တမန်တော်မြတ်ﷺ၏မုတ်ဆိတ်တော်သည် ထူထူထဲထဲဖြစ်သည်။(ဗ) အဗူဗကရ်ﷺသခင်၏မုတ်ဆိတ်လည်း ဤနည်းအတူဖြစ်သည်။ အွစ္စမာန်ﷺသခင်၏မုတ်ဆိတ်သည် ရှည်ပြီး ပါးသည်။ အလီသခင်ﷺ၏မုတ်ဆိတ်ကမူ ဖျက်ကောင်းပြီး မေးနှစ်ဘက်ကို အုပ်လျက်ရှိ၏။ ပို၍တွေ့ခဲ့မှု ဟဒီစ်တစ်ပုဒ်တွင် အာအိရှာﷺသခင်မ ပြောပြသည်မှာ–

اجتمع قوم بباب رسول الله ﷺ فخرج إليهم فرأيته يطلع في الحب يسوى من رأسه ولحيته ، فقلت : أو تفعل ذلك يا رسول الله ؟ فقال : نعم إن الله يحب من عبده أن يتجمل لإخوانه إذا خرج إليهم . (ابن أدى)

'လူအချို့သည် တမန်တော်မြတ်ﷺ၏တံခါးတွင် စုလျက်ရှိသည်။ ထိုအချိန်တွင် တမန်တော်မြတ်ﷺ ထွက်လာခဲ့သည်။ ကိုယ်တော်ﷺသည် အိုးငယ်တစ်ခု၏ရေရိပ်တွင် ကြည့်၍ မိမိ၏ဆံပင်နှင့်မုတ်ဆိတ်ကို သပ်သပ်ရပ်ရပ် ဖြစ်အောင်လုပ်သည်ကို ကျွန်မမြင်တွေ့ခဲ့ရသည်။ ထိုအခါ ကျွန်မက တမန်တော်မြတ်ﷺ အား 'ကိုယ်တော်လည်း ဤသို့လုပ်ပါသလား'ဟု မေးမြန်းခဲ့သည်။ တမန်တော်မြတ်ﷺက 'အလ္လာဟ်အရှင် သည် မိမိ၏ကျေးကျွန်လူသားကို လူတို့ထံ သွားလာသောအခါ လှပတင့်တယ်မှုရှိသည်ကို နှစ်သက်တော် မူသည်'ဟု မိန့်ဆိုခဲ့ပါသည်။

ဤသို့သော ဟဒီစ်မျိုးကို တွေ့ရသောအခါ အသိတရားမရှိသူ လူ့ဗာလက 'တမန်တော်မြတ်ﷺသည် လူတို့ထံတွင် ဆင်ယင်ချယ်သရသည်ကို နှစ်သက်သည်'ဟု ယူဆလိုက်လေသည်။ ၎င်းက တမန်တော်မြတ်ﷺ၏အကျင့်စာရိတ္တ ကို လူသာမန်တို့၏အကျင့်စာရိတ္တများနှင့် ထပ်တူပြုနိုင်းယှဉ်ပြီး ဤသို့ယူဆခြင်းဖြစ်သည်။ ဤသို့ယူဆခြင်းသည် ကောင်းကင်တမန်များကို ပန်းပဲသမားများနှင့် နှိုင်းယှဉ်သကဲ့သို့ဖြစ်နေသည်။ စင်စစ် တမန်တော်မြတ်ﷺသည် လူ့ ဗာလ ထင်မှတ်သကဲ့သို့မဟုတ်ပေ။ အလ္လာဟ်အရှင်က တမန်တော်မြတ်ﷺအား ဖိတ်ခေါ်သူအဖြစ် အမိန့်ပေးစေလွှတ် တော်မူခဲ့ခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺ၏တာဝန်တော်များထဲတွင် လူတို့၏စိတ်နှလုံးများက မိမိအပေါ် ရှိသေ လေးစားမှုများ ရှိလာအောင် ကြိုးစားအားထုတ်ရန်လည်း ပါဝင်သည်။ သို့မှသာ ၎င်းတို့၏စိတ်သဘောများက တမန် တော်မြတ်ﷺအပေါ် အသေးအသိမ် မထင်မှတ်ကြစေရန်ဖြစ်သည်။ ထို့ပြင် တမန်တော်မြတ်ﷺသည် မိမိ၏ရုပ်ဆင်း သဏ္ဍာန်ကို လူတို့၏မျက်စိတွင် အမြင်ကောင်းအောင် ပြုလုပ်ထားရန်လည်း တာဝန်ရှိသည်။ သို့မှသာ လူတို့က တမန်တော်မြတ်ﷺအား အထင်သေးအမြင်သေးဖြင့် ရွံရှာမသွားစေရန်ဖြစ်သည်။ ထို့ပြင် ဘာသာရေးအရေခြုံများက တမန်တော်မြတ်ﷺအပေါ် မကောင်းထင်မြင်ပြောဆိုဖို့ အခွင့်အရေးမရစေရန်ဖြစ်သည်။

လူသားတို့အား အလ္လာဟ်အရှင့်ဘက်သို့ ဖိတ်ခေါ်သည့် ဒအ်ဝဝ်အလုပ်ကို စိုက်လိုက်မတ်တပ်လုပ်တော့မည်ဟု ရည်ရွယ်ကြသောပညာရှင်အားလုံးတို့အပေါ်တွင် ဤအချက်သည် အရေးကြီးလှပေသည်။ ယင်းမှာ မိမိတို့အား လူတို့က ရွံရှာစက်ဆုပ်မှု မဖြစ်စေရေးအတွက် ၎င်းတို့အနေဖြင့် မိမိတို့၏အပြင်ပိုင်းကို အလေးဂရုပြုကြရမည်ဖြစ် သည်။ အကြောင်းမှာ အပြင်ပန်းတင့်တယ်အောင် လုပ်သည့်အလုပ်များကိုယ်တိုင်က မိမိတို့၏ရည်ရွယ်ချက်ကို ထုး

ထူးခြားခြား အထောက်အကူပြုလျက်ရှိသောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ ထိုအလုပ်များကို နိယတ်စိတ်စေတနာမှန်ကန်စွာဖြင့် လုပ်ရမည်ဖြစ်သည်။ ဤသို့သောနိယတ်မျိုးဖြင့် လုပတင့်တယ်အောင်ပြုလုပ်ခြင်းကမူ လိုလားနှစ်သက်ဖွယ်လုပ်ရပ်ဖြစ်ပါသည်။

မိမိအား လူတို့က လောကီစွန့်သူ ပုဂ္ဂိုလ်မြတ်ဟု ထင်မှတ်စေရန် မုတ်ဆိတ်ဗရပွာနေခြင်းမှာ တားမြစ်ထားသောအရာဖြစ်သည်။ သို့သော် မုတ်ဆိတ်သခြင်းထက် ပိုအရေးကြီးသည့် အလုပ်ကိစ္စများကို ဆောင်ရွက်နေရသဖြင့် မုတ်ဆိတ်ကို မ,သဖြစ်ခြင်းကမူ လိုလားနှစ်သက်ဖွယ်ဖြစ်သည်။ ဤအခြေအနေများသည် အတွင်းပိုင်းကိစ္စဖြစ်ပြီး လူသားနှင့်အလ္လာဟ်အရှင်၏ကြားသီးသန့်ကိစ္စဖြစ်သည်။ အတွင်းမျက်စိရှိသူသည် ဤအခြေအနေများကို ကောင်းစွာသိမြင်သည်။ သို့ဖြစ်ရာ အခြေအနေတစ်ခုနှင့်တစ်ခုကို စံထိုးနှိုင်းယှဉ်ခြင်းမပြုရချေ။

များစွာသောလူ့ဗာလတို့သည် မိမိတို့ကိုယ်ကို လုပတင့်တယ်အောင်ပြုလုပ်ကြသည်။ သို့သော် ထိုသို့ပြုလုပ်ခြင်းသည် လူတို့က သူ့ဘက်ကို အာရုံပြု၍သာဖြစ်သည်။ ၎င်းသည် မိမိကိုယ်တိုင် ထင်ယောင်ထင်မှားဖြစ်လျက်ရှိပြီး အခြားသူများကိုလည်း ထင်မိယောင်မှားဖြစ်အောင်လုပ်သူဖြစ်သည်။ ၎င်းက မိမိသည် ကောင်းမွန်သောရည်ရွယ်ချက်ဖြင့် ဤသို့လုပတင့်တယ်အောင်ပြုလုပ်ခြင်းဖြစ်သည်ဟု ပြောဆိုလေသည်။ များစွာသော အိုလမာပညာရှင်တို့သည် ဝတ်ကောင်းစားလှများ ဝတ်ဆင်လျက်ရှိကြသည်ကို အသင်မြင်တွေ့ရလိမ့်မည်။ ထို့ပြင် ၎င်းတို့က 'မိမိတို့ ဤသို့ဝတ်ဆင်ရခြင်း၏ရည်ရွယ်ချက်သည် ဗိဒအတ်သမားများနှင့် မုနာဇရာသမားများကို အောက်ကျနောက်ကျဖြစ်စေရန်ဖြစ်သည်။ ဤနည်းဖြင့် မိမိတို့သည် အလ္လာဟ်အရှင်နှင့် နီးကပ်မှုရကြရန်ဖြစ်သည်'ဟု ပြောဆိုကြလေသည်။ ဤကိစ္စအား စိတ်အတွင်းသဘောများကို ထုတ်ဖော်စစ်ဆေးမည့် ကိယာမတ်နေ့တွင် အမှန်အတိုင်းသိကြရမည်။ ထိုနေ့တွင် သေဆုံးခဲ့သူတို့ သင်္ချိုင်းများမှ ရှင်ထလာကြလိမ့်မည်။ ထိုနေ့တွင် စိတ်တွင်း၌ သိုဝှက်ထားသောကိစ္စများသည်လည်းအပြင်သို့ ပေါ်ထွက်လာလိမ့်မည်။ ထိုနေ့တွင် ရွှေစင်အစစ်နှင့်ရွှေရည်စိမ်တို့ ကွဲပြားလိမ့်မည်။ *ကျွန်တော်မျိုးတို့သည် အကြီးအကျယ်ထုတ်ဖော်ဖွင့်ချမည့် ထိုနေ့၏ဂုဏ်သိက္ခာမဲ့ရခြင်းမှ အလ္လာဟ်အရှင့်ထံတွင် ခိုလှုံကြပါသည်။*

**ဆဋ္ဌမအမျိုး–** ယင်းမှာ လက်ချောင်းလက်ဆစ်များပေါ်တွင် စုနေသည့်ကြေးညှော်ဖြစ်သည်။ အရဗ်လူမျိုးတို့သည် အစာစားပြီးသည့်အခါ လက်ကို များများ ဆေးကြောလေ့မရှိခဲ့ကြပေ။ သို့ဖြစ်ရာ ထိုအစိတ်အပိုင်းများတွင် ကြေးညှော်ညှော်များ ကပ်ညိနေလေ့ရှိသည်။ ထို့ကြောင့်လည်း တမန်တော်မြတ်ﷺက–

نقوا براجمكم. (ت)

'သင်တို့၏လက်ကြားများကို စင်ကြယ်အောင်ပြုကြကုန်'*ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။

**သတ္တမအမျိုး–** ယင်းသည် လက်သည်းချေးများကို သန့်ပြန့်ခြင်းဖြစ်သည်။ တမန်တော်မြတ်ﷺသည် အရဗ်တို့အား လက်ချောင်းများ၏ထိပ်နှင့်လက်သည်းအောက်ရှိ ထိုကြေးညှော်များကို သန့်ပြန့်ကြရန် အမိန့်ပေးခဲ့သည်။† အဘယ်

---

* အိဗ်နေ့အဒီက အနပ်စ်ﷺသခင်ထံမှ– وأن يتعاهد البراجم اذا توضاء.

'ဝုဇူပြုသည့်အခါ လက်ဆစ်များကို ဂရုစိုက်ကုန်'

ဆိုသည့်ဟဒီစ်ကို ဆင့်ပြန်ခဲ့သည်။ ထို့ပြင် ဆွဟီမွတ်စလင်မ်ကျမ်းတွင် အာအိရှာﷺသခင်မ ဆင့်ပြန်ထားသည့်–

عشر من الفطرة - وفيه - وغسل البراجم.

('နဗီတမန်တော်များ၏အကျင့်ဓလေ့တော်ဆယ်ခုတွင် လက်ဆစ်ကြားများကို ဆေးကြောခြင်းလည်းပါသည်')

ဆိုသည့်ဟဒီစ်ကို ဖော်ပြထားသည်။

† မွစ်နဒ်အဟ်မဒ်ကျမ်းတွင် အိဗ်နေ့အဗ္ဗာစ်ﷺသခင် ဆင့်ပြန်သည့်ဟဒီစ်–

أنه قيل له يا رسول الله لقد أبطأ عنك جبربل فقيل و لم لا يبطىء أنتم لا تستنون ولا تقلمون أظافركم و

(စာမျက်နှာ ၃၉၇ သို့)

ကြောင့်ဆိုသော် အချိန်တိုင်းတွင် လက်လည်းများကို ကိုက်ဖြတ်နေရန် မဖြစ်နိုင်ချေ။ ထိုတွင် လက်သည်းကြားများ၌ ကြေးညှော်များ စုမိသည်။ တမန်တော်မြတ်ﷺက လက်သည်းဖြတ်ရန်၊ ချိုင်းကြားနှင့်ချက်အောက်ရှိ အမွေးအမှင်များ ရှင်းလင်းရန် အချိန်ကာလကို ရက်လေးဆယ်ကန့်သတ်ပေးခဲ့သည်။ ထို့ပြင် လက်ဆစ်ကြားရှိ ကြေးညှော်များကို သန့်ပြန့်စေရန်လည်း အမိန့်ပေးခဲ့သည်။ ဆင့်ပြန်မှုတစ်ခုတွင်–

أن النبي ﷺ استبطأ الوحي فلما حبط عليه جبريل عليه السلام قال له : كيف ننزل عليكم و أنتم لا تغسلون براجمكم ولا تنظفون رواجبكم، وقلحا لا تشتاكون. مُر أمتك بذلك. (١)

'တစ်ကြိမ်တွင် ဝဟီကျရောက်မှု ကြန့်ကြာဆိုင်းငံ့သွားခဲ့သည်။ ထို့နောက်တွင် ဂျီဗ်ရီလ်ﷺသခင် ကြွရောက်လာသောအခါ ၎င်းက တမန်တော်မြတ်ﷺအား လျှောက်ထားသည်မှာ 'ကျွန်တော်မျိုးသည် ကိုယ်တော်တို့ဆီကို မည်သို့လာရမည်နည်း။ ကိုယ်တော်၏လူတို့သည် လက်ချောင်းများအကြားကို ဆေးကြောခြင်းမပြုကြပါ။ လက်ဆစ်များကိုလည်း ဆေးကြောခြင်းမပြုကြပါ။ သွားချေးများပြောင်စင်ရန်လည်း တံပူစားခြင်းမပြုကြပါ။ ကိုယ်တော်က ၎င်းတို့အား ဤအရာများကို အမိန့်ပေးတော်မူပါ။'

အရဗီစကားလုံး 'ဖ်–အွဖ်'သည် လက်သည်းကြားရှိ ကြေးညှော်ကို ခေါ်ခြင်းဖြစ်သည်။ ထို့ပြင် 'ဖ–တွဖ်' သည် နားအတွင်း ကြေးညှော်နားဖာကို ခေါ်ခြင်းဖြစ်သည်။ အချို့ပညာရှင်များက အလ္လာဟ်အရှင် မိန့်တော်မူသည့်–

**﴿فَلَا تَقُل لَّهُمَآ أُفٍّ﴾**

**'သို့ဖြစ်ရာ အသင်သည် မိဘနှစ်ပါးကို 'အွဖ်'ဟု မဆိုနှင့်။'** (ဗနီအစ္စရာအီလ် ၂၃)

ဟူသောအာယတ်သည် 'မိဘနှစ်ပါး၏လက်သည်းအောက်က ကြေးညှော်ကိုပင် အပြစ်မတင်ရန်'အဓိပ္ပါယ်ဖြစ်သည်ဟု ဖွင့်ဆိုကြသည်။ အချို့ကမူ 'လက်သည်းအောက်ရှိ မဖြစ်စလောက်၏ဒုက္ခမျှပင် မိဘနှစ်ပါးကို ဒုက္ခမပေးကြရန်' အဓိပ္ပါယ်ဟု ဆိုကြသည်။

**အငွေ့အမျိုး–** ယင်းသည် ချွေးယိုစီးမှုနှင့်လမ်းပေါ်မှ ဖုန်မှုန့်များ ပေါင်းစပ်ပြီး ခန္ဓာကိုယ်တစ်ခုလုံးတွင် စုနေသည့် ကြေးညှော်ဖြစ်သည်။ ယင်းကို ရေချိုးရုံတွင် ရေချိုးခြင်းဖြင့် ကင်းစင်မှုရနိုင်သည်။ ရေချိုးရုံသို့ ဝင်ရောက်ခြင်းသည် ထိခိုက်နစ်နာစရာမရှိချေ။ တမန်တော်မြတ်ﷺ၏ ဆွဟာဗဟ်များ၏သည် ရှာမ်နိုင်ငံရှိ ရေချိုးရုံများတွင် ရေချိုးဝင်ခဲ့ကြသည်။ ထိုဆွဟာဗဟ်အချို့က 'ရေချိုးရုံဆိုသည့် အဆောက်အဦသည် ကောင်းပေစွ။ ယင်းသည် ခန္ဓာကိုယ်ကို သန့်ရှင်းစေသည်။ ထို့ပြင် ငရဲမီးကို သတိရစေသည်'ဟု ပြောဆိုခဲ့ကြသည်။ ဤအချက်ကို အဗူဒရ်ဒါအ်သခင်နှင့် အဗူအိုင်ယူဗ်အန်စွာရီသခင် ﷺတို့က ပြန်ပြောခဲ့ခြင်းသည်။ အချို့ဆွဟာဗဟ်များကမူ 'ရေချိုးရုံဆိုသည့် အဆောက်အဦသည်ကား ဆိုးယုတ်လှပေစွ။ ယင်းသည် ခန္ဓာကိုယ်ကို ဗလာကျင်းစေသည်။ အရှက်ကို ကင်းစေသည်'ဟု ပြောဆိုခဲ့ကြသည်။ ဤသခင်တို့က ရေချိုးရုံ၏ဒုက္ခဆိုးကျိုးများကို ဖေါ်ထုတ်ပြီး ပထမသခင်တို့က ရေချိုးရုံ၏ကောင်းကျိုးရှိမှုများကို ဖေါ်ထုတ်ခဲ့ကြသည်။ သို့ဖြစ်ရာ ရေချိုးရုံကို အသုံးပြုရာ၌ ဆိုးကျိုးများကို ရှောင်ပြီး ကောင်းကျိုးရှိမှုများကို ရယူခံစားမည်ဆိုလျှင် မည်သို့မျှထိခိုက်နစ်နာရန်မရှိချေ။

---

(စာမျက်နှာ ၃၉၆ အောက်ခြေမှတ်စု၏ အဆက်)

لا تقصون شواربكم ولا تنقون رواجبكم

'တမန်တော်မြတ်ﷺအား 'အို အလ္လာဟ့်တမန်တော်၊ ကိုယ်တော့်ထံ ဂျီဗ်ရီလ်ﷺသခင်လာရောက်မှု ဆိုင်းငံ့သွားခဲ့ပါသည်'ဟု ဆွဟာဗဟ်တစ်ပါးက လျှောက်ထားခဲ့သည်။ ထိုအခါ တမန်တော်မြတ်ﷺက 'အသင်တို့သည် သွားလည်းမတိုက်ကြပါ။ ထို့ပြင် အသင်တို့၏လက်သည်းခြေသည်းများကိုလည်း ၎င်းဖြတ်ခြင်းမပြုကြပါ။ ထို့ပြင် အသင်တို့၏နှုတ်ခမ်းမွေးများကိုလည်း တိဖြတ်ခြင်းမပြုကြပါ။ ထို့ပြင် အသင်တို့၏လက်ချောင်းထိပ်များကိုလည်း သန့်ရှင်းခြင်းမပြုကြပါ'ဟု မိန့်ဆိုခဲ့သည်။

ရေချိုးရုံတွင် ဝင်ရောက်အသုံးပြုသူအတွက် စွန္တတ်နှင့် ဝါကျိဗ်တာဝန်များ ရှိလေသည်။ ဝါကျိဗ်တာဝန်နှစ်ခုမှာ ကာယကံရှင်၏အရှက်ဖော်မှုနှင့်သက်ဆိုင်ပြီး၊ နောက်ဝါကျိဗ်တာဝန်နှစ်ခုမှာ အခြားသူ၏အရှက်ဖော်မှုနှင့်သက်ဆိုင်လေသည်။ ကာယကံရှင်၏ဝါကျိဗ်တာဝန်နှစ်ခုမှာ မိမိ၏အရှက်ကို အခြားသူ မမြင်အောင် ကာကွယ်ရန်နှင့် မိမိ၏အရှက်ကို အခြားသူထိကိုင်ခြင်းမှ ကာကွယ်ရန်ဖြစ်သည်။ သို့ဖြစ်ရာ ထိုအရှက်နေရာမှ ကြေးညှော်ကို မိမိလက်ဖြင့် ဖယ်ရှားရမည်ဖြစ်သည်။ ထို့ပြင် ချေးတွန်းပေးသူအား မိမိ၏ပေါင်ငင်း မိမိ၏ချက်နှင့်ချက်အောက်ဗိုက်ပြင်အကြားနေရာများကို ထိကိုင်ခြင်းမပြုရန် တားမြစ်ရမည်။ အရှက်အင်္ဂါမှလွဲ၍ ကျန်နေရာများကို အခြားသူက ချေးတွန်းပေးခြင်းသည် ခွင့်ပြုသောကိစ္စဟု ထင်မှတ်စရာပင်ဖြစ်သည်။ သို့နှင့်တိုင် ကြည့်ရှုခြင်း ဟရာမ်ဖြစ်သောအစိတ်အပိုင်းသည် ကိုင်တွယ်ခြင်းလည်း ဟရာမ်ဖြစ်သည်ဆိုခြင်းမှာ ဆင်ခြင်တုံတရားနှင့်အကိုက်ညီဆုံးအချက်ဖြစ်သည်။ ဆိုလိုသည်မှာ ပေါင်နှစ်ခုကို ထိကိုင်ခြင်းဟရာမ်ဖြစ်သည်။

အခြားသူ၏အရှက်ဖော်မှုနှင့်သက်ဆိုင်သော ဝါကျိဗ်တာဝန်နှစ်ခုမှာ မိမိက ထိုသူ့ကို မကြည့်ရှုမိရန်နှင့် ထိုသူ့ကို အရှက်ဖွင့်ဖော်ခြင်းမပြုဖို့ တားမြစ်ရန်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မကောင်းမှုမှ တားမြစ်ခြင်းသည် ဝါကျိဗ်တာဝန်ဖြစ်သည်။ မကောင်းမှုကို တွေ့ရသူအတွက် သူ့အပေါ်တွင် ပြောဆိုတားမြစ်ရန်သာ ဝါကျိဗ်ဖြစ်သည်။ မိမိ၏ပြောဆိုမှုကို တစ်ဘက်က လက်ခံခြင်းမခံခြင်းသည် သူနှင့်မဆိုင်ချေ။ မိမိက ပြောဆိုလိုက်သဖြင့် မိမိအား ကိုယ်ထိလက်ရောက်အန္တရာယ်ပြုမည်ဆိုလျှင်၊ သို့မဟုတ် ဆဲရေးတိုင်းထွာမည်ဆိုလျှင်၊ သို့မဟုတ် ထိုသူက ဟရာမ်ဖြစ်သောကိစ္စတစ်ခုကို လုပ်ကိုင်လာမည်ဆိုသောအခါမျိုးတွင် ပြောဆိုတားမြစ်ခြင်း ဝါကျိဗ်တာဝန်မဟုတ်တော့ချေ။

မကောင်းမှုတစ်ခုကို ထုတ်ဖော်ပြောဆိုလိုက်သောကြောင့် ၎င်းအမှုကို ကျူးလွန်နေသူက နောက်ထပ်ဟရာမ်ကိစ္စတစ်ခု ကျူးလွန်လာမည်ဆိုလျှင် ထိုသူမျိုးကို ပြောဆိုတားမြစ်ရန် တာဝန်မရှိချေ။ သို့သော် 'မိမိက ပြောနေ၍လည်း အကျိုးထူးမည်မဟုတ်ပါ'၊ သို့မဟုတ် 'မိမိ၏ပြောဆိုမှုအပေါ် ကျင့်သုံးမည်မဟုတ်ပါ'ဟူသောအကြောင်းပြချက်သည် ပြောဆိုသတိပေးခြင်းမပြုဘဲနေရန် လုံလောက်သောအကြောင်းပြချက်မဟုတ်ချေ။ ထိုအကြောင်းများရှိနေလည်း သတိပေးပြောဆိုရန်ကတော့အရေးကြီးပါသည်။ အဘယ်ကြောင့်ဆိုသော် ပြောဆိုမှု၏အာနိသင်သည် နှလုံးသားတွင် စူးရှမှုရှိသောကြောင့်ပင်။ ကြားသူသည် မကောင်းမှုကို မကောင်းမှုမှန်း သိလာသောအခါ စိတ်တွင် ရှောင်ကျဉ်လိုစိတ်ပေါ်လာမည်ဖြစ်သည်။ သူ၏မျက်စိထဲ၌ ထိုကိစ္စ၏မကောင်းဆိုးရွားမှုကို သိမြင်ပြီး စိတ်ထဲက ရွံရှာစက်ဆုပ်မှုဖြစ်ပေါ်စေသော ထိုသတိပေးပြောဆိုမှုကို စွန့်လွှတ်ပိုင်ခွင့်မရှိချေ။

ယခုအခါတွင် လူတို့သည် ရေချိုးရုံထဲတွင် အရှက်များ ဖော်လျက်ရှိကြသည်။ အထူးသဖြင့် ချက်၏အောက်ပိုင်းဗိုက်ပြင်များကို ဖော်လှစ်နေကြသည်။ လူတို့သည် ထိုအပိုင်းကို အရှက်ဖြစ်သည်ဟုပင် မသတ်မှတ်ကြတော့ပေ။ အမှန်မှာ ရှရီအတ်က ထိုအပိုင်းကို အရှက်နှင့်တစ်ဆက်တစ်စပ်တည်းဖြစ်ပြီး အရှက်တွင် အကျုံးဝင်သည်ဟု သတ်မှတ်ထားသည်။ ထိုအကြောင်းများကြောင့် ရေချိုးရုံနှင့် ကင်းအောင်နေခြင်းမှာ မွတ်စ်တဟာဗ်ဖြစ်သည်။ ထိုအကြောင်းကြောင့်ပင် ဘရှရ်အီဗ်နေ့ဟာရိစ်ﷺသခင်က 'လူတစ်ဦးသည် မိမိတွင် ဒရ်ဟမ်ဒင်္ဂါးတစ်ပြားသာ ပိုင်ဆိုင်ပြီး ထိုငွေကို ရေချိုးရုံတွင် လူရှင်းရန်အတွက် အသုံးပြုမည်ဆိုလျှင် ထိုလူကို ကျွန်ုပ်အပြစ်တင်မည်မဟုတ်ပေ'ဟု မိန့်ဆိုခဲ့ခြင်းဖြစ်သည်။ ထို့ပြင် လူတို့သည် ရေချိုးရုံထဲတွင် အီဗ်နေ့အိုမရ်ﷺသခင်အား မိမိ၏မျက်နှာကို နံရံဘက်လှည့်ပြီး မျက်စိနှစ်ဘက်ကို အဝတ်ပိုင်းတစ်ခုဖြင့် စည်းထားသည်ကို မြင်တွေ့ကြရသည်။ အချို့ပုဂ္ဂိုလ်တို့က အဆိုပြုသည်မှာ 'ရေချိုးရုံသို့ သွားရောက်မည်ဆိုလျှင် ကိစ္စမရှိပါ။ သို့သော် အဝတ်ပိုင်းနှစ်ခုကို ယူသွားရမည်။ တစ်ပိုင်းသည် အရှက်ကို ဖုံးရန်အတွက်ဖြစ်သည်။ နောက်တစ်ပိုင်းသည် ခေါင်းကို ပတ်ပြီး မျက်စိနှစ်လုံးကို ကာရန်အတွက်ဖြစ်သည်။

ရေချိုးရုံတွင် ရေချိုးရာ၌ မွတ်စ်တဟာဗ် ဆယ်ခုရှိသည်။ ပထမဦးစွာ နိယတ်ပြုရမည်။ ယင်းမှာ ရေချိုးရုံဝင်ခြင်း

သည် ဒွန္နယာအတွက်လည်းမဟုတ်၊ စိတ်အလိုလိုက်သည့်အနေနှင့်လည်းမဟုတ်စေရပေ။ အမှန်မှာ နမာဇ်အတွက် သန့်ပြန့်မှုရှိရန် ရည်ရွယ်ချက်ဖြင့် **ရေချိုးခြင်းဖြစ်စေရမည်။**

ထို့နောက် အတွင်းမဝင်မီ **ရေချိုးရုံ**သို့ ကျသင့်ငွေပေးသွင်းရမည်။ အဘယ်ကြောင့်ဆိုသော် မိမိရယူလိုသည့် **ဝန်ဆောင်မှုအမျိုးအစားမှာ** မပြောမချင်းသိရမည်မဟုတ်ပေ။ **ရေချိုးရုံ**ဘက်ကလည်း မိမိတို့ရရှိမည့် အခကြေးငွေကို ဘယ်၍ဘယ်မျှဟု မှန်းဆနိုင်မည်**မဟုတ်ပေ။** သို့ဖြစ်ရာ အဝင်ကတည်းက ပေးလိုက်လျှင် ထိုမသိရခြင်းနှစ်ခုအနက် တစ်ခုစီကို ဖယ်ရှားပြီးဖြစ်သွားသည်**။ စိတ်တွင်လည်း** ရှင်းသွားသည်။

ထို့နောက် **ရေချိုးရုံ**အတွင်း ဘယ်ဘက်ခြေထောက်ဖြင့် စတင်ဝင်ရောက်ပြီး–

بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ اَعُوْذُ بِاللهِ مِنَ النَّجِسِ اَلْخَبِيْثِ الْمُخْبِثِ الشَّيْطَانِ الرَّجِيْمِ

**(‘ကျွန်တော်မျိုးသည် အလွန်သနားကြင်နာတော်မူသော မဟာဂရုဏာတော်ရှင် အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။ ထို့ပြင် ရဟ်မတ်တော်နှင့် ကင်းဝေးရသူ ရှိုင်တွာန်၏နှောက်ယှက်မှုမှ ကင်းရန် အလ္လာဟ်အရှင့်ထံ ခိုလှုံပါ၏။ ထိုရှိုင်တွာန်သည် မိမိကိုယ်တိုင်ညစ်ညမ်းပြီး အခြားသူများကို ညစ်ညမ်းအောင်ပြုသည့် မသန့်မရှင်းအရာဖြစ်ပါသည်။’)**

ကို **ဖတ်ရမည်။** လူရှင်းသည့်အချိန်မှာ **ရေချိုးရုံသို့ ဝင်ရမည်။ သို့မဟုတ် လူရှင်းအောင်** လုပ်ယူရမည်။ အကယ်၍ **ရေချိုးရုံ**တွင် ရှိနေသူများသည် ဘာသာ**ရေးလေးစားသူများ၊ သိက္ခာရှိသူများချည်းဖြစ်သည်ဆိုလျှင်**လည်း ၎င်းတို့၏ ပေါ်နေသောခန္ဓာကိုယ်များကို ကြည့်ရင်းက ကျန်အရှက်အစိတ်အပိုင်းများကို **စိတ်ကူးပုံဖော်**မိနိုင်သေးသည်။ တဖန် လူတို့ဘက်က ပုဆိုးပြင်ဝတ်ခြင်းကဲ့သို့လှုပ်ရှားမှုများကြောင့် အရှက်ပေါ်ပြီး မျက်စိရောက်သွားရန်လည်း ဖြစ်နိုင်သေးသည်။ ထိုအကြောင်းကြောင့် အိဗ်နေ့အိုမရ်ﷺသခင်သည် မိမိ၏မျက်လုံးများကို အဝတ်စည်းထားခြင်းဖြစ်သည်။

ရေချိုးရုံသို့ ဝင်သောအခါ လက်နှစ်ဘက်ကို ဆေးကြောရမည်။ ပူနွေးသော ရေချိုးရုံအတွင်းသို့ အလျင်စလို ဝင် ရောက်ခြင်း မပြုသင့်ပါ။ ချွေးတိတ်သည်အထိ စောင့်ဆိုင်းရမည်။

ရေကို များစွာသုံးစွဲခြင်းမပြုရပါ။ လိုအပ်သလောက်ဖြင့် ပြီးစီးစေရမည်။ လိုအပ်မှုအရ ခွင့်ပြုသည်မှာလည်း ဤမျှသာဖြစ်သည်။ အကယ်၍ လိုအပ်သည်ထက် ပိုသုံးသည်ကို ရေချိုးရုံပိုင်ရှင် သိခဲ့မည်ဆိုလျှင် မည်သို့မှ ကြိုက်လိမ့်မည်မဟုတ်ပေ။ အထူးသဖြင့် ရေနွေးကို ဂရုတစိုက်သုံးစွဲရမည်။ အဘယ်ကြောင့်ဆိုသော် ငွေမကုန် ဒုက္ခမခံဘဲ ရေနွေးဖြစ်မလာနိုင်သောကြောင့်ဖြစ်သည်။

ရေချိုးရုံ၏အပူကို ကြည့်ပြီး ငရဲမီး၏အပူကို သတိရ တရားယူရမည်။ ဤပူလောင်သောအိမ်ခန်းအတွင်းမှာ ရှိနေစဉ် မိမိသည် ဂျဟန္နမ်တွင် အကျဉ်းခံနေရသည်ဟု ဆင်ခြင်ရမည်။ အကြောင်းမှာ ရေချိုးရုံသည် ဂျဟန္နမ်နှင့် အတူဆင်ဆုံး နေရာတစ်ခုဖြစ်သည်။ အောက်တွင် မီးက ရှိနေသည်။ အပေါ်ပိုင်းကလည်း မှောင်မဲလျက်ရှိသည်။ *ကျွန်တော်မျိုးတို့သည် ဤအဖြစ်မှကင်းရန် အလ္လာဟ်အရှင့်ထံ ခိုလှုံကြပါသည်။*

အသိဉာဏ်ရှိသူသည် အာခိရတ်ရေးကို တဒင်္ဂလေးမှ မမေ့ချေ။ အဘယ်ကြောင့်ဆိုသော် အာခိရတ်သည်သာ ၎င်း အမြဲတမ်းနေထိုင်ရမည့် နေရာဌာနဖြစ်သောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ ၎င်းသည် ရေကိုမြင်မြင် မီးကိုမြင်မြင် ဘာကိုဘဲမြင်မြင် မြင်ရသမျှအရာအားလုံးမှ တရားသံဝေဂ ရယူလေသည်။ လူတို့သည် မိမိတို့ စိတ်ဝင်စား တန်ဘိုးထားသောအရာကို ကြည့်ရှုကြစမြဲဖြစ်သည်။ ဥပမာ အထည်အလိပ်ကုန်သည်၊ လက်သမား၊ ပိသုကာနှင့် ယက္ကန်းသမားတို့သည် ချယ်လှယ်မွမ်းမံထားသောအိမ်တစ်ဆောင်ထဲသို့ ရောက်သွားသည်ဆိုကြပါစို့။ ထိုအခါ အထည်အလိပ်ကုန်သည်က ထိုအိမ်၏အခင်းအကျင်းကို ကြည့်မည်ဖြစ်သည်။ ထို့ပြင် ထိုအခင်းအကျင်း၏တန်ဘိုးကို ခန့်မှန်းတွက်ချက်မည်ဖြစ်သည်။ ထို့နောက် လက်သမားက အိမ်၏ခေါင်မိုးကို ကြည့်ရှုမည်ဖြစ်သည်။ ထို့ပြင် သူက အိမ်

ခေါင်မိုး တင်ထားပုံကို စဉ်းစားမည်ဖြစ်သည်။ ထို့နောက် ယက္ကန်းသမားက အဝတ်အထည်များကို ကြည့်ရှုမည်ဖြစ်သည်။ ထိုအဝတ်အထည်များ အနုစိတ်ယက်လုပ်ထားပုံကို စဉ်းစားမည်ဖြစ်သည်။ ထို့နောက် ပိသုကာဆရာက နံရံတံတိုင်းများကို ကြည့်ရှုမည်ဖြစ်ပြီး ထိုနံရံတံတိုင်းများ၏ခိုင်ခန့်မှုနှင့်ဖြောင့်တန်းမှုများကို စဉ်းစားမည်ဖြစ်လေသည်။ အာခိရတ်လမ်းကို လျှောက်လှမ်းမည့်သူကလည်း ဤနည်းအလားတူဖြစ်သည်။ ၎င်းသည် မည်သည့်အရာကို မြင်တွေ့ရသည်ဖြစ်စေ အာခိရတ်ရေးအတွက်သာ တရားသဘောထုတ်ယူဆင်ခြင်သည်။ သို့နှင့်အမျှ ၎င်းက မည်သည့်အရာကို ကြည့်ရှုသည်ဖြစ်စေ အလ္လာဟ်အရှင်က ၎င်းအတွက် တရားသံဝေဂ၏လမ်းကို ဖွင့်ပြတော်မူလေသည်။

မဲမှောင်မှုကို မြင်တွေ့ရသောအခါ ၎င်းက သင်္ချိုင်းအတွင်း မှောင်အတိကျမည့်အရေးကို သတိရသည်။ မြွေကို မြင်ရသောအခါ ၎င်းက ဂျဟန္နမ်ရှိ မြွေနဂါးကြီးများကို သတိရသည်။ ဆိုးဝါးသောရုပ်သဏ္ဍာန်ကို မြင်ရသောအခါ ၎င်းက မွန်ကရ်နကီရ်နှင့် ဂျဟန္နမ်ရှိ ကောင်းကင်တမန်များကို သတိရသည်။ ကြောက်မက်ဖွယ်အသံကို ကြားရသောအခါ ၎င်းက ကိယာမတ်စတင်မည့်စူရ်တံပိုးမှုတ်သံကို သတိရသည်။ ကောင်းမွန်သောအရာကို မြင်တွေ့ရသည့်အခါ ၎င်းက ဂျန္နတ်၏စည်းစိမ်ကို သတိရသည်။ ဈေးတွင်၎င်း အိမ်တွင်၎င်း အပေးအယူကိစ္စများပြောဆိုနေသံကို ကြားရသည့်အခါ ၎င်းက ကိယာမတ်နေ့ စာရင်းစစ်ဆေးပြီးသည့်အခါ နောက်ဆုံး မိမိက ပေးရသူဖြစ်မည်လား သို့မဟုတ် ယူသူဖြစ်မည်လားဆိုသည်ကို သတိရသည်။ အသိဉာဏ်ရှင်လူသား၏စိတ်နှလုံးတွင် ဤသို့ရှိနေသည်မှာ အလွန်ပင် လျှော်ကန်အပ်စပ်လေသည်။ အဘယ်ကြောင့်ဆိုသော် ဒွန်ယာရေးလိုအပ်ချက်များကပင် ၎င်းအား အာခိရတ်ဘက်သို့ မျှော်တွေးစဉ်းစားခြင်းမပြုနိုင်ရန် အတားအဆီးပြုလျက်ရှိသောကြောင့်ဖြစ်သည်။

အကယ်၍ ဉာဏ်ရှင်လူသားက ဒွန်ယာတွင် နေထိုင်ခဲ့ရသည့် အချိန်ကာလနှင့် အာခိရတ်တွင် နေထိုင်ရမည့် အချိန်ကာလနှစ်ခုကို နှိုင်းယှဉ်ချိန်စက်ကြည့်မည်ဆိုလျှင် ဒွန်ယာရေးလိုအပ်ချက် ကိစ္စဝိစ္စများအားလုံးသည် အချည်းနှီးဖြစ်ကြောင်း သိရမည်ဖြစ်သည်။ ထိုသို့သိနိုင်ရန်အတွက် နှိုင်းယှဉ်ကြည့်သူသည် နှလုံးသားအမေ့ဆိုက်နေသူနှင့် အတွင်းမျက်စိကန်းနေသူတော့ မဖြစ်စေရပေ။

ရေချိုးရုံသို့ ဝင်ရောက်ရာတွင် ဆလာမ်မပေးရပါ။ အကယ်၍ မိမိအား ဆလာမ်ပေးလာလျှင်လည်း ဆလာမ်၏စာလုံးဖြင့် အဖြေမပေးရပါ။ အခြားသူတစ်ယောက်က အဖြေပေးလိုပေးငြား မိမိက နှုတ်ဆိတ်နေရမည်။ အကယ်၍ အဖြေပေးလိုသည်ဆိုလျှင် 'عافاك الله' (အလ္လာဟ်အရှင်က အသင့်ကို သက်သာမှုပြုတော်မူပါစေ)ဟု ဖြေရမည်။ ရေချိုးရုံတွင် ရှိနေသူများနှင့် လက်ဆွဲနှုတ်ဆက်ခြင်းသည်၎င်း၊ 'عافاك الله'ဟု မိမိက စတင်နှုတ်ဆက်ခြင်းသည်၎င်း မည်သို့မျှထိခိုက်နစ်နာရန်မရှိချေ။ သို့သော် ရေချိုးရုံထဲတွင် စကားကို များစွာပြောဆိုခြင်းမပြုရပါ။ ကုရ်အာန်ကျမ်းမြတ်ကို အသံထုတ်ဖတ်ရွတ်ခြင်းလည်းမပြုရပါ။ ရှိုင်တွာန်၏ဘေးအန္တရာယ်မှ ကင်းရန် အလ္လာဟ်အရှင့်ထံခိုလှုံမှု–

'أَعُوْذُ بِاللهِ مِنَ الشَّيْطَانِ الرَّجِيْمِ'

ကို အသံထုတ်ဖတ်ရွတ်နိုင်သည်။

မဂ္ဂရိဗ် အေရှာ ညနမာဇ်နှစ်ခုအကြားနှင့် နေဝင်ခါနီးအချိန်တွင် ရေချိုးရုံသို့ သွားခြင်းသည် မနှစ်သက်စရာဖြစ်သည်။ အကြောင်းမှာ ထိုအချိန်သည် ရှိုင်တွာန်ထွက်ချိန်ဖြစ်သည်။

တစ်စုံတစ်ဦးအား ချေးတွန်းခိုင်းခြင်း ပြဿနာမရှိပေ။ ဤနေရာတွင် ယူစွဖ်အီဗ်နေ့အပ်စ်ဘာတ္တ်ႆသခင်က မိမိကွယ်လွန်သောအခါ မိမိ၏တပည့်မဟုတ်သူတစ်ဦးအား မိမိကို ရေချိုးစေရန် မှာတမ်းပြောဆိုခဲ့သည့်အကြောင်းလာရှိသည်။ သခင်က 'ထိုသူက ငါ့ကို ရေချိုးရုံတွင် တစ်ကြိမ် ချေးတွန်းပေးဘူးသည်။ ထိုအတွက် သူပျော်ရွှင်စေမည့်အရာတစ်ခုကို ငါအစားပေးလိုသည်။ ယခုငါမှာကြားသည့်အတိုင်း လုပ်ရမည်ဆိုလျှင် သူမုချပျော်ရွှင်လိမ့်မည်'ဟု ပြောဆိုမှာတမ်းခဲ့သည်။ ဤသို့ ပြုခွင့်ရှိကြောင်း ဆွဟာဗဟ်အချို့ထံမှ ဆင့်ပြန်လာရှိသည်မှာ–

أن رسول الله ﷺ نزل منزلًا في بعض أسفاره فنام على بطنه وعبد أسود يغمز ظهره فقلت : ما هذا يا رسول الله؟ فقال : إن الناقة تقحمت بي . (ض.س)

'ခရီးတစ်ခုတွင် တမန်တော်မြတ်ﷺသည် စခန်းချရပ်နားခဲ့သည်။ ထို့နောက် မှောက်လျက်ပြုအိပ်နေခဲ့သည်။ ထိုအချိန်တွင် လူမဲကျေးကျွန်တစ်ဦးက ကိုယ်တော်ﷺ၏ကျောကို နှိပ်နယ်ပေးခဲ့သည်။ ကျွန်ုပ်က 'ကိုယ်တော် ဒါကဘာပါလဲ'ဟု မေးမြန်းခဲ့သည်။ တမန်တော်မြတ်ﷺက 'ငါသည် ကုလားအုတ်ပေါ်မှ ကျခဲ့သည်(ထို့ကြောင့် နှိပ်ပေးနေရခြင်းဖြစ်သည်)'ဟု အဖြေပေးခဲ့သည်။'

ရေချိုးရုံမှ ရေချိုးပြီးသောအခါ ဤစည်းစိမ်ခံစားရမှုအတွက် အလ္လာဟ်အရှင်ကို ကျေးဇူးတင်ရမည်။ အဘယ်ကြောင့်ဆိုသော် 'ဆောင်းရာသီတွင် ရေနွေးသည် စည်းစိမ်တစ်ခုဖြစ်သည်။ ထိုအတွက် ကိယာမတ်နေ့၌ စစ်မေးခြင်းခံရမည်'ဟု အဆိုရှိထားသည်။ **အိဗ်နေ့အိုမရ်**ﷺသခင်က 'ရေချိုးရုံသည် လူတို့ တီထွင်ထားသော စည်းစိမ်ခံစားမှုတစ်ခုဖြစ်သည်'ဟု ဆိုမိန့်ခဲ့ဖူးသည်။ ဤသို့ဆိုမိန့်ခြင်းသည် ဘာသာရေးအရ **အကျိုးရှိမှု**ရှုဒေါင့်မှဖြစ်သည်။

ကျန်းမာရေးရှုဒေါင့်မှ ဆိုရလျှင် အမွေးအမှင်ရှင်းလင်းရန် ထုံးအသုံးပြုပြီးနောက် ရေချိုးရုံဝင်ခြင်းသည် အနာကြီးရောဂါမှ ကာကွယ်မှုရသည်ဟု ဆိုကြသည်။ တစ်လမှာတစ်ကြိမ် ထုံးအသုံးပြုခြင်းသည် အပူကို ငြိမ်းစေသည်။ အရေအရောင်ကို သန့်စေသည်။ ကာမအားကို ကောင်းစေသည်ဟု အချို့ကဆိုသည်။ အချို့ကလည်း ဆောင်းတွင်း၌ ရေချိုးရုံတွင် မတ်တပ်ရပ်၍ ဆီးတစ်ကြိမ်သွားလိုက်ခြင်းသည် ဆေးဝါးသောက်သုံးခြင်းထက် အကျိုးရှိသည်ဟု ဆိုသည်။ အချို့က နွေရာသီတွင် ရေချိုးရုံမှ ထွက်လာပြီးနောက် တစ်ရေးအိပ်ခြင်းသည် ဆေးတစ်ခွက်နှင့်ညီမျှသည်ဟု ဆိုသည်။ ထို့ပြင် ရေချိုးရုံမှ ထွက်လာပြီးနောက် ခြေနှစ်ဘက်ကို ရေအေးဖြင့် ဆေးကြောခြင်းသည် ခြေထောက်များတွင်ဖြစ်တတ်သည့် နူကွာရပ်စ်ရောဂါမှ ကင်းဝေးစေသည်ဟု အဆိုရှိသည်။ ရေချိုးရုံမှ ထွက်လာပြီးနောက် ဦးခေါင်းကို ရေအေး ထိစိုခြင်းနှင့် ရေအေးသောက်ခြင်းများသည် ကျန်းမာရေးအတွက် မသင့်တော်ချေ။ ဤအထိမှာ အမျိုးသားများနှင့်သက်ဆိုင်ရာများဖြစ်သည်။

အမျိုးသမီးများနှင့်ပတ်သက်၍ကား တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

لا يحل للرجل أن يدخل حليلته الحمام وفي البيت مستحم . (خ.م)

'ယောကျ်ားသားတစ်ဦးသည် မိမိအိမ်တွင် ရေချိုးခန်းရှိပါလျှက် မိမိ၏ဇနီးကို ရေချိုးရုံသို့ သွားရောက်ခွင့်ပြုခြင်း မပိုင်ချေ။'

ထို့ပြင် တမန်တော်မြတ်ﷺ၏ ကျော်ကြားသောမိန့်ဆိုချက်ရှိသည်မှာ–

حرام على الرجال دخول الحمام إلا بمئزر وحرام على المرأة دخول الحمام إلا نفساء أو مريضة .

(د.ق)

'အမျိုးသားများအဖို့ ရေချိုးရုံသို့ အဝတ်ပိုင်းမပါဘဲ သွားခြင်း ဟရာမ်ဖြစ်သည်။ အမျိုးသမီးများအဖို့ ရောဂါသွေးပေါ်ခြင်း သို့မဟုတ် ရောဂါတစ်ခုခုကြောင့် မဟုတ်ဘဲ ရေချိုးရုံသို့ သွားခြင်းဟရာမ်ဖြစ်သည်။'

အာအိရှာﷺသခင်မသည် ဝေဒနာတစ်ခုကြောင့် ရေချိုးရုံသို့ သွားရောက်ခဲ့ဘူးသည်။ အမျိုးသမီးတစ်ဦးသည် အရေးကြီးလိုအပ်သဖြင့် ရေချိုးရုံသို့ သွားရမည်ဆိုပါက လုံခြုံသောအဝတ်ပိုင်းဖြင့် ဝင်ရမည်။ လင်ယောကျ်ားသည် မိမိဇနီးအား ရေချိုးရုံဝင်ခပေးခြင်း မက္ကရူဖြစ်သည်။ ထိုသို့ပေးခြင်းဖြင့် မကောင်းသောကိစ္စတွင် အလိုတူအလိုပါ ပူးပေါင်းပါဝင်ခြင်းဖြစ်သည်။

——

## ဒုတိယအမျိုးအစား

# ခန္ဓာကိုယ်၏အပိုအလျှံအစိတ်အပိုင်းများမှ သန့်ရှင်းခြင်း

### လူသား၏ခန္ဓာကိုယ်တွင် ပိုထွက်သောအစိတ်အပိုင်း ရှစ်ခုရှိသည်။

**ပထမအစိတ်အပိုင်း**သည် ဦးခေါင်းမှ ဆံပင်ဖြစ်သည်။ အကြင်သူသည် သန့်ပြန့်ရန် ရည်ရွယ်ချက်ဖြင့် ဆံပင်ကို ရိပ်မည်ဆိုပါက ကိစ္စမရှိချေ။ တဖန် အကြင်သူသည် ဆံပင်ထားပြီး ဆီထည့်မည်၊ ခေါင်းဖြီးမည်ဆိုလျှင်လည်းကိစ္စ မရှိချေ။ သို့သော် ဆံပင်ကို အပိုင်းပိုင်း ကွက်ကြားထားခြင်းမပြုရချေ။ ယင်းသည် လူဆိုးလူမိုက်တို့၏အကျင့်ဓလေ့ ဖြစ်သည်။ တဖန် ဆွေကြီးမျိုးကြီးတို့ကဲ့သို့ ဆံစုတွဲလောင်းချခြင်းလည်း မပြုအပ်ချေ။ ထိုဆံပင်ပုံစံသည် ၎င်းတို့၏ အထိမ်းအမှတ်ဖြစ်နေရာ ဆွေကြီးမျိုးကြီး မဟုတ်သူတစ်ဦးက ဤပုံစံထားမည်ဆိုလျှင် ၎င်းသည် အယောင်ဆောင် ခြင်းဖြစ်သည်။

**ဒုတိယအစိတ်အပိုင်း**သည် နှုတ်ခမ်းမွေးဖြစ်သည်။ တမန်တော်မြတ်ﷺက–

قصوا الشوارب واعفوا اللحى. (၁)

'နှုတ်ခမ်းမွေးကို ဖြတ်ကြကုန်။ မုတ်ဆိတ်မွေးများကို အရှည်ထားကြကုန်'ဟု မိန့်ဆိုခဲ့သည်။ အချို့ဆင့်ပြန်ချက်များတွင် '(၂) .جزوا الشوارب'(နှုတ်ခမ်းမွေးကို ဖြတ်ညှပ်ကြကုန်)ဟု လာရှိသည်။ အချို့ဆင့် ပြန်ချက်များတွင် '(၂.ခ) .احفوا الشوارب'(နှုတ်ခမ်းမွေးများကို တိတိရိရိထားကြကုန်)ဟု လာရှိသည်။ ပထမဆင့် ပြန်ချက်နှစ်ခုတွင် ဖော်ပြထားသည့် 'قص'နှင့် 'جز'တို့၏အဓိပ္ပါယ်သည် 'ဖြတ်တောက်ခြင်း'ဖြစ်သည်။ တတိယ ဆင့်ပြန်ချက်တွင် ဖော်ပြထားသော'حف'သည် 'حاف'မှ ဆင့်ပွါးလာသောစာလုံးဖြစ်ပြီး 'နှုတ်ခမ်း၏ဘေးတွင် ဝိုင်း ပတ်ရှိစေခြင်း'အဓိပ္ပါယ်ဖြစ်သည်။ ထိုစာလုံးကို အာယတ်တွင် အောက်ပါအတိုင်းဖော်ပြထားသည်။

﴿وَتَرَى الْمَلَائِكَةَ حَافِّينَ مِنْ حَوْلِ الْعَرْشِ﴾

**'ထိုပြင် ကောင်းကင်တမန်တို့သည် အရှင်တော်၏ပတ်လည်တွင် ဝိုင်းပတ်ထားသည်ကို အသင်မြင် တွေ့ရလိမ့်မည်။'** (ဇုမရ်၊ ၇၅)

တတိယဆင့်ပြန်ချက်တွင် 'احفوا'ဟု သုံးနှုန်းသဖြင့် ကျန်ဆင့်ပြန်ချက်စာသားများထက် ပို၍ တိုတိုထားရန် အဓိပ္ပါယ် ထွက်သည်။ အလ္လာဟ်အရှင် မိန့်ကြားတော်မူသည့်–

﴿إِنْ يَسْأَلْكُمُوهَا فَيُحْفِكُمْ تَبْخَلُوا﴾

**'အကယ်၍ အလ္လာဟ်အရှင်က အသင်တို့ထံမှ ပစ္စည်းဥစ္စာများကို တောင်းဆိုခဲ့သည်ရှိသော်၊ သို့မဟုတ် အတန်တန်တောင်းဆိုခဲ့သည်ရှိသော် အသင်တို့သည် နှမြောတွန့်တိုကြပေမည်။'** (မုဟမ္မဒ်၊ ၃၇)

အာယတ်တွင် ထို'احفا'စာလုံးကို သုံး၍ **'အလ္လာဟ်အရှင်က သင်တို့ထံမှ ပစ္စည်းဥစ္စာများကို အလေးအနက်တောင်း ဆိုခဲ့သည်ရှိသော်'**ဆိုသည့်အဓိပ္ပါယ် ပေါ်ထွက်စေသည်။

နှုတ်ခမ်းမွေးရိပ်သည့်အကြောင်းကိုမူ မည်သည့်ဟဒီစ်တွင်မှ ဖော်ပြမထားချေ။ ဟဒီစ်တွင် ဖော်ပြထားသည့် 'احفاء'–နှုတ်ခမ်းမွေးတိခြင်းက ရိပ်ခြင်းနှင့် ပို၍ နီးစပ်သည်။ လူတစ်ယောက် နှုတ်ခမ်းမွေး တိတိရိရိထားသည်ကို

တာဘိအီတစ်ဦးက တွေ့မြင်သောအခါ 'အသင့်ကို မြင်သဖြင့် ငါသည် တမန်တော်မြတ် ﷺ ၏ ဆွဟာဗဟ်များကို သတိရမိသည်'ဟု ပြောဆိုခဲ့သည်။ ဆွဟာဗဟ်တစ်ပါးဖြစ်သူ မုဂီရာအိဗ်နေ့ရွှအ်ဘာ ﷺ သခင်က ပြောပြသည်မှာ–

نظر إليّ رسول الله ﷺ وقد طال شاربي فقال : تعال ، فقصه لي على سواك . (د.س.تش)

'တမန်တော်မြတ် ﷺ က ကျွန်ုပ်၏ နှုတ်ခမ်းမွေး ရှည်နေသည်ကို မြင်တွေ့သွားခဲ့သည်။ ထိုအခါ ကိုယ်တော်က 'လာပါ'ဟု ခေါ်ကာ၊ ကျွန်ုပ်၏ နှုတ်ခမ်းမွေးများကို တံပူချောင်းပေါ်တင်ပြီး ဖြတ်ပေးခဲ့သည်။'

နှုတ်ခမ်းမွေး၏ ဘေး ကျင်စွယ်နှစ်ဘက်ကို အရှည်ထားခြင်းကိစ္စမရှိပါ။ အိုမရ် ﷺ သခင်နှင့်အခြားဆွဟာဗဟ် သခင်တို့သည် ထိုအတိုင်းထားခဲ့ကြသည်။ ထိုသို့ ဘေးနှစ်ဘက်ကို အရှည်ထားခြင်းဖြင့် ပါးစပ်ကို မကွယ်စေပါ။ စားသောက်သည့်အခါမှာလည်း ဟင်းကျွေးများ ပေကျံခြင်းမရှိစေပါ။

တတိယဆင့်ပြန်ချက်တွင် တမန်တော်မြတ် ﷺ က–

واعفوا اللحى . (۱)

'မုတ်ဆိတ်မွေးများကို အရှည်ထားကြကုန်'ဟု မိန့်ဆိုခဲ့သည်။ ဟဒီဇ်တစ်ပုဒ်တွင် တမန်တော်မြတ် ﷺ မိန့်ဆိုသည်မှာ–

إن اليهود يعفون شواربهم ويقصون لحاهم فخالفوهم . (۱)

'ယဟူဒီတို့က နှုတ်ခမ်းမွေးကို အရှည်ထားကြပြီး မုတ်ဆိတ်ကို ဖြတ်ကြသည်။ အသင်တို့သည် ၎င်းတို့နှင့် ဆန့်ကျင်ဘက်ကျင့်သုံးကြကုန်။'*

အချို့ပညာရှင်များက နှုတ်ခမ်းမွေးရိပ်ခြင်းကို မက္ကရူဖြစ်သည်ဟု ဆိုကြသည်။ နှုတ်ခမ်းမွေးရိပ်ခြင်းကို ၎င်းတို့က ဗိဒအတ်ဟု သတ်မှတ်ကြသည်။

တတိယအစိတ်အပိုင်းသည် ချိုင်းမွေးဖြစ်သည်။ ယင်းကို ရက်လေးဆယ်လျှင် တစ်ကြိမ် နှုတ်ခြင်း မွတ်စ်တဟဗ်ဖြစ်သည်။ ထိုသို့နှုတ်ခြင်းသည် အစပထမကတည်းက နှုတ်သည့်အလေ့အထရှိနေသူအတွက် လွယ်ကူသည်။ ရိပ်သည့် အလေ့အထရှိသူက နှုတ်သည့်အခါ ဒုက္ခရောက် နာကျင်မည်ဆိုလျှင် ရိပ်ခြင်းနှင့် လုံလောက်သည်။ ရည်ရွယ်ချက်မှာ ချိုင်းမွေးအကြားတွင် ကြေးညှော်များ ရှိမနေဘဲ သန့်ပြန့်ရန်သာဖြစ်သည်။ ထိုသန့်ပြန့်မှုကို ရိပ်ပစ်ခြင်းဖြင့်လည်း ရရှိနိုင်ပါသည်။

စတုတ္ထအစိတ်အပိုင်းသည် ချက်အောက်မွေးဖြစ်သည်။ ယင်းကို ရိပ်၍ဖြစ်စေ ထုံးသုံး၍ဖြစ်စေ ဖယ်ရှင်းပစ်ခြင်း မွတ်စ်တဟဗ်ဖြစ်သည်။ ထိုသို့ဖယ်ရှင်းခြင်းကို ရက်လေးဆယ်ထက် နောက်ကျရန် မသင့်ချေ။

---

* အိုမာမာ ﷺ သခင် ဆင့်ပြန်သည့်ဟဒီဇ်တွင်–

قلنا يارسول الله ﷺ إن أهل الكتاب يقصون غثانينهم ويوفرون سبالهم فقال قصوا سبالكم ووفروا غثانينكم وخالفوا أهل الكتاب .

'ကျွန်ုပ်တို့က တမန်တော်မြတ် ﷺ အား 'အို အလ္လာဟ်တမန်တော်၊ ကျမ်းရလူမျိုးတို့သည် ပါးသိုင်းမွေးကို ဖြတ်ကြသည်။ ကျင်စွယ်ကို မွေးထားကြသည်'ဟု တင်ပြပြောဆိုခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ် ﷺ က 'အသင်တို့က ကျင်စွယ်ကို ဖြတ်ကြ၊ ပါးသိုင်းမွေးကို မွေးထားကြ'ဟု မိန့်ဆိုခဲ့သည်။

အီရာအီ ﷺ သခင်က 'ယင်းသည် မဂျူစီများနှင့်ပတ်သက်ခြင်းဖြစ်ပြီး၊ အိဗ်နေ့အိုမရ် ﷺ သခင်၏ ဆွဟီဆင့်ပြန်မှုတွင်–

أنهم يوفرون سبالهم ويحلقون لحاهم فخالفوهم .

'၎င်းတို့သည် ၎င်းတို့၏ကျင်စွယ်များကို မွေးထားကြသည်။ ထို့နောက် ၎င်းတို့၏ မုတ်ဆိတ်များကို ရိပ်ပစ်ကြသည်။ ၎င်းတို့နှင့် ဆန့်ကျင်ဘက် ကျင့်သုံးကြ'ဟု မိန့်ဆိုခဲ့ကြောင်း ဖော်ပြထားသည်။

**ပဉ္စမအစိတ်အပိုင်း**သည် လက်သည်းခြေသည်းများဖြစ်သည်။ ယင်းတို့ကို ညှပ်ပစ်ခြင်းသည် မွတ်စ်တဟာဗ်ဖြစ်သည်။ လက်သည်းခြေသည်းများ ရှည်လာသည့်အခါ အရုပ်ဆိုးပြီး ထိုအထဲတွင် ကြေးညှော်များ စုမိသောကြောင့်ဖြစ်သည်။ တမန်တော်မြတ်ﷺက အဗူဟုရိုင်ရာ؅သခင်အား–

يا ابا هريرة قلم ا ظفارك ، فان الشيطان يقعد علي ما طال منها . (جامع خطيب)

'အို အဗူဟုရိုင်ရာ၊ သင်သည် လက်သည်းခြေသည်းများကို ညှပ်ပါ။ အဘယ်ကြောင့်ဆိုသော် လက်သည်းခြေသည်းများ ရှည်လာလျှင် ရှိုင်တွာန်က ထိုအထဲ ဝင်ထိုင်သောကြောင့်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။

လက်သည်းခြေသည်းအောက်တွင် ကြေးညှော်ရှိနေသော်လည်း ဝုဇူပိုင်မှုကို အဟန့်အတားမဖြစ်ပါ။ ထိုကြေးညှော်က ရေ၏စိမ့်ဝင်စွတ်စိုမှုကို မတားဆီးသောကြောင့်ဖြစ်သည်။ သို့မဟုတ် အရေးကြီးလိုအပ်မှုကြောင့် ဤနေရာတွင် လွယ်ကူမှုပြုပေးခြင်းဖြစ်သည်။ အထူးသဖြင့် ယောကျ်ားများ၏ လက်သည်းခြေသည်းများနှင့်ပတ်သက်၍ဖြစ်သည်။ ထို့ပြင် ဤသို့လွယ်ကူမှုပြုခြင်းသည် အရပ်များနှင့် လူမဲများ၏ လက်သည်းခြေသည်းကြားများနှင့် ခြေဖမိုးလက်ဖမိုးများပေါ်တွင် ရှိနေသည့်ကြေးညှော်များကို ထောက်ရှုသောအားဖြင့်ဖြစ်သည်။

တမန်တော်မြတ်ﷺသည် ၎င်းတို့ကို လက်သည်းခြေသည်းညှပ်ကြရန် အမိန့်ပေးခဲ့သည်။ ထို့ပြင် ၎င်းတို့၏ လက်သည်းခြေသည်းများအောက်၌ ကြေးညှော်များ တွေ့မြင်သောအခါတွင်လည်း မနှစ်သက်မှုကို ဖော်ပြခဲ့သည်။ သို့နှင့်တိုင် တမန်တော်မြတ်ﷺက ၎င်းတို့အား နမာဇ် ပြန်ဖတ်ရန် အမိန့်မပေးခဲ့ပါ။ အကယ်၍ တမန်တော်မြတ်ﷺကသာ ထိုသို့အမိန့်ပေးခဲ့မည်ဆိုလျှင် ကြေးညှော်၏ မနှစ်သက်ဖွယ်ဖြစ်ခြင်းတွင် ပို၍ လေးနက်တင်းမာသောအကျိုးဆက်ရှိလာမည်ဖြစ်သည်။

လက်သည်းခြေသည်းများ ကိုက်ညှပ်သည့်အစီအစဉ်ကို ဖော်ပြထားသောဟဒီစ်ဆင့်ပြန်ချက်ကို ကျွန်ုပ်သည် ဟဒီစ်ကျမ်းများတွင် မတွေ့ခဲ့ရပါ။ သို့သော် 'တမန်တော်မြတ်ﷺသည် ညာဘက်လက်ညှိုးမှ စတင်ပြီး ဘယ်ဘက်လက်မတွင် အဆုံးသတ်ခဲ့သည်။ ဘယ်ဘက်ကို လက်သန်းမှ အစပြုပြီး လက်မတွင် အဆုံးသတ်ခဲ့သည်*'ဟု ကျွန်ုပ်ကြားဘူးခဲ့သည်။ ကျွန်ုပ်သည် ထိုအစီအစဉ်နှင့်ပတ်သက်၍ စဉ်းစားကြည့်သောအခါ အဆိုပါဆင့်ပြန်မှုသည် မှန်ကန်သောဆင့်ပြန်မှုဖြစ်ကြောင်း သုံးသပ်ရရှိသည်။ အဘယ်ကြောင့်ဆိုသော် ဤကဲ့သို့သောအကြောင်းအရာမျိုးသည်

---

* အီရာကီသခင်؅က 'ကျွန်ုပ် ဤဟဒီစ်၏ရင်းမြစ်ကို မတွေ့ဘူးပါ'ဟု ဆိုသည်။ ထို့ပြင် ၎င်းက 'အီမာမ်ဂဇာလီ؅၏ ဤရေးသားချက်များအပေါ် ရှိုက်ခ်အဗူအဗ်ဒုလ္လာဟ်မာဇရီ؅က ပြစ်တင်ဝေဖန်ခဲ့သည်ဟု'လည်း ဖော်ပြခဲ့သည်။ ရှိုက်ခ်အဗူအဗ်ဒုလ္လာဟ်မာဇရီ؅သည် အီမာမ်ဂဇာလီ؅၏ ခေတ်ပြိုင်ပညာရှင်တစ်ဦးဖြစ်ပြီး အီမာမ်ဂဇာလီ؅သခင်ကို ဝေဖန်ထားသည့် 'الرد على الغز الي'စာအုပ်ကို ရေးခဲ့သူဖြစ်သည်။ ၎င်းသည် အီမာမ်ဂဇာလီ؅သခင်၏ လက်သည်းခြေသည်းကိုက်ဖြတ်မှုအစီအစဉ်ကို အလွန်အကျွံပြစ်တင်ဝေဖန်ခဲ့သည်။ ၎င်းက ဤကိုက်ဖြတ်မှုအစီအစဉ်၏ အထောက်အထားကင်းမဲ့မှုကို ထောက်ပြပြီး– أنه يريد أن يخلط الشريعة بالفلسفة

'အီမာမ်ဂဇာလီသည် ရှရီအတ်တရားတော်ကို ဒဿနပညာနှင့် ရောမွှေရန် ရည်ရွယ်ခြင်းဖြစ်သည်'ဟုပင် ဝေဖန်ခဲ့သည်။ အဆိုပါပြစ်တင်ဝေဖန်မှုနှင့်ပတ်သက်၍ အလ္လာမာဇုဗိုင်ဒီ؅သခင်က–

'လက်သည်းခြေသည်းကိုက်ညှပ်မှုကိစ္စ ဆင့်ပြန်မှုကို အလီ؅သခင့်ဘက်သို့ ညွှန်ပြထားခြင်းသည် အခိုင်အမာ မဟုတ်ပါ။ တဖန် ဤကိစ္စသည် ရေးကြီးခွင်းကျယ်ကိစ္စ မဟုတ်ပါ။ ရှရီအတ်နှင့်ကွဲလွဲဆန့်ကျင်သောကိစ္စလည်း မဟုတ်ပါ။ ဖိကဟ်ပညာရှင်အုပ်စုတစ်စုကဆိုလျှင် ၎င်းတို့၏ အတွေ့အကြုံများအရ 'လက်သည်းခြေသည်းကို အီမာမ်ဂဇာလီ؅သခင်ပြဆိုသည့်အတိုင်း စွဲစွဲမြဲမြဲကိုက်ညှပ်သူသည် မျက်စိနာသည့်ဝေဒနာမှ ကာကွယ်မှုရသည်'ဟု ဖော်ပြကြကြောင်း ကျွန်ုပ်ကြားသိခဲ့ရသည်'–ဟုရေးသားခဲ့သည်။(အိတ္တိဟာဖွစ္စာဒတီလ်မွတ္တကီန်၊ ပထမတွဲ စာမျက်နှာ ၃၀/၄၁၀)

အစပိုင်း ထင်းလင်းသိသာခြင်းမရှိဘဲ နဗ္ဗဝပ်၏နူရ်အလင်းရောင်ဖြင့်သာ သိလာရသောကိစ္စမျိုးဖြစ်သည်။ အတွင်းမျက်စိပိုင်ရှင် ပညာရှင်တစ်ဦး၏အန္တိမပန်းတိုင်မှာလည်း ၎င်းထံ တမန်တော်မြတ်ﷺ၏လုပ်ရပ်တစ်ခုခု ပေါ်ပြလာပါက ထိုလုပ်ရပ်ကို အသိဉာဏ်အသုံးပြု၍ စေ့ငုရန်ဖြစ်လေသည်။

အစစ်အမှန်အသိပညာကမူ အလွှာဟ်အရှင်မြတ်ထံတွင်သာရှိသည်။ လက်သည်းခြေသည်းများ ကိုက်ညှပ်မှု အစီအစဉ်နှင့်စပ်လျဉ်း၍ ကျွန်ုပ်ယခင်က မစဉ်းစားမိခဲ့သောအရာကို ယခုစဉ်းစားမိလာသည်။ လက်သည်းခြေသည်း ညှပ်ခြင်းသည် လုပ်ရမည့်အလုပ်တစ်ခုဖြစ်သည်။ တဖန် လက်သည် ခြေထောက်ထက် ပို၍မြတ်သည်။ သို့ဖြစ်ရာ လက်ကို စတင်ညှပ်ရမည်။ တဖန် ညာဘက်သည် ဘယ်ဘက်ထက် ပို၍မြတ်သည်။ သို့ဖြစ်ရာ ညာဘက်ကို စတင်ညှပ်ရမည်။ တဖန် ညာဘက်လက်ရှိ လက်ချောင်း ငါးချောင်းတွင် လက်ညှိုးက ပို၍မြတ်သည်။ လက်ချောင်းအားလုံး၌ ထိုလက်ညှိုးက နမာဇ်ဖတ်ရာမှာ ကလေမာရှဟာဒတ်ကို ညွှန်ပြရသည်။ ထိုလက်ညှိုးကို ညှပ်ပြီးနောက် ၎င်း၏ညာဘက်ရှိ လက်ချောင်းကို ဆက်၍ ညှပ်သင့်သည်။ အဘယ်ကြောင့်ဆိုသော် တရားတော်က သန့်ရှင်းမှု အစရှိသည့်ကိစ္စများကို ဆောင်ရွက်ရာတွင် ညာဘက်သို့ အစဉ်အတိုင်းဆက်လုပ်သွားခြင်းကို မွတ်စ်တဟဗ်ဟု ပြဆိုထားသောကြောင့်ဖြစ်သည်။

ညာဘက်လက်ဖမိုးကို မြေကြီးပေါ်ချပြီး ကြည့်မည်ဆိုပါက လက်မသည် လက်ညှိုး၏ညာဘက်ဖြစ်သည်။ ထိုသို့မဟုတ်ဘဲ မြေကြီးပေါ်သို့ လက်ဖဝါးထားပြီး ကြည့်မည်ဆိုပါက လက်သူကြွယ်သည် လက်ညှိုး၏ညာဘက်ဖြစ်သည်။ တဖန် လက်ကို သဘာဝအတိုင်း တန်းလန်းချထားသည့် လက်ဖဝါးသည် မြေကြီးဘက်သို့ လှည့်စောင်းလျက်ရှိသည်။ ထိုသို့ရှိရသည်မှာ ညာလက်၏လှုပ်ရှားမှုသည် များသောအားဖြင့် ဘယ်ဘက်သို့ဖြစ်ပြီး လှုပ်ရှားမှုက ဘယ်ဘက်ကို ပြည့်ပြည့်ဝဝရောက်ရှိသည့်အခါ လက်ဖမိုးသည် အောက်သို့ရောက်သွားသည်။ ဤနည်းဖြင့် လက်သည်းခြေသည်းကိုက်ညှပ်မှုအစီအစဉ်တွင် သဘာဝကျမှုကို ထောက်ရှုခြင်းက အကောင်းဆုံးဖြစ်သည်။

လက်ဖဝါးတစ်ဘက်ကို အခြားလက်ဖဝါးတစ်ဘက်ပေါ်တင်လိုက်သည့်အခါ လက်ချောင်းများသည် အဝိုင်းပုံစံဖြစ်လာသည်။ ဤပုံစံအရ ကိုက်ညှပ်ရမည့်အစီအစဉ်သည် ညာဘက်လက်ညှိုးမှ စတင်ပြီး ထိုလက်ညှိုးတွင် အဆုံးသတ်ရမည်ဖြစ်သည်။ ထိုအစီအစဉ်တွင် ဘက်ဘက်၏အစသည် လက်သန်းဖြစ်ပြီး ဘယ်ဘက်၏အဆုံးသည် လက်မဖြစ်သည်။ ထိုအထိပြီးသောအခါ ညာဘက်လက်မ နောက်ဆုံးညှပ်ရန် ကျန်သည်။ လက်ဖဝါးတစ်ဘက်ကို အခြားလက်ဖဝါးနှင့် ဆိုင်ထားသည့်အခါ လက်ချောင်းများသည် ပမာဆိုသော် အကွင်းအဝိုင်းကဲ့သို့ရှိပြီး ထိုအနေအထားတွင် အလှည့်ကျအစီအစဉ်သည်လည်း ပေါ်လွင်လာပေသည်။ လက်များကို ဤအတိုင်းထားခြင်းက လက်ဖဝါးနှင့်လက်ဖမိုး ဆိုင်ထားခြင်းထက်၎င်း၊ လက်ဖမိုးချင်း ဆိုင်ထားခြင်းထက်၎င်း ပို၍ကောင်းသည်။ သို့နှင့် လက်ဖဝါးချင်း ဆိုင်၍ထားခြင်းကသာ သဘာဝအနေအထားဖြစ်သည်။

ခြေချောင်းများနှင့်ပတ်သက်၍ကား အာဂမယုတ္တိအထောက်အထား မရှိသော်လည်း ကျွန်ုပ်ထံမှာ အကောင်းဆုံးအစီအစဉ်သည် ညာဘက်ခြေသန်းမှ အစပြုပြီး ဘယ်ဘက်ခြေသန်းတွင် အဆုံးသတ်ရန်ဖြစ်သည်။ ယင်းသည် ဝုဇူပြုရာတွင် ခြေချောင်းများအကြား လက်ထိုးဆေးကြောသည့်အစီအစဉ်ပင်ဖြစ်သည်။ ခြေထောက်တွင် ရှဟာဒတ်ထောင်သည့်လက်ညှိုးမရှိသည့်အပေါ်မှာ ခြေချောင်းများကို ကိုက်ညှပ်ရာတွင် ကျွန်ုပ်တို့ဖော်ပြခဲ့သည့် လက်ချောင်းများ၏အစီအစဉ်ကို လိုက်ရန် အကြောင်းမပေါ်ပေါက်ပေ။ ခြေ၏ခြေချောင်းဆယ်ချောင်းမှာ မြေကြီးပေါ်တွင် တန်းစီလျက် အတန်းလိုက်သာရှိနေသည်။ သို့ဖြစ်ရာ ညာဘက်မှသာ အစပြုရမည်။ အဝိုင်းပုံသဏ္ဌာန်ဖြစ်ရန် ခြေဖဝါးကို ခြေဖဝါးချင်း ဆိုင်ရန်ဆိုသည်မှာ လက်များနှင့်မတူဘဲ သဘာဝမဟုတ်သောကိစ္စဖြစ်သည်။

ဤအစီအစဉ်၏သိမ်မွေ့သောအချက်များကို နဗ္ဗဝပ်၏နူရ်အလင်းရောင်ဖြင့် တစ်မုဟုတ်ချင်းသိလာခဲ့ရသည်။

အခက်အခဲသည် ကျွန်ုပ်တို့အတွက်သာ ဖြစ်နေခဲ့ခြင်းဖြစ်သည်။ အကယ်၍ ကျွန်ုပ်တို့အား အစပိုင်းတွင် ဤအစီအစဉ်နှင့် ပတ်သက်၍ မေးမြန်းခဲ့မည်ဆိုလျှင် ကျွန်ုပ်တို့၏စိတ်ကူးတွင် ပေါ်လာခဲ့မည်မဟုတ်ပေ။ သို့သော် တမန်တော်မြတ်ﷺ၏လုပ်ရပ်အား ကျွန်ုပ်တို့ထံ အစီအစဉ်တကျဖော်ပြလာမည်ဆိုလျှင် ကျွန်ုပ်တို့အဖို့ ထိုအထဲမှ အကျိုးအကြောင်းထုတ်ယူရန် အခက်အခဲမရှိတော့ပေ။

တမန်တော်မြတ်ﷺ၏လုပ်ရပ်များနှင့် တမန်တော်မြတ်ﷺ၏လုပ်ရှားဆောင်ရွက်မှုများအားလုံးသည် အနက်အဓိပ္ပါယ်အားဖြင့် အလေးချိန်စီးမှု၊ အရှင့်ဘက်မှ နိယာမဥပဒေသများ၊ အဆင့်ဆင့်ပြုစုပျိုးထောင်မှုဆိုင်ရာ အစီအစဉ်တကျရှိမှုများ ကင်းမဲ့သည်ဟု မထင်မှတ်သင့်ချေ။ အမှန်မှာ လူသားဘက်က ဆန္ဒသဘောထားအရ လုပ်ကိုင်ဆောင်ရွက်မှုအားလုံး၌ လုပ်သူသည် ကိစ္စရပ်နှစ်ခု သို့မဟုတ် နှစ်ခုထက်များသောကိစ္စရပ်များကြားတွင် ဝိတက်ပွါးရသည်သာဖြစ်၏။ သို့သော် တမန်တော်မြတ်ﷺ၏ဓလေ့တော်တွင် လုပ်ရပ်တစ်ခုကို ကြုံရာကျပန်း လုပ်ကိုင်ဆောင်ရွက်ခဲ့သည် ဟူ၍ မရှိဘူးချေ။ တမန်တော်မြတ်ﷺသည် လုပ်ရပ်တိုင်းအား လိုအပ်ချက်ဦးစားပေးမှုကို ထောက်ရှုပြီးနောက်မှ ဆောင်ရွက်ခဲ့ခြင်းဖြစ်သည်။

အရမ်းကာရော ကြုံရာကျပန်းလုပ်ခြင်းသည် တိရိစ္ဆာန်တို့၏အလေ့အထသာဖြစ်သည်။ မိမိ၏လုပ်ရပ်လှုပ်ရှားမှုများကို အကျိုးအကြောင်း ချင့်ချိန်ဆောင်ရွက်ခြင်းသည် အလ္လာဟ်အရှင်၏အချစ်တော် ဝလီသူတော်စင်များ၏အလေ့အထဖြစ်သည်။ လူသားသည် မိမိ၏လှုပ်ရှားလုပ်ကိုင်မှုများ၊ ဦးတည်ရည်ရွယ်မှုများကို အထိန်းအကွပ်ရှိပြီး ပရမ်းပတာ အရမ်းကာရောပြုမှုများကို စွန့်လွှတ်သလောက်၊ နဗီတမန်တော်များ ဝလီသူတော်စင်များနှင့် နီးကပ်မည်ဖြစ်သည်။ တဖန် တမန်တော်မြတ်ﷺနှင့် နီးကပ်သည်နှင့်အမျှ အလ္လာဟ်အရှင်နှင့် နီးကပ်မှုသည်လည်း ပေါ်ထွက်လာလိမ့်မည်။ အကြောင်းမှာ တစ်စုံတစ်ဦးနှင့် နီးကပ်သူထံ နီးကပ်ခြင်းသည် ထိုတစ်စုံတစ်ဦးနှင့်နီးကပ်ခြင်းပင်ဖြစ်သည်။ *သို့ဖြစ်ရာ စိတ်အလိုကို ကြားခံပြု၍ မိမိတို့လုပ်ကိုင်ဆောင်ရွက်သမျှ၏ဇက်ကြိုးသည် ရှိုင်တွာန်၏လက်တွင် ရှိနေခြင်းမှ ကင်းဝေးရန် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင့်ထံတွင် တောင်းဆုပန်ကြပါသည်။*

တမန်တော်မြတ်ﷺ၏လှုပ်ရှားဆောင်ရွက်မှုများ၏စည်းကမ်းတကျရှိမှုကို ကိုယ်တော်ﷺ၏စွန်းမာထည့်ပုံဖြင့် ဥဒါဟရဏ်ဆောင်နိုင်သည်။ ကိုယ်တော်ﷺသည် စွန်းမာထည့်ရာတွင် ညာဘက်မျက်လုံးကို သုံးကြိမ်ထည့်ပြီး ဘယ်လက်မျက်လုံးကို နှစ်ကြိမ်ထည့်ခဲ့သည်။(၂) ထိုသို့ စွန်းမာထည့်ရာတွင် ညာဘက်မျက်လုံးမှ စတင်ခဲ့ခြင်းသည် ညာဘက်က မြတ်သောကြောင့်ဖြစ်သည်။ တဖန် မျက်လုံးနှစ်ဘက်တွင် စွန်းမာထည့်သောအကြိမ်ရေ ကွာခြားရခြင်းသည် စုစုပေါင်းအကြိမ် မကိန်းဖြစ်ရန်အတွက်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် စုံကိန်းထက် မကိန်းက ပို၍မြတ်သည်။ ထိုသို့မြတ်ရခြင်းမှာ အလ္လာဟ်အရှင်သည် မကိန်းဖြစ်တော်မူပြီး မကိန်းကို နှစ်သက်တော်မူသောကြောင့်ဖြစ်သည်။ သို့နှင့်အမျှ ဗန္ဒာလူသား၏လုပ်ကိုင်ဆောင်ရွက်မှုသည် အလ္လာဟ်အရှင်၏ဝိသေသဂုဏ်ပုဒ်များထဲမှ ဂုဏ်ပုဒ်တစ်ခုခုနှင့် ဆက်နွယ်စပ်လျဉ်းမှုမှ လွတ်ကင်းရန်မသင့်ချေ။ ဤအကြောင်းခံကြောင့်ပင် ကိုယ်လက်သုတ်သင်သည့်အခါ ခဲလုံးများကို မဂဏန်းအရေအတွက်သုံးခြင်း မွတ်စ်တဟာဗ်ဖြစ်ရသည်။

မျက်လုံးနှစ်ဘက်တွင် စုစုပေါင်း စွန်းမာသုံးကြိမ် ထည့်မည်ဆိုလျှင်လည်း ထိုအရေအတွက်သည် မကိန်းပင်ဖြစ်သည်။ သို့သော် ထိုအရေအတွက်ဖြင့် မပြီးစီးစေခဲ့ပါ။ ထိုအရေအတွက်ဖြင့် ပြီးစီးရမည်ဆိုလျှင် ဘက်ဘက်မျက်လုံးကို တစ်ကြိမ်သာထည့်ရတော့မည်ဖြစ်သည်။ တစ်ကြိမ်ထည့်ရုံဖြင့် မျက်ခွံအောက်အထိ စွန်းမာနှံ့စပ်ရောက်ရှိမည်မဟုတ်ပါ။ ညာဘက်ကို သုံးကြိမ်ထည့်ခြင်းသည် မဂဏန်း၏ထွတ်မြတ်မှုကြောင့်ဖြစ်သည်။ တဖန် ညာဘက်သည် ပို၍မြတ်သောဘက်ဖြစ်သဖြင့် ထွတ်မြတ်မှုနှင့်ပို၍ထိုက်တန်သောကြောင့်ဖြစ်သည်။

အကယ်၍ စာရှုသူအသင်က 'ထိုသို့ဆိုလျှင် ဘယ်ဘက်ကို အဘယ်ကြောင့် နှစ်ကြိမ်တည်းထည့်ရသနည်း။

နှစ်ကြိမ်သည် မဂဏာန်းဖြစ်သည် မဟုတ်သလော'ဟု စောဒကတက်ခဲ့မည်ဆိုပါက၊ ထိုအတွက်အဖြေသည် ဤသို့ ဖြစ်သည်။ ထိုသို့ဘယ်ဘက်ကို နှစ်ကြိမ်တည်းထည့်ရခြင်းသည် မလွဲမရှောင်သာသောကြောင့်ဖြစ်သည်။ အကယ်၍ မျက်လုံးနှစ်ဘက်စလုံးကို မဂဏာန်းအရေအတွက် ထည့်ခဲ့မည်ဆိုပါက မ, မချင်းပေါင်းပြီး စုစုပေါင်းအရေအတွက် သည် စုံဂဏာန်းဖြစ်သွားလိမ့်မည်။ ဤနေရာတွင် မျက်လုံးတစ်လုံးချင်း မဂဏာန်းဖြစ်ရန်ထက် မျက်လုံးနှစ်လုံးပေါင်း မဂဏာန်းဖြစ်ရန် ပိုမိုဦးစားပေးထောက်ရှုရမည်။ အဘယ်ကြောင့်ဆိုသော် မျက်လုံးနှစ်ဘက်စလုံးတွင် စွဲရ်မာထည့်ခြင်း ကို ကျင့်ဆောင်မှုတစ်ခုအဖြစ် သတ်မှတ်သောကြောင့်ဖြစ်သည်။

ဤကျင့်သုံးမှုနှင့်ပတ်သက်၍ နောက်ထပ်ပုံစံတစ်ခုလည်း လာရှိသေးသည်။ ယင်းမှာ ဝုဇူတွင် အစိတ်အပိုင်း များကို သုံးကြိမ်စီဆေးကြောရသကဲ့သို့ စွဲရ်မာကိုလည်း မျက်လုံးနှစ်ဘက်စလုံးကို သုံးကြိမ်စီထည့်ခြင်းဖြစ်သည်။ ဤကျင့်သုံးမှုသည် ဆွဟီဆင့်ပြန်ချက်အဖြစ် လာရှိထားရာ ကျင့်သုံးနိုင်လျှင် ပို၍ကောင်းသည်သာဖြစ်၏။(ဒ.တ)

တမန်တော်မြတ်ﷺ၏လှုပ်ရှားဆောင်ရွက်မှုများအားလုံး၏အကြောင်းခံထောက်ရှုမှုများကို အပြည့်အစုံဖော် ပြရလျှင် အလွန်ရှည်လျားတော့မည်ဖြစ်သည်။ သို့ဖြစ်ရာ ယခုကြားသိရသမျှဖြင့် မကြားသိရသေးသောကျန်လှုပ်ရှား ဆောင်ရွက်မှုများအပေါ် ချိန်ထိုးနားလည်ပါလေ။ ပညာရှင်တစ်ဦးသည် တရားတော်တစ်ခုလုံး၏အတွင်းကြောင်းအ နက်သဘောကို မသိကျွမ်းသေးသမျှ ၎င်းသည် တမန်တော်မြတ်ﷺ၏အမွေခံပုဂ္ဂိုလ်ဖြစ်မလာသေးပေ။ သိကျွမ်းပြီ ဆိုလျှင်လည်း ၎င်းနှင့်တမန်တော်မြတ်ﷺ၏အကြားတွင် အဆင့်တစ်ခုသာ ကွာခြားတော့မည်ဖြစ်သည်။ ထိုအဆင့် မှာ နဗူဝပ်၏အဆင့်ဖြစ်သည်။ ယင်းသည် အမွေရှင်နှင့်အမွေခံကို ခွဲခြားပေးသည့်အဆင့်ဖြစ်သည်။

အမွေရှင်ဆိုသည်မှာ အမွေပစ္စည်းကို လက်ဝယ်ပိုင်ဆိုင်သူဖြစ်သည်။ ၎င်းသည် ထိုပစ္စည်းကို ရှာဖွေရယူခဲ့ရ သူဖြစ်ပြီး ထိုပစ္စည်းအပေါ် စီမံခန့်ခွဲရန်အခွင့်အာဏာရှိသူဖြစ်သည်။ အမွေခံဆိုသည်မှာ ထိုပစ္စည်းကို ရှာဖွေခဲ့ရခြင်း လည်း မရှိ၊ ထိုပစ္စည်းအပေါ် စီမံခန့်ခွဲရန်လည်း အခွင့်အာဏာမရှိသူဖြစ်သည်။ စင်စစ်တွင် ပစ္စည်းရှင်ထံမှ ပစ္စည်း က သူ့ထံသို့ ကူးပြောင်းရောက်ရှိလာခြင်းသာဖြစ်သည်။ ယခင်က အမွေရှင် ပိုင်ဆိုင်ခဲ့သည့်ပစ္စည်းကို ယခုသူက ပိုင် ဆိုင်ရခြင်းမျှဖြစ်သည်။ အထက်တွင်ဆိုခဲ့သည့်အနက်သဘောမျိုးသည် အခြားနက်ရှိုင်းသောအတွင်းသဘောများနှင့် နှိုင်းစာလျှင် အလွန်လွယ်ကူသောကိစ္စဖြစ်သည်။ ထိုနက်ရှိုင်းသောအတွင်းသဘောများကိုကား မူလပထမက နဗီ တမန်တော်များမှလွဲ၍ မည်သူမျှသိခဲ့ကြသည်မဟုတ်ချေ။ နဗီတမန်တော်များက အသိပေးခဲ့သည့်နောက်မှာလည်း ထိုအတွင်းသဘောတို့ကို ဓမ္မပညာရှင်များမှလွဲ၍ မည်သူမျှ စေ့ငုနိုင်ကြသည်မဟုတ်ချေ။ ထိုသို့စေ့ငုနိုင်သူများသည် သာ နဗီတမန်တော်တို့၏အမွေစားအမွေခံများဖြစ်ကြပေသည်။

**ဆဋ္ဌမနှင့်သတ္တမအစိတ်အပိုင်းသည်** ချက်ကြိုးနှင့် လိင်တံထိပ်ဖုံးအရေပြားဖြစ်သည်။ ချက်ကြိုးမှာ မွေးစဉ်ကပင် ဖြတ်တောက်ခဲ့ပြီးဖြစ်သည်။ အရေပြားလှီးဖြတ် သန့်ရှင်းမှုကို ရဟူဒီတို့က ကလေးမွေးပြီးနောက် ခုနစ်ရက်မြောက် သောနေ့တွင် ပြုလုပ်သည့် အလေ့အထရှိကြသည်။ ၎င်းတို့၏အလေ့အထနှင့် ဆန့်ကျင်လျက် ကလေးသွားပေါက် သည့်အရွယ်အထိ နောက်ဆိုင်းထားခြင်းသည် နှစ်သက်စရာဖြစ်ပြီး စိုးရိမ်ပူပန်ရမှုမှလည်း ဝေးကွာစေသည်။ တမန် တော်မြတ်ﷺမိန့်ဆိုခဲ့သည်မှာ– (ا.سنى) الختان سنة للرجال ومكرمة للنساء .

'ခတ္တနာလှီးဖြတ်ခြင်းသည် အမျိုးသားများအတွက် စွန္နတ်ဖြစ်သည်။ အမျိုးသမီးများအတွက် အိန္ဒြေ သိက္ခာရှိမှုဖြစ်သည်။'

အမျိုးသမီးများကို ခတ္တနာလှီးဖြတ်ရာ၌ လွန်ကဲရန်မသင့်ချေ။ ဆွဟာဗီသခင်မအွမ္မေအတွိယာ رضي الله عنهاသည် အမျိုးသမီး များကို ခတ္တနာဖြတ်ပေးလေ့ရှိခဲ့သည်။ တမန်တော်မြတ်ﷺက ၎င်းအား မိန့်ဆိုခဲ့သည်မှာ–

يا ام عطية أشمى ولا تنهكى فانه اسرى للوجه واحظي عند الزوج . (د.مس.سنى)

'**အိုအမွှေးအတွဲ့ယာ၊** အနံ့လောက်သာဖြစ်ပါစေ။ များစွာလှီးဖြတ်ခြင်းမပြုနှင့်။ အနည်းငယ်လှီးဖြတ်ခြင်း **က မျက်နှာကို** အရည်ရွှမ်းစေသည်။ လင်ယောကျ်ားကို သာယာမှုရစေသည်။'

**တမန်တော်မြတ်**ﷺ၏ဥပါယ်တံမျဉ် စကားလုံးသုံးနှုံးပုံကို ကြည့်ပါ။ 'အနံ့လောက်'ဟု သုံးနှုံးပြီး အနည်းငယ်သာ **လှီးဖြတ်ရန်ရည်ညွှန်းသည်။** 'အရည်ရွှန်းစေသည်'ဟု သုံးနှုံးပြီး မျက်နှာလန်းဆန်းစိမ်းစိုမှုနှင့်သွေးသားကောင်းမွန်မှု ကို **ရည်ညွှန်းသည်။** ထို့ပြင် ပေါင်းသင်းသည့်အခါ ဖေါ်ဋ္ဌဇွာရှုံ့ရှိမှုကိုပါ ပါဝင်အောင်မိန့်ဆိုခဲ့သည်။

တမန်တော်မြတ်ﷺသည် နဗုဝပ်၏နူရ်အလင်းရောင်ဖြင့် လောကီရေးအကျိုးရှိမှုကို ဤမျှအရေးထားခဲ့သည် ဆိုလျှင်၊ အာခိရတ်ရေးအကျိုးရှိမှုအပေါ် မည်မျှအရေးထားမည်ကို စဉ်းစားကြည့်နိုင်သည်။ အာခိရတ်ရေးအကျိုးရှိမှု သည် နဗုဝပ်၏အဓိကပန်းတိုင်ဖြစ်သည်။ တမန်တော်မြတ်ﷺသည် စာမတတ်သူဖြစ်သည်။ သို့ဖြစ်ပါလျက် တမန် တော်မြတ်ﷺထံတွင် လောကီရေးအကျိုးရှိမှုများလည်း ကျရောက်အသိပွင့်ပေါ်ခဲ့သည်။ အကယ်၍သာ တမန်တော် မြတ်ﷺသည် ထိုလောကီရေးအကျိုးရှိမှုများကို မေ့လျော့ထားခဲ့မည်ဆိုပါလျှင် ဘေးဒုက္ခရောက်ကြဖို့ပင်ရှိလေသည်။

*အလ္လာဟ်အရှင်မြတ်သည် ပြစ်ဆာအပေါင်းမှ ကင်းရှင်းသန့်ပြန့်တော်မူပါသည်။ ထိုအရှင်သည် တမန်တော် မြတ်ﷺအား လောကအပေါင်းအတွက် သနားဂရုဏာတော်အဖြစ် စေလွှတ်တော်မူခဲ့ပါသည်။ ထို့တွင် တမန်တော် မြတ်ﷺအား စေတော်မူခဲ့သည့် ဘရကတ်ဖြင့် လောကီအကျိုးနှင့် အာခိရတ်အကျိုးများ စုဆောင်းရယူကြရန်ဖြစ်ပါ သတည်း။*

**အဋ္ဌမအစိတ်အပိုင်း**သည် မုတ်ဆိတ်၏ရှည်လျားမှုဖြစ်သည်။ မုတ်ဆိတ်နှင့်သက်ဆိုင်ရာစွန္နတ်များငှင်း၊ မုတ်ဆိတ် နှင့်သက်ဆိုင်ရာ ဗိဒအတ်များကို ကျွန်ုပ်တို့ နောက်ဆုံးမှ ဖေါ်ပြရခြင်းသည် ဤနေရာက အသင့်တော်ဆုံးဖြစ်သော ကြောင့်ဖြစ်သည်။ မုတ်ဆိတ်ရှည်လျားပါက မည်သို့ပြုရမည်ဆိုသည်နှင့်ပတ်သက်၍ အကွဲအလွဲရှိကြသည်။ အချို့ က 'မုတ်ဆိတ်ကို လက်တစ်ဆုပ်ထားပြီး ပိုသောအပိုင်းကို ဖြတ်ပစ်ခြင်း ကိစ္စမရှိပါ'ဟု ဆိုသည်။ အိဗ်နေ့အိုမရ်ﷺ သခင်နှင့် တာဘိအီသခင်အုပ်စုတစ်ခုက ဤအတိုင်းကျင့်သုံးခဲ့ကြသည်။ ရှအ်ဘီ^သခင်နှင့် အိဗ်နေ့စီရီန်^သခင်တို့ က ဤကျင့်သုံးမှုကို ကောင်းမွန်သောအကျင့်ဟု လက်ခံခဲ့ကြသည်။ သို့သော် ဟစံဘစ္စရီ^သခင်နှင့်ကတာဒါ^သခင် တို့က ဤကျင့်သုံးမှုကို မနှစ်သက်ခဲ့ကြပါ။ ထိုသခင်နှစ်ပါးက 'မုတ်ဆိတ်ကို အရှည်အတိုင်းထားခြင်းသည် မွှစ်တ ဟဗ်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺက–

واعفوا اللحى . (١)

'မုတ်ဆိတ်မွေးများကို အရှည်ထားကြကုန်'ဟု မိန့်ဆိုသွားသောကြောင့်ဖြစ်သည်'

ဟု ရှင်းပြခဲ့ကြသည်။ ဤကိစ္စနှင့်ပတ်သက်၍ မှန်ကန်သောအချက်မှာ မုတ်ဆိတ်၏လက်တစ်ဆုပ်ထက် ပိုသောအ ပိုင်းကို ဖြတ်ညှပ်ခြင်းနှင့် ဘေးဘက်ကို ဝိုင်းအောင်ပြုခြင်းများသည် ထိခိုက်မှုမရှိပါ။ အဘယ်ကြောင့်ဆိုသော် မုတ် ဆိတ်ကို အလွန်ရှည်လျားစွာထားခြင်းသည် ရုပ်ဆင်းပျက်စေသည်။ အတင်းအဖျင်းပြောတတ်သူများအတွက်လည်း ခံတွင်းတွေ့စရာဖြစ်စေသည်။ သို့ဖြစ်ရာ ဤနှစ်ချက်မှ ရှောင်ရှားသောရည်ရွယ်ချက်ဖြင့် လက်တစ်ဆုပ်ထက် ပိုသော မုတ်ဆိတ်ကို ဖြတ်ညှပ်ခြင်း ကိစ္စမရှိပါ။ နခအီ^သခင်က 'ကျွန်ုပ်သည် မုတ်ဆိတ်ကို ရှည်လျားစွာထားသော အသိ ဉာဏ်ရှင်အပေါ် အံ့ဩမိသည်။ ၎င်းသည် မုတ်ဆိတ်ကို အဘယ်ကြောင့် လက်တစ်ဆုပ်သာမထားသနည်း။ ထို့ပြင် အဘယ်ကြောင့် ချက်အောက်မွေးအထိ ရှည်လျားစေသနည်း။ အရာအားလုံးတွင် အဘယ်အလတ်ကသာ ကောင်း သည်။ ထို့ကြောင့်ပင် 'မုတ်ဆိတ်ရှည်လျားသောအခါ အသိဉာဏ် ထွက်သွားသည်'ဟု ပြောဆိုကြခြင်းဖြစ်သည်။'

## မုတ်ဆိတ်နှင့်သက်ဆိုင်ရာ
## ကဏ္ဍငယ်

မုတ်ဆိတ်နှင့်သက်ဆိုင်ရာ အကျင့် ဆယ်ခုသည် မက္ကရူ ခေါ် မနှစ်သက်ဖွယ်ဖြစ်သည်။ ထိုအထဲမှ အချို့၏ မနှစ်သက်ဖွယ်ဖြစ်မှုသည် အချို့ထက် ပိုပြင်းထန်သည်။ ယင်းတို့မှာ မုတ်ဆိတ်ကို အနက်ဆိုးခြင်း၊ သို့မဟုတ် ကန့်ဖြင့် ဖြူအောင်လုပ်ခြင်း၊ မုတ်ဆိတ်ကို နုတ်ခြင်း၊ မုတ်ဆိတ်အဖြူကို နုတ်ခြင်း၊ မုတ်ဆိတ်ကို ထိခိုက်လျော့နည်းအောင် လုပ်ခြင်း၊ သို့မဟုတ် လွန်စွာများပြားအောင်ထားခြင်း၊ မုတ်ဆိတ်ကို လူတို့ထံတွင် ပြစားသည့်အနေဖြင့် ဖြီးသခြင်း၊ သို့မဟုတ် လူတို့က လောကီစွန့်သူဟု ထင်စေရန် မဖြီးဘဲ ဗရပွထားခြင်း၊ သို့မဟုတ် မုတ်ဆိတ်အနက်ကို ပျိုရွယ်မှုအဖြစ် သတ်မှတ်ရွေးချယ်ခြင်း၊ မုတ်ဆိတ်အဖြူကို အသက်အရွယ်ကြီးရင့်မှုအဖြစ် သတ်မှတ်ရှောင်ရှားခြင်း၊ မုတ်ဆိတ်ကို သူတော်ကောင်းများနှင့် တူဆင်မှုရှိရန် ရည်ရွယ်ချက်ဖြင့် မဟုတ်ဘဲ အနီရောင်၊ အဝါရောင်ဆိုးခြင်းများဖြစ်သည်။

**ပထမအကျင့်– မုတ်ဆိတ်ကို အနက်ဆိုးခြင်း မက္ကရူဖြစ်**သည်။ ထိုသို့ အနက်ဆိုးခြင်းကို ရှရီအတ်က တားမြစ်ထားသည်။ တမန်တော်မြတ်ﷺက–

خير شبابكم بشيوخكم من تشبه وشر بشيوخكم من تشبه بشبابكم . (ط)

'အသင်တို့၏ ပျိုရွယ်သူများတွင် အကောင်းဆုံးသူသည် အသင်တို့အထဲမှ သက်ကြီးပုဂ္ဂိုလ်များနှင့် တူဆင်အောင်ပြုသူဖြစ်သည်။ တဖန် အသင်တို့၏သက်ကြီးပုဂ္ဂိုလ်များတွင် အဆိုးဆုံးသူသည် အသင်တို့အထဲမှ ပျိုရွယ်သူများနှင့် တူဆင်အောင်ပြုသူဖြစ်သည်'ဟု မိန့်ဆိုထားသည်။

ဟဒီစ်တွင် 'သက်ကြီးပုဂ္ဂိုလ်များနှင့် တူဆင်အောင်ပြုသည်'ဆိုသောအလိုသဘောသည် အိန္ဒြေသိက္ခာကို ဆိုလိုခြင်းဖြစ်သည်။ ဆံပင်ဖြူအောင်လုပ်သည်ကို ဆိုလိုခြင်းမဟုတ်ပေ။ ထို့ပြင် တမန်တော်မြတ်ﷺက မုတ်ဆိတ်ကို အနက်ဆိုးခြင်းမပြုရန် တားမြစ်ခဲ့သည်။ ထို့ပြင် တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الخضاب بالسو اد خضاب أهل النار . (ط.مس)

'အနက်ရောင် ဆိုးခြင်းသည် ငရဲသားတို့၏ ဆေးဆိုးခြင်းဖြစ်သည်။'

ထို့ပြင် အခြားဆင့်ပြန်မှုတစ်ခုတွင် တမန်တော်မြတ်ﷺမိန့်ဆိုထားသည်မှာ–

الخضاب بالسو اد خضاب الكفار . (ط.مس)

'အနက်ရောင် ဆိုးခြင်းသည် ကာဖိရ်တို့၏ ဆေးဆိုးခြင်းဖြစ်သည်။'

အိုမရ်ﷺသခင်၏ ခေတ်တွင် လူတစ်ယောက်က အမျိုးသမီးတစ်ဦးကို နိကဟ်ပြုခဲ့သည်။ ထိုသူသည် အနက်ရောင်ဆိုးထားခဲ့သည်။ ရက်အနည်းငယ်ကြာသောအခါ မုတ်ဆိတ်၏ အရင်းပိုင်းသည် ဖြူလာပြီး သူ၏ အသက်ကြီးမှုသည် ပေါ်သွားခဲ့သည်။ အမျိုးသမီး၏ ဆွေမျိုးများက ဤကိစ္စကို အိုမရ်ﷺသခင့်ထံ တင်ပြတိုင်ကြားခဲ့ကြသည်။ အိုမရ်ﷺသခင်က ထိုသူ၏ နိကဟ်ကို ဖျက်သိမ်းခဲ့သည်။ ထို့ပြင် ထိုသူ့ကို ရိုက်နက်ဆုံးမခဲ့သည်။ အိုမရ်ﷺသခင်က ထိုသူ့အား 'အသင်သည် ထိုသူတို့ကို နုပျိုမှုဖြင့် လှည့်စားဖြားယောင်းခဲ့သည်။ မိမိ၏ အိုစာမှုကို ဖုံးကွယ်ထားခဲ့သည်'ဟု ပြောဆိုခဲ့လေသည်။

အလ္လာဟ်အရှင် လအ်နတ်ပြုခံရသူ ဖိရ်အောင်သည် ပထမဆုံး အနက်ရောင်ဆိုးခဲ့သူဖြစ်သည်ဟု အဆိုရှိ၏။ အိဗ်နေ့အိုမရ်ﷺသခင်က တမန်တော်မြတ်ﷺ၏ မိန့်ဆိုမှုကို ဆင့်ပြန်သည်မှာ–

يكون في آخر الزمان قوم يخضبون بالسو اد كحو اصل الحمام لا يريحون ر ائحة الجنة . (د.س)

F.53.A

'နောက်ဆုံးခေတ်များတွင် လူတို့သည် ကြက်တူရွေး၏စလုက်များလို အနက်ရောင်ဆိုးကြလိမ့်မည်။ ထိုသူတို့သည် ဂျန္နတ်၏အနံ့ကိုပင် ရှူရှိုက်ရမည့်သူများ မဟုတ်ပေ။'

**ဒုတိယအကျင့်** – ကာဖိရ်များနှင့်ဂျိဟာဒ်စစ်ပြိုင်နေရချိန်တွင် အသက်ကြီးရင့်မှုကို ဖုံးကွယ်ရန် မုတ်ဆိတ်ကို အဝါရောင်နှင့်အနီရောင် ဆိုးခြင်းများ ပိုင်သည်။ ဤရည်ရွယ်ချက်ဖြင့် မဟုတ်ဘဲ မိမိကိုယ်ကို ဘာသာရေးသမားများနှင့် ဆင်တူရိုးမှားဖြစ်ရန်ဆိုလျှင် မကောင်းချေ။ တမန်တော်မြတ်ﷺမိန့်ဆိုသည်မှာ–

الصفرة خضاب المسلمين و الحمرة خضاب المؤمنين . (ط.س)

'အဝါရောင်သည် မွတ်စလင်မ်တို့၏အရောင်ဆိုးခြင်းဖြစ်သည်။ အနီရောင်သည် အီမာန်ရှင်တို့၏အရောင်ဆိုးခြင်းဖြစ်သည်။'

ရှေးခေတ်က အနီရောင်ထွက်ရန် ဒန်းရွက်ဖြင့်၎င်း၊ အဝါရောင်ထွက်ရန် ဇာဖရန်ဖြင့်၎င်း၊ ကတမ်မြက်ဖြင့်၎င်း ဆိုးလေ့ရှိကြသည်။ အချို့ပညာရှင်များက ဂျိဟာဒ်အတွက် အနက်ရောင်ဆိုးလေ့ရှိကြရာ၊ ဤသို့ဆိုးခြင်းသည် စိတ်ဆန္ဒစိတ်အကြိုက်လုပ်မှုမဟုတ်ဘဲ မှန်ကန်သောရည်ရွယ်ချက်ဖြင့်ဆိုလျှင် ထိခိုက်မှုမရှိ'ဟု ဆိုကြသည်။

**တတိယအကျင့်** – မိမိအား စောစီးစွာ အသက်အရွယ်ကြီးရင့်သည်ဟု ထင်မှတ်ပြီး လူတို့က ဂုဏ်ပေးလေးစားရန် မုတ်ဆိတ်ကို ကန့်ဖြင့် ဖြူအောင်လုပ်ခြင်း မက္ကရူဖြစ်သည်။ ဤသို့လုပ်ခြင်းသည် မိမိ၏သက်သေခံချက်ကို လက်ခံကြရန်၎င်း၊ ဆရာသမားအကြီးအကဲများထံမှ မိမိ၏ဆင့်ပြန်ချက်များကို အမှန်ဖြစ်သည်ဟု လက်ခံကြရန်၎င်း၊ ငယ်ရွယ်သူတို့ကို အထက်စီးမှဆက်ဆံနိုင်ရန်၎င်း၊ အလွန်ပညာရှိသည်ဟု ထင်မှတ်ရန်ရည်ရွယ်ချက်များဖြင့်ဖြစ်သည်။ စင်စစ် အသက်အရွယ်ကြီးရင့်ခြင်းကြောင့် ပညာဉာဏ်ကြီးရင့်ရမည်ဆိုသောယုတ္တိသည် မှန်ကန်ခြင်းမရှိပေ။ ထိုသို့ဆိုလျှင် အသိပညာမရှိသူတစ်ဦး အသက်ကြီးလာသည့်အခါ အသိပညာမဲ့မှုသာ ကြီးထွားလာပေတော့မည်။ အသိပညာသည် အသိဉာဏ်မှ ပေါ်ထွက်လာသည့်အသီးအပွင့်ဖြစ်သည်။ ထိုအသိဉာဏ်သည် ဗီဇပေါ်ကိုယ်ရည်ကိုယ်သွေးတစ်ခုဖြစ်ပြီး အသက်အရွယ်ကြီးရင့်မှုက ယင်းဗီဇကို ပြုပြင်ချယ်လှယ်နိုင်ခြင်းမရှိချေ။ အကြင်သူ၏ဗီဇသတ္တိသည် မိုက်မဲမှုဖြစ်ခဲ့လျှင် အချိန်ကြာရှည်သည်နှင့်အမျှ သူ၏မိုက်မဲမှုကလည်း တိုးပွါးလာမည်သာဖြစ်သည်။ အကြီးအကဲတို့၏အလေ့အထမှာ ပညာနှင့်ပတ်သက်လျှင် ငယ်ရွယ်သူတို့ကို ဦးစားပေး ရှေ့တန်းတင်တတ်ကြခြင်းဖြစ်သည်။

အိုမရ်ﷺသခင်သည် ဆွဟာဗဟ်အကြီးများထံမှာ မေးမြန်းခြင်းမပြုဘဲ အသက်ငယ်ရွယ်သူ အီဗ်နေ့အဗ္ဗာစ်သခင့်ﷺထံမှ မေးမြန်းလေ့ရှိခဲ့သည်။ အီဗ်နေ့အဗ္ဗာစ်ﷺသခင် မိန့်ဆိုလေ့ရှိသည်မှာ 'အလ္လာဟ်အရှင်သည် လူသားကို ပျိုရွယ်စဉ်မှာ ပညာပေးတော်မူသည်။ ကောင်းခြင်းအားလုံးသည် ပျိုရွယ်စဉ်မှာသာဖြစ်သည်။' ဤသို့မိန့်ဆိုပြီးနောက် သခင်သည် အောက်ပါအာယတ်များကို ဖတ်ရွတ်ပြခဲ့သည်။

အလ္လာဟ်အရှင် မိန့်ကြားသည်မှာ–﴿قَالُوا سَمِعْنَا فَتًى يَذْكُرُهُمْ يُقَالُ لَهُ إِبْرَاهِيمُ﴾

**'အီဗ်ရာဟီမ်ဟု ခေါ်သည့် လူငယ်တစ်ဦးက (ကျွန်ုပ်တို့၏ ကိုးကွယ်ရာအရှင်များအား ပြစ်တင်)ပြောဆိုနေသည်ကို ကျွန်ုပ်တို့ ကြားခဲ့ရပါသည်'ဟု ၎င်းတို့က ပြောခဲ့ကြသည်။'** (စူရာအန်ဘိယာ၊၆၀)

ထို့ပြင် မိန့်ကြားတော်မူသည်မှာ– ﴿إِنَّهُمْ فِتْيَةٌ آمَنُوا بِرَبِّهِمْ وَزِدْنَاهُمْ هُدًى﴾

**'ထိုသူတို့သည်ကား မိမိတို့၏ရဗ်အရှင်ကို အီမာန်သက်ဝင်ခဲ့ကြသော လူငယ်များပင်တည်း။ သို့ဖြစ်ရာ ငါအရှင်သည် ၎င်းတို့အား တရားလမ်းမှန်ကို တိုးပွါးများပြားစေတော်မူခဲ့၏။'** (စူရာကဟ်ဖ်၊၁၃)

အလ္လာဟ်အရှင် မိန့်ကြားတော်မူသည်မှာ– ﴿وَآتَيْنَاهُ الْحُكْمَ صَبِيًّا﴾

**'ထို့ပြင် ငါအရှင်သည် ၎င်း(တမန်တော်ယဟ်ယာ)ကို ကလေးဘဝကပင် ဉာဏ်အမျှော်အမြင်ကို ချီးမြှင့်တော်မူခဲ့၏။'** (စူရာမရ်ယမ်၊၁၂)

အနပ်စ်ؓသခင်က 'တမန်တော်မြတ်ﷺသည် ဆံပင်နှင့်မုတ်ဆိတ်တွင် ဆံဖြူအချောင်းနှစ်ဆယ်ပြည့်အောင် မထွက်ပေါ်သေးမီ ဝဖါတ်ဖြစ်ကွယ်လွန်တော်မူခဲ့သည်'ဟု ပြောဆိုလေ့ရှိခဲ့၏။ ထိုအခါ လူတို့က 'အို အဗူဟမ်ဇာ၊ တမန်တော်မြတ်ﷺသည် ကောင်းစွာ အသက်အရွယ်ရပြီးမှ ကွယ်လွန်ခဲ့ခြင်းမဟုတ်ပါသလော'ဟု မေးခဲ့ကြသည်။ ထိုအခါ အနပ်စ်ؓသခင်က 'အလ္လာဟ်အရှင်က ကိုယ်တော့်အား အသက်ကြီးရင့်မှု၏မကောင်းခြင်းမှ ထိန်းထိမ်းတော်မူခဲ့သည်ကို ငါ ဆိုခြင်းဖြစ်သည်'ဟု ပြောဆိုခဲ့သည်။ ထိုအခါ လူတို့က 'အသက်ကြီးရင့်ခြင်းသည် မကောင်းသောအရာဖြစ်သလော'ဟု မေးမြန်းခဲ့ကြသည်။ ထိုအခါ အနပ်စ်ؓသခင်က 'အသင်တို့အားလုံး ထိုအဖြစ်ကို မနှစ်သက်ကြပါ'ဟု ပြောဆိုခဲ့သည်။

**အဆိုရှိသည်မှာ ယဟ်ယာအိဗ်နေ့အပ်ကဲစမ်**ؒကို တရားသူကြီးတာဝန်ပေးအပ်သောအခါ ၎င်းသည် အသက်နှစ်ဆယ့်**တစ်နှစ်သာ ရှိသေးသည်။ ထိုအခါ လူတစ်ယောက်က** မိတ်ဆွေများအကြား၌ ယဟ်ယာအိဗ်နေ့အပ်ကဲစမ်ؒအား **အသက်ငယ်ရွယ်မှုအပေါ် အရှက်ရစေရန်** 'အလ္လာဟ်အရှင် ချမ်းမြေ့စွာထားပါစေ၊ တရားသူကြီးမင်း၏အသက် ဘယ်လောက်ရှိပါပြီလဲ'ဟု **မေးမြန်းခဲ့သည်။ ထိုအခါ ယဟ်ယာအိဗ်နေ့အပ်ကဲစမ်က**–

'**တမန်တော်မြတ်ﷺက အိတာဗ်အိဗ်နေ့အပ်စ်ယာဒ်ؓသခင်အား မက္ကာမြို့တော်အုပ်ချုပ်ရေးမှူးနှင့်ကာဇီအဖြစ် ခန့်အပ်ခဲ့သောအချိန်တွင် ရှိခဲ့သည့်အသက်အရွယ်သည် ကျွန်ုပ်၏အသက်အရွယ်ပင်ဖြစ်သည်**'ဟု ဖြေလိုက်ရာ မေးသူသည် ပါးစပ်ပိတ်သွားခဲ့သည်။*

အိမာမ်မာလိက်ؒသခင်က '**စာအုပ်အချို့တွင် ကျွန်ုပ်ဖတ်ရှုရသည်မှာ** 'မုတ်ဆိတ်၏လှည့်စားခြင်းကို မခံနှင့်။ အဘယ်ကြောင့်ဆိုသော် ဆိတ်ဖတွင်လည်း **မုတ်ဆိတ်ရှိသည်**'ဟု ဆိုမိန့်လေသည်။ အဗူအမရ်အိဗ်နေ့အိုလာؒကမူ 'အရပ်ရှည်ရှည်၊ ဦးခေါင်းသေးသေး၊ မုတ်ဆိတ်ကားကားနှင့် လူတစ်ယောက်ကို မြင်ရလျှင် အိုမိုင်ယာအိဗ်နေ့အဗ်ဒ်ရှိရှမ်စ်ကဲ့သို့ ဂုဏ်ရှိသူပင်ဖြစ်လင့်ကစား ၎င်းသည် ဉာဏ်တုံးဖြစ်သည်ဟု မှတ်ယူလိုက်ပေတော့'ဟု ပြောဆိုခဲ့သည်။ တဖန် အိုင်ယူဗ်စဂျစ်တ်ယာနီؒသခင်က '**ကျွန်ုပ်သည် အသက်ရှစ်ဆယ်အရွယ်အဖိုးအိုတစ်ယောက်က ကလေးငယ်တစ်ယောက်၏နောက်သို့ တစ်ကောက်ကောက်လိုက်ပြီး** ပညာသင်ယူနေသည်ကို တွေ့ခဲ့ရဖူးသည်'ဟု ပြောပြလေသည်။ အလီအိဗ်နေ့ဟုစိုင်န်ကလည်း 'အသင့်ထက် အရင်ဦးစွာ ပညာသင်ယူတတ်မြောက်ခဲ့သူသည် အသင့်ထက် အသက်ငယ်**သူဖြစ်သော်**လည်း အသင်၏အိမာမ်ရှေ့ဆောင်ဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။ အဗူအမရ်အိဗ်နေ့အိုလာؒအား တစ်စုံတစ်ဦးက 'အသက်ကြီးသူတစ်ဦးက အသက်ငယ်ရွယ်သူတစ်ဦးထံမှ ပညာသင်ယူခြင်းသည် ကောင်းပါသလား'ဟု မေးမြန်းရာ သခင်က 'အကယ်၍ ထိုသူသည် ပညာမဲ့ခြင်းကို မကောင်းသောအရာဟု သိထားလျှင် သူအဖို့ ကလေးငယ်ဆီက ပညာသင်ယူရခြင်းသည် ကောင်းမွန်သောကိစ္စဖြစ်ရမည်သာ'ဟု ပြောဆိုခဲ့သည်။ တစ်ကြိမ်တွင် အိမာမ်အဟ်မဒ်အိဗ်နေ့ဟန်ဘလ်ؒသခင်အား အိမာမ်ရှာဖအီؒသခင် စီးနင်းသော လားနောက်မှ ခြေလျင်လိုက်နေသည်ကို မြင်သဖြင့် ယဟ်ယာအိဗ်နေ့မုအီန်က 'အို အဗူအဗ်ဒ္ဒလ္လာဟ်၊ ဆွဖ်ယန်ဆော်ရ်ရီؒသခင့်ထံမှ အဆင့်မြင့်ဟဒီစ်ကို စွန့်ခဲ့ပြီး ဒီလူငယ်လေးရဲ့လားနောက် ကောက်ကောက်လိုက်ရင်း ဟဒီစ် နားထောင်နေတော့မှာလား'ဟု မေးမြန်းခဲ့သည်။ ထိုအခါ အိမာမ်အဟ်မဒ်ؒသခင်က

'ဆွဖ်ယန်ဆော်ရ်ရီؒသခင်၏အဆင့်မြင့်မှုကြောင့် ကျွန်ုပ်သူ့ထံမှ ပညာ မရရှိခဲ့ပါ။ အဆင့်နိမ့်သို့ ဆင်းသောအခါမှ ရရှိခဲ့ပါသည်။ ဤလူငယ်လေး၏ဉာဏ်ပညာမှာမူ အကယ်၍ သူ့ထံက ကျွန်ုပ်ပညာ မရခဲ့လျှင်၊ အဆင့်မြင့် အဆင့်နိမ့်ဘယ်ကမှ ရတော့မည်မဟုတ်ပါ။ ဤအချက်ကို အသင်သိလျှင် မုချအသင်သည် သူစီးနင်းသော လား၏အခြားတစ်ဘက်မှ လိုက်ပါနေမည်ဖြစ်သည်'ဟု ပြောဆိုခဲ့သည်။

---

* တမန်တော်မြတ်ﷺက အိတာဗ်အိဗ်နေ့အပ်စ်ယာဒ်ؓသခင်အား မက္ကာမြို့တော်အုပ်ချုပ်ရေးမှူးနှင့်ကာဇီအဖြစ်ခန့်အပ်ခဲ့သောအချိန်တွင် အသက်နှစ်ဆယ်သာရှိခဲ့ကြောင်း ခတ္တီဘ်ؒက ဘဂ္ဂဒက်သမိုင်းတွင် ဖော်ပြခဲ့သည်။ – ဘာသာပြန်သူ။

**တေ့ဟ္ဂအကျင့်**– အသက်ကြီးရင့်မှုကို မကြိုက်သဖြင့် မုတ်ဆိတ်အဖြူများကို နှုတ်ပစ်ခြင်းဖြစ်သည်။ ဟဒီစ်တွင်–

وقد نهى عليه السلام عن نتف الشيب وقال هو نور المؤمن . (ဒ.ဗ.ဇ.ဖ.)

**'တမန်တော်မြတ်ﷺ**သည် မုတ်ဆိတ်အဖြူနှုတ်ခြင်းမှ တားမြစ်ခဲ့သည်။ မုတ်ဆိတ်အဖြူသည် အီမာန်**ရှင်၏**နူရ်အလင်းရောင်ဖြစ်သည်။'

**မုတ်ဆိတ်အဖြူ**ကို နှုတ်ပစ်ခြင်းသည် မုတ်ဆိတ်ကို အနက်ဆိုးသည့်ပညတ်ချက်တွင် အကျုံးဝင်သည်။ ထိုလုပ်ရပ်၏**မနှစ်သက်ဖွယ်**ဖြစ်ခြင်းအကြောင်း ရှေ့ပိုင်းတွင် ရှင်းပြခဲ့ပြီးပြီ။ မုတ်ဆိတ်အဖြူသည် အလ္လာဟ်အရှင်၏နူရ်အလင်း**ရောင်ဖြစ်**သည်။ သို့ဖြစ်ရာ မုတ်ဆိတ်အဖြူကို ပစ်ပယ်ခြင်းသည် နူရ်ကို ပစ်ပယ်ခြင်းဖြစ်သည်။

**ဟ္ဂမအကျင့်** – စိတ်အလို စိတ်အကြိုက်လိုက်သည့်အနေဖြင့် မုတ်ဆိတ်အားလုံးကိုဖြစ်စေ တချို့တစ်ဝက်ကိုဖြစ်စေ**နှုတ်ပစ်**ခြင်းဖြစ်သည်။ ထိုသို့နှုတ်ခြင်းသည် မက္ကရူဖြစ်သည်။ ထို့ပြင် ယင်းသည် ရုပ်ပျက်ဆင်းပျက်ပြုမှုဖြစ်သည်။ **ဤနည်း**အလားတူ ပါးမြိုင်းမွေးနှစ်ဘက်ကို နှုတ်ပစ်ခြင်းသည် ဗိဒအတ်ဖြစ်သည်။ လူတစ်ယောက်သည် ပါးမြိုင်း**မွေးနှုတ်**ပြီး အိုမရ်အီဗ်နေ့အဗ်ဒုလ်အဇီဇ်ﷺသခင့်ထံ ရောက်လာရာ သခင်က ၎င်း၏သက်သေခံချက်ကို လက်မခံခဲ့**ချေ။** အိုမရ်ﷺသခင်နှင့် မဒီနာမြို့၏ခုံမင်းဖြစ်သူ အီဗ်နေ့အဗီလိုင်လာတို့သည်လည်း မုတ်ဆိတ်မွေးနှုတ်သူ၏သက်သေခံချက်ကို လက်မခံခဲ့ကြပေ။ ပျို့ရွယ်သူ၏အသွင်ဆောင်ရန် မုတ်ဆိတ်ကို စထွက်ကတည်းက နှုတ်ပစ်ခြင်းသည်**အလွန်ကြီး**လေးသောမကောင်းမှုဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မုတ်ဆိတ်သည် အမျိုးသားများ၏တင့်တယ်မှု**ဖြစ်**သည်။ အလ္လာဟ်အရှင်နှင့် ကောင်းကင်တမန်များက 'အကြင်အရှင်၏ကစမ်၊ ထိုအရှင်သည် အာဒမ်၏သားမြေး**များ**ကို မုတ်ဆိတ်ဖြင့် တင့်တယ်မှုပြုတော်မူသည်'ဟု ကစမ်ကျိမ်ဆိုခဲ့ကြသည်။

မုတ်ဆိတ်သည် အဖန်ဆင်းခံများ၏ကိုယ်အင်္ဂါစုံလင်မှုဖြစ်သည်။ ထိုမုတ်ဆိတ်ဖြင့် ယောကျ်ားနှင့်မိန်းမ ခွဲရသည်။ အလ္လာဟ်အရှင်မြတ်၏– ﴿يَزِيْدُ فِي الْخَلْقِ مَا يَشَاءُ﴾

**'ထိုအရှင်သည် ဖန်ဆင်းမှုတွင် မိမိအလိုရှိရာကို တိုးစေတော်မူသည်။'** (ဖာရာဗ္ဗာတွေရ် ၊ ၁)

**ဟူသော**မိန့်ကြားချက်အပေါ် ကြံဖန်ကောက်ယူချက်တစ်ခုအရ ဤအာယတ်သည် မုတ်ဆိတ်ကို ဆိုလိုခြင်းဖြစ်သည်ဟု ဖေါ်ပြထားသည်။

အဟ်နဖ်အီဗ်နေ့ကိုက်စ်ﷺသည် မုတ်ဆိတ်မပေါက်သူဖြစ်သည်။ ၎င်း၏တပည့်များက 'ကျွန်ုပ်တို့သည် အဟ်**နဖ်**ﷺသခင်အတွက် မုတ်ဆိတ်ဝယ်ရန် ငွေနှစ်သောင်းပေးရမည်ဆိုလျှင်လည်း ဝယ်လိုပါသည်'ဟုပြောဆိုခဲ့ကြသည်။ **ကာဇီရှိုရိုင်ဟ်**ﷺကလည်း 'မုတ်ဆိတ်ကို ငွေတစ်သောင်းပေးရမည်ဆိုသော်လည်း ကျွန်ုပ်ဝယ်ယူလိုသည်'ဟု ပြောဆို**ခဲ့ဖူး**သည်။ သို့နှင့်တိုင် အဘယ်ကြောင့် မုတ်ဆိတ်ကို မကောင်းထင်မြင်နေသနည်း။ ယောကျ်ားတစ်ဦးသည် ထိုမုတ်**ဆိတ်**ကြောင့် ဂုဏ်ပေးလေးစားခြင်းခံရသည်။ မုတ်ဆိတ်ပါသူကို လူတို့က ပညာရှိသူ၊ သိက္ခာသမာဓိရှိသူဟု မြင်ကြသည်။ လူစုလူဝေးတွင် ၎င်းကို အမြင့်နေရာ ပေးကြသည်။ ၎င်းဘက်သို့ မျက်နှာများ လှည့်ပြီး အာရုံစိုက်ကြသည်။ **အုပ်စု**ထဲတွင် ၎င်းကို အကြီးအမှူးတင်ကြသည်။ အိန္ဒြေသိက္ခာ ထိန်းသိမ်းမှုရှိသည်။ အဘယ်ကြောင့်ဆိုသော် မုတ်**ဆိတ်ရှိသူ**ကို ဆဲဆိုကျိမ်းမောင်းမည်ဆိုလျှင် ပထမဆုံး မုတ်ဆိတ်ကို ပြစ်တင်ဆဲဆိုသောကြောင့်ဖြစ်သည်။

အဆိုရှိသည်မှာ ဂျန္နတ်သား ယောကျ်ားများသည် မုတ်ဆိတ်ရှိကြမည်မဟုတ်ပါ။ ချွင်းချက်အဖြစ် တမန်တော်**မူဆာ**ﷺသခင်၏ညီတော် တမန်တော်ဟာရူန်ﷺသခင်တစ်ပါးသာ ချက်အထိရှည်လျားစွာ မုတ်ဆိတ်ရှိမည်**ဖြစ်သည်။** ဤသည်မှာ ထိုသခင့်အတွက် သီးသန့်ထွတ်မြတ်မှုဖြစ်သည်။

**ဆဋ္ဌမအကျင့်** – မုတ်ဆိတ်ကို အတွန့်တွန့် အထပ်ထပ်ကိုက်ညှပ်ခြင်းဖြစ်သည်။ အမျိုးသမီးများ ကြိုက်နှစ်သက်**ရန်၎င်း** ဝိုက်ဖမ်းသည့်အနေဖြင့် ဤပုံစံထားခြင်းဖြစ်သည်။ ကအ်ဘ်ﷺသခင်က 'နောက်ဆုံးခေတ်တွင် လူတို့**သည်**

မုတ်ဆိတ်ကို ကြက်တူရွေးအမြီးပုံ ကိုက်ဖြတ်ကြလိမ့်မည်။ ၎င်းတို့၏ဖိနပ်များကိုလည်း တံစဉ်ကဲ့သို့ သိုင်းကြိုးများ တတ်ထားကြလိမ့်မည်။ ထိုသူတို့သည် သာသနာရေးတွင် မည်သည့်ဝေစုမှ ရရှိမည်မဟုတ်ချေ။

**သတ္တမအကျင့်** – မုတ်ဆိတ်ကို လွန်ကဲစွာထားခြင်းဖြစ်သည်။ ယင်းသည် နားသယ်နှစ်ဘက်မှ ဆံပင်ကို ပါးများပေါ်အထိရောက်အောင်ထားခြင်းဖြစ်သည်။ ထိုနားသယ်မှဆံပင်သည် ဦးခေါင်း၏ဆံပင်ဖြစ်သည်။ ထိုနားသယ်မှ ဆံပင်ကို မေးရိုးကျော်ပြီး ပါးပြင်တစ်ဝက်ရောက်အောင်ထားလျှင် မက္ကရူဖြစ်သည်။ ယင်းသည် သူတော်ကောင်းတို့၏အဆင်းသဏ္ဌာန်နှင့် ခြားနားသောပုံစံဖြစ်သည်။

**အဋ္ဌမအကျင့်** – မုတ်ဆိတ်ကို လူတို့အတွက် ဖြီးသင်ခြင်းဖြစ်သည်။ ဘရှရ်သခင်က 'မုတ်ဆိတ်တွင် ဘေးဥပဒ်နှစ်ခုရှိသည်။ မုတ်ဆိတ်ကို လူတို့ကြည့်ရှုရန်အတွက် ဖြီးခြင်းနှင့် မိမိကိုယ်ကို ဇာဟစ်ဒ်သူတော်စင်ပုံဖမ်းသည့်အနေဖြင့် မုတ်ဆိတ်ကို မဖြီးဘဲ ဖရိုဖရဲထားခြင်းဖြစ်သည်'ဟု မိန့်ဆိုခဲ့သည်။

**နဝမနှင့်ဒသမအကျင့်** – **မုတ်ဆိတ်၏နက်ခြင်းသို့မဟုတ်ဖြူခြင်းကို** အထင်ကြီးဂုဏ်ယူစရာအဖြစ် ရှုမြင်ခြင်းဖြစ်သည်။ ထိုသို့ရှုမြင်ခြင်းသည် **ခန္ဓာကိုယ်တစ်ခုလုံးအတွက်လည်း** မကောင်းသောအကျင့်စာရိုဖြစ်သည်။ သို့သာမက မိမိကိုယ်ကို **အထင်ကြီးခြင်းသည် အကျင့်စာရိုများအားလုံးနှင့်အပြုအမူများအားလုံးတွင်လည်း** မကောင်းသောကိစ္စပင်ဖြစ်သည်။ ဤ**အကြောင်း ရှေ့တွင် ဖော်ပြမည်ဖြစ်သည်။** ယခုလောလောဆည် ကျွန်ုပ်တို့ဖော်ပြနေသည်မှာ လှပတင့်တယ်အောင်**ပြုခြင်းနှင့်သန့်ပြန့်အောင်ပြုခြင်းအကြောင်းဖြစ်သည်။** ဟဒီစ်သုံးပုဒ်တွင် ခန္ဓာကိုယ်နှင့်သက်ဆိုင်ရာ စွန္နတ်ဆယ့်နှစ်ခုကို **တွေ့ရှိရသည်။ ထိုအထဲမှ အကျင့်စာရိ** ငါးခုသည် ဦးခေါင်းနှင့်သက်ဆိုင်လျက်ရှိသည်။ ယင်းတို့မှာ ဦးခေါင်းဆံပင်ကို **ခွဲဖြီးခြင်း၊** ပလုပ်ကျင်းခြင်း၊ နှာခေါင်းတွင် ရေထည့်ခြင်း၊ နှုတ်ခမ်းမွေးဖြတ်ခြင်း၊ တံပူစားခြင်းတို့ဖြစ်သည်။ **စွန္နတ်သုံးခုသည် လက်ခြေနှင့်သက်ဆိုင်လျက်ရှိသည်။** ယင်းမှာ လက်သည်းခြေသည်းဖြတ်ညှပ်ခြင်း၊ လက်ချောင်းများ၏**အဖျားပိုင်းနှင့် အရင်းပိုင်းကို** ဆေးကြောခြင်းဖြစ်သည်။ စွန္နတ်လေးခုသည် ခန္ဓာကိုယ်နှင့်သက်ဆိုင်လျက်ရှိသည်။ **ယင်းတို့မှာ ချိုင်းမွေးနှုတ်ခြင်း၊** ချက်အောက်မွေးရှင်းလင်းခြင်း၊ ခတ္တနာလုပ်ခြင်း၊ ရေဖြင့် ကိုယ်လက်သုတ်သင်ခြင်း**တို့ဖြစ်သည်။ ဤအရာများအားလုံးကို** ဟဒီစ်များတွင် ဖော်ပြထားသည်။

ဤကဏ္ဍ၏**ရည်ရွယ်ချက် ဗဟိဒ္ဓခန္ဓာကိုယ်**၏သန့်ရှင်းမှုအကြောင်းကို ဖော်ပြရန်သာဖြစ်သည်။ အတွင်းပိုင်းအဇ္ဈတ္တကိစ္စများကို **ဖော်ပြရန် မရည်ရွယ်ပါ။** သို့ဖြစ်ရာ ယခုဖော်ပြထားသည်ခန့်ဖြင့် လုံလောက်ပြီဖြစ်သည်။ ယခုဖော်ပြထားသည်တို့ကို **ကောင်းစွာမှတ်သားပါလေ။** အတွင်းပိုင်း၏အပိုအလျှံအရာများ၊ ကြေးညှော်များနှင့် ၎င်းတို့အား သန့်ပြန့်ရန် **အဓိကကျသည့်အကြောင်း** ဖော်ပြစရာများကား မရေမတွက်နိုင်အောင် ရှိနေပေသည်။ ယင်းတို့ကို မုဟ်လိကာတ် **ခေါ် ပျက်စီးဆုံးရှုံးစေသောအရာများအကြောင်း** အပိုင်းကဏ္ဍတွင် အသေးစိတ်ရေးသားမည်ဖြစ်သည်။ ထိုအပိုင်းတွင် အတွင်းပိုင်း၏အပိုအလျှံများနှင့် ကြေးညှော်များကို ရှင်းလင်းဖယ်ရှားမှု နည်းလမ်းများ၊ နှလုံးသားကို ထိုအရာများမှ သန့်ရှင်းမှုနည်းလမ်းများအား အလ္လာဟ်အရှင်၏အလိုတော်ဖြင့် ဖော်ပြပါမည်ဖြစ်သည်။

ဤတွင် အလ္လာဟ်အရှင်၏ဂုဏ်ကျေးဇူးတော်ဖြင့် သန့်ရှင်းခြင်း၏အတွင်းရေးများကဏ္ဍ ပြီးဆုံးပေပြီ။ ရှေ့တွင်ဆက်၍ နမာဇ်၏အတွင်းရေးများကဏ္ဍကို ရေးသားမည်ဖြစ်သည်။ (إن شاء الله تعالى)

الحمد لله وحده، وصلى الله على سيدنا محمد وعلى كل عبد مصطفى.

---

ဂုဏ်တော်အပေါင်းနှင့်ပြည့်စုံတော်မူသော အလ္လာအရှင်၏ကျေးဇူးတော်ဖြင့်
ဟိဂျ်ရီ ၁၄၂၇၊ ဂျမာဒီလ်အူလာ၊ ၁၁ရက်၊ (၈၊ ၆၊ ၂၀၀၆)နေ့တွင် မြန်မာပြန်ဆိုပြီးစီးသည်။

# ခက်ဆစ်ဝေါဟာရများ

***ကဘရ်*** – သင်္ချိုင်း။

***ကဒီမ်*** – အစမရှိခြင်း။ ဆုံးစမဲ့ဖြစ်ခြင်း။ ဤဝိသေသဂုဏ်ပုဒ်သည် အလ္လာဟ်အရှင်တစ်ပါးတည်းတွင်သာ ရှိတော်မူသည်။ ကျန်အဖန်ဆင်းခံအားလုံးတွင် အစလည်းရှိသည်၊ အဆုံးလည်းရှိသည်။

***ကရာမတ်*** – အလ္လာဟ်အရှင်၏အချစ်တော်ဝလီသူတော်စင်များထံမှ ထွက်ပေါ်သည့် ဖြစ်ရိုးဖြစ်စဉ်မဟုတ်သည့် ထူးကဲသောဖြစ်ရပ်။ ကရာမတ်သည် အလ္လာဟ်အရှင်က မိမိ၏ချစ်ခင်သည့် ဝလီသူတော်စင်ကို ထောက်ခံဂုဏ်ပြုသည့်အနေနှင့် ချီးမြှင့်မှုဖြစ်သည်။

***ကလာမ်ပညာ*** – 'علم الكلام' ကလာမ်ပညာဟု မှည့်ခေါ်ရသည့်ဗျူပွတ်များကို ပညာရှင်များက (၅)မျိုးအထိဖော်ပြကြသည်။ ရှေးခေတ်က ဤပညာနှင့်သက်ဆိုင်ရာအကြောင်းအရာခေါင်းစဉ်ကို ပြောဆိုသည့်အခါ–'الكلام في كذا وكذا' (မည်သည့်အကြောင်းအရာနှင့်သက်ဆိုင်ရာ 'ပြောဆိုချက်') ဟုပြောကြရာမှ 'ကလာမ်ပညာ'ဖြစ်လာသည်ဟု ဆိုသည်။ 'ကလာမ်ပညာ'ဟု မှည့်ခေါ်ရသည့် နောက်ဗျူပွတ်တစ်ခုမှာ ကလာမွလ္လာဟ်'كلام الله'(ကုရ်အာန်ကျမ်းမြတ်)သည် အဖန်ဆင်းခံဖြစ်သည်ဆိုသော အငြင်းဝင်မှုကို အခြေခံခြင်းဖြစ်သည်။ ဤအကြောင်းအရာသည် ကလာမ်ပညာ၏အကြီးကျယ်ဆုံးငြင်းခုံမှုကြီးဖြစ်ခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်ကို အဖန်ဆင်းခံမဟုတ်ဟု ပြောဆိုခဲ့ကြသူ အမှန်တရားဘက်တော်သားများ အမြောက်အမြားသတ်ဖြတ်ခံခဲ့ကြရသည်။

***ကလာမွလ္လာဟ်*** – တိုက်ရိုက်အဓိပ္ပါယ်မှာ 'အလ္လာဟ်အရှင်၏ပြောဆိုချက်မိန့်ခွန်းတော်'ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်ကို အဓိကရည်ညွှန်းခြင်းဖြစ်သည်။

***ကလေမာ*** – အစ္စလာမ်ဘာသာကို သက်ဝင်ယုံကြည်ရာတွင် ပထမဦးဆုံး ရွတ်ဆိုမြွက်ဟယုံကြည်ရသည့်စာပိုဒ်။

***ကာဇီ*** – အစ္စလာမ့်တရားဥပဒေနှင့်အညီ စီရင်ဆုံးဖြတ်သောတရားသူကြီး။

***ကာဖိရ်*** – အစ္စလာမ်ကို ငြင်းပယ်သူ။

***ကာရွန်*** – ချမ်းသာကြွယ်ဝသလောက် နှမြောတွန့်တိုသူ။ တမန်တော်မူဆာ ﷺ သခင်နှင့် သားချင်းတော်သည်။

***ကိတာဗွလ်ဆလ္လာမ်*** – ဖိကဟ်ကျမ်းများမှ ဆလ္လာမ်ရောင်းဝယ်မှုအမျိုးအစားနှင့်သက်ဆိုင်ရာကဏ္ဍ။

***ကိတာဗွလ်အိဂျာရာ*** – ဖိကဟ်ကျမ်းများမှ အိဂျာရာရောင်းဝယ်မှုအမျိုးအစားနှင့်သက်ဆိုင်ရာကဏ္ဍ။

***ကိရာမာန်ကာတိဘိန်*** – လူသားတစ်ဦးချင်း၏ကျင့်မှုရာများကို မှတ်တမ်းတင်သည့် ကောင်းကင်တမန်များ။

***ကိယာမတ်*** – ကမ္ဘာပျက်မည့်အချိန်အခါ။ ကမ္ဘာဦးမှစ၍ ကမ္ဘာပျက်ချိန်အထိရှိသမျှ သက်ရှိလူသားအားလုံး ရှင်ပြန်ထရမည့်အချိန်အခါ။

***ကိုလ္လတ်*** – ရေတစ်ကိုလ္လတ်သည် ၂၅၀ ရတ္တလ်ရှိသည်။ ကီလိုဂရမ်အားဖြင့် ၁၁၀ရှိသည်။

***ကုဘာ*** – မဒီနာမြို့အရှေ့တောင်ဘက် သုံးမိုင်ခန့်အကွာတွင်ရှိသောရွာတစ်ရွာ။ တမန်တော်မြတ် ﷺ သည် ထိုရွာတွင် ပထမဆုံးဗလီကို တည်ခဲ့သည်။

***ကုရိုက်ရှ်*** – အရဗ်လူမျိုးတို့အနက် ဂုဏ်သရေရှိမျိုးနွယ်စုတစ်ခု။ တမန်တော်မြတ် ﷺ သည် ထိုမျိုးနွယ်စုအတွင်းမှာ ဖွားမြင်ခဲ့သည်။

***ကဒ္ဒရီယာဂိုဏ်း*** – တက္ကဒီရ်ပြဋ္ဌာန်းမှုကို လက်မခံသူများဖြစ်သည်။ ၎င်းတို့က 'အလ္လာဟ်အရှင်သည် လူသားကို ကောင်းမှု မကောင်းမှု ပြုကျင့်နိုင်စွမ်း ချီးမြှင့်ထားပြီးဖြစ်သည်။ သို့ဖြစ်ရာ လူသား၏ပြုမူကျင့်ဆောင်မှုများသည် တက္ကဒီရ်သတ်မှတ်ချက်အရမဟုတ်ဘဲ လူသား၏အစွမ်းအစဖြင့်ဖြစ်သည်'ဟု ခံယူကြသည်။

***ကဖ်ဖာရဟ်*** – ချိုးဖောက်ကျူးလွန်မှုတစ်ခုအတွက် ဖြည့်ဆည်းအစားပေးဆပ်မှု။ ဥပမာ ရိုဇာကို အကြောင်းမဲ့ဖျက်ပစ်လျှင် ရက်ပေါင်းခြောက်ဆယ်ဆက်တိုက် ရိုဇာကဖ်ဖာရာစောင့်ရသည်။

***ကရှ်ရှဖ်*** – သီးသန့်ပုဂ္ဂိုလ်များသို့ အလ္လာဟ်အရှင့်ဘက်မှ အကြောင်းသတင်းတစ်ခုခု အသိပေးခြင်းကို ကရှ်ရှဖ်

သို့မဟုတ် အီလ်ဟာမ်ဟုခေါ်သည်။ **ကရှ်ရှ်ဖ်သည်** အမြင်အတွေ့အာရုံဖြင့် မြင်တွေ့ရခြင်းဖြစ်သည်။ **အီလ်ဟာမ်ကမူ** အသိအာရုံတွင် ပေါ်လာခြင်းဖြစ်သည်။

*ကအ်ဘာ* – မက္ကာမြို့တော်ရှိ **အစ္စလာမ်ဘာသာဝင်တို့၏** အဓိကရ ဝတ်ကျောင်းတော်။ **တစ်ကမ္ဘာလုံးရှိ မွတ်စလင်မ်**များ ထိုကျောင်းတော်ဘက်သို့ **ကေဘလာအဖြစ်** မျက်နှာမူ၍ ဝတ်ပြုကြရသည်။ **ဗိုင်တွလ္လာဟ် (အလ္လာဟ်အရှင်၏** အိမ်တော်)ဟုလည်းခေါ်သည်။

**ကိုယ်လက်သုတ်သင်** – **ကျင်ကြီးကျင်ငယ်စွန့်ခြင်း**။ ဤစကားလုံးကို **အိမ်တင်ဂျာ၏အဓိပ္ပါယ်အတွက်** သုံးစွဲပါသည်။

***ကေဘလာ*** – **နမာဇ်တွင် မျက်နှာမူ ဦးလှည့်ရာအရပ်**။

**ကုသိုလ်** – **ကောင်းသောအမှု စွါဗ်၏အဓိပ္ပါယ်အတွက်** သုံးသည်။

***ကောင်းကင်တမန်*** – **ကောင်းကင်တမန်တစ်ပါးတည်း**ကို အရဗီ **'မလာက်'၊ ကောင်းကင်တမန်အများကို** 'မလာအိကာ'ဟု **ခေါ်သည်။ 'ဖရစ်ရှ်တဟ်'မှာ** ဖါရစီလို ကောင်းကင်တမန်ကို **ခေါ်ခြင်းဖြစ်သည်**။

***ကိုင်စာ*** – **ရောမဘုရင်၏အမည်**။

***ကစ္စရာ*** – ပါရှန်းဘုရင်၏အမည်။

**ကျမ်းမှန်နှစ်စောင်** – ဗုခါရီကျမ်းတော်နှင့်မွတ်စလင်မ်ကျမ်းတော်နှစ်စောင်အား 'الصحيح' ဟု ခေါ်ဆိုသုံးနှုန်းသည်ကို **မြန်မာမှုပြုခြင်းဖြစ်သည်**။ ဤအဲဟ်ယာအွလ်အိုလူမ်ကျမ်းမြန်မာပြန်တွင် ဟဒီစ်နှင့်ပတ်သက်၍ ရေးသားသည့်အခါ 'ကျမ်းမှန်နှစ်စောင်'၊ 'ကျမ်းတော်နှစ်စောင်'၊ 'မှန်ကန်သောကျမ်းတော်နှစ်စောင်'ဟု ဖော်ပြပါက ယင်းသည် ဗုခါရီကျမ်းတော်နှင့်မွတ်စ်လင်မ်ကျမ်းတော်နှစ်စောင်ကို ဆိုလိုခြင်းဖြစ်သည်။

*ကျာရှ်* – နေ့၏သုံးပုံတစ်ပုံ လွန်မြောက်သောအချိန်။ ထိုအချိန်တွင် ဖတ်ရသောနဖီလ်နမာဇ်။

**ကွက်စိပ်** – ရှေးဟောင်းပုံပြင်ရာဇဝင်သမိုင်းများကို နားထောင်ကောင်းအောင် အလွမ်း၊ အသော ရောနှောလျက် ဟန်အမူအရာအသံနေအသံထားနှင့်ရွတ်ဆိုဟောပြောခြင်း။

***ကွဒ်ရတ်*** – တန်ခိုးတော်၊ အစွမ်းတော်၊ အလ္လာဟ်အရှင်မှလွဲ၍ မည်သူမှ ပိုင်ဆိုင်ခြင်းမရှိသည့် ဂုဏ်တော်။

***ကွဖ်ရ်*** – အီမာန်၏ဆန့်ကျင်ဘက်အရာ။ အစ္စလာမ်ကိုငြင်းပယ်သောယုံကြည်ချက်၊ အပြောအဆို၊ **အပြုအမူနှင့်** အယူအဆများသည် ကွဖ်ရ်ဖြစ်သည်။

**ကြံဆကောက်ယူမှု** – အရဗီစကားလုံး 'التأويل'ကို မြန်မာမှုပြုခြင်းဖြစ်သည်။ အကြောင်းအရာတစ်ခုကို မိမိအလိုရှိရာအဓိပ္ပါယ်သို့ရောက်အောင် ယုတ္တိယုတ္တာထုတ်ယူခြင်းဖြစ်သည်။ အများအားဖြင့် ဤစကားလုံးကို ကုရ်အာန်ကျမ်းမြတ်အား လွဲမှားစွာ အဓိပ္ပါယ်ကောက်ယူဖွင့်ဆိုမှုများအတွက် သုံးသည်။ 'التأويل'ကို *တဖ်စီရ်*၏အဓိပ္ပါယ်အတွက်လည်း သုံးသည့်အခါသုံးသည်။

**ခဇ္ဇေရ်** ؑ **သခင်** – အလ္လာဟ်အရှင် သီးသန့်ရွေးချယ်ထားသော သက်တော်ရှည်ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ဖြစ်သည်။ ဤပုဂ္ဂိုလ်နှင့် တမန်တော်မူဆာ ؑ သခင် တွေ့ဆုံသည့်အကြောင်း ကျမ်းမြတ်ကုရ်အာန်တွင် ဖော်ပြပါရှိသည်။ ဤပုဂ္ဂိုလ်သည် နဗီတမန်တော် ဟုတ်မဟုတ် ပညာရှင်များအကြား အယူအဆအမျိုးမျိုးရှိနေသည်။

***ခတမ်*** – အပြီးသတ်ခြင်း၊ ဥပမာ ကျမ်းမြတ်ကုရ်အာန်ကို အစအဆုံး တစ်ကြိမ်ဖတ်ခြင်း။

***ခလီဖဟ်သမ္မတများ*** – တမန်တော်မြတ်ﷺမရှိသည့်နောက် တမန်တော်မြတ်ﷺ၏အရိုက်အရာကို ဆက်ခံခဲ့ကြသည့် တပည့်ဆွဟာဗဟ်ကြီးလေးပါးကို အဓိကခေါ်ဆိုသည်။ ထိုဆွဟာဗဟ်ကြီးလေးပါး ؓ ရရှိခဲ့သော ခိလာဖတ်သည် ရုပ်ပိုင်းနာမ်ပိုင်း နှစ်မျိုးစလုံးအတွက်ဖြစ်သည်။

***ခါရိဂျီ*** – ခွဲထွက်သူများဟု အဓိပ္ပါယ်ရသည်။ အလီ ؓ သခင်၏အုပ်ချုပ်မှုကို မကျေနပ်သဖြင့် ခွဲထွက်ပုန်ကန်ခဲ့သူများကို ခါရိဂျီဟု သုံးနှုန်းခေါ်ဆိုခဲ့သည်။

***ခိလာဖတ်*** – အရိုက်အရာလွှဲအပ်ခြင်း။ တမန်တော်မြတ်ﷺမရှိသည့်နောက် တမန်တော်မြတ်ﷺ၏အုပ်ချုပ်ရေးအရိုက်အရာဆက်ခံမှုကို ခိလာဖတ်ဟုစတင်သုံးနှုန်းခဲ့သည်။ နောက်ပိုင်း ဤအသုံးအနှုန်းသည် တဆောင်ဝုဖ်လမ်းစဉ်တွင် ပို၍ အသုံးများလာခဲ့သည်။ ဆရာတစ်ပါးက မိမိ၏ထိုက်တန်သောတပည့်တစ်ဦးအား မိမိ၏တွရီကာလမ်းစဉ်သို့လိုက်လိုသူအား ဗိုင်အတ်ပေး တရားပြရန် အရိုက်အရာလွှဲအပ်မှုကို 'ခိလာဖတ်ပေးသည်'ဟု ခေါ်ဆိုသုံးနှုန်းခဲ့ကြသည်။ ဤသည်လည်း တမန်တော်မြတ်ﷺ ထံမှ တစ်ဆင့် ဥပဇ္ဈာယ်ဆရာတို့ အဆင့်ဆင့်ဆက်ခံရရှိလာသောနာမ်ပိုင်းဆိုင်ရာ အုပ်ချုပ်မှုအရိုက်အရာလွှဲအပ်မှုဖြစ်သောကြောင့် ခိလာဖတ်

ဟုသုံးနှုန်းခြင်းဖြစ်သည်။

**ခတ္တနာ** – မွတ်စလင်မ်တို့၏အရေပြားလှီးမင်္ဂလာ။

**ဂုနှာ** – အပြစ်ဒုစရိုက်။

**ဂုနှာကဘီရာ** – အပြစ်ဒုစရိုက်ကြီး။

**ဂုနှာစွဂီရာ** – အပြစ်ဒုစရိုက်အသေး။

**ဂျနာဇာ** – အသုဘ၊ နာရေး။

**ဂျဟန္နမ္မီ** – ဂျဟန္နမ်ငရဲသို့ ကျရောက်သူ။

**ဂျာလူတ်** – တမန်တော်ဒါဝူဒ်ﷺသခင် နှိမ်နင်းခဲ့ရသည့် မိစ္ဆာခေါင်းဆောင်။

**ဂျိဟာဒ်** – အလ္လာဟ်အရှင့်လမ်းတော်တွင် သက်စွန့်ကျိုးပမ်းဆောင်ရွက်ခြင်း။

**ဂျင်န်** – ကမ္ဘာလောကတွင် လူသားမတိုင်မီ ရှိခဲ့ပြီး ယခုလည်း လူသားတို့၏ပတ်ဝန်းကျင်ရှိနေသည့်၊ မျက်စိဖြင့်မမြင်နိုင်သော အဖန်ဆင်းခံတစ်မျိုး။

**ဂျန္နတ်** – မွတ်စလင်မ်တို့ ရောက်ရှိစံစားရမည့် သုခဘုံ။ ဂျန္နတ်သည် အဆင့်အထပ်များရှိပြီး မွတ်စလင်မ်တို့သည် မိမိတို့၏တရားတော်ကျင့်သုံးမှုအဆင့်အတန်းအလျောက် ထိုဂျန္နတ်၏အဆင့်အတန်းများကို ရရှိကြမည်။

**ဂျန္နတ္တိ** – ဂျန္နတ်သား၊ ဂျန္နတ်ရမည့်သူ။

**ဂျဟန္နမ်** – ငရဲ။ အစ္စလာမ်ကို ငြင်းဆန်သူ ကာဖိရ်များ အမြဲထာဝရ ပြစ်ဒဏ်ခံရမည့်နေရာ။ ဒုစရိုက်သမားမွတ်စ်လင်မ်တို့လည်း ပြစ်မှုဒုစရိုက်အလျောက် ဂျဟန္နမ်တွင် ကာလအပိုင်းအခြားတစ်ခု ပြစ်ဒဏ်ခံရမည်ဖြစ်သည်။

**ဂျဟန္နမ္မီ** – ဂျဟန္နမ်သား၊ ဂျဟန္နမ်ကျမည့်သူ။

**ဂျာလီနွစ်** – ရှေးခေတ်ဂရိလူမျိုးပညာရှိ ကလောက်ဒီရှင်းဂါလင်န်ဖြစ်သည်။ မြန်မာစာပေတွင် သမားတော်ကြီးဇီဝက ကျော်ကြားသလို အရဗီစာပေတွင် ဂျာလီနွစ်မှာ ကျော်ကြားသည်။

**စီနရှ** – တရုတ်ပြည်ကို ရှေးက ခေါ်သည့်အမည်။

**စေတသိတ်** – စိတ်ကို ကောင်းအောင်ငြင်း၊ ဆိုးအောင်ငြင်း ခြယ်လှယ်ဖန်တီးသောတရား။ နဖ်စ်၏အဓိပ္ပါယ်အတွက် ဤစကားလုံးကို သုံးပါသည်။

**စေတသိကဒုက္ခ** – စိတ်နှင့်ဆိုင်သော ဆင်းရဲခြင်း။

**စုရ်တံပိုးမှုတ်ခြင်း** – ကောင်းကင်တမန်အိစ္စရာဖီလ်ﷺ က ကိယာမတ်နေ့တွင် မှုတ်မည့်တံပိုးခရာသံ။

**စေမအ်** – အဘိဓာန်အဓိပ္ပါယ်မှာ 'နားဆင်ခြင်း'ဖြစ်၏။ တမန်တော်မြတ်ﷺခေတ်က စေမအ်သည် ကုရ်အာန်ကျမ်းမြတ်ဖတ်ရွတ်သည်ကို နားဆင်ခြင်းဖြစ်သည်။ နောက်ပိုင်းတဆောင်ဝုဖ်လမ်းစဉ်တွင် ဆူဖီသခင်များ တရားသံဝေဂရယူဖွယ် ကဗျာလင်္ကာများ ဖတ်ရွတ်နားဆင်ခြင်းကို *စေမအ်* ဟု ခေါ်ဆိုသုံးနှုန်းသည်။

**စေ့ငှ** – စဉ်းစားသည်။ ဆင်ခြင်သည်။ သိရအောင် ကြိုးစားသည်။

**စဟ်ရီ** – ရိုဇာစောင့်ရန် ညတွင် စားသောက်ခြင်း။

**စွရ်မာ** – မျက်စိကို အေးမြစေသည့်အမှုန့်တစ်မျိုး။ တမန်တော်မြတ်ﷺသည် မျက်စိကို စွရ်မာခပ်သည့် အကျင့်ကို နှစ်သက်ကျင့်သုံးခဲ့သည်။

**စွန္နတ်** – တမန်တော်မြတ်ﷺ၏ကိုယ်ကျင့်။ အစ္စလာမ်သာသနာဝင်တို့အား မိမိတို့၏ဘဝသက်တမ်းတစ်လျှောက် တမန်တော်မြတ်ﷺ၏စွန္နတ်နည်းစနစ်အတိုင်း လိုက်နာနေထိုင်ရန် အစ္စလာမ်က ညွှန်ပြတာဝန်ပေးထားသည်။

**ဆလ္လာမ်** – ကြိုတင်ကတိဖြင့် ရောင်းဝယ်မှုအမျိုးအစား။

**ဆွဟာဗဟ်** – တမန်တော်မြတ်ﷺကို သက်ရှိထင်ရှား တွေ့မိပြီး အီမာန်ယူခဲ့သော တမန်တော်မြတ်ﷺ၏နောက်လိုက်တပည့်များ။

**ဆွေရာတ်** – ကိယာမတ်နေ့တွင် လူသားအား စမ်းသပ်မှုအဖြစ် ဖြတ်လျှောက်စေမည့်တံတားတော်ကို 'ဆွေရာတ်' ဟု ခေါ်သည်။ မြန်မာနိုင်ငံရှိ မွတ်စလင်မ်များက 'ပွလ်ဆွေရာတ်တံတား'ဟု သိထားကြသောတံတား။

**ဆွဖ်ဖဟ်** – တမန်တော်မြတ်ﷺ၏နဗဝီဗလီတော်၏အဖီတွင် နေထိုင်ကြသောဆင်းရဲသားဆွဟာဗဟ်ﷺသခင်များကို ခေါ်သည့်အမည်။ ဆွဖ်ဖဟ်ﷺသခင်များ၏အရည်အတွက်သည် ရှစ်ဆယ်ခန့်ရှိသည်။

**ဆွဗ်ဟာနလ္လာဟ်** – အလ္လာဟ်အရှင် ပြစ်ဆာအပေါင်းမှသန့်ပြန့်တော်မူကြောင်း မြွက်ဟရွတ်ဆိုခြင်း။

**ဆွရ်ဖ်**– ငွေကြေးလဲလှယ်ခြင်း။

**ဇကာတ်** – သတ်မှတ်တန်ဘိုး၊ ငွေ ပိုင်ဆိုင်သူက မိမိ၏ပိုင်ဆိုင်မှု၏(၂.၅-ရာခိုင်နှုန်း)ကို နှစ်စဉ်လှူဒါန်းခြင်း။

**ဇဗုရ်** – တမန်တော်ဒါဝုဒ်သခင့်ﷺအပေါ် ချပေးသောကျမ်းတော်အမည်။

***ဇာဟိဒ်*** – လောကီရှောင်ဖယ်သူ။ လောကီစွန့်တောထွက်သည့်အဓိပ္ပါယ်မဟုတ်ပါ။ လူ့ဘောင်အသိုင်းအဝိုင်းတွင် နေထိုင်ပြီး လောကကို အချစ်မထားသူ။ ဇူဟ်ဒ်ကျင့်သူ။

***ဇေနာ*** – ကာမေသုမိစ္ဆာရက်ကျူးလွန်ခြင်း။

***ဇင်မ်မီ*** 'الذمي' – ဒါရွလ်ဟရစ်ဒေါ် မွတ်စလင်မ်မဟုတ်သူ အုပ်ချုပ်သောနိုင်ငံမှ အစ္စလာမ်နိုင်ငံသို့ လာရောက်ပြီး ဥပဒေလိုက်နာ နေထိုင်သူ။

***ဇိကိရ်*** – အလ္လာဟ်အရှင်ကို သတိရတသခြင်း။

***ဇူဟ်ဒ်*** – လောကီအချစ်မထားခြင်း၊ လောကကို စွဲလန်းချစ်ခင်စေမည့်အရာများမှ စွန့်ခွါရှောင်ဖယ်ခြင်း။

***တဝါတိရ်*** – အကြောင်းအရာတစ်ခုသည် ပုဂ္ဂိုလ်အများအပြားထံမှ လမ်းကြောင်းအမျိုးမျိုးဖြင့် သိရှိသဖြင့် ဒွိဟမဖြစ်နိုင်လောက်အောင် ခိုင်မာသောဆင့်ပြန်မှုအမျိုးအစား။

***တာဘိအီ*** – အီမာန်ရှိသောအဖြစ်နှင့် ဆွဟာဗဟ်တစ်ပါးသို့မဟုတ် ဆွဟာဗဟ်များကို တွေ့မိခဲ့သူ။

***တက္ကဒီရ်*** – အဖန်ဆင်းခံအားလုံး၏ဖြစ်ပျက်မည့်အရေးကိစ္စအားလုံးကို မဖန်ဆင်းမီကတည်းက ကြိုတင်သိတော်မူသည့် အလ္လာဟ်အရှင်၏အသိတော်။ ထိုအသိတော်ကို မှတ်တမ်းတင်ပြဋ္ဌာန်းတော်မူခြင်း။

***တက္ကလီဒ်*** – အထောက်အထားသာဓကကို မကြည့်ရှုဘဲ မိမိယုံကြည်စိတ်ချသည့်ပုဂ္ဂိုလ်က ပြောဆိုရေးသားသည့်အတိုင်း လိုက်နာကျင့်သုံးခြင်း။ အစ္စလာမ့်ကျင့်ရန်ကျဉ်ရန်များတွင် မဇ်ဟဗ်ရှင်အိမာမ်ကြီးများ၏အယူအဆအတိုင်း ကျင့်သုံးသူ။ ထိုသို့လိုက်နာကျင့်သုံးသူကို မုကလ်လိဒ်ဟုခေါ်သည်။

***တက်စ်ဗီဟ်*** – 'سبحان الله'(ဆွဗ်ဟာနလ္လာဟ်)ဟု ရွတ်ဆိုခြင်း၊ အလ္လာဟ်အရှင်သည် ပြစ်ဆာအပေါင်းမှ ကင်းစင်တော်မူကြောင်း မြွက်ဟခြင်း။

***တဇ်ကီရ်*** – သတိတရား။

***တောင်ဗဟ်*** – အလ္လာဟ်ထံ အမှားဝန်ခံခြင်း။

***တောင်ရတ်ကျမ်း*** – တမန်တော်မူဆာ ﷺ သခင့်ထံ ချပေးခဲ့သော ကောင်းကင်ကျကျမ်းတော်။

***တက္ကဝါ*** – အလ္လာဟ်အရှင်ကို ကြောက်ရွံ့ခန့်ငြားခြင်း။ တက္ကဝါသည် အစ္စလာမ်၏အဓိကတရားသဘောဖြစ်သည်နှင့်အမျှ ယင်း၏အဓိပ္ပါယ်မှာလည်း ကျယ်ပြန့်လှသည်။

***တဗ္ဗတာဘိအီ*** – အီမာန်ရှိသောအဖြစ် တာဘိအီတစ်ပါးသို့မဟုတ် တာဘိအီများကို တွေ့မိခဲ့သူ။

***တဖ်စီရ်*** – ကျမ်းမြတ်ကုရ်အာန်၏တရားသဘောများကို အကျယ်ဖွင့်ဆိုမှု။ ထိုသို့ဖွင့်ဆိုသည့်ပညာ။ ကုရ်အာန်ကျမ်းမြတ်၏အကျယ်ဖွင့်ကျမ်း။

***တရွှီရီက်သုံးရက်*** – အစ္စလာမ့်ပြက္ခဒိန် ဇွလ်ဟဂ်ျလ၏ ဆယ့်တစ်ရက်၊ဆယ့်နှစ်ရက်နှင့်ဆယ့်သုံးရက်နေ့များ။

***တွလာက်*** – မိမိဇနီးအား ကွာရှင်းပြတ်ဆဲရာတွင် သုံးနှုန်းသည့်အသုံးအနှုန်း။

***တွဝါဖ်*** – ဟဂ်ျ သို့မဟုတ် အွမ္မရဟ်ပြုသူက ကအ်ဘာတော်ကို လက်ယာရစ် ခုနစ်ပတ်လည့်ပတ်ခြင်း။

***တွဝါဖွလ်ဝေဒအ်*** – မက္ကာမြို့မှ ထွက်ခွါချိန် ဟှည့်ပတ်ရသည့် နှုတ်ဆက်မှုတွဝါဖ်။

***တွဟာရတ်*** – သန့်စင်ခြင်း။ တရားတော်နည်းလမ်းအရ ခန္ဓာကိုယ်ကို သန့်ပြန့်အောင်လုပ်ခြင်း။

***တွဇ္ဇလူမျိုး*** – ရှေးတမန်တော်များလက်ထက်က ရှိခဲ့ဖူးသောလူမျိုးတစ်မျိုး။

***ထီးထီးမားမား*** – တဦးတည်း၊ တခုတည်း၊ ထင်ထင်ရှားရှား၊ မားမားမတ်မတ်။

***ဒဂ်ျာလ်*** – ကိယာမတ်နီး၍ တမန်တော်အီစာ ﷺ သခင် ကမ္ဘာလောကသို့ ပြန်ကြွလာသည့်အခါ ရင်ဆိုင်နှိမ်နင်းရမည့် မျက်စိတစ်ဘက်လပ်မဓ္မေနှရာယ်ကောင်။

***ဒအ်ဝဗ်*** – ဖိတ်ခေါ်မှု။ ဒအ်ဝဗ်အိလောလ္လာဟ်–အလ္လာဟ်အရှင့်ဘက်သို့ ဖိတ်ခေါ်ခြင်း။

***ဒုသီလ*** – အကျင့်ယုတ်သောသူ။

***ဒီန်*** – သာသနာ။ ဘဝလမ်းစဉ်။

***ဒိုအာ*** – အလ္လာဟ်အရှင့်ထံမှ ဆုမွန်တောင်းခြင်း။

***ဒွန္နယာ*** – လောက။ သခင်ဘသောင်း၏တထောင့်တည မြန်မာပြန်တွင် တွင်တွင်ကျယ်ကျယ်သုံးခဲ့ရာမှ ဤစကားလုံးကို နောက်ပိုင်းမြန်မာစာရေးဆရာများက စာနယ်ဇင်းများတွင် ဆက်လက်သုံးစွဲကြသဖြင့်၎င်း မြန်မာအဘိဓာန်တွင် မပါရှိတမယ်သာရှိသောအရဗီစကားလုံးဖြစ်သည်။

***နဖီလ်*** – အမိန့်ပေးခိုင်းစေထားခြင်းမရှိသော ကျင့်သုံးလျှင် အကျိုးစွဝါဗ်များပြားသည့် ကျင့်မှုရာ။

***နမ်ရွှဒ်ဘုရင်*** – တမန်တော်အီဗ်ရာဟီမ် ﷺ ကို မီးတင်ရှို့ခဲ့သည့်ဘုရင်။

**နိအ်မတ်** – အလ္လာဟ်အရှင်က လူသားကို ချီးမြှင့်သည့် စည်းစိမ်ခံစားမှု။

**နဖ်စ်** – စိတ်။ စေတသိတ်။ အတ္တစိတ်။ ဤအရဗီစာလုံးသည် အသုံးများပြီး အနက်ကျယ်သည်။

**နကီရ်** – သင်္ချိုင်းအတွင်း လူတို့ကို စစ်ဆေးမေးမြန်းမည့် ကောင်းကင်တမန်တစ်ပါး၏အမည်။ မွန်ကရ်နကီန်ဟု အခြားကောင်းကင်တမန်တစ်ပါး၏အမည်နှင့်တွဲ၍ အမြဲ သုံးလေ့ရှိသည်။

**နဗီ** – လူသားတို့အား တရားလမ်းစဉ်ပို့ချရန် အလ္လာဟ်အရှင်စေလွှတ်တော်မူသော တမန်တော်။

**နမာဇ်** – မွတ်စလင်မ်တို့၏သီးသန့်သတ်မှတ်ထားသော ပုံစံဖြင့် အလ္လာဟ်အရှင်အား ဝတ်ပြုကိုးကွယ်မှု။ 'နမာဇ်' သည်ဖါရစီစကားလုံးဖြစ်သည်။ မူရင်းအရဗီမှာ 'الصلاة' ဆွလာတ်ဖြစ်သည်။

**နီကဟ်** – အစ္စလာမ်နည်းကျ ထိမ်းမြားခြင်း။

**နီယတ်** – ရည်ရွယ်ခြင်း။ တရားတော်ကျင့်သုံးမှုတစ်ခုခုအတွက် စိတ်ရည်စူးခြင်း။

**နူရ်** – အလင်းရောင်။ တရားဓမ္မလင်းရောင်ခြည်။

**နဖ်စ်မုတ္တမအင်န်** – တည်ငြိမ်သောစိတ်သဏ္ဍာန်။ နဖ်စ်၏အခြေအနေသုံးမျိုး(*နဖ်စ်အမ္မာရဟ်*၊ *နဖ်စ်လောင်ဝါမာ*၊ *နဖ်စ်မုတ္တမအင်န်*)အနက် တတိယအခြေအနေ။

**နွတ္တရုပ်စ်** – ခြေထောက်တွင် ဖြစ်သည့်ရောဂါတစ်မျိုး။ အထူးသဖြင့် ခြေမတွင် အဖြစ်များသည်။

**ပကတူး** – အစအဦး၊ ရှေးဦးကာလ၊ ရှေးဦးအချိန်ပိုင်း။ ဤစကားလုံးကို အထူးသဖြင့် အကီဒဟ်ခန်းတွင် သုံးလေ့ရှိသော 'القديم'(ဆုံးစမဲ့)၏အဓိပ္ပါယ်အတွက် သုံးပါသည်။

**ပလပ်အမိန့်** – ရှိနေအမိန့်တစ်ခုကို ဖျက်သိမ်းအစားထိုးသည့်အနေဖြင့် ပြဋ္ဌာန်းသောအမိန့်။

**ပလပ်ခံအမိန့်** – ပလပ်အမိန့်တစ်ခုဖြင့် ဖျက်သိမ်းခြင်းခံရသောအမိန့်ဟောင်း။

**ပါရမီ** – အရဗီစကားလုံး 'الكمال'ကို ရံဖန်ရံခါ 'ပါရမီ' ဟုပြန်ဆိုပါသည်။ အဓိပ္ပါယ်အတိအကျ ကိုက်ညီလှသည် တော့မဟုတ်ပါ။ ထိုသို့ပြန်ဆိုသည့်အခါ 'ပါရမီ'စကားလုံးတွင် ရှိသည့်အဓိပ္ပါယ်များအနက် 'အထပ်ထပ်ဆည်းပူးထားသောအလေ့အကျင့်၊ အထုံဝသီ' ဆိုသည့် အဓိပ္ပါယ်ကို ယူပါသည်။

**ပုလ္လိင်** – အဖိုသုံး။

**ပြကတေ့(ပါဠိ)** – ပကတိ၊ မူလသဘာဝအနေ၊ ပင်ကိုသဘော။ အလ္လာဟ်အရှင်၏ 'فطرة'ဖာတ်တော်အတွက် သီးသန့်အသုံးဖြစ်ရန် 'ပကတိ'ကို မသုံးဘဲ ဤစကားလုံးကို သုံးပါသည်။

**ပြစ်ဆာ** – အပြစ်အနာအဆာ၊ ချို့တဲ့ချက်။

**ဖုရ်ကာန်** – ကျမ်းမြတ်ကုရ်အာန်၏ကျော်ကြားသော အမည်တစ်ခု။ ဖုရ်ကာန်၏အဓိပ္ပါယ်မှာ 'အမှားနှင့်အမှန် ခွဲခြားပေးသောကျမ်းတော်'ဖြစ်သည်။

**ဖဂျ်ရ်** – နံနက်နေမထွက်မီ မိုးသောက်ယံတွင် ဖတ်ရွတ်ရသည့် နမာဇ်ဝတ်ပြုမှု။

**ဖဒက်မြို့** – မဒီနာမြို့အနီးရှိ မြို့တစ်မြို့။

**ဖရာဇ်** – အရွယ်ရောက်၊ အသိဉာဏ်သူ မွတ်စလင်မ်တို့ မလုပ်မနေရတာဝန်။

**ဖိကဟ်** – အစ္စလာမ်ကို သိနားလည်မှုပညာ။ တရားဓမ္မ သတ်ပညာ။

**ဖစ်တနာ** – ပြဿနာ။ တိုက်ရိုက်အဓိပ္ပါယ်မှာ 'စမ်းသပ်မှု' ဖြစ်သည်။ ဤစကားလုံးကို တရားဓမ္မဆိုင်ရာ အငြင်းအခုံ ပြဿနာများအတွက် အသုံးများသည်။ သို့သော် ထို့ထက် အဓိပ္ပါယ်ကျယ်ဝန်းပြီး ကိယာမတ်နီးလျှင် ဖြစ်ပေါ်လာမည့် ဖြစ်ရပ်ကြီးများကိုလည်း 'ဖစ်တနာ'ဟုပင် သုံးပါသည်။

**ဖိရ်ဒေါက်စ်** – ဂျန္နတ်၏အဆင့်အမြင့်ဆုံး စံစားမှု။

**ဖိရ်အောင်** – ဖိရ်အောင်ဆိုသည်မှာ ရှေးခေတ်အီဂျစ်မင်းဆက်၏အမည်ဖြစ်သည်။ တမန်တော်မူဆာ ﷺ သခင်နှင့် ဗနီအီစ္စရာအီလ်မျိုးနွယ်ဝင်များကို ဒုက္ခပေးခဲ့သောဘုရင်သည် ထိုမင်းဆက်မှဖြစ်၏။ ကျမ်းမြတ်ကုရ်အာန်တွင် ထိုဘုရင်ကို ဖိရ်အောင်ဟု ရည်ညွှန်းဖော်ပြခဲ့ရာမှ နောင်တွင် ဖိရ်အောင်ဆိုလျှင် တမန်တော်မူဆာ ﷺ သခင်ကို ဒုက္ခပေးခဲ့သောဘုရင်တစ်ဦးကိုသာ လူတို့သိကြတော့သည်။

**ဘာတွေနီပညာ** – အတွင်းပညာ။ အဇ္ဈတ္တပညာဟုလည်း မြန်မာမှုပြုပါသည်။

**ဘာတွေနီ** – အဇ္ဈတ္တနှင့်သက်ဆိုင်သော။ အတွင်းသဘော။

**ဘုံပါသက** – အများနှင့်သက်ဆိုင်သော။ အများစုပေါင်းပိုင်ဆိုင်သော။ ဤစကားလုံးကို ကျမ်းမြတ်ကုရ်အာန်၏ အာယတ်များကို ခွဲခြားရာတွင်သုံးစွဲသော 'العموما ت-العام'

အတွက် မြန်မာမှုပြုထားခြင်းဖြစ်ပါသည်။

***ဘာတွေနီဂိုဏ်း*** – တမန်တော်မြတ်ﷺကြီးတင်မိန့်ဟော ခဲ့သော လမ်းများအုပ်စု 'ခုနစ်ဆယ့်နှစ်ခု'အနက်တစ်ခုဖြစ် သည်။ အိမာမ်ဂဇာလီ^သခင်၏ခေတ်တွင် ကြီးထွားပြန့် နှံ့လျက်ရှိသောဂိုဏ်းတစ်ခုဖြစ်သည်။ ၎င်းတို့သည် မိမိ တို့နှင့်အယူအဆ မတူသူ အများအပြားကို လုပ်ကြံသတ် ဖြတ်ခဲ့ကြသည်။ ထိုခေတ်က လူတစ်ဦး အချိန်မီ အိမ်ပြန် မလာလျှင် ဘာတွေနီဂိုဏ်းသားများက လုပ်ကြံသတ်ဖြတ် လိုက်ပြီဟု စိုးရိမ်ခဲ့ကြရသည်အထိအခြေအနေဆိုးခဲ့သည်။ သို့ဖြစ်ရာ အိမာမ်ဂဇာလီ^သခင်သည် ထိုဂိုဏ်းကိုလည်း ချေပခဲ့ရသည်။

***ဘရာဟီမာဂိုဏ်း*** – တမန်တော်မြတ်ﷺကြီးတင်မိန့်ဟော ခဲ့သော လမ်းများအုပ်စု 'ခုနစ်ဆယ့်နှစ်ခု'အနက်တစ်ခု ဖြစ်သည်။ ထိုဂိုဏ်း၏အယူအဆတစ်ခုမှာ 'လူသားတွင် အသိဉာဏ်ရှိနေပြီဖြစ်ရာ နဗီတမန်တော်များစေလွှတ်ခြင်း သည် အကျိုးမရှိပါ'ဟု ဖြစ်သည်။

***ဘန္ဒာ*** – ကျေးကျွန်၊ လူသားတို့သည် အလ္လာဟ်အရှင်၏ အမိန့်ကို နာခံနေရသည့် ကျေးကျွန်များဖြစ်သည်ကို ရည် ညွှန်းသုံးနှုန်းခြင်းဖြစ်သည်။

***ဘရ်ကတ်*** – 'ဘရ်ကတ်-မင်္ဂလာရှိသည်'ဟု မြန်မာလို တွဲသုံးလေ့ရှိသည်။ ဘရ်ကတ်၏အဘိဓာန်အဓိပ္ပါယ်မှာ တိုးပွါးခြင်း၊ များပြားခြင်း၊ ကောင်းမွန်ခြင်းဖြစ်သည်။

**ဗဟိဒ္ဓ** – ပြင်ပ၊ အပေါ်ယံ။

***ဗိဒအတ်*** – တရားသစ်။ အသစ်ထွင်ထားသောတရား။ *ကိုရှုနီဆလာဆာ* ခေါ် ခေတ်သုံးခေတ်(တမန်တော်မြတ်ﷺ ခေတ်၊ ဆွဟာဗဟ်များ ﷺခေတ်နှင့်တာဘိအီများ^ခေတ်) က မရှိခဲ့သောကျင့်သုံးမှုနှင့်ယုံကြည်ခံယူမှုသည် ဗိဒအတ် ပင်ဖြစ်သည်။ ဗိဒအတ်သည် *ဗိဒအတ်ဖီလ်အကီဒဟ်*နှင့် *ဗိဒအတ်ဖီလ်အမလ်* ဟူ၍နှစ်မျိုးရှိသည်။

***ဗိဒအတ်ဖီလ်အကီဒဟ်*** – ယုံကြည်ခံယူမှုနှင့်သက် ဆိုင်ရာအသစ်ဖေါ်ထုတ်ထားသောတရား။

***ဗိဒအတ်ဖီလ်အမလ်*** – ကျင့်သုံးမှုနှင့်သက်ဆိုင်ရာအသစ် ဖေါ်ထုတ်ထားသောတရား။ အဲဟ်ယာအွလ်အိုလူမ်ကျမ်း တွင် ဗိဒအတ်ဟု သုံးနှုန်းဖေါ်ပြမှုအများစုသည် *ဗိဒအတ်ဖီလ် အကီဒဟ်*ကို ရည်ညွှန်းခြင်းဖြစ်သည်။ အိမာမ်ဂဇာလီ^သခင် ၏ခေတ်တွင် အုပ်စုအသီးသီး၏ယုံကြည်ခံယူမှုဆိုင်ရာ တရားသစ်များအများဆုံး ပြန့်နှံ့လျက်ရှိသောကြောင့်ဖြစ် သည်။ ယခုခေတ်တွင် ဗိဒအတ်ဟုဆိုလျှင် ယုံကြည်ခံယူ ဆိုင်ရာတရားသစ်များထက် ယောင်မွန်နဗီ၊ သုံးရက်ဇီကိရ်၊ ရက်လေးဆယ်ဖါတိဟာ–စသည်တို့နှင့် ပို၍ သက်ဆိုင် သည်။

***ဗိုင်တွလ်မလ်*** – အစ္စလာမ့်နိုင်ငံ၏နိုင်ငံတော်ဘဏ္ဍာ တိုက်။

***ဗိုင်အတ်*** – တွရီကာလမ်းစဉ်တစ်ခုကို ကျင့်သုံးရန် ဆရာ တစ်ပါးပါးထံတွင် တပည့်ခံခြင်းကို 'ဗိုင်အတ်ယူသည်'ဟု သုံးနှုန်းသည်။ သို့သော် ဗိုင်အတ်အသုံးအနှုန်းကို အခြားကိစ္စ များတွင်လည်း သုံးနှုန်းသည်။ ဥပမာ ဂျိဟာဒ်တွင် နောက် မဆုတ်စတမ်း အသက်ပေးတိုက်ပါမည်ဟု ကတိပြုခြင်း၊ အုပ်ချုပ်ရေးမှူးတစ်ဦး၏အုပ်ချုပ်မှုကို သစ္စာခံလိုက်နာမည် ဟု ကတိပြုခြင်းတို့ကိုလည်း ဗိုင်အတ်ဟုပင် သုံးသည်။

***ဗိုင်တွလ္လာဟ်*** – မက္ကာမြို့တော်တွင်ရှိသည် ကအ်ဘာဝတ် ကျောင်းတော်ကို အဓိကခေါ်သည်။ 'အလ္လာဟ်အရှင်၏အိမ် တော်'ဟု အဓိပ္ပါယ်ရသည်။ သို့သော် ထိုအဓိပ္ပါယ်သည် တင်စားသုံးနှုန်းသောအဓိပ္ပါယ်သာဖြစ်ပြီး ထိုအိမ်တော်တွင် အလ္လာဟ်အရှင် ရှိနေသည်မဟုတ်ပါ။ ကမ္ဘာပေါ်ရှိ ဗလီ များ အားလုံးကိုလည်း မွတ်စလင်မ်တို့က ဗိုင်တွလ္လာဟ် (အလ္လာဟ့်အိမ်တော်)ဟုသာခေါ်ဆိုသုံးနှုန်းကြပါသည်။

***ဗိစ္စမစ်လ္လာဟ်*** – بِسۡمِ اللّٰہِ الرَّحۡمٰنِ الرَّحِیۡمِ ဖတ်ခြင်း။

***မဂျူစီ*** – အီရန်နိုင်ငံရှိ မီးကိုးကွယ်သည့်ဘာသာ။

***မဒီနာမြို့တော်*** – တမန်တော်မြတ်မုဟမ္မဒ်ﷺသခင် နေ ထိုင်ခေါင်းချသွားခဲ့သော အစ္စလာမ်သာသနာ၏ဒုတိယ အထွတ်အမြတ်မြို့တော်။ မက္ကာမြို့တော်၏မြောက်ဘက် ကီလိုမီတာ ၄၅၀အကွာတွင် ရှိသည်။

***မလကူတ်*** – 'အထက်လောက'၏စိုးမိုးအုပ်ချုပ်မှုကို ခေါ် သည်။ ကောင်းကင်တမန်များ၏ဌာနဖြစ်သည်။ မလကူတ် ကို မွလ်က်နှင့်တွဲသုံးလေ့ရှိသည်။ မွလ်က်သည် ကမ္ဘာ လောကအပါအဝင် 'အောက်လောက'ဖြစ်သည်။ မလကူတ် ကို ကောင်းကင်တမန်များနှင့်သက်ဆိုင်ရာ အရေးကိစ္စ၏ အဓိပ္ပါယ်အတွက်လည်းသုံးသည်။ ဆူဖီများ၏အသုံး အနှုန်းအရ ဝိညာဉ်လောက။

***မလအိအအ်လာ*** – အလ္လာဟ်အရှင့်ထံ အနီးကပ်ရှိနေသောကောင်းကင်တမန်များ။ အလ္လာဟ်အရှင်နှင့်နီးကပ်သူလူသားသူတော်စင်များကို ဝလီဟု ခေါ်သကဲ့သို့ ထိုအနီးကပ် ကောင်းကင်တမန်များကို မလအိအအ်လာဟု ခေါ်တွင်ကြောင်း မှတ်ယူနိုင်သည်။ အရှ်တော်ကို ထမ်းဆောင်ထားသောကောင်းကင်တမန်များနှင့် အရှ်တော်၏ပတ်ဝန်းကျင်တွင် ရှိနေသောကောင်းကင်တမန်များသည် မလအိအအ်လာများဖြစ်ကြသည်။ ဟွဂ်ဂျတွလ္လာဟီလ်ဘာလိဂါကျမ်းကြီးကို အကျယ်ဖွင့်ရေးသားရာတွင် မော်လာနာစအီဒ်အဟ်မဒ်(ပါလန်ပူရီ)က ထိုမလအိအအ်လာတို့၏တာဝန်ဝတ္တရားခြောက်ခုကို ဖော်ပြခဲ့သည်။

***မလာအိကာ*** – ကောင်းကင်တမန်များ။ အစ္စလာမ်သာသနာဝင်တစ်ဦး သက်ဝင်ယုံကြည်ရမည့်အဓိကအချက်များတွင် အလ္လာဟ်အရှင်က ကောင်းကင်တမန်များကို ဖန်ဆင်းတော်မူထားကြောင်းလည်းပါဝင်သည်။

**မသန့်ဖြစ်မှု** – ဖိကဟ်ကျမ်းများမှ အရဗီအသုံး 'حدث' ၏အဓိပ္ပါယ်ကို 'မသန့်ဖြစ်မှု'ဟု သုံးစွဲပါသည်။

**မသန့်မရှင်းဖြစ်မှု** – ဖိကဟ်ကျမ်းများမှ အရဗီအသုံး– 'نجس'၏အဓိပ္ပါယ်ကို 'မသန့်မရှင်းဖြစ်မှု'ဟုသုံးပါသည်။

***မုဂျာဟဒါ*** – ဖွဲ့ခတ်ကြိုးပမ်းခြင်း။ နာမ်ဝိဉာဉ်ရေး တိုးတက်မှုအတွက် အထူးသဖြင့်သုံးသည်။

***မုတရှာဗဟ်*** – ရှင်းရှင်းလင်းလင်း ဖော်ပြခြင်းမဟုတ်သဖြင့် နားလည်ရန်ခက်ခဲသောကုရ်အာန်အာယတ်။

***မုရှာဟဒါ*** – မျက်မြင်ထင်ရှား အသိအလင်းရခြင်း။

***မုဟမ္မဒီယာတရားလမ်းစဉ်*** – တမန်တော်မုဟမ္မဒ်သခင်ﷺယူဆောင်ချမှတ်သွားခဲ့သောတရားလမ်းစဉ်။

***မုအ်ဂျိဇာ*** – တမန်တော်များထံမှသာ ပေါ်ထွက်သည့်လူသားမစွမ်းနိုင်သောသဘာဝလွန်ဖြစ်ရပ်။

**မီးတိုင်ဈေး** – အီဂျစ်နိုင်ငံ ကိုင်ရိုမြို့ရှိ ဈေးတစ်ဈေး၏ အမည်။ အရဗီလို 'سوق القناديل'ဖြစ်သည်။

***မက္ကာမြို့တော်*** – ဆော်ဒီအာရေဗျနိုင်ငံရှိ အစ္စလာမ်သာသနာ၏အထွတ်အမြတ်မြို့တော်။ ကအ်ဘာဝတ်ကျောင်းတော်သည် ထိုမြို့တော်တွင် ရှိသည်။

***မဂ်ဖိရတ်*** – ခွင့်လွှတ်ချမ်းပေးခြင်း။ အိစ္စတိဂ်ဖရ်သည် ခွင့်လွှတ်ချမ်းသာပေးရန် တောင်းခံခြင်းဖြစ်သည်။

***မီအာဒ်*** – ဓမ္မချိန်ခွင်တော်။ ကိယာမတ်နေ့တွင် လူသားတို့၏ကောင်းမှုနှင့်မကောင်းမှုများကို ချိန်စက်မည့်ချိန်ခွင်တော်ကို ခေါ်ခြင်းဖြစ်သည်။

***မုနာဇရာ*** – တရားရေးစကားစစ်ထိုးခြင်း။ တရားဓမ္မတွင် အယူအဆ မတူသူများ နှစ်ဦးနှစ်ဘက် အထောက်အထားများ တင်ပြ၍ အခြေအတင် ငြင်းခုံပြောဆိုသည့်ပညာ။

***မုဖစ်စိရ်*** – ကျမ်းမြတ်ကုရ်အာန်၏အကျယ်ဖွင့်ဆိုမှုကို ကျွမ်းကျင်သည့်ပညာရှင်။

***မုဘာဟ်*** – ပြုလုပ်လျှင် ဗွဝါဗ်လည်းမရ၊ အပြစ်လည်း မဖြစ်သောအလုပ်ပို။

***မုရာကဘာ*** – စိတ်ကို ထိန်းချုပ်ကွပ်ကဲခြင်း။

***မုဆလ္လာ*** – နမာဇ်ဖတ်ရန်အခင်းနှင့်နမာဇ်ဖတ်ရန်နေရာ။ ဗလီမသည် မုဆလ္လာဖြစ်သည်။

***မုနာဖိက်*** – ဘာသာရေးအရေခြုံ၊ အတွင်းတစ်မျိုးအပြင်တစ်မျိုး ခံယူချက်ရှိသူ။

***မုအ်တဇိလာဂိုဏ်း*** – ဤဂိုဏ်းအယူအဆများကို စတင်ဖော်ထုတ်သူသည် ဝါဆိုလ်အိဗ်နေ့အတ္တာ(ဟိဂ်ျရီ ၈၀ဖွါး ၁၃၁လွန်)ဖြစ်သည်။ ၎င်းသည် ဟစ်ဘဇ္ဇရီ ̃သခင်၏တပည့်တစ်ဦးဖြစ်သည်။ ဝါဆွေလ်အိဗ်နေ့အတ္တာက 'ဂိုနာကာဘီရာခေါ် အပြစ်ကြီးကျူးလွန်သူသည် အီမာန်ရှင်လည်းမဟုတ်၊ ကာဖိရ်လည်းမဟုတ်သော ကြားအခြေအနေတစ်ခုတွင်ရှိသည်'ဆိုသောအယူအဆကို ဖော်ထုတ်ခဲ့သည်။ ထိုအခါ ဟစ်ဘဇ္ဇရီ ̃သခင်က– 'اعتزل عنا و اصل' (ဝါဆိုလ်သည် ငါတို့နှင့် ခွဲထွက်သွားခဲ့ပြီ)ဟုပြောဆိုကြေညာခဲ့ရာမှ ဝါဆိုလ်အိဗ်နေ့အတ္တာနှင့်၎င်း၏နောက်လိုက်အယူအဆတူများကို 'မုအ်တဇိလာဂိုဏ်း'ဟုခေါ်တွင်ခြင်းဖြစ်သည်။

***မင်န်ဘရ်*** – ဗလီ၏တရားဟောရာစင်မြင့်။ တရားပလ္လင်။

***မဇ်ဟဗ်*** – တရားလမ်းစဉ်၊ ဖိကဟ်လမ်းစဉ်။

***မတ်စ်အလာ*** – တရားတော်ပညတ်ချက်တစ်ခု။ ယင်း၏ဗဟုဝုစ်မှာ မစာအီလ်ဖြစ်သည်။

***မန်*** – အီရတ်သုံး နှစ်ရတ္တီလ်၏အလေးချိန်ဖြစ်သည်။

***မွဂျ်တဟိဒ်*** – ကျင့်သုံးရန် တရားပညတ်များကို ကုရ်အာန်နှင့်ဟဒီစ်မှ တိုက်ရိုက်ထုတ်ယူနိုင်သည့်အရည်အချင်းရှိသူ။ မွဂျ်တဟိဒ်များသည် တစ်ဦးနှင့်တစ်ဦး အဆင့်အတန်းမတူကြချေ။ ဖိကဟ်သဘောတရားကျမ်းများတွင် မွဂျ်တဟိဒ်၏အဆင့်အတန်းကို ငါးမျိုးအထိ ခွဲပြထားသည်။

***မွဇ်ဒလိဖဟ်*** – အရဖတ်နှင့်မီနာအကြားရှိ နေရာ။ ထို

